မင်္ဂလာတိုက်ကျော်

ညောင်ကန်ဆရာတော်ဘုရားကြီး

ပြန်ဆိုရေးသားတော်မူခဲ့သော

ပုံတော်စုံ

# ငါးရာငါးဆယ်
# ဇာတ်ဝတ္ထု

ပထမတွဲ



ခင်ချိုထွန်းစာပေ

အမှတ် ၈၆၊ ၃၇-လမ်း၊ ရန်ကုန်မြို့။



မင်္ဂလာဘုံကျော်

ညောင်ကန်ဆရာတော်ဘုရားကြီး

ပြန်ဆိုရေးသားတော်မူခဲ့သော

ပုံတော်စုံ

# ငါးရာ့ငါးဆယ် ဇာတ်ဝတ္ထု

(ပထမတွဲ၊ ဇာတ်ပေါင်း-၁၅၀)




ခင်ချိုထွန်းစာပေ

အမှတ်၊ ၈၆၊၁၇လမ်း၊ရန်ကုန်မြို့

(၅၅၀-ပတွဲ)

ဘာသာရေးစာမူခွင့်ပြုချက်အမှတ်

(၃၆/၉၅) (၄)

မျက်နှာဖုံးခွင့်ပြုချက်အမှတ်

(၁၈/၉၅) (၄)

မျက်နှာဖုံးနှင့် အတွင်းသားရိုက်

ဦးသိန်းထွန်း (၀၄၈၂၂)

သိန်းထွန်းအော့ဖ်ဆက်

၅၀-၅၂၊ ဒဂုံသီရိလမ်း၊ ကျောက်မြောင်းကြီးရပ်ကွက်၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့။

ပုံနှိပ်ခြင်း

ဒုတိယအကြိမ်၊ အုပ်ရေ ၁၀၀၀

ထုတ်ဝေခြင်း

၁၉၉၅၊ မေလ

ထုတ်ဝေသူ

ဦးအောင်ကြီး (မြ ၀၉၈၆)

ရွှေပုရပိုက်စာပေ

၅၊ တင့်ဆန်းလမ်း၊ ဥတ္တလစ်၊ ရန်ကုန်မြို့။

တန်ဖိုး

၁၀၀ ကျပ်

ဖြန့်ချိရေး

ခင်ချိုထွန်းစာပေ

အမှတ် ၈၆၊ ၃၇လမ်း၊ ရန်ကုန်။

ဖုန်း-၇၅၅၄၄

သန်းမြင့်မြင့်စာအုပ်ဆိုင်

အမှတ် ၃၇၊ ရွှေတိဂုံတောင်ဘက်ဈေးတော်ရုံ၊

ဒဂုံစာတိုက်၊ ရန်ကုန်မြို့။



သာကီဝင် ဆွေတော်မျိုးတော်တို့၏ မာန်တံခွန်ကို နှိမ်ချိုးခြင်းအကျိုးငှါ အမျိုးမျိုးသော
တန်ခိုးပြာဋိဟာတို့ကို ပြတော်မူစဉ်

## နိဒါန်း

## ကိုယ်တိုင်လည်းသိ၊ သိထိုက်သူကိုလည်းသိစေ

မြတ်ဗုဒ္ဓရှင်တော်ဘုရားသည် သင်္ချေလေးရပ် တစ်သိန်းကပ် ကာလပတ်လုံး သဗ္ဗညုတဉာဏ်တော်အတွက် အင်္ဂါခြေလက် အသက်ကိုပါစွန့်လျက် ပါရမီတော်များကို ဖြည့်ဆည်းပူးတော်မူခဲ့လေသည်။ ယင်းသို့ ဖြည့်ဆည်းမှုးတော်မူခဲ့သဖြင့်လည်း ထိုက်ထိုက်တန်တန် သဗ္ဗညုတဉာဏ်တော်ကို ရတော်မူလေသည်။

**ပထမစွမ်းအား** ထိုသဗ္ဗညုတဉာဏ်တော်ဖြင့် သိထိုက်, သိသင့်သော တရားမှန်သမျှကို အကြွင်းအကျန်မရှိစေဘဲ မိမိအလိုလို ကိုယ်တော်တိုင်သိမြင်တော်မူပြီးဖြစ်လေသည်။ ထိုသို့အကြွင်းအကျန်မရှိ ကုန်စင်အောင်သိတော်မူခြင်းသည်လည်း "သိရန်မှန်က၊ မကျန်ရအောင်၊ လုံးဝကုန်စင်၊ အကုန်မြင်၊ သဗ္ဗဉ်ဉာဏ်တော်အစွမ်းတည်း"ဟူသည်နှင့်အညီ သဗ္ဗညုတဉာဏ်တော်၏ "ပထမ-စွမ်းအား" ဖြစ်သည်။

ထိုသဗ္ဗညုတဉာဏ်တော်၏ ပထမစွမ်းအားဖြင့် သိပြီးဖြစ်သော တရားများတွင် ဘုရားရှင်တို့နှင့်သာဆိုင်သောတရား, ပစ္စေကဗုဒ္ဓါတို့နှင့်သာဆိုင်သော တရား, ရဟန္တာပုဂ္ဂိုလ်များနှင့်သာ ဆိုင်သောတရား, အနာဂါမ်-သကဒါဂါမ်-သောတာပန်တို့နှင့်သာ အသီးသီးဆိုင်သော တရားတို့ဟူ၍ အကန့်အသပ် အပိုင်းအခြားရှိ၏။

ထိုသို့ အကန့်အသပ်, အပိုင်းအခြားရှိသော တရားများစွာတို့မှ ထိုက်သင့်ရာရာ တရားတော်တို့ကို ထိုက်သင့်ရာရာ ပုဂ္ဂိုလ်တို့အား ပိုင်းခြား၍ သိစေ, ရစေတော်မူလေသည်။ ထိုသို့သိစေ, ရစေတော်မူသောကြောင့်လည်း ထိုထိုသိပြီး, ရပြီးသူတို့သည် နိဗ္ဗူသောင်တစ်ဖက်ကမ်းသို့ တက်လှမ်း အေးငြိမ်း၍ ချမ်းသာကိန်းကြီးများ ဆိုက်ခဲ့ကြပေသည်။

**ဒုတိယစွမ်းအား** ထိုသို့ ချမ်းသာကိန်းကြီးများ ဆိုက်ခဲ့ကြရခြင်းသည်၊ ထိုထိုသိထိုက်သူတို့အား "သိသောတရား၊ များအပြား၌၊ ဟောထားစဖွယ်၊ နည်းသွယ်သွယ်ကို၊ ခြယ်လှယ်စုံလင်၊ အကုန်မြင်၊ သဗ္ဗဉ်ဉာဏ်တော်အစွမ်းတည်း" ဟူသည်နှင့်အညီ သဗ္ဗညုတဉာဏ်တော်၏ "ဒုတိယ-စွမ်းအား"ဖြင့် ဟောနည်းဟောပုံ နည်းစုံ ဟောကြားတော်မူသောကြောင့် ဖြစ်ပေသည်။

ဆန်းကျယ် စုံလင်သောနည်းတို့ဖြင့် ဟောဖော်ညွှန်ပြ ဆုံးမရာတွင်လည်း ဓမ္မပဋိဂ္ဂါဟက-တရားတော်ကို ခံယူသူတို့တွင် တရားရမည့်ပုဂ္ဂိုလ် ကျွတ်ထိုက်သူ

တို့တွင် မည်၏သည့်ပုဂ္ဂိုလ်တွင် မည့်သည်ဣန္ဒြေနှင့် စရိုက်လွန်ကဲသည် အစရှိ သည်ဖြင့် သေချာစွာသိသဖြင့် ထိုထိုပုဂ္ဂိုလ်၏ ထိုထိုဣန္ဒြေ, စရိုက်တို့နှင့် လိုက် လျောညီထွေရှိစေရန် ရွေးချယ် ညွှန်ကြား ဟောတော်မူသောအားဖြင့် မဂ်လမ်း, ဖိုလ်လမ်းသို့ လျှောက်လှမ်းနိုင်ကြပြီး သံသရာဝဋ်ဇာတ်တွင် အဝိဇ္ဇာ, တဏှာတို့၏ စိုးမိုးချုပ်ချယ်ခြင်းမှ လွတ်လပ်သည့် နိဗ္ဗာန်တည်းဟူသော အေးငြိမ်းနိုင်ငံတော်ကြီးကို တည်ထောင် ခံစားနိုင်သော သစ္စာအသိ, မဂ္ဂင်ကျင့်စဉ်တို့ဖြင့် ရရှိခံစားကြရပေသည်။

**တတိယစွမ်းအား** ထိုသို့ အဝိဇ္ဇာ, တဏှာ–တို့၏ စိုးအုပ်ချုပ်ချယ်ခြင်းမှ လွတ်လပ်သော အေးငြိမ်းနိုင်ငံတည်ထောင် ခံစားနိုင် ခြင်းမှာ "ကျွတ်ထိုက်ကြပေ၊ များဝေနေ၏၊ ဣန္ဒြေစရိုက်၊ သူ့အကြိုက်ကို၊ နှိုက်ချွတ် စုံလင်၊ အကုန်မြင်၊ သဗ္ဗညုဉာဏ်တော် အစွမ်းတည်း" ဟူသည်နှင့်အညီ သဗ္ဗညုတဉာဏ်တော်၏ "တတိယ–စွမ်းအား"ဖြင့် သတ္တဝါတို့၏ ကျွတ်ထိုက်–မကျွတ်ထိုက်သော ဣန္ဒြေ, စရိုက်တို့သိပြီး သိတော်မူသည့်အတိုင်း လိုက်လျောညီထွေ ဟောကြားတော်မူလေသောကြောင့် ဖြစ်ပေသည်။

## ငါးရာငါးဆယ်ဇာတ်တော်များကို ဟောကြားပုံ

ကေနိပါတ်မှ အသီတိနိပါတ်အထိ ဇာတ်တော်များနှင့် မဟာနိပါတ် ဇာတ်တော်များတွင် ဘုရားရှင်သည် ဖြစ်ပေါ်လာသောအကြောင်းအားလျော်စွာ ထိုထိုပုဂ္ဂိုလ်တို့၏ အတိတ်ဖြစ်ရပ် ဇာတ်လမ်းတို့တွင် တစ်ထပ်တည်းတူညီသော ဖြစ်ရပ်တို့ကို သဗ္ဗညုတဉာဏ်တော်၏ အစွမ်းအားဖြင့် ပြန်ပြောင်းကြည့်ရှု၍ စံပြုဟောကြားတော်မူခြင်းဖြစ်၏။ ထိုသို့ နှီးနွှယ်ဆက်စပ် ဖြစ်ရပ်ဖြစ်ပုံကို စုံလင် ပြည့်ဝအောင် ဟောကြားသဖြင့် အေးငြိမ်းမှုကို ခံစားကြရပေသည်။

အကြောင်းရင်းခံ (ဒေဝဒတ်ကဲ့သို့) ပုဂ္ဂိုလ်အတွက် တိုက်ရိုက်အကျိုး မများစေသော်လည်း အခြားသော တရားနာပရိသတ်တို့မှာ အကျိုးခံစားကြရပေ သည်။ ထိုသို့ အကျိုးခံစားစေနိုင်အောင်လည်း ထိုထိုပရိသတ်၏ စရိုက်နှင့် ထိုက်တန်သောဖြစ်ရပ်ကို ရွေးထုတ်စီစဉ် တန်ဆာဆင်၍ ဟောတော်မူခြင်းဖြစ်၏။ ထို့ကြောင့် ငါးရာငါးဆယ်ဇာတ်တော်များသည် "ဥပမာယ မိဓေကစ္စေ အတ္ထံ ဇာနန္တိ ပဏ္ဍိတာ"ဟူသော စကားအရ ဥပမာဖြင့်ဖော်ပြလျှင် သိလွယ်မြင်လွယ်ကြသဖြင့် ဥပမာနှင့်တူသော တိုက်ရိုက်ဖြစ်ရပ်တို့ဖြင့် ကျွတ်ထိုက်–တရားသိထိုက်သော သတ္တဝါ တို့အား တရားသံဝေဂဖြစ်စေရန် တရားသိစေရန် အလွယ်ကူဆုံးသော ဟောပြော နည်းဖြင့် ဟောထားသော ဇာတ်တော်များဖြစ်၏။

ယင်းဇာတ်တော် များသည် မှုရင်းအရေအတွက်အားဖြင့် ၅၄၇–ဇာတ်ရှိလေသည်။ သို့ရာတွင် ခေါ်ဝေါ်လွယ်စေရန်အတွက် (၅၅၀)ငါးရာငါးဆယ်ဟု ခေါ်တွင်နေခြင်း ဖြစ်သည်။ (ပုဂံဝန်ထောက်မင်းပြုစုသော ဇာတ်စာရင်းတွင်ကား– ၁။ ဝေလာမ ဇာတ်၊ ၂။ မဟာဂေါဝိန္ဒဇာတ်၊ ၃။ သုမေဓပဏ္ဍိတဇာတ်–ဟူသော ဇာတ် ၃– ဇာတ်တို့ကို ပကိဏ္ဏကနိပါတ်၏ အဆုံး၌ ထည့်သွင်းရေတွက်ကာ (ပကိဏ္ဏက– ၁၆ ဖြစ်၍) ဇာတ်ပေါင်း (၅၅၀)ငါးရာငါးဆယ်ဖြစ်လေသည်။)

**ဇာတ်အဋ္ဌကထာဆရာ** လင်္ကာဒီပမည်သော သီဟိုဠ်ကျွန်း (ယခုအခေါ်–သီရိလင်္ကာ)၌ မဟာနာမ–မင်းအုပ်စိုးစဉ် သာသနာသက္ကရာဇ် ၉၃၀–ခုနှစ်ကျော်လောက်တွင် အရှင်မဟာ ဗုဒ္ဓဃောသမထေရ်သည် ပိဋကတော်များ၏ အဖွင့်အဋ္ဌကထာကျမ်းများ ရေးသားပြုစုတော်မူခဲ့လေသည်။ ထိုသို့ အဋ္ဌကထာကျမ်းများကို ပြုစုရေးသားရာ၌ ခုဒ္ဒကနိကာယ်တွင် ပါဝင်သော မြတ်စွာဘုရားရှင်သည် အကျဉ်းဂါထာများဖြင့် ဟောထားအပ်သည့် ဇာတကပါဠိတို့ကို အကျယ်ဖွင့်ဆို၍ "ဇာတကဋ္ဌကထာ"ကို ရေးသားပြုစုတော်မူခဲ့လေသည်။

**ညောင်ကန်ဆရာတော် (၁၁၁၅ – ၁၁၈၃)** အရှင်မဟာဗုဒ္ဓဃောသ ရေးသားခဲ့သော ဇာတကဋ္ဌထာများသည် ပါဠိဘာသာဖြင့် ရေးသားဖွင့်ဆိုထားသော ကျမ်းစာများဖြစ်၍ ပါဠိဘာသာကို မကျွမ်းကျင်သော လူပုဂ္ဂိုလ်များအတွက် ဖတ်ရှုလေ့လာဖို့ ခက်ခဲလှပေသည်။ ထို့ကြောင့် ဘာသာပြန်အကျော် ညောင်ကန်ဆရာတော်သည် ပါဠိဘာသာ မကျွမ်းကျင်သူများအတွက် အမြော်အမြင်ကြီးစွာဖြင့် ဇာတ်အဋ္ဌကထာများကို အပြည့်အစုံ ဝီရိယကြီးစွာ-မြန်မာစကားပြေ ပြန်ဆိုရေးသားခဲ့ပေသည်။ ယင်းညောင်ကန်ဆရာတော်သည် အလုံမြို့၊ ညောင်ကန်ကျေးရွာ၌ ၁၁၁၅–ခုနှစ်တွင် ဖွားမြင်၍ အသက် ၁၅–နှစ်တွင် သာမဏေပြုကြောင်းနှင့် ၁၁၈၃–ခုနှစ်၊ သက်တော်–၆၈၊ သိက္ခာတော် ၄၈–ဝါ အရတွင် ပျံလွန်တော်မူကြောင်း မှတ်တမ်းများတွင် တွေ့ရှိရလေသည်။

**ဋီကာ, နိဿယ, ဂဏ္ဌိနှင့် မြန်မာပြန်** အဋ္ဌကထာမြန်မာပြန်များ မပေါ်မီ ဇာတ်ဋီကာနှစ်ကျမ်း, ဇာတ်ပါဠိတော် နိဿယကျမ်း, ဇာတ်ဂဏ္ဌိကျမ်း, ဇာတ်အဋ္ဌကထာ နိဿယကျမ်းများ ပေါ်ပေါက်ခဲ့ပေသည်။ ဋီကာကျမ်းများမှာ သီဟိုဠ်ကျွန်း(သီရိလင်္ကာနိုင်ငံ) အနုရာဓမြို့၏အနောက် ဗဒရတိတ္ထကျောင်းနေ အရှင်ဓမ္မပါလ မထေရ်ရေးသားသော ဇာတ်ဋီကာနှင့် ပဋ္ဌမသင်္ဂါယနာတင် ဘဝရှင်မင်းတရားကြီး(မင်းတုန်း) လက်ထက် မောင်းထောင်ကြီး

ရွာဇာတ်၊ ဒုတိယမောင်းထောင်ဆရာတော် ရေးသားသော ဇာတ်ဋီကာဟူ၍ ဋီကာနှစ်ကျမ်း ရှိခဲ့လေသည်။ စကားပြေမြန်မာပြန်များမှာ ပိဋကတ်တော်သမိုင်းအရ–တပယင်းမြို့ စိုင်စုမုန်တိုင်းပင်ဆရာတော် ရေးသားသော စကားပြေနှင့် မင်္ဂလာဘုံကျော် စံကျောင်းတော်နေ ဒုတိယညောင်ကန်ဆရာတော် ရေးသားသော (ယခုဖတ်ရှုရမည့်) စကားပြေဟူ၍ နှစ်ကျမ်းမျှ ပေါ်ပေါက်ခဲ့လေသည်။

**မြန်မာစကားပြေမပြန်ခင် ကမ္ဘာတွင်နှံ့.**

ဤဇာတ်တော်များမှာ မြန်မာဘာသာဖြင့် မပြန်ဆိုမီ ရေးယခင်ကပင် ကမ္ဘာအရပ်ရပ်သို့ ပျံ့နှံ့နေကြောင်းကို အရိပ်အမြွက် သိရှိရပေသည်။ ၎င်းမှာ သက္ကတစာပေတွင် ထင်ရှားသော ပဉ္စတန္တ ရကျမ်းတစ်စောင်ရှိလေရာ ယင်းကျမ်းတွင် ပါရှိသော မူလအခြေခံများကို ဘုရားရှင်ဟောကြားတော်မူအပ်သော ဇာတ်တော်များနှင့် တူညီစွာတွေ့ရှိရကြောင်း သက္ကတကျမ်းကျင်သူတို့၏ အဆိုအရ သိရှိရလေသည်။ ထိုပဉ္စတန္တရကျမ်းမှာ ဘာသာအမျိုးမျိုးပြန်ဆိုထားသည့် ကျမ်းတစ်စောင်ဖြစ်၍ ကမ္ဘာအရပ်ရပ်သို့ ပျံ့နှံ့နေသောကြောင့် ဇာတ်တော်များသည် ကမ္ဘာအရပ်ရပ်သို့ ပျံ့နှံ့နေကြောင်း ထောက်ရှုသိရခြင်းဖြစ်သည်။

**ဖြန့်ချိထုတ်ဝေ**

ကမ္ဘာသို့ သွယ်ဝိုက်ပျံ့နှံ့နေသော ဇာတ်တော်များကို မြန်မာပြည်သူတို့ အလွယ်တကူ ကြည့်ရှုမှတ်သားနိုင်ရန် ပါဠိတော်ဂါထာများကို အနက်ပြန်ဆို နိဿယရေးပြီး အဋ္ဌကထာ ပါဠိဘာသာများကို မြန်မာစကားပြေ ရေးသားပြန်ဆိုထားသော "ညောင်ကန်ဆရာတော်၏ ငါးရာငါးဆယ်ဇာတ်ဝတ္ထုများ" အပြည့်အစုံ(ပထမ တွဲမှ ပဉ္စမတွဲအထိ) ငါးတွဲလုံးကို "ခင်ချိုထွန်းစာပေ၊ အမှတ် ၈၆/၃၇–လမ်း၊ ရန်ကုန်မြို့"မှ တန်ဖိုးအရင်းအနှီးများစွာဖြင့် ရင်းနှီးမြှုပ်နှံ၍ စာချစ်သူ ဓမ္မသုတေသီများအတွက် မေတ္တာ စေတနာရှေ့ထား၍ ရိုက်နှိပ်ဖြန့်ချိလိုက်ပေသတည်း။

ပါဠိဆရာကြီးဦးစိုးမြင့်
(သာသနဓဇသိရီပဝရဓမ္မာစရိယ)
၁၃၃၆–ခု၊ ၁၉၉၅–ခု

# မာတိကာ

## (ပထမတွဲ ဇာတ်ပေါင်း-၁၅၀)

## (ဧကကနိပါတ်)

စာတ်အမည် အကြောင်းအရာဖော်ပြချက် စာမျက်နှာ

### ပဏ္ဏာသနှင့်ပရိညာဉ်

### (အပဏ္ဏကဝဂ်)


၁။ **အပဏ္ဏကဇာတ်**။ = တိတ္ထိတပည့်ငါးရာတို့ ထပ်ကာထပ်ကာ အယူပြောင်း ၂
အတိတ်ဝတ္ထု = မိုက်သောလှည်းကုန်သည်များ ဘီးလူးစားခံရခြင်း ၉
ဇာတ်ပေါင်းခန်း= ဘုရားလောင်း ပညာရှိလှည်းကုန်သည်မှူး ၁၇
၂။ **ဝဏ္ဏုပထဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု = တရားမရ၍ ဝီရိယကိုလျှော့ချသောရဟန်း ၁၇
အတိတ်ဝတ္ထု = ဝီရိယကိုမလျှော့၍ ရေရရှိသော ကုန်သည် ၂၀
**ဇာတ်ပေါင်းခန်း** = ဘုရားလောင်း လှည်းကုန်သည်မှူး ၂၃
၃။ **သေရိဝါဏိဇဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု = ဝီရိယကိုလျှော့သော ရဟန်းတစ်ပါး ၂၃
**အတိတ်ဝတ္ထု** = ကောက်ကျစ်သောကြောင့် ရွှေခွက်မရသော ရွှဲကုန်သည် ၂၄
**ဇာတ်ပေါင်းခန်း** = ဘုရားလောင်း ပညာရှိ ရွှဲကုန်သည် ၂၇
၄။ **စူဠသေဋ္ဌိဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု = မဟာပန်, စူလပန်-မထေရ်တို့အကြောင်း ၂၈
အတိတ်ဝတ္ထု = ကြွက်သေတစ်ခုအရင်းပြု၍ လေးလနှင့်ငွေနှစ်သိန်းရ ၃၈
ဇာတ်ပေါင်းခန်း = ဘုရားလောင်း စူဠသူဌေး ၄၁
၅။ **တဏ္ဍုလနာဠိဇာတ်**။ = စာရေးတံမဲမချတတ်သော လာဠုဒါယီမထေရ် ၄၂
အတိတ်ဝတ္ထု = ဗာရာဏသီပြည်တန်ဖိုး ဆန်တစ်ကွမ်းစားဖြတ်သည့်ရာဖြတ် ၄၄
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ပညာရှိသောရာဖြတ် ၄၆
၆။ **ဒေဝဓမ္မဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု = ပစ္စည်းဓိမ်ရစ်အရှက်အကြောက်ပစ်သောရဟန်း ၄၇
အတိတ်ဝတ္ထု = ကဲ့ရဲ့မည်ကို ရှက်ကြောက်၍ ညီဝမ်းကွဲကိုသာတောင်း ၄၉
ဇာတ်ပေါင်းခန်း = ဘုရားလောင်း အစ်ကိုမင်းသား ၅၃
၇။ **ကဋ္ဌဝါဟနဇာတ်**။ပစ္စုပ္ပန်ဝတ္ထု=ဝါသဘခတ္တိယာ, ဝိဋဋူဘတို့၏ဘဝ ရာထူးကျို ၅၃
အတိတ်ဝတ္ထု = ချင်သွေးမှန်ကမစွန့်ရ၊ သစ္စာစကားကြောင့် မွေးမြူရ ၅၄
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ကဋ္ဌဝါဟနမင်းကြီး ၅၆
၈။ **ဂါမဏိဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု = ဝီရိယလျှော့သော ရဟန်းတော်တစ်ပါး ၅၇
အတိတ်ဝတ္ထု = ဆရာ့ကျေးဇူးကို သိသောတပည့် ၅၇
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ပညာရှိဆရာ ၅၈

| ဇာတ်အမည် | အကြောင်းအရာဖော်ပြချက် | စာမျက်နှာ |
|---|---|---|
| ၉။ **မဃဒေဝဇာတ်**။ | ပစ္စုပ္ပန်ဝတ္ထု = မြတ်စွာဘုရား၏ နိက္ခမပါရမီ | ၅၈ |
| | အတိတ်ဝတ္ထု = ဆံပင်ဖြူမြင်ရုံနှင့် တောထွက်သောမင်း | ၅၉ |
| | ဇာတ်ပေါင်းခန်း = ဘုရားလောင်း မဃဒေဝမင်း | ၆၁ |
| ၁၀။ **သုခဝိဟာရီဇာတ်**။ | ပစ္စုပ္ပန်ဝတ္ထု = ချမ်းသာစွာနေလေ့ရှိသော ဘဒ္ဒိယထေရ် | ၆၁ |
| | အတိတ်ဝတ္ထု = မင်းအဖြစ်ထက် ရသေ့ပြုရခြင်းက ချမ်းသာ | ၆၂ |
| | ဇာတ်ပေါင်းခန်း = ဘုရားလောင်း ဂိုဏ်းဆရာ | ၆၄ |

## (၂-သီလဝဂ်)

| ဇာတ်အမည် | အကြောင်းအရာဖော်ပြချက် | စာမျက်နှာ |
|---|---|---|
| ၁။ **လက္ခဏမိဂဇာတ်**။ | = ဘုရားကိုအာခံ၍ အခြံအရံမှယုတ်သော ဒေဝဒတ် | ၆၅ |
| | အတိတ်ဝတ္ထု = အသိဉာဏ်မရှိ၍ အခြံအရံပျက်စီးသော သမင် | ၆၆ |
| | ဇာတ်ပေါင်းခန်း = ဘုရားလောင်း ဖခင်သမင် | ၆၉ |
| ၂။ **နိဂြောဓမိဂဇာတ်**။ | = ဘုရား၏ဉာဏ်တော်ကြောင့် မထေရ်မိသားနှစ်ဦးချမ်းသာ | ၇၀ |
| | အတိတ်ဝတ္ထု = ကိုယ်ဝန်ရှိသမင်မကို အသက်ချင်းလှယ်ကယ်သောသမင် | ၇၆ |
| | ဇာတ်ပေါင်းခန်း = ဘုရားလောင်း နိဂြောဓသမင် | ၈၁ |
| ၃။ **ကဏ္ဍိဇာတ်**။ | = မယားဟောင်းဖြားယောင်းခံရသော ရဟန်းတစ်ပါး | ၈၂ |
| | အတိတ်ဝတ္ထု = သမင်မငယ်ကိုတပ်မက်၍ အသက်ဆုံးရသောသမင် | ၈၂ |
| | ဇာတ်ပေါင်းခန်း = ဘုရားလောင်း ရုက္ခစိုးနတ် | ၈၄ |
| ၄။ **ဝါတမိဂဇာတ်**။ | = ရသတဏှာအရင်းခံ၍ မူရင်းပြန်လူထွက်ရသော ရဟန်း | ၈၅ |
| | အတိတ်ဝတ္ထု = ပျားရည်ဆမ်းမျက်ကိုမင်၍ နန်းတွင်းဝင်ရသော သမင် | ၈၇ |
| | ဇာတ်ပေါင်းခန်း = ဘုရားလောင်း ဗာရာဏသီမင်း | ၈၉ |
| ၅။ **ခရာဒိယဇာတ်**။ | = ရဟန်းတို့၏ အဆုံးအမကို မခံ, ဆုံးမခက်သော ရဟန်း | ၈၉ |
| | အတိတ်ဝတ္ထု = မိဂမာယာကို မတတ်၍ အသက်သေရသောသမင် | ၉၀ |
| | ဇာတ်ပေါင်းခန်း = ဘုရားလောင်း ဆုံးမတတ်သောသမင်ကြီး | ၉၁ |
| ၆။ **တိပလ္လတ္ထဇာတ်**။ | = ကျင့်ဝတ်သိက္ခာအလိုရှိသော ရှင်ရာဟုလာ ကုဋီ၌အိပ်ရ | ၉၁ |
| | အတိတ်ဝတ္ထု = ဆုံးမခံတတ်၍ အသက်ဘေးမှ လွတ်သော သမင် | ၉၅ |
| | ဇာတ်ပေါင်းခန်း = ဘုရားလောင်း ဆုံးမတတ်သော ဦးရီးသမင် | ၉၇ |
| ၇။ **မာလုတဇာတ်**။ | = အချမ်းပြဿနာမေးသော တောထွက်ရဟန်းကြီးနှစ်ပါး | ၉၇ |
| | အတိတ်ဝတ္ထု = ခြင်္သေ့နှင့်ကျားတို့၏ အချမ်းပြဿနာအငြင်းအခုံ | ၉၈ |
| | ဇာတ်ပေါင်းခန်း = ဘုရားလောင်း ပြဿနာဖြေသောရသေ့ | ၉၉ |

| ဇာတ်အမည် | အကြောင်းအရာဖော်ပြချက် | စာမျက်နှာ |
|---|---|---|
| ၈။ **မတကဘတ္တဇာတ်။** | = သေသူအတွက်ဆိတ်ကိုသတ်၍ ပြုသော မတကဘတ် | ၉၉ |
| အတိတ်ဝတ္ထု | = အသတ်ခံရမည့်ဆိတ်၏ ရယ်ခြင်း–ငိုခြင်း | ၁၀၀ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ရုက္ခစိုးနတ် | ၁၀၂ |
| ၉။ **အာယာစိတဇာတ်** | = သတ္တဝါတို့၏အသက်ကို သတ်၍ နတ်တို့အားပူဇော်ခြင်း | ၁၀၃ |
| အတိတ်ဝတ္ထု | = ပညောင်ပင်စောင့်နတ်အား ပူဇော်ဝန်ခံသော သူကြွယ် | ၁၀၃ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ရုက္ခစိုးနတ် | ၁၀၄ |
| ၁၀။ **နဠပါနဇာတ်။** | ပစ္စုပ္ပန်ဝတ္ထု=နဠပါနရေကန်မှကျူရိုးများအဆစ်ပိတ်မရှိ | ၁၀၄ |
| အတိတ်ဝတ္ထု | = ဘုရားလောင်းမျောက်မင်း ပါရမီသစ္စာ မိဋ္ဌာန်ပြုခြင်း | ၁၀၇ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း မျောက်မင်း | ၁၀၈ |

**(၃–ကုရုင်္ဂဝဂ်)**

| | | |
|---|---|---|
| ၁။ **ကုရုင်္ဂမိဂဇာတ်။** | = ဘုရားရှင်အားသတ်ရန် ဒေဝဒတ်၏ နည်းမျိုးစုံစကား | ၁၀၈ |
| အတိတ်ဝတ္ထု | = ဆတ်ကိုသတ်ရန် မုဆိုးအကြံ ဆတ်သိ | ၁၀၉ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ဆတ်သတ္တဝါ | ၁၁၁ |
| ၂။ **ကုက္ကုရဇာတ်။** ပစ္စုပ္ပန်ဝတ္ထု | = ဆွေမျိုးတို့၏အကျိုးကို ကျင့်ဆောင်ခြင်း | ၁၁၁ |
| အတိတ်ဝတ္ထု | = မင်း၏ရထားမှသားရေ ခွေးစား၍ ခွေးတို့ကိုသတ် | ၁၁၁ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ခွေးပညာရှိ | ၁၁၅ |
| ၃။ **ဘောဇာဇာနီယဇာတ်။** ပစ္စုပ္ပန်ဝတ္ထု | = ဝီရိယလျှော့သော ရဟန်းတစ်ပါး | ၁၁၆ |
| အတိတ်ဝတ္ထု | = သေအံ့သော ဒဏ်ရာရလျက် ရန်သူကိုအနိုင်တိုက်သော သိန္ဓောမြင်း | ၁၁၆ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း သိန္ဓောမြင်း | ၁၁၉ |
| ၄။ **အာဇညဇာတ်။** ပစ္စုပ္ပန်ဝတ္ထု | = ဝီရိယလျှော့သော ရဟန်းတစ်ပါး | ၁၁၉ |
| အတိတ်ဝတ္ထု | = သေအံ့သောဒဏ်ရာရလျက် ရန်သူကိုတိုက်သောမြင်း | ၁၂၀ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း သိန္ဓောမြင်း | ၁၂၁ |
| ၅။ **တိတ္ထဇာတ်။** ပစ္စုပ္ပန်ဝတ္ထု | = အရှင်သာရိပုတ္တရာ ကမ္မဋ္ဌာန်းပေးမှားပုံ | ၁၂၁ |
| အတိတ်ဝတ္ထု | = ယုတ်သောရေဆိပ်၌ ရေမချိုးသော မြင်း | ၁၂၅ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ပညာရှိအမတ် | ၁၂၇ |
| ၆။ **မဟိဠာမုခဇာတ်။** ပစ္စုပ္ပန်ဝတ္ထု | = ဒေဝဒတ်၏ဆွမ်းကိုစားသောရဟန်း | ၁၂၇ |
| အတိတ်ဝတ္ထု | = ပတ်ဝန်းကျင်ကြောင့် မင်္ဂလာဆင်ပင် အကျင့်ပျက် | ၁၂၉ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ပညာရှိအမတ် | ၁၃၂ |

| ဇာတ်အမည် | အကြောင်းအရာဖော်ပြချက် | စာမျက်နှာ |
|---|---|---|
| ၇။ **အဘိဏှဇာတ်။** ပစ္စုပ္ပန်ဝတ္ထု | = အကျွမ်းဝင်သော ရဟန်းနှင့်လူ | ၁၃၂ |
| အတိတ်ဝတ္ထု | = အလွန်အကျွမ်းဝင်သော ဆင်နှင့်ခွေး | ၁၃၃ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ပညာရှိအမတ် | ၁၃၅ |
| ၈။ **နန္ဒိဝိသာလဇာတ်။** | = ဆဗ္ဗဂ္ဂီရဟန်းတို့ခိုက်ရန်ဖြစ်၍ ရဟန်းတို့ကို ဆဲခြင်း | ၁၃၅ |
| အတိတ်ဝတ္ထု | = ကြမ်းတမ်း, ဆဲရေးစကားကို နွားပင်မကြိုက် | ၁၃၅ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း နန္ဒိဝိသာလနွားလား | ၁၃၈ |
| ၉။ **ကဏှဇာတ်။** | = မြတ်စွာဘုရားယမိုက်ပြာဋိဟာဖြင့် အကျိုးဆောင် | ၁၃၉ |
| အတိတ်ဝတ္ထု | = သခင်အမယ်အို၏ အကျိုးဆောင်သောနွား | ၁၄၀ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း အယျိကကာဠက–နွားလား | ၁၄၂ |
| ၁၀။ **မုနိကဇာတ်။** ပစ္စုပ္ပန်ဝတ္ထု | = အပျိုကြီးဖြားယောင်းဖျက်ဆီးခံရသော ရဟန်း | ၁၄၂ |
| အတိတ်ဝတ္ထု | = မိန်းမပျိုမင်္ဂလာပွဲအတွက် အသက်ပေးရသောဝက် | ၁၄၃ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း မဟာလောဟိတ–နွားလား | ၁၄၅ |

(၄–ကုလာဝကဝဂ်)

| ဇာတ်အမည် | အကြောင်းအရာဖော်ပြချက် | စာမျက်နှာ |
|---|---|---|
| ၁။ **ကုလာဝကဇာတ်။** ပစ္စုပ္ပန်ဝတ္ထု | = ရေကိုမစစ်ဘဲသောက်သော ရဟန်း | ၁၄၅ |
| အတိတ်ဝတ္ထု | = အသက်မသတ်သော မာဃလုလင်တို့နှင့် သိကြားအဖြစ် | ၁၄၆ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း သိကြားမင်း | ၁၅၆ |
| ၂။ **နစ္စဇာတ်။** ပစ္စုပ္ပန်ဝတ္ထု | =ပစ္စည်းဥစ္စာမက် အရှက်အကြောက်မရှိသော ရဟန်း | ၁၅၇ |
| အတိတ်ဝတ္ထု | = အရှက်မရှိ အမြီးထောင်က,သောဥဒေါင်း ဟင်္သာမကိုမရ | ၁၅၈ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ဟင်္သာမင်း | ၁၅၉ |
| ၃။ **သမ္မောဒမာနဇာတ်။** ပစ္စုပ္ပန်ဝတ္ထု | = ဆွေတော်မျိုးတော်တို့မှ ခေါင်းခုတစ်ခု အစွဲပြုသည့် ရန်ပွဲ | ၁၅၉ |
| အတိတ်ဝတ္ထု | = ခိုက်ရန်ဖြစ်၍ ငုံးများပျက်စီးကြရခြင်း | ၁၆၀ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ပညာရှိငုံး | ၁၆၂ |
| ၄။ **မစ္ဆဇာတ်။** | = လက်အတွေကောင်း မယားဟောင်းကို မပြတ်နိုင်သောရဟန်း | ၁၆၃ |
| အတိတ်ဝတ္ထု | = မ–နောက်လိုက်သည့်ငါး ကွန်မိခံရ | ၁၆၃ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ပုရောဟိတ် | ၁၆၅ |
| ၅။ **ဝဋ္ဋကဇာတ်။** ပစ္စုပ္ပန်ဝတ္ထု | = မြတ်စွာဘုရားနှင့် သံဃာများ ဒေသစာရီကြွချိန် တောမီးငြိမ်းခြင်း | ၁၆၅ |
| အတိတ်ဝတ္ထု | = အသိုက်တွင်းမှ ငုံးငှက်ငယ်၏ သစ္စာအစွမ်း | ၁၆၇ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ငုံးငှက်ငယ် | ၁၇၁ |

| စာတ်အမည် | အကြောင်းအရာဖော်ပြချက် | စာမျက်နှာ |
|---|---|---|
| ၆။ **သကုဏစာတ်။** | = ကျောက်းမီးလောင်သော ရဟန်းတစ်ပါးတရားမရ | ၁၇၁ |
| အတိတ်ဝတ္ထု | = နေရာသစ်ပင်မီးလောင်၍ ငှက်အချို့သေ | ၁၇၂ |
| စာတ်ပေါင်းခန်း | = ဘုရားလောင်း ပညာရှိငှက် | ၁၇၃ |
| ၇။ **တိတ္တိရစာတ်။** | = အရှင်သာရိပုတ္တရာ အိပ်ရန်နေရာမရ၍ သစ်ပင်ရင်း၌နေရ | ၁၇၃ |
| အတိတ်ဝတ္ထု | = ခါ, မျောက်, ဆင်တို့အချင်းချင်းရိုသေရန် အသက်စစ် | ၁၇၆ |
| စာတ်ပေါင်းခန်း | = ဘုရားလောင်း ခါ–ပညာရှိ | ၁၇၈ |
| ၈။ **ဗကစာတ်။** | = သင်္ကန်းဟောင်းဖြင့် အဝတ်သစ်ကိုလှည့်စားလဲယူသော ရဟန်း | ၁၇၉ |
| အတိတ်ဝတ္ထု | = ငါးတို့ကို လှည့်စားဖြားယောင်း၍ စားသောဗျိုင်း | ၁၈၁ |
| စာတ်ပေါင်းခန်း | = ဘုရားလောင်း ရက္ခစိုးနတ် | ၁၈၄ |
| ၉။ **နန္ဒစာတ်။** | = အရပ်တစ်ခု၌ ရှိသော်၍ အရပ်တစ်ခု၌ မာန်တက်သော ရဟန်း | ၁၈၅ |
| အတိတ်ဝတ္ထု | = ဥစ္စာမြှုပ်ရာအရပ်ရောက်လျှင် မာန်တက်သောကျွန် | ၁၈၆ |
| စာတ်ပေါင်းခန်း | = ဘုရားလောင်း ပညာရှိသူကြွယ် | ၁၈၇ |
| ၁၀။ **ခဒိရင်္ဂါရစာတ်။** | ပစ္စုပ္ပန်ဝတ္ထု = နတ်ကတားသော်လည်း အလှူကို မနား နတ်ကိုပင်ဒဏ်ထား | ၁၈၈ |
| အတိတ်ဝတ္ထု | = မာရ်နတ်တားသော်လည်း ဆွမ်းလှူခြင်းမပျက် | ၁၉၇ |
| စာတ်ပေါင်းခန်း | = ဘုရားလောင်း ဆွမ်းလှူသော ဗာရာဏသီသူဌေး | ၂၀၁ |

## (၅–အတ္ထကာမဝဂ်)

| | | |
|---|---|---|
| ၁။ **လောသကစာတ်** | = ဝန်တိုခဲ့ဖူး၍ ပရိနိဗ္ဗာန်ပြုခါနီး တစ်ကြိမ်သာဝမ်းပြည့်စားရ | ၂၀၁ |
| အတိတ်ဝတ္ထု | = မစ္ဆရိယဆိုးကြောင့် အာဂန္တုကိုမနှီးဘဲ ဆွမ်းစားသွားသောရဟန်း | ၂၀၆ |
| စာတ်ပေါင်းခန်း | = ဘုရားလောင်း ဒိသာပါမောက္ခဆရာ | ၂၁၂ |
| ၂။ **ကပေါတစာတ်။** | ပစ္စုပ္ပန်ဝတ္ထု = လျှပ်ပေါ်သော ရဟန်းတစ်ပါး | ၂၁၃ |
| အတိတ်ဝတ္ထု | = အစာ၌လျှပ်ပေါ်သောကြောင့် သေဆုံးရသောကျီး | ၂၁၃ |
| စာတ်ပေါင်းခန်း | = ဘုရားလောင်း ခိုငှက် | ၂၁၇ |
| ၃။ **ဝေဠုကစာတ်။** | ပစ္စုပ္ပန်ဝတ္ထု = ဆိုဆုံးမခက်သော ရဟန်းတစ်ပါး | ၂၁၇ |
| အတိတ်ဝတ္ထု | = မြွေဟောက်ကိုမွေးစား၍ မြွေဟောက်ကိုက်၍ ရသေ့သေ | ၂၁၇ |
| စာတ်ပေါင်းခန်း | = ဘုရားလောင်း ဂိုဏ်းဆရာရသေ့ | ၂၁၉ |
| ၄။ **မကသစာတ်။** | ပစ္စုပ္ပန်ဝတ္ထု = မှက်တို့နှင့်စစ်တိုက်သော လူမိုက်များ | ၂၁၉ |
| အတိတ်ဝတ္ထု | = ဖခင်ဦးခေါင်းမှမှက်ကို ပုဆိန်ဖြင့်ခုတ်သတ်သောသား | ၂၂၁ |
| စာတ်ပေါင်းခန်း | = ဘုရားလောင်း ပညာရှိကုန်သည် | ၂၂၂ |

ဇာတ်အမည် အကြောင်းအရာဖော်ပြချက် စာမျက်နှာ


၅။ **ရောဟိဏီဇာတ်။** = အမိ၌နားသောယင်ကို ကျည်ပွေ့ဖြင့် ရိုက်သောသမီး ၂၂၂
အတိတ်ဝတ္ထု = ၎င်းအတူ ၂၂၃
ဇာတ်ပေါင်းခန်း = ဘုရားလောင်း သူဌေး ၂.
၆။ **အာရာမဒူသဇာတ်။** = အပင်ကိုနုတ်၍ အမြစ်ကိုသာ ရေလောင်းခြင်း ၂၂၄
အတိတ်ဝတ္ထု = အပင်ကိုနုတ်၍အမြစ်ကိုသာရေလောင်းသောမျောက်များ ၂၂၅
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ပညာရှိယောက်ျား ၂၂၇
၇။ **ဝါရုဏိဒူသကဇာတ်။** ပစ္စုပ္ပန်ဝတ္ထု = အရက်၌ ဆားခတ်ရောင်းသောသူ ၂၂၇
အတိတ်ဝတ္ထု = ၎င်းအတူ ၂၂၈
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ဗာရာဏသီသူဌေး ၂၂၉
၈။ **ဝေဒဗ္ဗဇာတ်။** ပစ္စုပ္ပန်ဝတ္ထု = ဆိုဆုံးမခက်သော ရဟန်းတစ်ပါး ၂၃၀
အတိတ်ဝတ္ထု = မှာထားသည်ကိုမနာယူဘဲ ရတနာမိုးရွာစေ၍သေရခြင်း ၂၃၀
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ပုဏ္ဏားဆရာ၏တပည့် ၂၃၅
၉။ **နက္ခတ္တဇာတ်။** = နက္ခတ်မကောင်းဟူသော စကားကြောင့် ဧနီးလောင်းဆုံးရှုံးရ ၂၃၅
အတိတ်ဝတ္ထု = ၎င်းအတူ ၂၃၇
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ပညာရှိယောက်ျား ၂၃၈
၁၀။ **ဒုမ္မေဓဇာတ်။** = မြတ်စွာဘုရား လောကအစည်းအပွားကို ကျင့်တော်မူခြင်း ၂၃၉
အတိတ်ဝတ္ထု=ယဇ်ပူဇော်ခြင်းကိုတား၍ သားသတ္တဝါတို့အကျိုးကို ကျင့်တော်မူခြင်း ၂၃၉
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ဗာရာဏသီမင်း ၂၄၂


## (၆–အာသီသဝဂ်)


၁။ **မဟာသီလဝဇာတ်။** = အားထုတ်ခြင်း ဝီရိယကို လျှော့သော ရဟန်းတစ်ပါး ၂၄၂
အတိတ်ဝတ္ထု = ဝီရိယကိုမလျှော့သောကြောင့် မင်းစည်းစိမ်ပြန်ရခြင်း ၂၄၃
ဇာတ်ပေါင်းခန်း = ဘုရားလောင်း မဟာသီလဝမင်း ၂၅၁
၂။ **စူဠဇနကဇာတ်။** ပစ္စုပ္ပန်ဝတ္ထု = ဝီရိယကို လျှော့သော ရဟန်းတစ်ပါး ၂၅၁
အတိတ်ဝတ္ထု = မဟာဇနကဇာတ်တွင် ထင်ရှားမည်ဖြစ်ကြောင်း ၂၅၂
ဇာတ်ပေါင်းခန်း = ဘုရားလောင်း စူဠဇနကမင်း ၂၅၂
၃။ **ပုဏ္ဏပါတိဇာတ်။** ပစ္စုပ္ပန်ဝတ္ထု = အဆိပ်ခတ်သောသေရည်ဖြင့်
အနာထပိဏ်သူဌေးကိုလုရန်ကြံခြင်း ၂၅၂
အတိတ်ဝတ္ထု = ၎င်းအတူဗာရာဏသီသူဌေးကို လုရန်ကြံခြင်း ၂၅၄
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ဗာရာဏသီသူဌေး ၂၅၅

ဇာတ်အမည် အကြောင်းအရာဖော်ပြချက် စာမျက်နှာ

**(၈–ဝရုဏဝဂ်)**


၁။ **ဝရုဏဇာတ်။** = အခါလွန်မှ ပြုလုပ်အားထုတ်၍ ပေါင်ရိုးကျိုးသော ရဟန်း ၃၂၀
အတိတ်ဝတ္ထု = ပျင်းရိသူ၏ ထင်းစိုကြောင့် ခရီးသွားခြင်း အန္တရာယ်ဖြစ် ၃၂၄
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ဆရာပုဏ္ဏား ၃၂၆
၂။ **သီလဝနာဂရာဇဇာတ်။** ပစ္စုပ္ပန်ဝတ္ထု = ကျေးဇူးကိုမသိတတ်သော ဒေဝဒတ် ၃၂၆
အတိတ်ဝတ္ထု = အသက်ကယ်ဖူးသော ကျေးဇူးကို မသိသောမုဆိုး မြေမျို ၃၂၆
ဇာတ်ပေါင်းခန်း = ဘုရားလောင်း သီလဝဆင်မင်း ၃၃၁
၃။ **သစ္စံကိရဇာတ်။** = မြတ်စွာဘုရားအား သတ်ရန်အားထုတ်သော ဒေဝဒတ် ၃၃၁
အတိတ်ဝတ္ထု = အသက်ကယ်ဖူးသော ကျေးဇူးရှင်ကို ပြစ်မှား၍ သေရသောမင်း ၃၃၂
ဇာတ်ပေါင်းခန်း = ဘုရားလောင်း မင်းအဖြစ်အပ်နှင်းခံရသော ရသေ့ ၃၃၇
၄။ **ရုက္ခဓမ္မဇာတ်။** = ရေကိုအကြောင်းပြု၍ ဆွေတော်မျိုးတော်တို့၏ ရန်ပွဲ ၃၃၈
အတိတ်ဝတ္ထု = အညီအညွတ်တွဲလျှင် သစ်ပင်ကိုသော်လည်း လေမလှဲနိုင် ၃၃၉
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ပညာရှိရုက္ခစိုးနတ် ၃၄၀
၅။ **မစ္ဆဇာတ်။** ပစ္စုပ္ပန်ဝတ္ထု = မြတ်စွာဘုရား၏ တန်ခိုးတော်ကြောင့် မိုးရွာခြင်း ၃၄၁
အတိတ်ဝတ္ထု = ငါးရံ့မင်း၏ သစ္စာတန်ခိုးကြောင့် မိုးရွာခြင်း ၃၄၃
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ငါးရံ့မင်း ၃၄၅
၆။ **အသင်္ကိယဇာတ်** = မိမိကိုယ်ကိုစောင့်ကသူတစ်ပါးကိုလည်းစောင့်ခြင်းမည်၏ ၃၄၅
အတိတ်ဝတ္ထု = မိမိ၏ချမ်းသမာဓိကို စောင့်သောရသေ့ကြောင့်
ကုန်သည်များဘေးကင်း ၃၄၆
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ရသေ့ ၃၄၈
၇။ **မဟာသုပိနဇာတ်** = ကောသလမင်း၏ အိပ်မက်တစ်ဆယ့်ခြောက်ချက် ၃၄၈
အတိတ်ဝတ္ထု = ရှေးအခါ ဗာရာဏသီမင်းလည်း ကောသလမင်းကဲ့သို့ မြင်မက် ၃၆၇
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ရသေ့ ၃၇၀
၈။ **ဣလ္လိသဇာတ်။** = မစ္ဆရိယသူဌေးကို အရှင်မဟာမောဂ္ဂလာန်ဆုံးမခြင်း ၃၇၁
အတိတ်ဝတ္ထု = မျိုးနွယ်ကိုဖျက်၍ ဝန်တိုသော သူဌေးအား အဖသိကြားဆုံးမ ၃၇၈
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ဆေတ္တာသည် (ခေါင်းရိတ်သမား) ၃၈၅
၉။ **ခရဿရဇာတ်။** ပစ္စုပ္ပန်ဝတ္ထု = ခိုးသားဓားပြနှင့်ပေါင်း၍ ရသောဥစ္စာ
ထက်ဝက်စားသော အမတ် ၃၈၅
အတိတ်ဝတ္ထု = ၎င်းအတူ ၃၈၆
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ပညာရှိယောက်ျား ၃၈၇

ဇာတ်အမည် အကြောင်းအရာဖော်ပြချက် စာမျက်နှာ


၃။ **တက္ကပဏ္ဍိတဇာတ်**။ = မာတုဂါမကြောင့် သာသနာမှ ငြီးငွေ့သော ရဟန်း ၂၉၀

အတိတ်ဝတ္ထု=မိန်းမသည် အမျက်ထွက်, ကျေးဇူးဖျက်, ကုန်းတိုက်, ပြစ်မှားတတ် ၂၉၁

ဇာတ်ပေါင်းခန်း = ဘုရားလောင်း တက္ကပဏ္ဍိတ ၂၉၃

၄။ **ဒုရာဇာနဇာတ်**။ = မာတုဂါမတို့၏ အလိုကို သိနိုင်ခဲ၍ ဘုရားထံမလာ ၂၉၅

အတိတ်ဝတ္ထု = မိန်းမအတွက် အသိခက်၍ ဆရာ့ထံမလာနိုင်ကြောင်း ၂၉၆

ဇာတ်ပေါင်းခန်း = ဘုရားလောင်း ဒိသာပါမောက္ခဆရာ ၂၉၈

၅။ **အနဘိရတိဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု= မယားနှိပ်စက်စိတ်ဓာတ်ပျက်၍ ဘုရားထံလာခြင်းပျက်ကွက် ၂၉၈

အတိတ်ဝတ္ထု = မယားနှိပ်စက်စိတ်ဓာတ်ပျက်၍ ဆရာ့ထံလာခြင်းပျက်ကွက် ၂၉၉

ဇာတ်ပေါင်းခန်း = ဘုရားလောင်း ဒိသာပါမောက္ခဆရာ ၃၀၀

၆။ **မုဒုလက္ခဏဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု= ဣန္ဒြေကို ဖျက်၍ မာတုဂါမကို ကြည့်သဖြင့် တုန်လှုပ်သောရဟန်း ၃၀၀

အတိတ်ဝတ္ထု = မိဖုရား၏ ဝိသဘာဂအာရုံကြောင့် ဈာန်လျှောသော ရသေ့ ၃၀၂

ဇာတ်ပေါင်းခန်း = ဘုရားလောင်း ရသေ့ ၃၀၆

၇။ **ဥစ္ဆင်္ဂဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု = လင်သည်မိန်းမ၏ အဝတ်၊ လင်မရှိက တစ်သိန်းတန်အဝတ်အချိုးနှီး ၃၀၆

အတိတ်ဝတ္ထု = လင်ယူလျှင် သားရ၏ မောင်ကိုသာ ပေးရန်တောင်းသူ ၃၀၉

ဇာတ်ပေါင်းခန်း = ဘုရားလောင်း ဇာရာဏသီမင်း ၃၁၀

၈။ **သာကေတဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု = မြတ်စွာဘုရား၏အမိအဖ ၅၁၀–၅၀၀ ဖြစ်ဖူးသောဇနီးမောင်နှံ ၃၁၀

အတိတ်ဝတ္ထု = ၎င်း ၃၁၁

ဇာတ်ပေါင်းခန်း = ဘုရားလောင်း ထိုအခါသားဖြစ် ၃၁၂

၉။ **ဝိသဝန္တဇာတ်**။ = အရှင်သာရိပုတ္တရာ မုန့်ခဲဖွယ်ကို မစားတော့ခြင်းအကြောင်း ၃၁၂

အတိတ်ဝတ္ထု = စွန့်ပြီးသောအဆိပ်ကို ပြန်မယူဘဲအသေခံမည့်မြွေ ၃၁၃

ဇာတ်ပေါင်းခန်း = ဘုရားလောင်း မြွေဆရာဆေးသမား ၃၁၄

၁၀။ **ကုဒ္ဒါလဇာတ်**။ = ခြောက်ကြိမ်တိုင်တိုင် လူထွက်လိုက် ရဟန်းပြုလိုက် ၃၁၅

အတိတ်ဝတ္ထု=ပေါက်တူးကြောင့် ၇-ကြိမ်လူထွက်ပြီးမှ "အောင်ပြီ"ဆိုသောရသေ့ ၃၁၆

ဇာတ်ပေါင်းခန်း = ဘုရားလောင်း ကုဒ္ဒါလပဏ္ဍိတ ရသေ့ ၃၂၀

| ဇာတ်အမည် | အကြောင်းအရာဖော်ပြချက် | စာမျက်နှာ |
|---|---|---|
| ၄။ **ကိံဖလဇာတ်။** | ပစ္စုပ္ပန်ဝတ္ထု = သစ်သီး၌ ကျွမ်းကျင်သော ဥယျာဉ်စောင့် | ၂၅၅ |
| | အတိတ်ဝတ္ထု = သစ်သီး၌ ကျွမ်းကျင်၍နောက်ကိုမျှား အသက်ချမ်းသာ | ၂၅၆ |
| | ဇာတ်ပေါင်းခန်း = ဘုရားလောင်း လှည်းကုန်သည်မှူး | ၂၅၈ |
| ၅။ **ပဉ္စာဝုဓဇာတ်။** | ပစ္စုပ္ပန်ဝတ္ထု = ဝီရိယကိုလျှော့သော ရဟန်းတစ်ပါး | ၂၅၈ |
| | အတိတ်ဝတ္ထု = လက်နက်ငါးမျိုးဖြင့် အစေးကပ်သော ဘီလူးကိုတိုက်ခြင်း | ၂၅၉ |
| | ဇာတ်ပေါင်းခန်း = ဘုရားလောင်း ပဉ္စာဝုဓမင်းသား | ၂၆၃ |
| ၆။ **ကဉ္စနက္ခန္ဓဇာတ်။** | ပစ္စုပ္ပန်ဝတ္ထု = သီလသိက္ခာတွေများ၍ မကျင့်နိုင်သဖြင့် လူထွက်လိုသော ရဟန်း | ၂၆၃ |
| | အတိတ်ဝတ္ထု = လေးသောခန် ဝေဖန်ရည်စူးသဖြင့် ပေါ့ပါးရခြင်း | ၂၆၆ |
| | ဇာတ်ပေါင်းခန်း = ဘုရားလောင်း ရွှေတုံးရသော ယောက်ျား | ၂၆၇ |
| ၇။ **ဝါနရိန္ဒဇာတ်။** | = မြတ်စွာဘုရားအားသတ်ရန် ဒေဝဒတ်ကြံစည်ခြင်း | ၂၆၇ |
| | အတိတ်ဝတ္ထု = မျောက်မင်းကို သတ်ရန်ကြံသော မိကျောင်း | ၂၆၈ |
| | ဇာတ်ပေါင်းခန်း = ဘုရားလောင်း မျောက်မင်း | ၂၇၀ |
| ၈။ **တယောဓမ္မဇာတ်။** | = မြတ်စွာဘုရားကို သတ်ရန် ဒေဝဒတ်အားထုတ်ခြင်း | ၂၇၁ |
| | အတိတ်ဝတ္ထု = ဘုရားလောင်းမျောက်ကိုသတ်ရန် ကြံသောဖခင်မျောက် | ၂၇၁ |
| | ဇာတ်ပေါင်းခန်း = ဘုရားလောင်း သားမျောက်ငယ် | ၂၇၄ |
| ၉။ **ဘေရိဝါဒကဇာတ်။** | ပစ္စုပ္ပန်ဝတ္ထု = ဆိုဆုံးမခက်သော ရဟန်းတစ်ပါး | ၂၇၄ |
| | အတိတ်ဝတ္ထု = ဖခင်စကားနားမထောင်သောကြောင့် ဥစ္စာပျက်စီး | ၂၇၄ |
| | ဇာတ်ပေါင်းခန်း = ဘုရားလောင်း ဆိုဆုံးမသော ဖခင် | ၂၇၅ |
| ၁၀။ **သင်္ခဓမဇာတ်။** | ပစ္စုပ္ပန်ဝတ္ထု = ဆိုဆုံးမခက်သော ရဟန်းတစ်ပါး | ၂၇၆ |
| | အတိတ်ဝတ္ထု = သား၏စကားနားမထောင်သော ဖခင်ကြောင့် ဥစ္စာဆုံး | ၂၇၆ |
| | ဇာတ်ပေါင်းခန်း = ဘုရားလောင်း သတိပေးသောသား | ၂၇၇ |

(၇-ဣတ္ထိဝဂ်)

| | | |
|---|---|---|
| ၁။ **အသာတမန္တဇာတ်။** | = မာတုဂါမကြောင့် သာသနာမှ ငြီးငွေ့သော ရဟန်း | ၂၇၇ |
| | အတိတ်ဝတ္ထု = အသာတမန္တရားဟူသည်ကို သင်သောလုလင် | ၂၇၇ |
| | ဇာတ်ပေါင်းခန်း = ဘုရားလောင်း ဒိသာပါမောက္ခဆရာ | ၂၈၂ |
| ၂။ **အဏ္ဍဘူတဇာတ်။** | = မာတုဂါမကြောင့် သာသနာမှ ငြီးငွေ့သော ရဟန်း | ၂၈၂ |
| | အတိတ်ဝတ္ထု = မိန်းမဟူဘိ ထိုဣတ္ထိကား မွေးသည်စလျက် အထိမ်းခက်၏ | ၂၈၃ |
| | ဇာတ်ပေါင်းခန်း = ဘုရားလောင်း မာရာဏသီမင်း | ၂၉၀ |

ဇာတ်အမည် အကြောင်းအရာဖော်ပြချက် စာမျက်နှာ

၁၀။ **ဘီမသေနဇာတ်**။ = သူတစ်ပါးတို့အား ကဲ့ရဲ့ရှုံ့ချတတ်သော ရဟန်းတစ်ပါး ၃၈၇
အတိတ်ဝတ္ထု = စိတ်ကြီးဝင်ကာ မှိုနိုရသူကို ကဲ့ရဲ့၍ နေရင်းပြန်ရသူ ၃၈၈
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ဓနုဂ္ဂဟ–လေးသမား ၃၉၃

**(၉–အပါယိမှဝဂ်)**

၁။ **သုရာပါနဇာတ်**။ = နဂါးကိုဆုံးမနိုင်သောသာဂတထေရ် သေရည်ကြောင့်ပျက် ၃၉၃
အတိတ်ဝတ္ထု = သေရည်သောက်မိ၍ အရက်ကင်းမဲ့ က–ခုန်ကြသော ရသေ့များ ၃၉၆
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ရသေ့တို့၏ ဆရာရသေ့ ၃၉၈
၂။ **မိတ္တဝိန္ဒကဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု = ဆိုဆုံးမခက်သော ရဟန်းတစ်ပါး
အတိတ်ဝတ္ထု = – – ၃၉၉
ဇာတ်ပေါင်းခန်း = ဘုရားလောင်း နတ်မင်း ၃၉၉
၃။ **ကာဠကဏ္ဏီဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု = အမည်သည်ခေါ်ရုံမျှသာ၊
အဆွေခင်ပွန်းကြောင့် ဥစ္စာတည်မြဲ ၃၉၉
အတိတ်ဝတ္ထု = ၎င်းအတူ ၄၀၂
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ဗာရာဏသီသူဌေး ၄၀၃
၄။ **အတ္ထဿဒွါရဇာတ်**။ =အကျိုးစီးပွားပြဿနာမေးသော ခုနစ်နှစ်သားသူဌေးသား ၄၀၃
အတိတ်ဝတ္ထု = ၎င်းအတူ ၄၀၄
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ဗာရာဏသီသူဌေး ၄၀၅
၅။ **ကိံပက္ကဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု = ဆွမ်းခံသွားရင်း တန်ဆာဆင်သော
မိန်းမကိုမြင်၍ သာသနာမှငြီးငွေ့သော ရဟန်း ၄၀၅
အတိတ်ဝတ္ထု = ဘုရားလောင်းစကားကြောင့် အဆိပ်သီး၏အဆိပ်သင့်ခြင်းမှလွတ် ၄၀၆
ဇာတ်ပေါင်းခန်း = ဘုရားလောင်း လှည်းကုန်သည်မှူး ၄၀၇
၆။ **သီလဝိမံသကဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု = မိမိအား မြတ်နိုးခြင်းသည် သီလကြောင့်
ဟုသိ၍ ရဟန်းပြုသောပုဏ္ဏား ၄၀၇
အတိတ်ဝတ္ထု = ၎င်းအတူ ၄၁၀
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ပုရောဟိတ်ပုဏ္ဏား ၄၁၁
၇။ **မင်္ဂလဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု = လောကီမင်္ဂလာကိုသာ ယုံကြည်၍ ကြွက်ခဲသော
ပုဆိုးအစုံကို စွန့်သောပုဏ္ဏား ၄၁၂
အတိတ်ဝတ္ထု = ၎င်းအတူ ၄၁၄
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ရသေ့ ၄၁၆

| ဇာတ်အမည် | အကြောင်းအရာဖော်ပြချက် | စာမျက်နှာ |
|---|---|---|
| ၈။ **သာရမ္ဘဇာတ်။** | = နှုတ်လုံ့ထိုး(ဆဲရေးခြင်း)နှင့်စပ်၍ သိက္ခာပုဒ်ပညတ်ခြင်း | ၄၁၆ |
| အတိတ်ဝတ္ထု | = | ၄၁၆ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း သာရမ္ဘမည်သောနွား | ၄၁၇ |
| ၉။ **ကုဟဇာတ်။** ပစ္စုပ္ပန်ဝတ္ထု | = အံ့ဖွယ်သရဲကို ဖြစ်စေသောရဟန်းတစ်ပါး | ၄၁၇ |
| အတိတ်ဝတ္ထု | =ရွှေစင်နိက္ခတစ်ရာခိုးပြီး သီလရှိယောင်ဟန်ဆောင်သော ရသေ့ပျက် | ၄၁၈ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ပညာရှိယောက်ျား | ၄၂၀ |
| ၁၀။ **အကတညုဇာတ်။** | = ပြုဖူးသောကျေးဇူးကိုမသိ၍ ဖျက်ဆီးခံရ, ပျက်စီးရခြင်း | ၄၂၀ |
| အတိတ်ဝတ္ထု | = ၎င်းအတူ | ၄၂၂ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ဗာရာဏသီသူဌေး | ၄၂၃ |

(၁၀–လိတ္တဝဂ်)

| | | |
|---|---|---|
| ၁။ **လိတ္တဇာတ်။** | = ပစ္စဝေက္ခဏာမဆင်ခြင်ဘဲသုံးဆောင်သော ရဟန်းများ | ၄၂၄ |
| အတိတ်ဝတ္ထု | = မဆင်မခြင်ပြေ့ကြာန်ကိုငုံ၍ အဆိပ်သင့်ခြင်း | ၄၂၄ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ပညာရှိကြွေအန်ကြူး | ၄၂၆ |
| ၂။ **မဟာသာရဇာတ်။** ပစ္စုပ္ပန်ဝတ္ထု | = ရှင်အာနန္ဒာ ဥပါယ်တံမျဉ်ဖြင့် မင်း၏ပတ္တမြားဦးသျှောင်ကို ပြန်ဆောင် | ၄၂၆ |
| အတိတ်ဝတ္ထု | = မျောက်မထံမှ မဟာသာရတန်ဆာရအောင်ယူသော အမတ် | ၄၃၂ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ပညာရှိအမတ် | ၄၃၇ |
| ၃။ **ဝိဿာသဘောဇနဇာတ်။** ပစ္စုပ္ပန်ဝတ္ထု | = အကျွမ်းဝင်သူပစ္စည်း ပစ္စဝေက္ခဏာ မဆင်ခြင်ဘဲသုံးဆောင်သော ရဟန်းများ | ၄၃၇ |
| အတိတ်ဝတ္ထု | = အကျွမ်းဝင်၍ ပြောင်မကို လျက်သော ကျားသေခြင်း | ၄၃၈ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ဗာရာဏသီမင်း | ၄၄၀ |
| ၄။ **လောမဟံသဇာတ်။** | = ဘုရားရှင်အား ကျေးဇူးမဲ့ကဲ့ရဲ့သော သုနက္ခတ် | ၄၄၀ |
| အတိတ်ဝတ္ထု | = ၉၁–ကမ္ဘာထက်က ဘုရားလောင်း မိစ္ဆာအယူကို ခံယူစုံစမ်းခြင်း | ၄၄၂ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း အဝတ်မဝတ်သော အာဇီဝက | ၄၄၃ |
| ၅။ **မဟာသုဒဿနဇာတ်။** ပစ္စုပ္ပန်ဝတ္ထု | = ကုသိနာရုံမြို့သည် ရှေးအခါက မြို့ကြီးဖြစ်ကြောင်း ပရိနိဗ္ဗာန်ပြုခါနီးဟော | ၄၄၄ |
| အတိတ်ဝတ္ထု | = ၎င်းအတူ | ၄၄၄ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း မဟာသုဒဿနစကြာမင်း | ၄၄၆ |

ဇာတ်အမည် အကြောင်းအရာဖော်ပြချက် စာမျက်နှာ

၆။ **တေလပတ္တဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု = ဇနပဒကလျာဏီ၏ ကောင်းခြင်းငါးပါး ၄၄၆
အတိတ်ဝတ္ထု = ကာမဂုဏ်ဖြင့် ဖြားယောင်းခြင်းကို လက်မခံ၍ မင်းဖြစ် ၄၄၉
ဇာတ်ပေါင်းခန်း = ဘုရားလောင်း မင်းအဖြစ်ကို ရသောမင်းသား ၄၅၆
၇။ **နာမသိဒ္ဓိဇာတ်**။ = အမည်ဟောင်းမကြိုက်၍ အမည်သစ်ပြောင်းလိုခြင်း ၄၅၆
အတိတ်ဝတ္ထု = အမည်သည်အမည်မျှသာဖြစ်၍ အမည်ဟောင်းနှင့်သာနေသူ ၄၅၈
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ဒိသာပါမောက္ခဆရာ ၄၆၀
၈။ **ကူဋဝါဏိဇဇာတ်**။ =ကုန်စပ်တူရောင်းပြီး ခွဲဝေမပေးလိုသော ကုန်သည်စဉ်းလဲ ၄၆၀
အတိတ်ဝတ္ထု=ပစ္စည်းခွဲဝေရာ အပိုလိုချင်၍ အဖကိုရုက္ခစိုးအတုလုပ်သောကုန်သည် ၄၆၁
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ပညာရှိကုန်သည် ၄၆၃
၉။ **ပရောသဟဿဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု = ပုထုဇဉ်တို့ကို မေးအပ်သောပြဿနာကို အရှင်သာရိပုတ္တရာဟောခြင်း ၄၆၃
အတိတ်ဝတ္ထု = ဆရာရသေ့ဆိုသော 'နတ္ထိကိဉ္စိ'ကို တပည့်ကြီးသာသိခြင်း ၄၆၄
ဇာတ်ပေါင်းခန်း = ဘုရားလောင်း မဟာဗြဟ္မာဖြစ်သော ဆရာရသေ့ ၄၆၅
၁၀။ **အသာတရူပဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု = ခုနစ်နှစ်ကိုယ်ဝန်ဆောင်ပြီး ခုနစ်ရက်ဖွားရသော အရှင်သီဝလိအကြောင်း ၄၆၆
အတိတ်ဝတ္ထု=အမေ့စကားဖြင့် မြို့ကိုခုနစ်ရက်ပိတ်ဆို့ဖြတ်တောက်သော မင်းသား ၄၆၈
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ခမည်းတော်မင်းကြီး ၄၇၀

(၁၁–ပရောသတဝဂ်)

၁။ **ပရောသတဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု = အရှင်သာရိပုတ္တရာ၏ဂုဏ်အကြောင်း ၄၇၀
(ပရောသဟဿ–ဇာတ်နှင့်တူ) ၄၇၀
။
၂။ **ပဏ္ဏိကဇာတ်**။ = ဟင်းရွက်စိမ်းသည်အဖ သမီး၏သီလကို စမ်းသပ်ခြင်း ၄၇၁
အတိတ်ဝတ္ထု = ၎င်းအတူ ၄၇၂
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ရုက္ခစိုးနတ် ၄၇၃
၃။ **ဝေရီဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု = အနာထပိဏ်သူဌေး ခိုးသူ့ဓားပြဘေးမှ လွတ်ရန် လှည်းဖြင့်ပြေးခြင်း ၄၇၄
အတိတ်ဝတ္ထု = ဘုရားလောင်းသူဌေးလည်း ပြေးခဲ့ဖူးခြင်း ၄၇၄
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ဗာရာဏသီသူဌေး ၄၇၅

| ဇာတ်အမည် | အကြောင်းအရာဖော်ပြချက် | စာမျက်နှာ |
| --- | --- | --- |
| ၄။ **မိတ္တဝိန္ဒကဇာတ်။** | ပစ္စုပ္ပန်ဝတ္ထု = ဆိုနိုင်ခက်သော ရဟန်းတစ်ပါး | ၄၇၅ |
| အတိတ်ဝတ္ထု | = ငရဲခံရသူတစ်ဦးအမေး ဘုရားလောင်းနတ်သားအဖြေ | ၄၇၆ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း အဖြေနတ်သား | ၄၇၆ |
| ၅။ **ဒုဗ္ဗလကဋ္ဌဇာတ်။** | ပစ္စုပ္ပန်ဝတ္ထု = အကြောက်လွန်သော ရဟန်းတစ်ပါး | ၄၇၇ |
| အတိတ်ဝတ္ထု | = ချွန်းကိုယ်စီကိုင်၍ ဝိုင်းရံသည်ကိုကြောက်၍ ဟိမဝန္တာသို့ ပြေးသောဆင် | ၄၇၈ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ရက္ခစိုးနတ် | ၄၇၉ |
| ၆။ **ဥဒဉ္စနီဇာတ်။** | = အပျိုကြီးဖြားယောင်း၍ သာသနာမှငြီးငွေ့သော ရဟန်း | ၄၇၉ |
| အတိတ်ဝတ္ထု | = မိန်းမဖျက်၍ ပျက်သောရသေ့ အဖထံသို့ ပြန်ပြေးခြင်း | ၄၇၉ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ဖခင်ရသေ့ | ၄၈၁ |
| ၇။ **သာလိတ္တကဇာတ်။** | ပစ္စုပ္ပန်ဝတ္ထု = ဟင်္သာ၏ မျက်စိကို ကျောက်စရစ်ဖြင့် ပစ်သော ရဟန်းတစ်ပါး | ၄၈၁ |
| အတိတ်ဝတ္ထု | = စကားများသော ပုရောဟိတ်ပါးစပ်သို့ ဆိတ်ချေးပစ်သွင်းသူ | ၄၈၃ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ပညာရှိအမတ် | ၄၈၅ |
| ၈။ **ဗာဟိယဇာတ်။** | ပစ္စုပ္ပန်ဝတ္ထု = အဆင်းလှသော လိစ္ဆဝိမင်းနှင့် ဝလွန်း၍ သူသေပုပ်နှင့်တူသော မယား | ၄၈၅ |
| အတိတ်ဝတ္ထု | = ဝလွန်းသော်လည်း အရှက်အကြောက်ကိုမစွန့်၍ မိဖုယားကြီးဖြစ် | ၄၈၆ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ပညာရှိအမတ် | ၄၈၇ |
| ၉။ **ကုဏ္ဍကပူဝဇာတ်။** | ပစ္စုပ္ပန်ဝတ္ထု= မြတ်စွာဘုရားအား ဆန်ကွဲမုန့်လှူရသော သူဆင်းရဲ သူဌေးဖြစ် | ၄၈၈ |
| အတိတ်ဝတ္ထု | = ကြက်ဆူပင်စောင့်နတ်အား ဆန်ကွဲမုန့်ဖြင့် ပူဇော်၍ သူဌေးဖြစ် | ၄၈၉ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ကြက်ဆူပင်စောင့်နတ် | ၄၉၁ |
| ၁၀။ **သဗ္ဗသံဟာရကပဉ္ဇာဇာတ်။** | = ပညာပါရမီကို ဟောတော်မူသောအကြောင်း | ၄၉၁ |
| အတိတ်ဝတ္ထု | = | ၄၉၁ |
| ဇာတ်ပေါင်းခန်း | = | ၄၉၂ |

(၁၂-ဟံစိဝဂ်)

| | | |
| --- | --- | --- |
| ၁။ **ဂဒြဘပဉ္ဇာဇာတ်။** | ပစ္စုပ္ပန်ဝတ္ထု = မြည်းပြဿနာ၏ အကြောင်း | ၄၉၂ |
| အတိတ်ဝတ္ထု | = 〃 ၎င်း | ၄၉၂ |
| ဇာတ်ပေါင်းခန်း | | |

| ဇာတ်အမည် | အကြောင်းအရာဖော်ပြချက် | စာမျက်နှာ |
|---|---|---|
| ၂။ **အမရာဒေဝီပဉှာဇာတ်။** | = အမရာဒေဝီနှင့် မဟောသဓာပညာစမ်းကြခြင်း | ၄၉၃ |
| အတိတ်ဝတ္ထု | = ၎င်း | ၄၉၃ |
| ဇာတ်ပေါင်းခန်း | | |
| ၃။ **သင်္ဂါလဇာတ်။** ပစ္စုပ္ပန်ဝတ္ထု | = ဂေါတမ၏ အကျင့်သည် တရားမဟုတ် မိမိအကျင့်သာဟုတ်၏ဟုပြော | ၄၉၄ |
| အတိတ်ဝတ္ထု | = ဥစ္စာမက်မောသဖြင့် မြေခွေးလှည့်စားခြင်းခံရသော ပုဏ္ဏား | ၄၉၄ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ရက္ခစိုးနတ် | ၄၉၆ |
| ၄။ **မိတ္တဝိန္ဒဇာတ်။** ပစ္စုပ္ပန်ဝတ္ထု | = ပျင်းရိသောကြောင့် ဘုရားထံမစရာက်သော တောရွာနေ ရဟန်းအိုကြီးနှစ်ပါး | ၄၉၆ |
| အတိတ်ဝတ္ထု | = ပျင်းရိသောငါးများ ဘုရားလောင်းကြောင့် သာကွန်မှလွတ် | ၄၉၇ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း မိတ္တဝိန္ဒငါး | ၄၉၉ |
| ၅။ **အနုသာသိကဇာတ်။** ပစ္စုပ္ပန်ဝတ္ထု | = မိမိ၏လာဘ်ယုတ်မည်မှကြောက် သူတစ်ပါးကိုခြောက် အပြစ်ကိုယ်ထံရောက် | ၄၉၉ |
| အတိတ်ဝတ္ထု | = မိမိအစာရရာသို့ အခြားငှက်များ မသွားအောင် ဆုံးမသောငှက်မ | ၅၀၀ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ငှက်မင်း | ၅၀၂ |
| ၆။ **ဒုဗ္ဗစဇာတ်။** ပစ္စုပ္ပန်ဝတ္ထု | = ဆိုဆုံးမခက်သော ရဟန်းတစ်ပါး | ၅၀၂ |
| အတိတ်ဝတ္ထု | = ပညာရှိစကားနားမထောင်၍ လှံစူးသေရသော လှံခုန်ဆရာ | ၅၀၂ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း လှံဆရာ၏တပည့် | ၅၀၃ |
| ၇။ **တိတ္တိရဇာတ်။** ပစ္စုပ္ပန်ဝတ္ထု | = မိမိစကားက မိမိကိုပင် ပျက်စီးစေခြင်း | ၅၀၄ |
| **အတိတ်ဝတ္ထု** | = ကိုယ့်စကားနှင့်ကိုယ့်အသံကြောင့်သေကြရသော ရသေ့နှင့်ခါ | ၅၀၄ |
| **ဇာတ်ပေါင်းခန်း** | = ဘုရားလောင်း ဆရာရသေ့ | ၅၀၅ |
| ၈။ **ဝဋ္ဋကဇာတ်။** ပစ္စုပ္ပန်ဝတ္ထု | = မင်းဘေးရောက်သဖြင့် ဘေးလွတ်ရာ (အရဟတ္တဖိုလ်)ကိုရှာသော သူဌေးသား | ၅၀၆ |
| အတိတ်ဝတ္ထု | = ဘေးရန်ကျရောက်သည်ကို ဥပါယ်တံမျဉ်ဖြင့်လွတ်စေသော ငုံးငှက် | ၅၀၉ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ငုံးငှက် | ၅၁၀ |
| ၉။ **အကာလရာဝီဇာတ်။** ပစ္စုပ္ပန်ဝတ္ထု | = အချိန်အခါမဟုတ်သည်၌ အသံပြုသော ရဟန်းတစ်ပါး | ၅၁၀ |
| အတိတ်ဝတ္ထု | = အခါမဟုတ်သည်၌ တွန်၍ လည်လိမ်အသတ်ခံသောကြက်ဖ | ၅၁၁ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ဒိသာပါမောက္ခဆရာ | ၁၃၅ |

| ဇာတ်အမည် | အကြောင်းအရာဖော်ပြချက် | စာမျက်နှာ |
| --- | --- | --- |
| ၁၀။ **ဇန္ဓနမောက္ခဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု | = ဘုရားကို သူ့လင်ဟုစွပ်စွဲသော စိဉ္စမာဏဝိကာ (စိဉ္စမာန) | ၅၁၃ |
| အတိတ်ဝတ္ထု | = သူ့အလိုမပါ၍ စွပ်စွဲသောမိဖုယား ပညာရှိပုဏ္ဏားကြောင့် ချမ်းသာ | ၅၁၃ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ပုရောဟိတ်ပုဏ္ဏား | ၅၁၉ |

## (၁၃–ကုသနာဠိဝဂ်)

| ဇာတ်အမည် | အကြောင်းအရာဖော်ပြချက် | စာမျက်နှာ |
| --- | --- | --- |
| ၁။ **ကုသနာဠိဇာတ်** | = မြတ်မြတ်, ယုတ်ယုတ်–အနာထပိဏ်သူဌေး ခင်ပွန်းပြုလုပ် | ၅၁၉ |
| အတိတ်ဝတ္ထု | = မြတ်မြတ်, ယုတ်ယုတ်–မိတ်ဆွေလုပ်သင့်ကြောင်း ရုက္ခစိုးနတ်မင်းပြော | ၅၂၀ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ကျူရုံစောင့်နတ် | ၅၂၃ |
| ၂။ **ဒုမ္မေဓဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု | = ဘုရားရှင်၏ တင့်တယ်ခြင်းကို မကြည်ဖြူ ငြူစူ၍သာနေသော ဒေဝဒတ် | ၅၂၄ |
| အတိတ်ဝတ္ထု | = ကိုယ့်မင်္ဂလာဆင်ဖြူကိုပင် ငြူစူသောမင်း ဆုံးရှုံးရ၏ | ၅၂၄ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း မင်္ဂလာဆင်ဖြူတော် | ၅၂၇ |
| ၃။ **နင်္ဂလီသဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု | = သင့်၏ မသင့်၏, ရာ–မရာကိုမသိဘဲ တရားဟောသော လာဠုဒါယီ | ၅၂၈ |
| အတိတ်ဝတ္ထု | = နို့ဓမ်း, နို့ရည်ကိုလည်း ထွန်တုံးထွန်သန်နှင့်တူ၏ပြောသောသူ | ၅၂၈ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ဒိသာပါမောက္ခဆရာ | ၅၃၁ |
| ၄။ **အမ္ဗဇာတ်**။ | = ဝတ်နှင့်ပြည့်သူ ရဟန်းတစ်ပါးကြောင့် ရဟန်းအများလာဘ်ရ | ၅၃၂ |
| အတိတ်ဝတ္ထု | = ဝတ်နှင့်ပြည့်စုံသူရသေ့တစ်ပါးကြောင့် ရသေ့အများ သစ်သီးရ | ၅၃၃ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ဆရာရသေ့ | ၅၃၄ |
| ၅။ **ကဋာဟကဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု | = ကွဲရဲ့ရွတ်ချတတ်သော ရဟန်းတစ်ပါး | ၅၃၅ |
| အတိတ်ဝတ္ထု | = ကွဲရဲ့ရွတ်ချလိမ်ညာတတ်သူ ဘုရားလောင်းကြောင့်သာ ချမ်းသာ | ၅၃၅ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ဗာရာဏသီသူဌေး | ၅၃၉ |
| ၆။ **အသိလက္ခဏဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု | = သန်လျက်ကိုနမ်းသော လာဘ်စားသည့်ပုဏ္ဏား နှာခေါင်းပြတ် | ၅၃၉ |
| အတိတ်ဝတ္ထု | = ၎င်းအတူနှင့် အချို့သူအား စည်းစိမ်ရပုံ | ၅၄၀ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း စည်းစိမ်ရသော တူဖြစ်သောမင်း | ၅၄၄ |

ဇာတ်အမည် အကြောင်းအရာဖော်ပြချက် စာမျက်နှာ

၇။ **ကလဏ္ဍုကဇာတ်။** ပစ္စုပ္ပန်ဝတ္ထု= ကဲ့ရဲ့ရှုတ်ချတတ်သော ရဟန်းတစ်ပါး ၅၄၄
အတိတ်ဝတ္ထု = ကဲ့ရဲ့ရှုတ်ချ လိမ်ညာတတ်သူ ပမာဏမသိတော့ ဆုံးရှုံး ၅၄၄
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ဗာရာဏသီသူဌေး ၅၄၆
၈။ **ဗိဠာရဝတဇာတ်။** = အံ့ဖွယ်သရဲကိုဖြစ်စေတတ်သော ရဟန်းတစ်ပါး ၅၄၆
အတိတ်ဝတ္ထု = တရားရှိဟန်အယောင်ဆောင် မြေခွေးကြွက်ခဲ၍ သေရ ၅၄၆
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ကြွက်မင်း ၅၄၈
၉။ **အဂ္ဂိကဘာရဒွါဇဇာတ်။** = အံ့ဖွယ်သရဲကိုဖြစ်စေတတ်သော ရဟန်းတစ်ပါး ၅၄၈
အတိတ်ဝတ္ထု = လိမ်ညာသောမြေခွေး ကြွက်ခဲ၍ သေရ ၅၄၉
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ကြွက်မင်း ၅၅၀
၁၀။ **ကောသိယဇာတ်။** ပစ္စုပ္ပန်ဝတ္ထု = သယောက်လင်ငယ်ထားပြီး
လေနာဟန်ဆောင်သော ပုဏ္ဏေးမ ၅၅၀
အတိတ်ဝတ္ထု = ၎င်းအတူ ၅၅၂
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ဒိသာပါမောက္ခဆရာ ၅၅၄

## (၁၄-အသမ္ပဒါနဝဂ်)

၁။ **အသမ္ပဒါနဇာတ်။** ပစ္စုပ္ပန်ဝတ္ထု = ကျေးဇူးကို မသိတတ်သောဒေဝဒတ် ၅၅၄
အတိတ်ဝတ္ထု = ကုဋေလေးဆယ်ပေးပူ သောကျေးဇူးကို ဖွဲတစ်တုမ္ဘနှင့်ကျေးဇူးဆပ် ၅၅၄
ဇာတ်ပေါင်းခန်း = ဘုရားလောင်း သခ်သူဌေး ၅၅၈
၂။ **ဘီရုကဇာတ်။** ပစ္စုပ္ပန်ဝတ္ထု = အဇပါလညောင်ပင်ရင်း၌ ဘုရားရှင်အား
မာရ်နတ်သမီးများ ဖြားယောင်းခြင်း ၅၅၉
အတိတ်ဝတ္ထု = ကိလေသာဖြင့် ဖြားယောင်းသည်ကို လှည့်မကြည့်၍ မင်းဖြစ် ၅၆၀
ဇာတ်ပေါင်းခန်း = ဘုရားလောင်း မင်းအဖြစ်သို့ ရောက်သောမင်းသား ၅၆၁
၃။ **ဃတာသနဇာတ်။** ပစ္စုပ္ပန်ဝတ္ထု = ကျောင်းကို မီးလောင်၍ ကျောင်းမရှိသဖြင့်
တရားမရသောရဟန်း ၅၆၂
အတိတ်ဝတ္ထု = ရေမှမီးထ၍ နေရာသစ်ပင်မှ ပြောင်းရွှေ့ကြသောငှက်များ ၅၆၃
ဇာတ်ပေါင်းခန်း = ဘုရားလောင်း ငှက်မင်း ၅၆၄
၄။ **ဈာနသောဓနဇာတ်။** ပစ္စုပ္ပန်ဝတ္ထု = သင်္ကဿနဂိုရ် တံခါး၌
အကျဉ်းဟောတရား အရှင်သာရိပုတ္တရာ အကျယ်ဖြေ ၅၆၄
အတိတ်ဝတ္ထု=အလောင်းတော်ရသေ့၏ "နေဝသညီနာသညီ"စကားကို အမှန်ဖြေ ၅၆၅
ဇာတ်ပေါင်းခန်း = ဘုရားလော း ရသေ့ဘဝမှဖြစ်သော ဗြဟ္မာကြီး ၅၆၅

| ဇာတ်အမည် | အကြောင်းအရာဖော်ပြချက် | စာမျက်နှာ |
| --- | --- | --- |
| ၅။ **စန္ဒာဘဇာတ်**။ | = သက်ဿနဂိုရ်မြို့တံခါး၌ အရှင်သာရိပုတ္တရာ ပြဿနာဖြေ | ၅၆၆ |
| | အတိတ်ဝတ္ထု = ဘုရားလောင်း၏ "စန္ဒာဘံ, သူရိယာဘံ" | |
| | စကားကို အမှန်ဖြေသောရသေ့ | ၅၆၆ |
| | ဇာတ်ပေါင်းခန်း = ဘုရားလောင်း ရသေ့ဘဝမှဖြစ်သော ဗြဟ္မာကြီး | ၅၆၇ |
| ၆။ **သုဝဏ္ဏဟံသဇာတ်**။ | ပစ္စုပ္ပန်ဝတ္ထု = အတိုင်းမသိဘဲယာခင်းမှ | |
| | ကြက်သွန်နုတ်ယူသော ထုလ္လနန္ဒာဘိက္ခုနီ | ၅၆၇ |
| | အတိတ်ဝတ္ထု = အလိုကြီး၍ ရအပ်သော လာဘ်မှ ဆုတ်ယုတ်သောမိန်းမ | ၅၆၈ |
| | ဇာတ်ပေါင်းခန်း = ဘုရားလောင်း ရွှေဟင်္သာ | ၅၇၀ |
| ၇။ **ဗဗ္ဗုဇာတ်**။ | ပစ္စုပ္ပန်ဝတ္ထု = ရဟန်းများအတိုင်းမသိ မုန့်အလှူခံ၍ | |
| | ကာဏာအမျိုးသမီးလင်ပစ်ခံရ | ၅၇၁ |
| | အတိတ်ဝတ္ထု = ကြွက်ပေးသောအစာ စားပြီး ကြွက်ကိုသတ်လိုသော ကြောင်များ | ၅၇၃ |
| | ဇာတ်ပေါင်းခန်း = ဘုရားလောင်း ကျောက်သွေးရွဲသမား | ၅၇၅ |
| ၈။ **ဂေါဓာဇာတ်**။ | = အံ့ဖွယ်သရဲကိုဖြစ်စေတတ်သော ရဟန်းတစ်ပါး | ၅၇၆ |
| | အတိတ်ဝတ္ထု = ဖွတ်သားစားလို၍ ဖွတ်ကိုဆောက်ပုတ်ဖြင့်ပစ်သော ရသေ့စဉ်းလဲ | ၅၇၆ |
| | ဇာတ်ပေါင်းခန်း = ဘုရားလောင်း ဖွတ်သတ္တဝါ | ၅၇၈ |
| ၉။ **ဥဘတောဘဋ္ဌဇာတ်**။ | ပစ္စုပ္ပန်ဝတ္ထု = လူ့စည်းစိမ်နှင့် ရဟန်း၏အကျိုး | |
| | နှစ်မျိုးမှ ဆုံးရှုံးသော ဒေဝဒတ် | ၅၇၈ |
| | အတိတ်ဝတ္ထု = အလိုရမ္မက်ကြီး၍ မိမိလည်း မျက်စိပျက်, မယားလည်းဒဏ်ထိ | ၅၇၉ |
| | ဇာတ်ပေါင်းခန်း = ဘုရားလောင်း ရုက္ခစိုးနတ် | ၅၈၁ |
| ၁၀။ **ကာကဇာတ်**။ | = ဆွေတော်မျိုးတော်တို့အကျိုးအတွက် ဘုရားရှင်ကျင့်ခြင်း | ၅၈၁ |
| | အတိတ်ဝတ္ထု = ကျီး၌အဆီမရှိခြင်းအကြောင်းပြော၍ | |
| | ကျီးအပေါင်းကိုဘေးမှလွတ်စေခြင်း | ၅၈၁ |
| | ဇာတ်ပေါင်းခန်း = ဘုရားလောင်း ကျီးမင်း | ၅၈၅ |

(၁၅-ကကဏ္ဍကဝဂ်)

| | | |
| --- | --- | --- |
| ၁။ **ဂေါဓာဇာတ်**။ | = ဆန့်ကျင်ဘက်အဆွေခင်ပွန်းကိုပေါင်းသော ရဟန်းတစ်ပါး | ၅၈၅ |
| | အတိတ်ဝတ္ထု = ဖွတ်နှင့် ဆန့်ကျင်ဘက် ပုတ်သင်နှင့် ပေါင်း၍ ဖွတ်များပျက်စီး | ၅၈၅ |
| | ဇာတ်ပေါင်းခန်း = ဘုရားလောင်း ဖွတ်မင်း | ၅၈၇ |

မာတိကာ (ဆ))

| မာတိကာအမည် | အကြောင်းအရာဖော်ပြချက် | စာမျက်နှာ |
|---|---|---|
| ၂။ **သင်္ဂါရဇာတ်**။ | = ဒေဝဒတ်က ဘုရားကိုသတ်ရန် လုံ့လပြုခြင်း | ၅၈၈ |
| အတိတ်ဝတ္ထု | = ဘုရားလောင်းမြေခွေးအား သတ်ရန်ကြံသော သေသောက်ကြူး | ၅၈၈ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း မြေခွေးမင်း | ၅၉၀ |
| ၃။ **ဝိရောစဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု | = ဘုရားအတုပြု, သံဃာသင်းခွဲသော ဒေဝဒတ် အကန်ခံရ၍သွေးအန် | ၅၉၀ |
| အတိတ်ဝတ္ထု | =ခြင်္သေ့အတုပြု၍ ဆင်ကိုသတ်ရန်အားထုတ်သောမြေခွေး ဆင်နင်းခံရ | ၅၉၁ |
| **ဇာတ်ပေါင်းခန်း** | = ဘုရားလောင်း ကေသရာဇာခြင်္သေ့မင်း | ၅၉၄ |
| ၄။ **နင်္ဂုဋ္ဌဇာတ်**။ | = **တက္ကတွန်းတို့၏ မိစ္ဆာအကျင့်, အကျိုးရှိ-မရှိ မေးလျှောက်** | ၅၉၄ |
| **အတိတ်ဝတ္ထု** | = **ဘုရားလောင်း မီးကိုလုပ်ကျွေးခြင်းအယူမှ ပယ်စွန့်ခြင်း** | ၅၉၅ |
| **ဇာတ်ပေါင်းခန်း** | = **ဘုရားလောင်း မီးကို ငြိမ်းသတ်၍ ရသေ့ပြု** | ၅၉၆ |
| ၅။ **ရာဓဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု | =မယားဟောင်းဖြားယောင်းခံရသော ရဟန်းတစ်ပါး | ၅၉၆ |
| အတိတ်ဝတ္ထု | = မာတုဂါမတို့အား စောင့်ရှောက်ရန်မလွယ်ဟု ပြောပြီး ကျေးသားများတောသို့ဝင် | ၅၉၇ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ပေါဋ္ဌပါဒကျေးငှက် | ၅၉၉ |
| ၆။ **သမုဒ္ဒကာကဇာတ်**။ ပစ္စုပ္ပန်ဝတ္ထု | = ရဟန်းအိုကြီးတစ်ပါး၏ မယားဟောင်းသေ၍ ရဟန်းအိုကြီးတွေငိုင် | ၅၉၉ |
| အတိတ်ဝတ္ထု | = ကျီးမ သမုဒ္ဒရာ၌ကျသေ၍ သမုဒ္ဒရာရေကို ကုန်စေရန်လုပ်သောကျီးများ | ၆၀၁ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း သမုဒ္ဒရာစောင့်နတ် | ၆၀၂ |
| ၇။ **ပုပ္ဖရတ္တဇာတ်**။ | = မယားဟောင်းကြောင့် သာသနာမှငြီးငွေ့သော ရဟန်း | ၆၀၃ |
| အတိတ်ဝတ္ထု | = မိန်းမအလိုကို လိုက်သောကြောင့် တံကျင်အလျှိုခံရသော သူ | ၆၀၃ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း အာကာသစိုးနတ် . | ၆၀၅ |
| ၈။ **သိင်္ဂါလဇာတ်**။ | = ကိလေသာကိုမှီသောအကြံကြောင့် ငြီးငွေ့သောရဟန်းများ | ၆၀၅ |
| အတိတ်ဝတ္ထု | = အစာကိုမက်၍ ဆင်သေ၏ ဝမ်းသို့ဝင်သော မြေခွေး | ၆၀၈ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း မြေခွေး | ၆၁၀ |

| ဇာတ်အမည် | အကြောင်းအရာဖော်ပြချက် | စာမျက်နှာ |
|---|---|---|
| ၉။ **ကောသမ္ဗဇာတ်။** ပစ္စုပ္ပန်ဝတ္ထု | = ဒေါသအမျက်ကြီးသော ဒုဋ္ဌလိစ္ဆဝီမင်းသားအား ဘုရားဆုံးမ | ၆၁၁ |
| အတိတ်ဝတ္ထု | = ကြမ်းတမ်းသော မင်းသားအား ဆုံးမသော ရသေ့ | ၆၁၄ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ရသေ့ | ၆၁၇ |
| ၁၀။ **သဒ္ဒိဝဇာတ်။** ပစ္စုပ္ပန်ဝတ္ထု | = ဒေဝဒတ်ကို ကြည်ညိုပေါင်းသင်းမိ၍ ပူပန်ရသော အဇာတသတ် | ၆၁၇ |
| အတိတ်ဝတ္ထု | = ကျားသေကို အသက်သွင်း၍ သေခြင်းသို့ရောက်ရ | ၆၂၁ |
| ဇာတ်ပေါင်းခန်း | = ဘုရားလောင်း ဒိသာပါမောက္ခဆရာ | ၆၂၂ |


**ဇာတ်ပေါင်း ၁၅၀-မာတိကာပြီး၏။**

* * * * *



ပုံတော်စုံ

# ငါးရာငါးဆယ် ဇာတ်ဝတ္ထု

# ဧကနိပါတ်

---

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

## ပဏာမ ပဋိညာဉ်

အသင်္ချေယျာသု ဇာတီသု၊ ပူရေတွာ ပါရမီ သဗ္ဗာ။
ပတ္တံ သမ္ဗောဓိမုက္ကဋ္ဌံ၊ ဝန္ဒိတွာ ဓမ္မံ သံဃဉ္စ။
သေတိဘဿာမိနော ရညော၊ ဇေဋ္ဌပုတ္တေန ဘူပါလာ။
ဥပရာဇေန ဝုတ္တောဟံ၊ ဒီဃာမစ္စေဟိ ယာစိတော။
မြမ္မဘာသာယ ဘာသိဿံ၊ နိဗ္ဗာနဝဟဇာတကံ။

အဟံ၊ ငါသည်။ အသင်္ချေယျာသု၊ ရေတွက်ခြင်းငှါ မတတ်ကောင်းကုန်သော။ ဇာတီသု၊ ကိုယ်တော်၏ အဖြစ်တို့၌။ သဗ္ဗာ၊ ခပ်သိမ်းကုန်သော။ ပါရမီ၊ ပါရမီတို့ကို။ ပူရေတွာ၊ ဖြည့်တော်မူ၍။ ဥက္ကဋ္ဌံ၊ ပစ္စေကဗုဒ္ဓါ, အဂ္ဂသာဝက တို့၏ ဉာဏ်တော်ထက် ထူးမြတ်သော။ သမ္ဗောဓိံ၊ သဗ္ဗညုတ ဉာဏ်တော်၏ နီးစွာသော အရဟတ္တမဂ် ဉာဏ်တော်ကို။ ပတ္တဉ္စ၊ ရတော်မူပြီးသော မြတ်စွာ

ဘုရားကိုရှင်း၊ ဓမ္မဥ္စ၊ ဆယ်ပါးသော တရားတော်မြတ်ကိုရှင်း။ သံဃဥ္စ၊ ရှစ်ယောက်သော သံဃာတော်ကိုရှင်း။ ဝန္ဒိတွာ-ဝန္ဒာမိ၊ ရှိခိုးပါ၏။ ဝန္ဒိတွာ၊ ရှိခိုးပြီး၍။

သေတိဘာသာမိနေ ရည်သော၊ ဆင်ဖြူများရှင် တရားမင်းမြတ်၏။ ဇေဋ္ဌပုတ္တေန၊ သားတော်ကြီးဖြစ်သော။ ဘူပါလာ၊ တိုင်းနိုင်ငံသူ ရှင်လူအပေါင်းကို စောင့်ရှောက် တတ်သော။ ဥပရာဇေန၊ အိမ်ရှေ့မင်းမြတ်သည်။ ဝုတ္တောဟိ၊ အမိန့်တော်ရှိအပ်ကုန်သော။ ဒွိဟိ အမစ္စေဟိ၊ နှစ်ယောက်သောအမတ်တို့သည်။ ယာစိတော၊ တောင်းပန်အပ်သည်ဖြစ်၍။ နိဗ္ဗာနဝဟာဇာတကံ၊ နိဗ္ဗာန်ရွှေပြည်သို့ ပို့ဆောင်တတ်သော ငါးရာ့ငါးဆယ်ဇာတ်, ဆယ်စောင်သော မဟာနိပါတ်ဇာတ်ကို။ မြမ္မဘာသာယ၊ မြန်မာတိုင်းသူတို့၏ ဘာသာဖြင့်။ ဘာသိဿံ-ကထေဿာမိ၊ ဆိုပေအံ့။

---

## ၁–အပဏ္ဏကဝဂ် ၁-အပဏ္ဏကဇာတ်

### ကျိန်းသေဖြစ်သောအလုပ်ကိုမှ လုပ်သင့်ကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညုမြတ်စွာဘုရားသည် ရှေးဦးစွာသော အပဏ္ဏက ဓမ္မဒေသနာကို သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် ဟောတော်မူသည်၊ အဘယ်သူကို အကြောင်းပြု၍ ဤစကားသည် ဖြစ်သနည်း ဟူမူကား— အနာထပိဏ်သူဌေး၏ အဆွေခင်ပွန်းဖြစ်ကုန်သော ငါးရာကုန်သော တိတ္ထိတို့၏ တပည့်တို့ကို အကြောင်းပြု၍ ဤစကားသည် ဖြစ်၏။

တရံရောအခါ အနာထပိဏ် သူဌေးသည် မိမိ၏ အဆွေခင်ပွန်း ဖြစ်ကုန်သော ငါးရာကုန်သော တိတ္ထိတို့၏ တပည့်တို့ကို ခေါ်၍ များစွာကုန်သော ပန်းနံ့သာ နံ့သာပျောင်းတို့ကိုရှင်း ဆီပျားတင်လဲ အဝတ် အလွှမ်း အစရှိသည်တို့ကိုရှင်း ယူခဲ့စေ၍ ဇေတဝန်ကျောင်းတော်သို့ သွား၍ မြတ်စွာဘုရားကို ရှိခိုး၍ ပန်းနံ့သာ အစရှိသည်တို့ဖြင့် ပူဇော်၍ ဆီပျားတင်လဲ အစရှိကုန်သော ဆေးတို့ကိုရှင်း အဝတ် ပုဆိုးတို့ကိုရှင်း ရဟန်း သံဃာတို့အား လှူဒါန်း၍

ခြောက်ပါးကုန်သော နေရာ၏ အပြစ်တို့ကို ကြဉ်၍ တင့်အပ်လျောက်ပတ်သောအရပ်၌ နေ၏၊ ထိုငါးရာကုန်သော တိတ္ထိတို့၏ တပည့်တို့သည်လည်း မြတ်စွာဘုရားကို ရှိခိုး၍ မြတ်စွာဘုရား၏ လပြည့်ဝန်းကဲ့သို့ တင့်တယ်စွာသော မျက်နှာတော်ကိုရင်း ရှစ်ဆယ်သော လက္ခဏာတော်ငယ် တို့ဖြင့် တန်ဆာဆင်အပ်သော တလံမျှလောက်သော ရောင်ခြည်တော်သည် ခြံရံအပ်သော ပြဟ္မာမင်း၏ ကိုယ်နှင့်တူသော ကိုယ်တော်ကိုရင်း အသွယ်အသွယ် အစုံအစုံ အစုအစု ဖြစ်ကုန်၍ ပြိုးပြိုးပြက် ထွက်လတ်ကုန်သော တခဲနက်ကုန်သော ဘုရား၏ ရောင်ခြည်တော်တို့ကိုရင်း ကြည့်ကုန်လျက် အနာထပိဏ်သူဌေး၏ အနီး၌လျှင် နေကုန်၏၊ ထိုအခါ နတ်နှင့်တကွသောလူအပေါင်းကို ဆုံးမတော်မူတတ်သော မြတ်စွာဘုရားသည် ထိုပရိသတ်တို့အား ဆေးဒန်း မြင်းသီလာဖြင့် ပြီးသော ကျောက်ဖျာအပြင်၌ ခြင်္သေ့သံကို ဟောက်သော ခြင်္သေ့ပျိုကဲ့သို့ ကျူးရင့်လျက်ကမ္ဘာပြုမိုဃ်းရွာဘိသကဲ့သို့ရင်း ကောင်းကင်ပြင်မှ မြစ်ရေအယဉ်သည် စီးလာဘိသကဲ့သို့ရင်း ရတနာပန်းကုံးကိုသီကုံးဘိသကဲ့ရင်း ရှစ်ပါးသော အင်္ဂါနှင့်ပြည့်စုံသော နားချင်ဘွယ် နှစ်သက်ဘွယ်ရှိသော ပြဟ္မာမင်း၏ အသံနှင့်တူသော အသံတော်ဖြင့် အထူးထူးသော နည်းနာနယတို့ဖြင့် ဆန်းကြယ်သာယာစွာသော တရားကို ဟောတော်မူ၏။

ထိုငါးရာကုန်သော တိတ္ထိတို့၏ တပည့်တို့သည် ဘုရားဟောတော်မူသော တရားတော်ကိုနာရကုန်၍ ကြည်ညိုသော စိတ်ရှိကုန်သည်ဖြစ်၍ နေရာမှထကုန်၍ ကိုယ်တော်အား ဆယ်ပါး, ဉာဏ်တော်အား ဆယ်ပါးနှင့် ပြည့်စုံတော်မူသော သဗ္ဗညုဘုရားရှင်ကို ရှိခိုးကုန်၍ သာသနာတော်မှ အပဖြစ်ကုန်သော တိတ္ထိတို့၏ သရဏဂုံကို ဖျက်ကုန်၍ မြတ်စွာဘုရားကို ကိုးကွယ်ခြင်း သရဏဂုံကို ယူကုန်၏၊ ထိုငါးရာကုန်သော တိတ္ထိတို့၏ တပည့်တို့သည် ထိုအခါမှစ၍ အစဉ်တစိုက် အနာထပိဏ် သူဌေးနှင့်တကွ နံ့သာပန်း အစရှိသည်တို့ကို ယူကုန်လျက် ဇေတဝန်ကျောင်းတော်သို့ သွားကုန်၍ တရားတော်ကို နာကြကုန်၏၊ အလှူပေးကုန်၏၊ သီလစောင့်ကုန်၏၊ ဥပုသ်ဆောက်တည်ကုန်၏၊ ထိုအခါ ဘုန်းတော်ကြီးသော သဗ္ဗညုဘုရားရှင်သည် သာဝတ္ထိပြည်မှ တဖန် ရာဇဂြိုဟ်ပြည်သို့ ကြွတော်မူ၏၊ ထိုငါးရာကုန်သော တိတ္ထိတို့၏ တပည့်တို့သည် သဗ္ဗညုဘုရားရှင်၏ ရာဇဂြိုဟ်

ပြည်သို့ ကြွတော်မူသော ကာလ၌ ထိုသရဏဂုံကို ဖျက်၍ တဖန် သာသနာတော်မှ အပဖြစ်သော တိတ္ထိတို့၏ သရဏဂုံကို ယူကုန်၍ မိမိတို့ တည်မြဲတိုင်း ဌာန၌သာ တည်ပြန်ကုန်၏၊ ဘုန်းတော်ကြီးသော ဘုရား သဗ္ဗညုသည်လည်း ခုနစ်လ, ရှစ်လတို့ကိုလွန်စေ၍ တဖန် ဇေတဝန်ကျောင်းတော်သို့လျှင် ကြွတော်မူလာ၏၊ အနာထပိဏ်သူဌေးသည် တဖန်လည်း ထိုငါးရာကုန်သော တိတ္ထိတို့၏ တပည့်တို့ကို ဘုရားအထံတော်သို့ ခေါ်သွား၍ ဘုရားသဗ္ဗညုကို ပန်းနံ့သာအစ ရှိသည်တို့ဖြင့် ပူဇော်ခြင်း ရှိခိုးခြင်းကိုပြု၍ တင့်အပ်လျောက်ပတ်သော အရပ်၌ နေ၏၊ ထိုငါးရာကုန်သော တိတ္ထိတို့၏ တပည့်တို့သည်လည်း သဗ္ဗညုဘုရားရှင်ကို ရှိခိုးကုန်၍ တင့်အပ်လျောက်ပတ်သော အရပ်၌ နေကုန်၏။

ထိုအခါ သဗ္ဗညုမြတ်စွာဘုရားသည် ဒေသစာရီ ကြွချီတော်မူသည်ရှိသော် ထိုငါးရာကုန်သော တိတ္ထိတို့၏တပည့်တို့သည် ယူအပ်ပြီးသော သရဏဂုံကိုဖျက်၍ တဖန် သာသနာတော်မှအပဖြစ်ကုန်သော တိတ္ထိတို့၏ သရဏဂုံကိုသာလျှင် ယူကြကုန်၍ မူလရင်း၌ တည်သည့်အဖြစ်ကို ဘုန်းတော်ကြီးသော ဘုရားသဗ္ဗညု အား ကြား လျှောက်၏၊ ဘုန်းတော်ကြီးသော သဗ္ဗညု မြတ်စွာဘုရားသည် မနှိုင်းယှဉ်အပ်သော ကမ္ဘာအကုဋေတို့ပတ်လုံး မပြတ်ဖြစ်စေအပ်သော ကုသိုလ် စရိုက်တော် အာနုဘော်ကြောင့် နတ်နံ့သာအစရှိသော အထူးထူးသော နံ့သာ တို့ဖြင့်ပြည့်သော ရတနာကြုတ်ကိုဖွင့်လှစ်ဘိသကဲ့သို့ ခံတွင်းတော် ကြာတိုက်ကို ဖွင့်လှစ်၍ သာယာစွာသော အသံတော်ကို မြွက်တော်မူလျက် သီတင်းသည်တို့ သင်တို့သည် သရဏဂုံသုံးပါးတို့ကို ဖျက်ကုန်၍ သာသနာတော်မှ အပဖြစ်ကုန် သော တိတ္ထိတို့၏ သရဏဂုံကို ယူကုန်သော ဟူသည် မှန်ကုန်သလောဟု မေးတော်မူ၏။

ထိုအခါ ငါးရာကုန်သော တိတ္ထိတို့၏ တပည့်တို့သည် ဖုံးလွှမ်းအံ့သော၄ါ မတတ်နိုင်ကုန်သည်ဖြစ်၍ ဘုန်းတော်ကြီးသော အရှင်ဘုရား မှန်ပေ၏ ဟူ၍ လျှောက်ကုန်လတ်သော် နတ်နှင့်တကွသောလောကကို ဆုံးမတော်မူတတ်သော မြတ်စွာဘုရားသည် သီတင်းသည်တို့ အောက်အဝီစိ အထက်ဘဝဂ်ထက်ဝန်းကျင် အတိုင်းအရှည်မရှိကုန်သော လောကဓာတ်တို့၌ သီလအစရှိကုန်သော ဂုဏ်ကျေး ဇူးတို့ဖြင့် ဘုရားနှင့်တူသောသူမည်သည်ကား မရှိ၊လွန်သောသူသည် အဘယ်မှာ

ရှိအံ့နည်း၊ အကြင်မျှလောက်ကုန်သော အခြေမရှိသည်လည်း ဖြစ်ကုန်သော အခြေနှစ်ချောင်းရှိသည်လည်း ဖြစ်ကုန်သော အခြေလေးချောင်း ရှိသည်လည်း ဖြစ်ကုန်သော ( )[၁] သတ္တဝါတို့သည်ရှိကုန်၏၊ ထိုသတ္တဝါတို့တွင် ဘုရားကို အမြတ်ဆုံးဟူ၍ ဆိုအပ်၏၊ ဤလူ့ပြည်၌ရင်း နဂါးပြည် ဂဠုန်ပြည်၌ရင်း နတ်ပြည် ဗြဟ္မာ့ပြည်တို့၌ရင်း ဘုရား,တရား,သံဃာနှင့်တူသော မြတ်သော ရတနာ မည်သည် မရှိ၊ မြတ်သော ရတနာသုံးပါးတို့၌ ကြည်ညိုကုန်ငြားအံ့ မြတ်သော ကောင်းကျိုးသည် ဖြစ်၏၊ ဤသို့ အစရှိကုန်သော သုတ်တို့ဖြင့် ပြအပ်ကုန်သော ရတနာသုံးပါးတို့၏ ဂုဏ်ကျေးဇူးတို့ကို ပြတော်မူ၍ ဤသို့မြတ်သော ဂုဏ်တို့နှင့် ပြည့်စုံသော ရတနာသုံးပါးတို့ကို ကိုးကွယ်ခြင်းသို့ ရောက်ကုန်သော သီတင်းသည် ယောကျ်ားတို့သည်ရင်း သီတင်းသည် မိန်းမတို့သည်ရင်း ငရဲအစရှိသည်တို့၌ ဖြစ်သောမည်သည်မရှိ၊ အပါယ်သို့လားခြင်းမှကားလွတ်၍ နတ်ပြည်၌ ဖြစ်၍ ကြီးစွာသော စည်းစိမ်ချမ်းသာကို ခံစားရကုန်၏၊ အဘယ့်ကြောင့်သင်တို့သည် ဤသို့စခဲ့ သဘောရှိသော သရဏဂုံကို ဖျက်ကုန်၍ သာသနာတော်မှ အပဖြစ်သော တိတ္ထိတို့အား ကိုးကွယ်ခြင်းသို့ ရောက်ကုန်သဖြင့် မသင့်မလျော်သည်ကို ပြုဘိသနည်းဟူ၍ မိန့်တော်မူ၏။

ဤအရာ၌လည်း ရတနာသုံးပါးတို့ကို ဆင်းရဲမှ လွတ်စေတတ်သည်၏ အစွမ်းအားဖြင့်ရင်း မြတ်သည်၏ အစွမ်းအားဖြင့်ရင်း ကိုးကွယ်ရာဟူ၍ ဆည်းကပ်ကုန်သော သူတို့၏ အပါယ်တို့၌ ဖြစ်ခြင်း၏မရှိသော အဖြစ်ကို ပြအံ့သောငှါ—

“ယေကေစိ ဗုဒ္ဓံ သရဏံ ဂတာသေ ။လ။ ဗဟူ ဝေ သရဏံ ယန္တိ ။လ။ ပမုစ္စတိ” ဟူသော ပါဠိတော်ကို ပြကုန်၏၊ ထိုပါဠိတော်၏အနက်ကား—

ယေကေစိ၊ ခပ်သိမ်းကုန်သောသူတို့သည်။ ဗုဒ္ဓံ၊ မြတ်စွာဘုရားကို။ ဓမ္မံ၊ တရားကို။ သံဃံ၊ သံဃာကို။ သရဏံ၊ ကိုးကွယ်ရာဟူ၍။ ဂတာ တေ၊ ဆည်းကပ်ကုန်၏။ တေ၊ ထိုသူတို့သည်။ အပါယံ၊ အပါယ်သို့။

၁ ( ) ပါဠိ၌ ဗဟုပ္ပဒါဝါ-ဟု ပါရှိ၏။
အခြေများစွာ ရှိသည်လည်း ဖြစ်ကုန်သော-ဟု ဘာသာပြန်ပါလေ။

န ဂမိဿန္တိ၊ မလာႏၵကုန်လတ္တံ့။ မာနုသံ ဒေဟံ၊ လူ၌ဖြစ်သော ကိုယ်ကို။ ပဟာယ၊ စွန့်၍။ ဒေဝကာယံ၊ နတ်ပြည်သို့။ ပရိပူရေဿန္တိ၊ ပြည့်စေကုန်လတ္တံ့။

ဘယတဇ္ဇိတာ၊ ဘေးမှကြောက်ကုန်သော။ ဗဟူ၊ များစွာကုန်သော။ မနုဿာ၊ လူတို့သည်။ ဝေ၊ စင်စစ်။ ပဗ္ဗတာ စ၊ တောင်တို့ကိုငင်း။ ဝနာနိ စ၊ တောတို့ကိုငင်း။ အာရာမရုက္ခစေတျာနိ စ၊ အရံ ပူဇော်ရာ သစ်ပင်ကြီးတို့ကိုငင်း။ သရဏံ၊ ကိုးကွယ်ခြင်းသို့။ ယန္တိ။ ရောက်ကုန်၏။

ခေါ၊ စင်စစ်။ ဧတံ သရဏံ၊ ထိုတောင် အစရှိသည်ကို ကိုးကွယ်ခြင်းသည်။ န ခေမံ၊ ဘေးကို မလုံစေတတ်။ ဧတံ သရဏံ၊ ထိုတောင် အစရှိသည်ကို ကိုးကွယ်ခြင်းသည်။ န ဥတ္တမံ၊ မမြတ်။ ဧတံ သရဏံ၊ ထိုတောင် အစရှိသည်ကို ကိုးကွယ်ခြင်းကို။ အာဂမ္မ၊ စွဲ၍။ သဗ္ဗဒုက္ခာ၊ ခပ်သိမ်းသော ဆင်းရဲမှ။ န ပမုစ္စတိ၊ မလွတ်။

ယော၊ အကြင်သူသည်။ ဗုဒ္ဓဉ္စ၊ ဘုရားကိုငင်း။ ဓမ္မဉ္စ၊ တရားကိုငင်း။ သံဃဉ္စ၊ သံဃာကိုငင်း။ သရဏံ၊ ကိုးကွယ်ရာဟူ၍။ ဂတော၊ ဆည်းကပ်၏။ သော၊ ထိုသူသည်။ ဒုက္ခံ၊ ဒုက္ခသစ္စာငင်း။ ဒုက္ခသမုပ္ပါဒံ၊ ဒုက္ခကို ဖြစ်စေတတ်သော သမုဒယသစ္စာငင်း။ ဒုက္ခဿ၊ ဆင်းရဲကို။ အတိက္ကမဉ္စ၊ လွန်သော နိရောဓသစ္စာငင်း။ ဒုက္ခူပသမဂါမိနံ၊ ဒုက္ခ၏ ငြိမ်းရာ နိဗ္ဗာန်သို့ ရောက်ကြောင်းဖြစ်သော။ အရိယံ၊ အရိယာ၏ အဖြစ်ကို ပြုတတ်သော။ အဋ္ဌင်္ဂိကံ၊ အင်္ဂါရှစ်ပါးနှင့် ပြည့်စုံသော။ မဂ္ဂဉ္စ၊ မဂ္ဂ သစ္စာငင်း။ ဣတိ၊ ဤသို့။ စတ္တာရိ၊ လေးပါးကုန်သော။ အရိယသစ္စာနိ၊ အရိယာအဖြစ်ကို ပြုတတ်ကုန်သော သစ္စာတို့ကို။ သမ္မပ္ပညာယ၊ မဘောက်မပြန်သော ကောင်းမြတ်သောပညာဖြင့်။ ပဿတိ၊ မြင်၏။

ခေါ၊စင်စစ်။ ဧတံ သရဏံ၊ ထိုဘုရားတရားသံဃာကိုကိုးကွယ်ခြင်း သည်။ ခေမံ၊ ဘေးကင်းစေတတ်၏။ ဧတံ သရဏံ၊ ထိုဘုရား တရား သံဃာကို ကိုးကွယ်ခြင်းသည်။ ဥတ္တမံ၊ မြတ်၏။ ဧတံ သရဏံ၊ ထိုဘုရား

တရား သံဃာကို ကိုးကွယ်ခြင်းကို။ အာဂမ္မ၊ စွဲ၍။ သမ္ဗုဒ္ဓဿ၊ ခပ်သိမ်းသော ဆင်းရဲမှ။ ပမုစ္စတိ၊ လွတ်၏။

ဤကား သရဏဂုံ၏အကျိုးကိုပြသော ပါဠိတော်၏အနက်တည်း။

စင်စစ်လျှင် ထိုငါးရာကုန်သော တိတ္ထိတို့၏ တပည့်တို့အား သဗ္ဗညု မြတ်စွာဘုရားသည် ဤမျှသော တရားဟူကို သာလျှင် ဟောတော်မူသည် မဟုတ်၊ ထိုမှတပါးလည်း သီတင်းသည်တို့ ဘုရားဂုဏ်ကျေးဇူးကို အဘန်တလဲလဲ အောက်မေ့ခြင်း ကမ္မဋ္ဌာန်း, တရားဂုဏ်ကျေးဇူးကို အဘန်တလဲလဲ အောက်မေ့ခြင်း ကမ္မဋ္ဌာန်း, သံဃာ့ဂုဏ်ကျေးဇူးကို အဘန်တလဲလဲ အောက်မေ့ခြင်း ကမ္မဋ္ဌာန်းမည်သည်ကား သောတာပတ္တိမဂ် သောတာပတ္တိဖိုလ် သကဒါဂါမိမဂ် သကဒါဂါမိဖိုလ် အနာဂါမိမဂ် အနာဂါမိဖိုလ် အရဟတ္တမဂ် အရဟတ္တဖိုလ်ကို ပေးတတ်၏၊ ဤသို့ အစရှိသော နည်းတို့ဖြင့်လည်း တရားကို ပြတော်မူ၍ သင်တို့သည် ဤသို့စဉ် သဘောရှိသော သရဏဂုံကိုဖျက်ကုန်သဖြင့် မသင့်လျော်သည်ကို ပြုဘိ၏ဟု မိန့်တော်မူ၏။

ဤအရာ၌လည်း ဘုရားဂုဏ်ကျေးဇူးကို အဘန်တလဲလဲ အောက်မေ့ခြင်း အစရှိကုန်သော ကမ္မဋ္ဌာန်းတို့၏ သောတာပတ္တိမဂ်, သောတာပတ္တိဖိုလ် အစရှိသည်ကို ပေးတတ်သည်၏ အဖြစ်ကို "ဧကဓမ္မော ဘိက္ခဝေ ။လ။ ဗုဒ္ဓါနုဿတိ" ဤသို့ အစရှိသော ပါဠိတော်တို့ဖြင့် ပြအပ်၏။

ဘိက္ခဝေ၊ ရဟန်းတို့။ ဘာဝိတော၊ ပွားစေအပ်သော။ ဗဟုလီကတော၊ အကြိမ်များစွာ ပြုအပ်သော။ ဧကဓမ္မော၊ တပါးသော တရားသည်။ ဧကန္တနိဗ္ဗိဒါယ၊ စင်စစ် ဝဋ်၌ ငြီးငွေ့ခြင်းငှါ။ ဝိရာဂါယ၊ ဝဋ်၌တပ်စွန်းခြင်းကင်းသော မဂ်ဖိုလ်ရခြင်းအကျိုးငှါ။ နိရောဓာယ၊ ဝဋ်၌ တပ်စွန်းတတ်သော တဏှာ၏ ချုပ်ခြင်းအကျိုးငှါ။ ဥပသမာယ၊ ဝဋ်၏ ငြိမ်းခြင်း အကျိုးငှါ။ အဘိညာယ၊ ထူးမြတ်သောဉာဏ်ဖြင့် နိဗ္ဗာန်ကို သိခြင်းအကျိုးငှါ။ သမ္ဗောဓာယ၊ မဘောက်မပြန် သစ္စာတရားကို သိခြင်းအကျိုးငှါ။ နိဗ္ဗာနာယ၊ အရဟတ္တဖိုလ် နိဗ္ဗာန်ကို သိခြင်းအကျိုးငှါ။ သံဝတ္တတိ၊ ဖြစ်၏။ သော ဧကဓမ္မော၊ ထိုတပါးသော တရား

ထိုခဏ၌လျှင် နက္ခတ်ကိုတွက်၍ ပညာအမြင်ရှိသော အမျိုးသားသည် ဤကြွက်သေကိုယူ၍ သားမယားမွေးခြင်းငှါလည်း အမှုကို ပြုခြင်းငှါလည်း တတ်နိုင်၏၊ ဤသို့သော စကားကို ဆို၏။

ထိုအခါ တယောက်သောဆင်းရဲသောအမျိုးသားသည် စူဠသူဌေးစကားကို ကြား၍ ဤသူဌေးသည် မသိဘဲကိုမဆိုရာဟု ကြွက်သေကိုယူ၍ဈေး၌ကြောင်စာ အလို့ငှါရောင်း၍ တခြင်ရွေးသောအသပြာကိုရ၍ တခြင်ရွေးဖြင့်တင်လဲကိုဝယ်၍ အိုးတလုံးဖြင့် ရေကိုယူ၏၊ထိုအမျိုးသားသည် တောကလာသောပန်းသည်တို့ကို မြင်၍ အတန်ငယ် အတန်ငယ်သော တင်လဲစုကိုပေး၍ ရေမှုတ်ဖြင့် သောက်ရေကိုပေး၏၊ ပန်းသည်တို့သည် အမျိုးသားအား ပန်းတဆုပ်တဆုပ်စီ ပေးခဲ့ကုန်၏၊ အမျိုးသားသည်ထိုပန်းဘိုးဖြင့် နက်ဖြန်နေ့၌လည်း တင်လဲကိုလည်း ရေအိုးကိုလည်း ယူ၍ ပန်းအာရာမ်သို့သာလျှင်သွားလေ၏၊အမျိုးသားအား ထိုနေ့၌ ပန်းသည်တို့ သည်တဝက်ဆွတ်ကုန်ပြီးသော ပန်းပင်တို့ကိုပေး၍သွားကုန်၏၊ အမျိုးသားသည် မကြာခင်လျှင် ဤနည်းဖြင့် ရှစ်သပြာတို့ကို ရ၏၊ တဖန် မိုဃ်းနှင့်တကွသော လေလာသောနေ့၌ မင်း၏ဥယျာဉ်၌ ခြောက်သော အရိုးအရွက်အခက်အပေါင်း သည် လေကြောင့်ကျ၏၊ ဥယျာဉ်စောင့်သည် စွန့်အပ်သောအကြောင်းကိုမမြင်၊ အမျိုးသားသည် ဥယျာဉ်သို့သွား၍ ငါ့အား ထင်းသစ်ရွက်တို့ကို အကယ်၍ ပေးငြားအံ့၊ ငါသည် သင်၏ ဤထင်းသစ်ရွက်တို့ကိုထုတ်အံ့ဟု ဥယျာဉ်စောင့်ကို ဆို၏၊ ဥယျာဉ်စောင့်သည် အရှင် ယူလော့ဟု ဝန်ခံ၏၊ စူဠသူဌေး၏တပည့်သည် သူငယ်တို့၏ ကစားရာအရပ်သို့ သွား၍ တင်လဲကိုပေး၍ ခဏခြင်းဖြင့် ထင်း သစ်ရွက်တို့ကို ထုတ်စေ၍ ဥယျာဉ်တံခါး၌ စုစေ၏။

ထိုအခါ မင်း၏အိုးတော်လုပ်သည် မင်းအိမ်၌ အိုးဖုတ်အံ့သောငှါ ထင်းရှာ သည်ရှိသော် ဥယျာဉ်တံခါးသို့ရောက်၍ ထိုထင်းသစ်ရွက်တို့ကို မြင်၍ စူဠန္တေဝါသိ၏ လက်မှဝယ်၍ယူ၏၊ထိုနေ့၌စူဠန္တေဝါသိသည်ထင်းရောင်းသဖြင့် တဆယ့် ခြောက်သပြာကိုလည်းအိုးစရည်းအစရှိကုန်သောအိုးငါးခုတို့ကိုလည်းရ၏၊စူဠန္တေဝါ သိသည် နှစ်ဆယ့်လေးသပြာတို့ကိုရသည်ရှိသော် ငါ့အားဤဥစ္စာရကြောင်းသည် ရှိ၏ဟု မြို့တံခါး၏ အနီးအရပ်၌ တခုသောရေအိုးကို တည်၍ ငါးရာကုန်သော မြက်ရိတ်ယောကျ်ားတို့ကို ရေဖြင့် လုပ်ကျွေး၏၊ မြက်ရိတ် ယောကျ်ားတို့သည်

အဆွေ သင်သည် ငါတို့အား ကျေးဇူးများစွာ ပြု၏၊ သင့်အား အဘယ်ကို ပြုရကုန်အံ့နည်းဟု ဆိုကုန်၏၊ စူဠဗြဲဝါသိသည် ငါ့အား ကိစ္စရှိသော အခါ ကျေးဇူးကိုပြုလောဟု ဆို၍ ထိုမှဤမှ လှည့်လည်သည်ရှိသော် ကြည်းကြောင်း အမှုကိုဆောင်သော သူနှင့်ရင်း ရေကြောင်း အမှုကို ဆောင်သောသူနှင့်ရင်း မိတ်ဖွဲ့၏၊ ထိုအမျိုးသားအား ကြည်းကြောင်းအမှုကို ရွက်ဆောင်သော အဆွေ ခင်ပွန်းသည် နက်ဖြန် ဤမြို့သို့မြင်းကုန်သည်သည် မြင်းငါးရာကိုယူလာလတ္တံ့ဟု ကြား၏၊ အမျိုးသားသည် ထိုအဆွေခင်ပွန်း၏ စကားကိုကြား၍ မြက်ရိတ် ယောကျ်ားတို့ကို ယနေ့ ငါ့အား မြက်တစည်း တစည်းစီပေးကုန်လော၊ ငါသည် မြက်ကို မရောင်းမီ အစ်ကိုတို့ မြက်ကို မရောင်းကုန်လင့်ဟု ဆို၏၊ မြက်ရိတ် ယောကျ်ားတို့သည် ကောင်းပြီဟုဝန်ခံ၍မြက်စည်းငါးရာတို့ကိုယူ၍ အမျိုးသား အိမ်၌ ချကုန်၏။

မြင်းကုန်သည်သည် အလုံးစုံသော မြို့၌ မြင်းစာမရ၍ အမျိုးသားအား အသပြာတထောင်ပေး၍ မြက်ကိုဝယ်၏၊ ထိုနောင်မှ နှစ်ရက်သုံးရက်လွန်သဖြင့် အမျိုးသားအား ရေကြောင်း အမှုကို ဆောင်သော အဆွေခင်ပွန်းသည် ရေဆိပ်၌ လှေကြီးရောက်၏ဟု ကြား၏၊ အမျိုးသားသည် ဤဥစ္စာဖြစ်ခြင်း၏ အကြောင်းသည် ရှိ၏ဟုကြံ၍ ရှစ်သပြာတို့ဖြင့် ခပ်သိမ်းသော သူတို့သည် ခြံရံ လျက် အခိုက်အတန့်ငှါးသော ရထားကို ယူ၍ များစွာသော အခြွေအရံဖြင့် လှေဆိပ်သို့သွား၍ သစ္စာပြုဖြစ်သော ကခုသော လက်စွပ်ကို လှေသူကြီးအား ပေး၍ အနီးဖြစ်သော အရပ်၌ တင်းတိမ်ဖြင့် ရံစေ၍ နေလျက် အချင်းတို့ ပြင်ပမှ ကုန်သည်တို့သည် လာလတ်ကုန်သော် သုံးဆင့် ဆင့်သဖြင့် ငါ့ကို ကြားကုန်လောဟု စေ၍ လှေသည်လာ၏ဟုကြား၍ ဗာရာဏသီပြည်မှ တရာမျှ ကုန်သော ကုန်သည်တို့သည် ဥစ္စာကို ဝယ်ကုန်အံ့ဟု လာကြကုန်၏၊ သင်တို့သည် ဥစ္စာ မရကုန်လတ္တံ့၊ ဤမည်သော အရပ်၌ ကုန်သည်ကြီးသည် သစ္စာပြု ဖြစ်သော လက်စွပ်ကို ပေးအပ်ပြီဟု လှေသူကြီး ဆို၏။

ကုန်သည်တို့သည် လှေသူကြီး စကားကို ကြားကုန်၍ အမျိုးသား၏ အထံသို့လာကုန်၏၊ ခြေရင်းစောင့် အချင်းတို့သည် ရှေးပေးအပ်သော သညာ၏ အစွမ်းအားဖြင့် သုံးဆင့် ဆင့်သဖြင့် ကုန်သည်တို့၏ လာသော အဖြစ်ကို

ကြွားကုန်၏၊ တရာသော ကုန်သည်တို့သည် တထောင် တထောင်စီ ပေး၍ အမျိုးသားနှင့်တကွ လှေ၌ ဝယ်ရသော အဘိုးရှိကုန်သည် ဖြစ်၍ တဘန် တထောင် တထောင်စီ ပေးကုန်၍ အမျိုးသား၏ အဘိုးကို လွှတ်စေ၍ ဘဏ္ဍာကို မိမိတို့၏ ဥစ္စာပြုကုန်၏၊ စူဠန္တေဝါသိသည် နှစ်သိမ်းကုန်သော အသပြာတို့ကို ယူ၍ ဗာရာဏသီပြည်သို့ သွား၏၊ သူ့ကျေးဇူးကို သိတတ်သည်ဖြစ်၍ ကျေးဇူး ကြီးလှပေသည်ဟု အသပြာတသိန်းကို ယူခဲ့၍ စူဠသူဌေး၏ အထံသို့ သွား၏၊ ထိုအခါ အမျိုးသားကို စူဠသူဌေးသည် ချစ်သား သင်သည်အသို့ပြု၍ ဤဥစ္စာကို ရသနည်းဟု မေး၏၊ အမျိုးသားသည် အရှင်တို့သည် ဆိုအပ်သောအကြောင်း၌ တည်၍ လေးလတွင်းဖြင့်သာလျှင် ရအပ်၏ဟု ကြွက်သေကို အစပြု၍ အလုံးစုံ သောအကြောင်းကို ဆို၏၊ စူဠသူဌေးသည် အမျိုးသား၏စကားကို ကြားလျှင် ယခု ဤသို့ သဘောရှိသော သူငယ်ကို ငါ၏ ဥစ္စာပြုခြင်းငှါ သင့်၏ဟု အရွယ် ရောက်သောသမီးကိုပေး၍ အလုံးစုံသော ဥစ္စာ၏ အရှင်ကိုပြု၏၊ အမျိုးသားသည် စူဠသူဌေး လွန်သဖြင့် ထိုမြို့၌ သူဌေး၏အရာကိုရ၏၊ ဘုရားလောင်းသည်လည်း ကံအားလျော်စွာ လား၏၊ မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဟော၍ ဘုရားဖြစ်တော်မူ၍—

၄၊ အပ္ပကေနပိ မေဓာဝီ၊ ပါဘတေန ဝိစက္ခဏော။
သမုဋ္ဌာပေတိ အတ္တာနံ၊ အဏုံ အဂ္ဂိံဝ သန္ဓမံ။

ဟူသော ဤဂါထာကို ဟောတော်မူ၏။

ပဏ္ဍိတော၊ ပညာရှိသည်။ အဏုံ၊ အနည်းငယ်သော။ အဂ္ဂိံ၊မီးကို။ သန္ဓမံ-သန္ဓမန္တော၊ နှုတ်သီးလေဖြင့် မှုတ်လျက်။ မဟန္တံ၊ ကြီးစွာသော။ အဂ္ဂိက္ခန္ဓံ၊ မီးပုံကြီးကို။ ကရောတိ ဣဝ၊ ပြုသကဲ့သို့။ ဝိစက္ခဏော၊ ကုန်သွယ်ခြင်း၌ လိမ္မာသော။ မေဓာဝီ၊ ပညာရှိသည်။ အပ္ပကေနပိ၊အနည်းငယ်လည်းဖြစ်သော။ ပါဘတေန၊ ဥစ္စာအရင်းဖြင့်။ မဟန္တံ၊ များစွာသော။ ဓနဥ္စ၊ ဥစ္စာကိုရင်း။ ယသဥ္စ၊ အခြံအရံကိုရင်း။ ဥပ္ပါဒေတွာ၊ ဖြစ်စေ၍။ တတ္ထ၊ ထိုများစွာသော ဥစ္စာအခြံအရံ၌။ အတ္တာနံ၊ မိမိကိုယ်ကို။ သမုဋ္ဌာပေတိ၊ တည်စေ၏။

**ဇာတ်ပေါင်း**....ဤသို့ မြတ်စွာဘုရားသည် စူဠပန်သည် ငါ့ကိုမှီ၍ ယခု အခါ၌ တရားတို့၌ တရားတို့၏ များမြတ်သည်၏အဖြစ်သို့ ရောက်သည်သာလျှင်

မဟုတ်သေး၊ ရှေး၌လည်း စည်းစိမ်တို့၌ စည်းစိမ်တို့၏ များမြတ်သည်၏အဖြစ်သို့ ရောက်ဘူးပြီ၊ ဤသို့ ဤဒေသနာကိုပြ၍ နှစ်ပါးကုန်သော ဝတ္ထုတို့ကို ဟော တော်မူပြီး၍ အနုသန္ဓေကိုစပ်၍ ဟာခုအခါ စူဠပန်သည် ထိုအခါ စူဠန္တေဝါသိ ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင်မူကား ထိုအခါ စူဠသူဌေး ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[ကြွက်သေတကောင်၊ အရင်းထောင်၊ မြားမြောင် ကြွယ်ဝရှာ]

လေးခုမြောက်သော စူဠသေဋ္ဌိဇာတ်သည် ပြီး၏။

---

## ၅—တဏ္ဍုလနာဠိဇာတ်

### လောဘရမ္မက်ကြီးသဖြင့် ပျက်စီးသော အဘိုးဖြတ် ယောကျ်ားအကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**...နတ်နှင့်တကွသော လူကို ဆုံးမတော်မူတတ်သော မြတ်စွာ ဘုရားသည် "ကိမဂ္ဃတိ တဏ္ဍုလနာဠိကာ" အစရှိသော ဂါထာပုဒ်ဖြင့် တန် ဆာဆင်အပ်သော ဤ တဏ္ဍုလနာဠိဇာတ်ကို ဇေတဝန်ကျောင်းတော်၌ နေ တော်မူစဉ် "လာဠုဒါယီမထေရ်"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုအခါ မလ္လာမင်း၏သားဖြစ်သော ဒဗ္ဗမထေရ်သည် သံဃာအား ဆွမ်းညွှန်သည်ဖြစ်၏၊ ထိုအခါ စောစောကလျှင် စာရေးတံဆွမ်းကို ညွှန်သည်ရှိသော် လာဠုဒါယီ မထေရ်အား ရံခါ မြတ်သောဆွမ်းသည် ရောက်၏၊ ရံခါယုတ်သော ဆွမ်းသည် ရောက်၏၊ ထိုလာဠုဒါယီမထေရ်သည် ယုတ်သောဆွမ်းကိုရသောနေ့၌စာရေးတံ ဝေရာအရပ်၌ နှောက်ရှက်ခြင်းကို ပြု၏၊ ဒဗ္ဗသာလျှင် စာရေးတံကို ပေးခြင်းငှါ သိသလော၊ ငါတို့သည် မသိကုန်သလောဟု ဆို၏၊ လာဠုဒါယီသည် စာရေးတံ ဝေရာအရပ်၌ နှောက်ရှက်ခြင်းကို ပြုသည်ရှိသော် ယခုအခါ၌ သင်သည်ပင်လျှင် စာရေးတံကိုပေးလောဟု ဆို၍ စာရေးတံတောင်းကို ပေးလေကုန်၏၊ ထိုအခါမှ စ၍ ထိုလာဠုဒါယီမထေရ်သည် သံဃာအား စာရေးတံကိုပေး၏၊ ပေးသည်ရှိ သော်ကား ဤဆွမ်းသည် မြတ်သောဆွမ်းဟူ၍ရင်း၊ ယုတ်သောဆွမ်းဟူ၍ရင်း၊ ဤမည်သော ဝါစဉ်၌ မြတ်သော ဆွမ်းရောက်၏ဟူ၍ရင်း ဤမည်သော ဝါစဉ်၌ ယုတ်သော ဆွမ်းရောက်၏ဟူ၍ရင်း မသိ၊ အစဉ်ကိုသော်လည်း ဤမည်သော

ဝါစဉ်၌ တည်၏ဟူ၍ မမှတ်နိုင်၊ ရဟန်းတို့၏ တည်သော အခါ၌ ဤအရပ်၌ ဤအစဉ်ဟူ၍ မြေ၌ရှင်း နံရံ၌ရှင်း အရေးငင်၏၊ နက်ဖြန်နေ့ စာရေးတံ ဝေရာ အရပ်၌ ရဟန်းတို့သည် နည်းသည်မူလည်း ဖြစ်ကုန်၏၊ များသည်မူလည်း ဖြစ်ကုန်၏၊ ရဟန်းတို့သည် နည်းကုန်လတ်သော် အောက်၌ အရေးကို ငင်၏၊ ရဟန်းတို့သည် များကုန်လတ်သော် အထက်၌ အရေးကို ငင်၏၊ လာဠုဒါယီ မထေရ်သည် ထေရ်စဉ်ကို မသိသည်ဖြစ်၍ အရေး အမှတ်ဖြင့် စာရေးတံကို ပေး၏။

ထိုအခါလာဠုဒါယီမထေရ်ကို ရဟန်းတို့သည် ငါ့သျှင် လာဠုဒါယီ အရေး မည်သည်ကား အောက်၌လည်း တည်၏၊ အထက်၌လည်း တည်၏၊ မြတ်သော ဆွမ်းသည်ကား ဤမည်သော ဝါစဉ်၌ တည်၏၊ ယုတ်သော ဆွမ်းသည်ကား ဤမည်သော ဝါစဉ်၌ တည်၏ဟု ဆိုကုန်၏၊ လာဠုဒါယီ မထေရ်သည် ရဟန်းတို့သည် စောဒနာအပ်သည်ရှိသော် မြတ်သောဆွမ်းသည် ဤမည်သောဝါစဉ်၌ တည်သည်၊ ယုတ်သောဆွမ်းသည် ဤမည်သော ဝါစဉ်၌ တည်သည် အကယ်၍ ဖြစ်ငြားအံ့၊ ဤသို့ ဖြစ်သည်ရှိသော် ဤအရေးသည် အဘယ့်ကြောင့် ဤသို့ တည်သနည်း၊ ငါသည် သင်တို့စကားကို အဘယ်သို့ ယုံရအံ့နည်း၊ ဤအရေးကို ယုံအံ့ဟု ဆို၏။

ထိုအခါ လာဠုဒါယီကို ပဥ္စင်းငယ် တို့သည်ရှင်း သာမဏေ တို့သည်ရှင်း ငါ့သျှင် လာဠုဒါယီ သင်သည် စာရေးတံ ပေးသည်ရှိသော် ရဟန်းတို့သည် လာဘ်မှယုတ်ကုန်၏၊သင်သည် စာရေးတံပေးခြင်းငှါ မထိုက်၊ဤအရပ်မှ သွားလော့ဟု စာရေးတံဝေရာမှ နှင်ထုတ်ကုန်၏၊ ထိုခဏ၌ စာရေးတံဝေရာ၌ ကြီးစွာသော အုတ်အုတ် ကျက်ကျက်သည်ဖြစ်၏၊ မြတ်စွာဘုရားသည် ထိုအသံကို ကြားတော်မူ၍ အာနန္ဒာ မထေရ်ကို အာနန္ဒာ စာရေးတံဝေရာ၌ ကြီးစွာသော အုတ်အုတ်ကျက်ကျက်သည် ဖြစ်၏၊ ဤအသံသည် အဘယ်အသံနည်းဟု မေးတော်မူ၏၊ အာနန္ဒာ မထေရ်သည် မြတ်စွာဘုရားအား ထိုအကြောင်းကို ကြားလျှောက်၏၊ အာနန္ဒာ ယခုသာလျှင် လာဠုဒါယီသည် မိမိ၏မိုက်သည်၏ အဖြစ်ကြောင့် တပါးကုန်သောသူတို့၏လာဘ်ယုတ်ခြင်းကို ပြုသည်ဟုတ်သေး၊ ရှေး၌လည်း ပြုသည်သာလျှင်တည်းဟု မိန့်တော်မူ၏၊ အာနန္ဒာ မထေရ်သည်

ထိုအကြောင်းကို ထင်စွာ ပြစိမ့်သောငှါ မြတ်စွာဘုရားကို တောင်းပန်၏၊ မြတ်စွာဘုရားသည် ဘဝံတပါးသည် ဖုံးလွှမ်းအပ်သော အကြောင်းကို ထင်စွာ ပြတော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ကာသိတိုင်း ဗာရာဏသီ ပြည်၌ ဗြဟ္မဒတ်မည်သော မင်းသည် မင်းပြု၏၊ ထိုအခါ ငါတို့ဘုရားလောင်းသည် မင်း၏ အဘိုးပြတ်သော အမတ်ဖြစ်၏၊ ဆင်မြင်းစသည်တို့ကိုရင်း ပတ္တမြား, ရွှေငွေ စသည်တို့ကိုရင်း အဘိုးပြတ်စေ၏၊ အဘိုးပြတ်စေ၍ ဥစ္စာရှင်တို့အား ဥစ္စာအားလျော်သည်သာလျှင် ဖြစ်သော အဘိုးကိုပေးစေ၏၊ မင်းသည်ကား လောဘ ကြီး၏၊ ထိုမင်းသည် လောဘကြီးသောကြောင့် ဤအဘိုးပြတ်သော သူသည် ဤသို့ အဘိုးပြတ်သည်ရှိသော် မကြာခင်လျှင် ငါ့အိမ်၌ ဥစ္စာသည် ကုန်ခြင်းသို့ ရောက်လတ္တံ့၊တပါးသောသူကို အဘိုးပြတ်စေအံ့ဟုကြံ၏၊မင်းသည် ခြသေ့ံခံသော လေသွန်ပြူတင်းကိုဖွင့်လှစ်၍ မင်းယင်ပြင်ကို ကြည့်သည်ရှိသော် တယောက်သော လျှပ်ပေါ် လော်လည်သော မိုက်သော ခရီးသွားယောကျ်ား ကို မင်းယင်ပြင်ဖြင့် သွားသည်ကိုမြင်၍ ဤသူသည် ငါ၏ အဘိုးပြတ် အမှုကို ပြုခြင်းငှါတတ်နိုင်လတ္တံ့ဟု ထိုခရီးသွား ယောကျ်ားမိုက်ကို ခေါ်စေ၍ အချင်း သင်သည် ငါ၏ အဘိုးပြတ်အမှုကို ပြုခြင်းငှါ တတ်နိုင်လတ္တံ့လောဟု မေး၏၊ အရှင်မင်းကြီး တတ်နိုင်လတ္တံ့ဟု ဆို၏၊ မင်းသည် မိမိဥစ္စာကို စောင့်ခြင်း အကျိုးငှါ ထိုခရီးသွားသော ယောကျ်ားမိုက်ကို အဘိုးပြတ်အရာ၌ ထား၏။

ထိုအခါမှစ၍ ထိုခရီးသွားသော ယောကျ်ားမိုက်သည် ဆင်မြင်း စသည် တို့ကို အဘိုးပြတ်သည်ရှိသော် အဘိုးကို ယုတ်စေ၍ အလိုရှိတိုင်း ပြတ်၏၊ ထိုယောကျ်ားမိုက်၏ အရာအထူး၌ တည်သည်၏ အဖြစ်ကြောင့် ယောကျ်ား မိုက်သည် အကြင်အဘိုးကို ပြတ်၏၊ ထိုပြတ်သောအဘိုးသည်သာလျှင် ဖြစ်၏၊ ထိုကာလ၌ ဥတ္တရာပထမှ တယောက်သော မြင်းကုန်သည်သည် မြင်းငါးရာတို့ကို ဆောင်ခဲ့၏၊ မင်းသည် ထိုအဘိုးပြတ်သော ယောကျ်ားကို ခေါ်၍ မြင်းတို့ကို အဘိုးပြတ်စေ၏၊ အဘိုးပြတ်သော ယောကျ်ားသည် မြင်းငါးရာတို့၏ အဘိုးကို ဆန်တကွမ်းစားပြတ်၏၊ ပြတ်ပြီး၍ကား မြင်းကုန်သည်အား ဆန်တကွမ်းစားကို ပေးကုန်လောဟု ဆို၍ မြင်းတို့ကို တင်းကုပ်၌ ထားစေ၏၊ မြင်းကုန်သည်သည်

ရွေး၍ဖြစ်သော အဘိုးပြတ် အမတ်အိမ်သို့ သွား၍ ထိုအကြောင်းကို ကြား၍ ယခုအဘယ်သို့ ပြုအပ်သနည်းဟုမေး၏၊ အဘိုးပြတ်ဟောင်းသည် ထိုအဘိုးပြတ် ယောကျ်ားမိုက်အား တံစိုးပေး၍ ရွေးဦးစွာ ငါတို့၏မြင်းတို့သည် ဆန်တကွမ်း စားကို ထိုက်၏ဟူ၍ သိအပ်ပြီ၊သင်တို့ကိုကား မှီ၍ ဆန်တကွမ်းစား၏ အဘိုးကို သိလိုကုန်၏၊ မင်း၏အထံသို့သွား၍ ဆန်တကွမ်းစားသည် ဤမည်သော အဘိုး ကို ထိုက်၏ဟု ငါတို့အား ဆိုခြင်းငှါ တတ်နိုင်လတ္တံ့လောဟု မေးကုန်လော၊ တတ်နိုင်လတ္တံ့ဟု အကယ်၍ဆိုအံ့၊ ထိုအဘိုးပြတ်ငယ် ယောကျ်ားကို ခေါ်၍ မင်း၏ အထံသို့ သွားနှင့်ကုန်လော့၊ ငါလည်း မင်း၏ အထံသို့ လာအံ့ဟု ဆို၏၊ မြင်းကုန်သည်သည် ကောင်းပြီဟု ဘုရားလောင်းကို ဝန်ခံ၍ အဘိုးပြတ် ယောကျ်ားအား တံစိုးပေး၍ ထိုအကြောင်းကို ကြား၏၊ အဘိုးပြတ်ယောကျ်ား သည် တံစိုးကိုရလျှင် ဆန်တကွမ်းစားကို အဘိုးပြတ်ခြင်းငှါ တတ်နိုင်လတ္တံ့ဟု ဆို၏၊ ထိုသို့ တပြီးကား မင်းအိမ်သို့ သွားကုန်အံ့ဟု ထိုအဘိုးပြတ်သော ယောကျ်ားကိုခေါ်၍ မင်း၏ အထံသို့ သွား၏။

ဘုရားလောင်းသည်ငှင်း တပါးကုန်သော အမတ်တို့သည်ငှင်း လာကုန်၏၊ မြင်းကုန်သည်သည် မင်းကိုရှိခိုး၍ အရှင်မင်းကြီး မြင်းငါးရာတို့၏ ဆန်တကွမ်း စားထိုက်သည်၏အဖြစ်ကို သိရကုန်ပြီ၊ ရှင်မင်းကြီး၏ ဆန်တကွမ်းစားသည်ကား အဘယ်မျှထိုက်သနည်းဟု အဘိုးပြတ်ကို မေးတော်မူပါဦးလောဟု လျှောက်၏၊ မင်းသည် ထိုအကြောင်းကို မသိသည်ဖြစ်၍ အို အဘိုးပြတ် မြင်းငါးရာတို့သည် အဘယ်မျှထိုက်ကုန်သနည်းဟုမေး၏၊ အရှင်မင်းကြီး ဆန်တကွမ်းစားထိုက်ကုန် ၏ဟုဆို၏၊ အချင်း အဘိုးပြတ် မြင်းတို့သည် ရွေးဦးစွာ ဆန်တကွမ်းစား ထိုက် ကုန်သည်ဖြစ်စေ၊ ထိုဆန်တကွမ်းစားသည်ကား အဘယ်မျှထိုက်သနည်းဟု မေး ၏၊ ထိုအဘိုးပြတ်သော ယောကျ်ားမိုက်သည် ဆန်တကွမ်းစားသည် မြို့တွင်း တဆယ့်နှစ်ယူဇနာ မြို့ပ ယူဇနာ သုံးရာနှင့်တကွသော ဗာရာဏသီပြည်ကြီးကို ထိုက်၏ဟုဆို၏၊ အဘိုးပြတ်သော ယောကျ်ားမိုက်သည် ရွေး၍မင်းလိုကိုလိုက်၍ ဆန်တကွမ်းစားကို မြင်းငါးရာတို့၏ အဘိုးကိုပြု၏၊ တဖန် ကုန်သည်၏ လက်မှ တံစိုးကိုရ၍ ထိုဆန်တကွမ်းစား၏အဘိုးကို အတွင်းတဆယ့်နှစ်ယူဇနာ အပယူဇ နာသုံးရာနှင့် တကွသော ဗာရာဏသီပြည်ကြီးကို ပြု၏၊ ထိုအခါ၌ကား ဗာရာဏ

သီပြည်၏ တံတိုင်းအရံသည် တဆယ့်နှစ်ယူဇနာရှိ၏၊ ဤ တဆယ့်နှစ်ယူဇနာရှိသော အရပ်သည် ဗာရာဏသီပြည်၏ အတွင်းအရပ်တည်း၊ အပဖြစ်သောတံတိုင်းသည် တမူကား ယူဇနာသုံးရာရှိ၏၊ဤသို့ အဘိုးပြတ်သော ယောကျ်ားမိုက်သည် အတွင်းအပနှင့်တကွ ကြီးစွာသော ဗာရာဏသီပြည်ကို ဆန်တကွမ်းစား၏အဘိုးကိုပြု၏၊ ထိုစကားကိုကြား၍ အမတ်တို့သည် လက်ခုပ်တီး၍ ရယ်ကုန်လျက် ငါတို့သည် ရှေး၌ မြေကိုဂုဏ်ရှိလည်း မင်းကိုဂုဏ်ရှိလည်း အဘိုးမပြတ်အပ်ဟု မှတ်ကုန်၏၊ ဤသို့ ကြီးစွာသောမင်းနှင့်တကွသော ဗာရာဏသီပြည်သည် ဆန်တကွမ်းစားမျှ ထိုက်သတတ်၊ အဘိုးပြတ်သော ယောကျ်ား၏ ဉာဏ်၏ ပြည့်စုံခြင်းသည် အံ့ဘွယ်သရဲရှိပေစွ၊ ဤမျှလောက်သော ကာလပတ်လုံး ဤ အဘိုးပြတ်သော ယောကျ်ားသည် အဘယ်မှာ နေရှာချေသနည်း ငါတို့၏ မင်းအားသာလျှင် လျောက်ပတ်ပေစွဟု ဆိုလိုကုန်၍—

၅၊ ကိမဂ္ဃတိ တဏ္ဍုလနာဠိကာယံ၊ အဿာန မူလာယ ဝဒေဟိ ရာဇ။
ဗာရာဏသိံ သန္တရဗာဟိရံ၊ အယ မဂ္ဃတိ တဏ္ဍုလနာဠိကာ။

ဟူသော ဤဂါထာဖြင့် ပြက်ရယ်ပြုကုန်၏။

ရာဇ၊ မင်းကြီး။ အဿာနံ၊ မြင်းတို့၏။ မူလာယ၊ အဘိုးငှါ။ ပဝတ္တာ၊ ဖြစ်သော။ အယံ တဏ္ဍုလနာဠိကာ၊ ဤတကွမ်းစားသော ဆန်သည်။ ကိံ အဂ္ဃတိ၊ အဘယ်မျှထိုက်သနည်း။ ဝဒေဟိ၊ ဆိုလော။ အယံ တဏ္ဍုလနာဠိကာ၊ ဤဆန်တကွမ်းစားသည်။ သန္တရဗာဟိရံ၊ အတွင်းအပနှင့် တကွသော။ ဗာရာဏသိံ၊ ဗာရာဏသီပြည်ကို။ အဂ္ဃတိ၊ အကယ်၍ပင် ထိုက်သည်မှန်သလော။

ထိုအခါ မင်းသည် ရှက်သည်ဖြစ်၍ ထိုအဘိုးပြတ်သော ယောကျ်ားမိုက်ကို အဘိုးပြတ်အရာမှ ချထား၍ ဘုရားလောင်းအားသာလျှင် အဘိုးပြတ်အရာကို ပေး၏၊ ဘုရားလောင်းသည် ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ နှစ်ပါးကုန်သော ဝတ္ထုတို့ကို ဟောတော်မူ၍ အနုသန္ဓေကိုစပ်၍ ယခုအခါ လာဠုဒါယီသည် ထိုအခါ မိုက်သော အဘိုးပြတ်သော ယောကျ်ားဖြစ်ဘူးပြီ၊

ယခုအခါ ငါဘုရားသည်မူကား ထိုအခါ ပညာရှိသော အဘိုးပြတ်အမတ်သည် ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[ မိုက်သူအတွက်၊ အကျိုးပျက်၊ ယုတ်လျက် လာဘ်များစွာ ]

ငါးခုမြောက်သော တဏ္ဍုလနာဠိဇာတ်သည် ပြီး၏။

---

## ၆-ဒေဝဓမ္မဇာတ်

### အရှက်အကြောက်ကို စောင့်အပ်သည့်အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လူကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "ဟိရိဩတ္တပ္ပသမ္ပန္နာ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤဒေဝဓမ္မဇာတ်ကို ဇေတဝန်ကျောင်းတော်၌ နေတော်မူစဉ် "မထင်ရှားသော များသောဥစ္စာရှိသောရဟန်း"ကိုအကြောင်းပြု၍ ဟောတော်မူ၏။

သာဝတ္ထိပြည်၌နေသော သူကြွယ်တယောက်သည် မယားသေသည်ရှိသော် ရဟန်းပြုသတတ်၊ ထိုသူကြွယ်သည် ရဟန်းပြုသော်လည်း မိမိ၏ အကျိုးငှါ ပရိဝုဏ်ကိုရင်း မီးတင်းကုပ်ကိုရင်း ဘဏ္ဍာတိုက်ခန်းကိုရင်း ပြုစေ၍ ဘဏ္ဍာတိုက်ကို ထောပတ် ဆန် စသည်တို့ဖြင့် ပြည့်စေ၍ ရဟန်းပြု၏၊ ထိုသူကြွယ်သည် ရဟန်းပြုပြီး၍ကား မိမိကျွန်တို့ကို ခေါ်စေ၍ အလိုရှိတိုင်းသော အာဟာရကို ချက်စေ၍ သုံးဆောင်၏၊ များသော ပရိက္ခရာသည်လည်းဖြစ်၏၊ ညဉ့်၌ တပါးသော အဝတ်အရုံကို ဝတ်ရုံ၏၊ နေ့၌ တပါးသော အဝတ်အရုံကို ဝတ်ရုံ၏၊ ကျောင်းစွန်၌နေ၏၊ တနေ့သ၌ ထိုရဟန်း၏သင်္ကန်း အိပ်ရာလွှမ်း စသည်တို့ကို ထုတ်၍ ပရိဝုဏ်၌ ဖြန့်၍ လှန်းစဉ် များစွာကုန်သော ဇနပုဒ်၌ နေကုန်သော ရဟန်းတို့သည် ကျောင်းစဉ် လှည့်လည်ကုန်သည်ရှိသော် ပရိဝုဏ်သို့ရောက်ကုန်၍ သင်္ကန်းစသည်တို့ကို မြင်ကုန်၍ ဤသင်္ကန်းစသည်သည် အဘယ်သူ၏ ဥစ္စာတို့နည်းဟု မေးကုန်၏၊ ငါ့သျှင်တို့ ငါ၏ဥစ္စာတို့တည်းဟု ဆို၏၊ ငါ့သျှင် ဤသင်္ကန်းသည်ရင်း ဤသင်းပိုင်သည်ရင်း ဤအိပ်ရာလွှမ်းသည်ရင်း အလုံးစုံသော ဥစ္စာသည် သင်၏ ဥစ္စာချည်းပင်လောဟု မေးကုန်၏၊ ငါ့သျှင်တို့ ငါ၏ ဥစ္စာချည်းပင်လျှင်တည်းဟု ဆိုလေ၏၊ ငါ့သျှင် မြတ်စွာဘုရားသည် သင်္ကန်းသုံးထည်တို့ကို

ခွင့်ပြုအပ်ကုန်သည် မဟုတ်တုံလော၊ သင်သည် ဤသို့ အလိုနည်းသော မြတ်စွာဘုရား၏ သာသနာတော်၌ ရဟန်းပြု၍ ဤသို့ များစွာသော ပရိက္ခရာ ရှိသည်ဖြစ်၏၊ လာလှည့် သင့်ကို မြတ်စွာဘုရားအထံသို့ ဆောင်ကုန်အံ့ဟု ဆို၍ ထိုရဟန်းကိုခေါ်၍ မြတ်စွာဘုရားအထံသို့ သွားကုန်၏။

မြတ်စွာဘုရားသည် ထိုရဟန်းကို မြင်တော်မူ၍လျှင် ရဟန်းတို့ အလိုမရှိသည်သာလျှင် ဖြစ်သော ဤရဟန်းကို ခေါ်၍ အဘယ့်ကြောင့် လာကြကုန်သနည်းဟု မိန့်တော်မူ၏၊ အရှင်ဘုရား ဤရဟန်းသည် များသောဘဏ္ဍာ များသော ပရိက္ခရာရှိ၏ဟု လျှောက်ကုန်၏၊ ရဟန်း သင်သည် များသောဥစ္စာ ရှိသတတ် ဟူသည် မှန်သလောဟု မိန့်တော်မူ၏၊ ဘုန်းတော်ကြီးသော မြတ်စွာဘုရား မှန်ပေ၏ဟု လျှောက်၏၊ ရဟန်း-သင်သည် အဘယ့်ကြောင့်ကား များသော ဥစ္စာရှိသည် ဖြစ်သနည်း၊ ငါဘုရားသည် အလိုနည်းသော အဖြစ်၏ ဂုဏ်း ရောင့်ရဲလွယ်သော အဖြစ်၏ဂုဏ်း ဆိတ်ငြိမ်သော အဖြစ်၏ဂုဏ်း လုံ့လကို အားထုတ်ခြင်း၏ဂုဏ်း ကျေးဇူးကို ဟောတော်မူသည် မဟုတ်တုံလောဟု မိန့်တော်မူ၏၊ ထိုရဟန်းသည် မြတ်စွာဘုရားစကားတော်ကို ကြား၍ အမျက် ထွက်သည်ဖြစ်၍ ယခု ဤအကျင့်ဖြင့် ကျင့်တော့အံ့ဟု ကိုယ်ရုံကိုချ၍ ပရိသတ် အလယ်၌ သင်းပိုင်တထည်သာ ရှိသည်ဖြစ်၍ ရပ်၏။

ထိုအခါ ထိုရဟန်းကို မြတ်စွာဘုရားသည် ထောက်ပံ့တော် မူလိုသည်ဖြစ်၍ ရဟန်း သင်သည် ရှေး၌ ဟိရိဩတ္တပ္ပ ရှာဘူးသည် မဟုတ်တုံလော၊ ဒကရက္ခိုသ် ဖြစ်သောကာလ၌လည်း ဟိရိဩတ္တပ္ပကိုရှာလျက် တော၌ တဆယ့်နှစ်နှစ်ပတ်လုံး နေဘူး၏၊ ဤသို့ဖြစ်လျက် အဘယ့်ကြောင့် ယခုအခါ၌ ဤသို့စဉ်သဘောရှိသော ဘုရားသာသနာတော်၌ ရဟန်းပြု၍ ပရိသတ်လေးပါးအလယ်၌ ကိုယ်ရုံကိုချ၍ အရှက် အကြောက်ကို ပယ်၍ ရပ်သနည်းဟု မိန့်တော်၏၊ ထိုရဟန်းသည် မြတ်စွာဘုရား စကားတော်ကိုကြား၍ ဟိရိဩတ္တပ္ပကို ဖြစ်စေ၍ ထိုသင်္ကန်းကို ရုံ၍ မြတ်စွာဘုရားကို ရှိခိုးလျက် တင့်အပ်လျှောက်ပတ်စွာနေ၏၊ ရဟန်းတို့သည် ထိုအကြောင်းကို ထင်စွာ ပြစိမ့်သောငှါ မြတ်စွာဘုရားကို တောင်းပန်ကုန်၏၊ မြတ်စွာဘုရားသည် ဘဝတပါးသည် ဖုံးလွှမ်းအပ်သော အကြောင်းကို ထင်စွာ ပြတော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ကာသိတိုင်း ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြု၏၊ ထိုအခါ၌ ဘုရားလောင်းသည် ထိုမင်း၏ မိဖုယားဝမ်း၌ ပဋိသန္ဓေနေ၏၊ မိဖုယားကြီးသည် ဆယ်လလွန်သဖြင့် သားဖွား၏၊ထိုသူငယ်အားအမည်မှည့်အံ့သောနေ့၌“မဟိံသ”မင်းသားဟူသောအမည်ကို မှည့်ကုန်၏၊ ထိုမဟိံသမင်းသား၏ ရှေးရှုပြေး၍ရင်း ထက်ဝန်းကျင်ပြေး၍ရင်း သွားတတ်သောကာလ၌သားငယ်တပါးဖွားပြန်၏၊ထိုညီငယ်အား“စန္ဒကုမာရ” ဟူသောအမည်ကို မှည့်ကြကုန်၏၊ ထိုစန္ဒကုမာရ မင်းသား၏ ရှေးရှုပြေး၍ရင်း ထက်ဝန်းကျင်ပြေး၍ရင်း သွားတတ်သောကာလ၌ ဘုရားလောင်း၏ မယ်တော်သည် သေ၏၊ မင်းသည် တပါးသော မိန်းမကို မြတ်သော မိဖုယားကြီးအရာ၌ ထား၏၊ ထိုမိဖုယားသည် မင်းအား ချစ်နှစ်သက်စေသည်ဖြစ်၏၊ ထိုမိန်းမသည် လည်း သံဝါသကိုစွဲ၍ တယောက်သောသားကိုဖွား၏၊ထိုသူငယ်အား“သူရိယ” မင်းသားဟူသော အမည်ကိုမှည့်ကုန်၏၊ မင်းသည် သားကိုမြင်၍ နှစ်သက်သော စိတ်ရှိသည်ဖြစ်၍ မိဖုယား သင့်အား ဆုပေး၏ဟု ဆို၏၊ မိဖုယားသည် ဆုကို လိုအပ်သော ကာလ၌ ယူအပ်သည်ကိုပြု၍ထား၏၊မိဖုယားသည် သားအရွယ်သို့ ရောက်သည်ရှိသော် မင်းကြီးကို ရှင်မင်းကြီး အကျွန်ုပ်၏ သားအား ဖွားသော ကာလ၌ ဆုကို ပေးအပ်ပြီ၊ အကျွန်ုပ်သားအား မင်းအဖြစ်ကို ပေးလောဟု ဆို၏။

မင်းသည် ငါ့သားကြီး နှစ်ယောက်တို့သည် မီးပုံကြီးကဲ့သို့ ထွန်းပလျက် သွားကုန်၏၊ သင့်သားအား မင်းအဖြစ်ကို ပေးခြင်းငှါမတတ်ကောင်းဟုပယ်၏၊ အဖန်တလဲလဲ တောင်းသည်သာလျှင်ဖြစ်သော မိဖုယားကိုမြင်၍ မိဖုယား သည် ငါ၏ သားကြီးတို့၏ မကောင်းသော အမှုကိုလည်းကြံရာ၏ဟု သားတို့ကို ခေါ်စေ၍ ချစ်သားတို့ သူရိယမင်းသား၏ ဖွားသောကာလ၌ ဆုကိုပေးဘူး၏၊ ယခု သူရိယ မင်းသား၏ အမိသည် မင်းအဖြစ်ကို တောင်း၏၊ ငါသည် သူရိယ မင်းသားအား မပေးလို၊ မိန်းမမည်သည်ကား ယုတ်မာ၏၊ ချစ်သား တို့အား ယုတ်မာသော အမှုကိုလည်း ကြံရာ၏၊ သင်တို့သည် တောသို့ဝင်၍ ငါလွန်သဖြင့် အမျိုး၏ဥစ္စာဖြစ်သော မြို့၌ မင်းပြုရစ်ကြကုန်လောဟု မှာခဲ့၍ မျက်ရည်ယိုလျက် ငိုကြွေး၍ ဦးခေါင်း၌နမ်း၍ လွှတ်လိုက်၏၊ အဘကို ရှိခိုး၍ ပြာသာဒ်မှ ဆင်းသက်ကုန်သော မင်းသားတို့ကို မင်းယင်ပြင်၌ ကစားသော

သူရိယမင်းသားသည် မြင်၍ ထိုအကြောင်းကို သိ၍ ငါလည်း အစ်ကိုတို့နှင့် တကွ လိုက်အံ့ဟု မင်းသားကြီးတို့နှင့် တကွသာလျှင် ထွက်၏၊ ထိုမင်းသား တို့သည် ဟိမဝန္တာသို့ ဝင်ကုန်၏၊ ဘုရားလောင်းသည် ခရီးမှဖဲ၍ သစ်ပင်ရင်း၌ နေ၍ သူရိယမင်းသားကို ညီတွေ့သူရိယမင်းသား အိုင်သို့သွား၍ ရေချိုး၍ရင်း သောက်၍ရင်း ပဒုမာရွက်တို့ဖြင့်ငါတို့ဘို့လည်း ရေကိုဆောင်ချေလောဟုဆို၏၊ ထိုအိုင်ကိုကား ဝေဿဝဏ်နတ်မင်း၏အထံမှ တယောက်သောဒကရက္ခိုသ်သည် ရအပ်၏၊ ဝေဿဝဏ် နတ်မင်းသည်လည်း ဒေဝဓမ္မကို သိကုန်သော သူတို့ကို သာလျှင် ထား၍ တပါးကုန်သော သူတို့သည် ဤအိုင်သို့ ဆင်းသက်ကုန်၏၊ ထိုသူတို့ကို စားခြင်းငှါရ၏၊ မဆင်းသက်သော သူတို့ကို မရဟု ဒကရက္ခိုသ်ကို ဆို၏။

ထိုအခါမှစ၍ ဒကရက္ခိုသ်သည် အကြင်သူတို့သည် အိုင်သို့ဆင်းသက်ကုန်၏၊ ထိုသူတို့ကို ဒေဝဓမ္မကိုမေး၍ အကြင်သူတို့သည် မသိကုန်၊ ထိုသူတို့ကို စား၏၊ ထိုအခါ၌လျှင် သူရိယမင်းသားသည် အိုင်သို့သွား၍ မစုံမစမ်း ဆင်းသက်၏၊ ထိုအာ၊ သူရိယမင်းသားကို ဒကရက္ခိုသ်သည် ဖမ်း၍ ဒေဝဓမ္မကို သိ၏လောဟု မေး၏၊ သူရိယမင်းသားသည် ဒေဝဓမ္မတို့မည်သည်ကား နေ့၊လ တို့တည်းဟု ဆို၏၊ ထိုအခါ သူရိယမင်းသားကို သင်သည် ဒေဝဓမ္မကိုမသိဟု ရေထဲသို့သွင်း၍ မိမိနေရာ၌ ထား၏၊ ဘုရားလောင်းသည်လည်း သူရိယမင်းသားသည် အလွန် ကြာမြင့်သည်ဖြစ်၍ စန္ဒမင်းသားကို စေပြန်၏၊ ဒကရက္ခိုသ်လည်း စန္ဒမင်းသား ကို ဖမ်း၍ ဒေဝဓမ္မတို့ကို သိ၏လောဟု မေး၏၊ ဩော်....သိ၏၊ ဒေဝဓမ္မတို့မည် သည်ကား အရပ်လေးမျက်နှာတို့တည်းဟု ဆို၏၊ ဒကရက္ခိုသ်သည် သင်သည် ဒေဝဓမ္မကို မသိဟု စန္ဒမင်းသားကို ယူ၍ ထိုအရပ်၌သာလျှင် ထား၏။

ဘုရားလောင်းသည် စန္ဒမင်းသား ကြာပြန်သည် ရှိသော် တခုခုသော အန္တရာယ်သည် ဖြစ်ရာ၏ဟု ကြံ၍ ထိုအိုင်သို့ ကိုယ်တိုင်သွား၍ ညီနှစ်ယောက်တို့ ၏လည်း ဆင်းသက်သော ခြေရာတို့ကိုမြင်၍ ဤအိုင်သည် ရက္ခိုသ်စောင့်သော အိုင်ဖြစ်ရာ၏ဟု ကြံ၍ သန်လျက်ကိုလွယ်၍ လေးကိုကိုင်၍ ရပ်၏၊ ဒကရက္ခိုသ် သည် ဘုရားအလောင်းတော် ရေသို့ မဆင်းမသက်သည်ကို မြင်၍ တောသွား ယောကျ်ားကဲ့သို့ဖြစ်၍ ဘုရားအလောင်းကို အို-ယောကျ်ား သင်သည် ခရီး

ပန်းလျက် အဘယ့်ကြောင့် ဤအိုင်သို့ဆင်းသက်၍ ချိုး၍ သောက်၍ ကြာစွယ် ကြာရင်းတို့ကိုစား၍ ပန်းတို့ကိုပန်၍ ချမ်းသာစွာ မသွားသနည်းဟုမေး၏။

ဘုရားလောင်းသည် ဒကရက္ခိုသ်ကိုမြင်၍ ဤသူသည် ဘီလူးဖြစ်လတ္တံ့ဟု သိ၍ သင်သည် ငါ့ညီတို့ကို ဖမ်းအပ်ကုန်သလောဟုမေး၏၊ ဩော်–ငါဖမ်းအပ် ကုန်၏ဟု ဆို၏၊ အဘယ့်ကြောင့် ဖမ်းအပ်သနည်းဟု ဆို၏၊ ဤအိုင်သို့ဆင်းသက် ကုန်သောသူတို့ကို ငါရ၏ဟုဆို၏၊ အလုံးစုံသောသူကိုလျှင် ရသလောဟုမေး၏။ အကြင်သူတို့သည် ဒေဝဓမ္မတို့ကို သိကုန်၏၊ ထိုသူတို့ကိုထား၍ ကြွင်းသော သူတို့ကို ရကုန်၏ဟုဆို၏၊ သင်သည် ဒေဝဓမ္မတို့ဖြင့် အလိုရှိသလောဟု မေး၏၊ ဩော်–အလိုရှိ၏ဟု ဆို၏၊ အကယ်၍ အလိုရှိသည်ဖြစ်အံ့၊ ဤသို့ အလိုရှိသည် ရှိသော် ငါသည် ဒေဝဓမ္မကို ဟောအံ့ဟု ဆို၏၊ ထိုသို့တပြီးကား ဟောလော၊ ငါသည် ဒေဝဓမ္မတို့ကို နာအံ့ဟုဆို၏၊ ဘုရားလောင်းသည် ငါသည် ဒေဝဓမ္မ တို့ကို ဟောအံ့၊ ငါသည် ညစ်နွမ်းသော ကိုယ်ရှိ၏ဟု ဆို၏၊ ဒကရက္ခိုသ်သည် ဘုရားလောင်းကို ရေချိုးစေ၍ ရေကိုသောက်စေ၍ ပန်းတို့ကိုပန်စေ၍ နံ့သာတို့ ဖြင့် လိမ်းစေ၍ တန်ဆာဆင်အပ်သော မဏ္ဍပ်အလယ်၌ ပလ္လင်ကို ခင်း၍ပေး၏၊ ဘုရားလောင်းသည် နေရာ၌နေ၍ ဒကရက္ခိုသ်ကို ခြေရင်း၌နေစေ၍ ထိုသို့တပြီး ကား ကောင်းစွာထားသော သောတပသာဒရှိသည်ကို ဖြစ်စေ၍ ရှိသေစွာ ဒေဝဓမ္မကို နာလောဟု ဆို၍–

၆၊ ဟိရိဩတ္တပ္ပသမ္ပန္နာ၊ သုက္ကဓမ္မသမာဟိတာ။
သန္တော သပ္ပုရိသာ လောကေ၊ ဒေဝဓမ္မာတိ ဝုစ္စရေ။

ဟူသော ဤဂါထာကို ဆို၏။

လောကေ၊ လောက၌။ ဟိရိဩတ္တပ္ပသမ္ပန္နာ၊ ဟိရိတရား ဩတ္တပ္ပတရားနှင့် ပြည့်စုံ ကုန်ထသော။ သုက္ကဓမ္မသမာဟိတာ၊ ဟိရိဩတ္တပ္ပ အစရှိကုန်သော ကုသိုလ်တရားတို့နှင့် ပြည့်စုံကုန်သော။ သန္တော၊ ငြိမ်သက်သော ကာယကံ အစရှိသည်တို့နှင့် ပြည့်စုံကုန်သော။ သပ္ပုရိသာ၊ သူတော်ကောင်းတို့ကို။ ဒေဝ ဓမ္မာတိ၊ ဒေဝဓမ္မတို့ဟူ၍။ ဝုစ္စရေ၊ ဆိုအပ်ကုန်၏။

သမ္မုတိနတ်, ဥပပတ္တိနတ်, ဝိသုဒ္ဓိနတ်တို့၏ အကျင့်တရားတို့သည် "ဒေဝဓမ္မ"တို့ မည်ကုန်၏၊ ထိုတရားတို့နှင့် ပြည့်စုံကုန်သော သူတို့သည်

လည်း "ဒေဝဓမ္မ"မည်ကုန်သေး၏၊ ထိုကြောင့် ပုဂ္ဂလဓိဋ္ဌာန် ဒေသနာတော်ဖြင့် ဒေဝဓမ္မတို့ကို ပြတော်မူလိုရကား—

သန္တော သပ္ပုရိသာ လောကေ၊ ဒေဝဓမ္မာတိ ဝုစ္စရေ—

ဟူ၍ ဟောတော်မူ၏။

ရက္ခိုသ်သည် ဤဓမ္မဒေသနာကို နာရ၍ ကြည်ညိုသော စိတ်ရှိသည်ဖြစ်၍ ဘုရားလောင်းကို ပညာရှိ ငါသည် သင်တို့အား ကြည်ညိုသည်ဖြစ်၍ တယောက်သော ညီကို ပေး၏၊ အဘယ်သူကို ဆောင်ခဲ့ရအံ့နည်းဟု ဆို၏၊ ညီငယ်ကို ဆောင်ခဲ့လောဟု ဘုရားလောင်း ဆို၏၊ ပညာရှိ သင်သည် ဒေဝဓမ္မကိုသက်သက်သာလျှင် သိ၏၊ ဒေဝဓမ္မတို့၌ကား မကျင့်ဟု ဆို၏၊ အဘယ့်ကြောင့်နည်းဟု ဘုရားလောင်းဆို၏၊ အကြင်ကြောင့် ညီအကြီးကိုထား၍ ညီအငယ်ကိုပို့လာစေဆိုသော သင်သည် ကြီးသောသူတို့အား ပူဇော်သောအမှုကိုမပြု ထို့ကြောင့်တည်းဟု ဒကရက္ခိုသ်ဆို၏၊ ဘီလူး ငါသည် ဒေဝဓမ္မတို့ကိုလည်း သိ၏၊ ဒေဝဓမ္မတို့၌လည်း ကျင့်၏၊ ထိုစကားသည်မှန်၏၊ ငါတို့သည် ဤတောသို့ ညီငယ်ကိုမှီ၍ ဝင်လာရကုန်၏၊ ထိုညီငယ်အကျိုးငှါငါတို့အဘကို ညီငယ်အမိသည် မင်းအဖြစ်ကိုတောင်း၏၊ ငါတို့အဘသည် ထိုသူကိုမပေးမူ၍ ငါတို့အား စောင့်ရှောက်အံ့သောငှါ တော၌နေခြင်းကို ခွင့်ပြု၏၊ သူရိယမင်းသားသည် လိုက်လာ၍ ငါတို့နှင့်တကွ လာ၏၊ သူရိယမင်းသားကို တော၌ ဘီလူးတယောက်သည် စားပြီဟုဆိုသော်လည်း တစုံတယောက်သောသူသည် မယုံလတ္တံ့၊ ထိုကြောင့် ငါသည်ကဲ့ရဲ့ခြင်းဘေးမှ ကြောက်သည်ဖြစ်၍ သူရိယမင်းသားကိုသာလျှင် ပို့လာစေ၏ဟု ဘုရားလောင်း ဆို၏၊ ပညာရှိ ကောင်းစွ-ကောင်းစွ သင်သည် ဒေဝဓမ္မကိုလည်းသိ၏၊ ဒေဝဓမ္မ၌လည်း ကျင့်၏ဟု ကြည်ညိုသော စိတ်ရှိသည်ဖြစ်၍ ဒကရက္ခိုသ်သည် ဘုရားလောင်းအား ကောင်းချီးပေး၍ ညီနှစ်ယောက်တို့ကို ယူ၍ပေး၏။

ထိုအခါ ဒကရက္ခိုသ်ကို ဘုရားလောင်းဆို၏၊ အချင်း သင်သည် ရှေး၌လည်း မိမိပြုအပ်သော မကောင်းမှုကံကြောင့် သူတပါးတို့၏ အသားအသွေးကိုစားတတ်သော ဘီလူး၏ အဖြစ်ဖြင့် ဖြစ်၏၊ ယခု တဖန်လည်း မကောင်းမှုကိုသာလျှင် ပြုပြန်၏၊ ဤမကောင်းမှုကံသည် ငရဲအစရှိသည်တို့မှ လွတ်ခြင်းငှါ

အခွင့်မပေးလတ္တံ့၊ထို့ကြောင့် ဤအခါမှစ၍မကောင်းမှုကိုပယ်၍ ကောင်းမှုကို ပြုလေလောဟု ဘုရားလောင်းသည် ဘီလူးကိုဆုံးမ၍ ဘီလူးသည် စီရင်အပ်သော အစောင့်အရှောက်ရှိသည်ဖြစ်၍ ထိုအရပ်၌သာလျှင်နေလျက် တနေ့သ၌ နက္ခတ်ကိုကြည့်၍ အဘ၏သေသောအဖြစ်ကိုသိ၍ ဘီလူးကိုခေါ်၍ ဗာရာဏသီပြည်သို့သွား၍ မင်းအဖြစ်ကို ယူ၍ စန္ဒမင်းသားအား အိမ်ရှေ့အရာကို သူရိယမင်းသားအား စစ်သူကြီးအရာကို ပေး၍ မွေ့လျော်ဘွယ်ရှိသောအရပ်၌ ဘီလူးနေရာကိုပြုစေ၍ ဤသို့သော အခြင်းအရာအားဖြင့် နေရာကို ပြုစေသည်ရှိသော် ဘီလူးသည် ပန်းကုံးဦးကိုရင်း ပန်းပွင့်ဦးကိုရင်း ထမင်းဦးကိုရင်း ရ၏၊ ထိုသို့သော အခြင်းအရာအားဖြင့် နေရာကိုပြုစေ၏၊ မဟိံသမင်းသားသည် မင်းပြု၍ ကံအားလျော်စွာ လား၏၊ မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ သစ္စာကို ပြတော်မူသည်၏ အဆုံး၌ ထိုရဟန်းသည် သောတာပတ္တိဖိုလ်၌ တည်လေ၏။

**ဇာတ်ပေါင်း**—မြတ်စွာဘုရားသည် နှစ်ပါးကုန်သောဝတ္ထုတို့ကိုဟော၍ အနုသန္ဓေကိုစပ်၍ ယခုအခါ ဥစ္စာများသော ရဟန်းသည် ထိုအခါ ဒကရက္ခိုသ်ဖြစ်လေပြီ၊ ယခုအခါ အာနန္ဒာသည် ထိုအခါ သူရိယမင်းသား ဖြစ်လေပြီ၊ ယခုအခါ သာရိပုတြာသည် ထိုအခါစန္ဒမင်းသားဖြစ်လေပြီ၊ယခုအခါငါဘုရားသည်လျှင်မူကား ထိုအခါ အစ်ကိုကြီး မဟိံသမင်းသား ဖြစ်ဘူးပြီဟု ဇာတ်ကိုပေါင်းတော်မူ၏။

[ဟိရိ,ဩတ္တပ္ပ၊ ပြည့်စုံက၊ ဒေဝဓမ္မ ပုဂ္ဂိုလ်ခေါ်]

ခြောက်ခုမြောက်သော ဒေဝဓမ္မဇာတ်သည် ပြီး၏။

---

## ၇-ကဋ္ဌဝါဟနဇာတ်

### မိမိမှဖြစ်သော သားကို မစွန့်အပ်ကြောင်း

**ပဌ၊ပြန်ဝ ဌ၊**....နတ်နှင့်တကွသောလူကို ဆုံးမတော်မူတတ်သော မြတ်စွာဘုရားသည်"ပုတ္တော တျာဟံ မဟာရာဇ"အစရှိသောဂါထာပုဒ်ဖြင့်တန်ဆာဆင်အပ်သော ဤကဋ္ဌဝါဟနဇာတ်ကို ဇေတဝန်ကျောင်းတော်၌ နေတော်မူစဉ်

"ဝါသဘခတ္တိယာ"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ဝါသဘခတ္တိယာ၏ဝတ္ထုသည်"ဒွါဒသကနိပါတ် ဘဒ္ဒသာလဇာတ်"၌ ထင်စွာဖြစ်လတ္တံ့၊ဝါသဘခတ္တိယာသည် မဟာနာမ် သာကီဝင်မင်း၏ သမီးဖြစ်သတတ်၊ နာဂမုဏ္ဍာ အမည်ရှိသော ကျွန်မ၏ဝမ်း၌ဖြစ်၏၊ကောသလမင်းကြီး၏ မိဖုယားကြီးဖြစ်သတတ်၊ ဝါသဘခတ္တိယာသည် မင်းကိုစွဲ၍ သားကိုဖွား၏၊ မင်းသည်ကား ဝါသဘခတ္တိယာ၏ ကျွန်မအဖြစ်ကို နောက်မှသိ၍ မိဖုယားကြီးအရာကိုနုတ်၏၊ သား ဝိဋ္ဋူဘ၏လည်း အရာကိုနုတ်သည်သာလျှင်တည်း၊ ထိုသားအမိနှစ်ယောက်တို့သည်လည်း နန်းတော်တွင်း၌သာလျှင် နေကုန်၏။

မြတ်စွာဘုရားသည် ထိုအကြောင်းကို သိတော်မူ၍ နံနက်အခါ၌ ရဟန်းငါးရာ ခြံရံလျက် မင်းအိမ်သို့ကြွတော်မူ၍ ခင်းအပ်သောနေရာ၌ နေတော်မူ၍ မင်းကြီး ဝါသဘခတ္တိယာသည် အဘယ်မှာနည်းဟု မေးတော်မူ၏၊ မင်းသည် ထိုအကြောင်းကိုကြားလျှောက်၏၊ မင်းကြီး ဝါသဘခတ္တိယာသည် အဘယ်သူ့သမီးနည်းဟု မေးတော်မူ၏၊အရှင်ဘုရား မဟာနာမ်သာကီဝင်မင်း၏ သမီးတည်းဟု လျှောက်၏၊ လာလတ်သည်ရှိသော် အဘယ်သူ့သို့ လာသနည်းဟု မိန့်တော်မူ၏၊ အရှင်ဘုရား အကျွန်ုပ်သို့လာ၏ဟုလျှောက်၏၊မင်းကြီး ဤဝါသဘခတ္တိယာသည် မင်း၏သမီးတည်း၊ မင်းသို့သာလျှင် လာ၏၊ မင်းကိုသာလျှင် စွဲ၍ သားကိုရ၏၊ ထိုသားသည် အဘယ့်ကြောင့် အဘဉစ္စာဖြစ်သော တိုင်းနိုင်ငံ၏ အရှင်သည် မဖြစ်ရာသနည်း၊ ရှေးမင်းတို့သည် တခဏမျှနေသော မယားဖြစ်သော ထင်းခွေမိန်းမဝမ်း၌ သားကိုရ၍ သားအား မင်းအဖြစ်ကို ပေးဘူးကုန်၏ဟု မိန့်တော်မူ၏၊ ပသေနဒီ ကောသလမင်းသည် ထိုအကြောင်းကို ထင်စွာပြစ်မူသော်ငှါ မြတ်စွာဘုရားကို တောင်းပန်၏၊ မြတ်စွာဘုရားသည် ဘဝတပါးသည် ဖုံးလွှမ်းအပ်သော အကြောင်းကို ထင်စွာ ပြတော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် များစွာသော အခြံအရံဖြင့် ဉယျာဉ်သို့သွား၍ ထိုဉယျာဉ်၌ အပွင့်အသီး၌ တပ်မက်မောသဖြင့် လှည့်လည်သည်ရှိသော် ဉယျာဉ်တောအုပ်၌ သီချင်း သီ၍ ထင်းခွေသော ဆင်းရဲသော မိန်းမယောက်ကိုမြင်၍ နှစ်သက်သော စိတ်ရှိသည်ဖြစ်၍ သံဝါသကို ပြု၏၊ ထိုခဏ၌လျှင် ဘုရားလောင်းသည်

ထင်းခွေမိန်းမ၏ဝမ်း၌ ပဋိသန္ဓေနေ၏၊ ထိုပဋိသန္ဓေနေသောခဏ၌လျှင် ထင်းခွေမိန်းမ၏ဝမ်းသည် ဝရဇိန်ဖြင့်ပြည့်သကဲ့သို့ လေးလည်ဖြစ်၏၊ ထင်းခွေမိန်းမသည် ကိုယ်ဝန်တည်သောအဖြစ်ကိုသိ၍ ရှင်မင်းကြီး အကျွန်ုပ်အား ကိုယ်ဝန်တည်၏ဟု လျှောက်၏၊ မင်းသည် လက်စွပ်ကိုပေးခဲ့၍ သမီးသည် အကယ်၍ဖြစ်အံ့၊ လက်စွပ်ကိုရောင်း၍မွေးရစ်လော၊ သားတည်းအကယ်၍ဖြစ်အံ့၊လက်စွပ်နှင့်တကွ ငါ့အထံသို့ ဆောင်ခဲ့လောဟု ဆို၍ သွားလေ၏။

ထင်းခွေမိန်းမသည်လည်း ပြည့်သောကိုယ်ဝန်ရှိသည်ဖြစ်၍ ဘုရားလောင်းကို ဖွား၏၊ ဘုရားလောင်း၏ ရွှေရှု ပြေး၍ငင်း ထက်ဝန်းကျင် ပြေး၍ငင်း သွားတတ်သော ကာလ၌ ကစားရာအရပ်၌ ငါတို့ကို အဘမရှိသောသူသည် ပုတ်ခတ်၏ဟု သူငယ်တို့ဆိုကြကုန်၏၊ ဘုရားလောင်းသည် ထိုစကားကိုကြား၍ အမိထံသို့ သွား၍ မိခင် ငါ့အဘသည် အဘယ်သူနည်းဟု မေး၏၊ ချစ်သား သင်သည် ဗာရာဏသီမင်း၏သားတည်းဟုဆို၏၊ မိခင် တစုံတခုသော သက်သေရှိသလောဟု မေး၏၊ ချစ်သား မင်းသည် ဤလက်စွပ်ကို ပေး၍ သမီးဖြစ်က လက်စွပ်ကိုရောင်း၍မွေးရစ်လော၊ သားသည်အကယ်၍ဖြစ်အံ့ လက်စွပ်နှင့်တကွ ငါ့အထံသို့ ဆောင်ခဲ့လောဟုဆို၏၊ မိခင်ဤသို့ဖြစ်သည်ရှိသော် အဘယ့်ကြောင့် ငါ့ကို အဘအထံသို့ မဆောင်သနည်းဟုဆို၏၊ ထင်းခွေမိန်းမသည် သား၏အလိုကိုသိ၍ မင်းအိမ်တံခါးသို့ သွား၍ မင်းအား ကြားလျှောက်စေ၏၊ မင်းလည်း ခေါ်စေ၍ ထင်းခွေမိန်းမသည်ဝင်၍ မင်းကိုရှိခိုး၍ ရှင်မင်းကြီး ဤသူငယ်သည် ရှင်မင်းကြီး သားတည်းဟု လျှောက်၏၊ မင်းသည် သိလျက်လည်း ပရိသတ်၏ အလယ်၌ရှက်ခြင်းကြောင့် ငါ့သားမဟုတ်ဟု ဆို၏၊ ရှင်မင်းကြီး ဤလက်စွပ်သည် ရှင်မင်းကြီး၏ လက်စွပ်တည်း၊ ဤလက်စွပ်ကို သိတော်မူလောဟု လျှောက်၏၊ ဤလက်စွပ်သည်လည်း ငါ့လက်စွပ် မဟုတ်ဟု ဆို၏၊ ရှင်မင်းကြီး သစ္စာပြုခြင်းကိုထား၍ အကျွန်ုပ်အား တပါးသောသက်သေမရှိ ဤသူငယ်သည် ရှင်မင်းကြီးတို့ကိုစွဲ၍ အကယ်၍ဖြစ်ငြားအံ့၊ ကောင်းကင်၌ တည်စေ၊ အကယ်၍ မဖြစ်ငြားအံ့ မြေသို့ကျ၍ သေစေဟု ဘုရားလောင်း၏ ခြေ၌ ကိုင်၍ ကောင်းကင်သို့ ပစ်၏၊ ဘုရားလောင်းသည် ကောင်းကင်၌ ထက်ဝယ်ဖွဲ့ခွေ နေလျက် သာယာစွာသော အသံဖြင့် အဘအား တရားဟောလိုရကား—

၇၊ ပုတ္တော တျာဟံ မဟာရာဇ၊ တွံ မံ ပေါသ ဇနာဓိပ။
အညေပိ ဒေဝေါ ပေါသေတိ၊ ကိဉ္စ ဒေဝေါ သကံ ပဇံ။

ဟူသော ဤဂါထာကို ဆို၏။

ဇနာဓိပ၊ လူတို့ကို အစိုးရတော်မူသော။ မဟာရာဇ၊ မင်းကြီး။ အဟံ၊ အကျွန်ုပ်သည်။ တေ၊ အရှင်မင်းကြီး၏။ ပုတ္တော၊သားတည်း။ တွံ၊ ရှင်မင်းကြီးသည်။ မံ၊ အကျွန်ုပ်ကို။ ပေါသ၊ မွေးမြူပါလော့။ ဒေဝေါ၊ ရှင်မင်းကြီးသည်။ အညေပိ၊ တပါးကုန်သော သူတို့ကိုလည်း။ ပေါသေတိ၊ မွေးမြူ၏။ ဒေဝေါ၊ ရှင်မင်းကြီးသည်။ သကံ ပဇံ၊ မိမိသားကို။ ကိဉ္စ၊ အသို့မူ၍။ န ပေါသေတိ၊ မမွေးမြူသနည်း။

> သား မည်သည်ကား အတြဇသား, ခေတြဇသား, အန္တေဝါသိကသား, ဒိန္နကသား ဟူ၍ လေးပါးအပြားရှိ၏၊ ထိုလေးပါးတို့တွင် မိမိကိုယ်ကို စွဲ၍ ဖြစ်သောသားသည်"အတြဇသား"မည်၏၊အိပ်ရာအပြင် ပလ္လင် အစရှိသည်တို့၌ ဖြစ်သောသားသည် "ခေတြဇသား" မည်၏၊ အထံ၌ အတတ်သင်သော သားသည် "အန္တေဝါသိကသား" မည်၏။ မွေးစားစိမ့်သောငှါ ပေးအပ်သော သားသည် "ဒိန္နကသား"မည်၏၊ ထိုလေးပါးတို့တွင် ဤအရာ၌ အတြဇ သားကို ရည်၍ ပုတ္တောဟု ဆိုသတည်း။

မင်းသည် ကောင်းကင်၌နေ၍ ဤသို့တရားဟောသော ဘုရားလောင်း၏ တရားစကားကို နာရ၍ ချစ်သား လာလော၊ ငါသည်လျှင်မွေးအံ့,ငါသည်လျှင် မွေးအံ့ဟုလက်ဖြန့်၏၊တပါးသောသူတို့သည်လည်းလက်တထောင်ကိုဖြန့်လင့်ကြကုန်၏၊ ဘုရားလောင်းသည် တပါးသောသူ၏လက်၌ မသက်မူ၍ မင်း၏လက်၌ သက်၍ ရင်ခွင်၌ နေ၏၊ မင်းသည် ဘုရားလောင်းအား အိမ်ရှေ့မင်း၏ အဖြစ်ကို ပေး၍ အမိကို မိဖုယားကြီးအရာ၌ ထား၏၊ဘုရားလောင်းသည် အဘလွန်သဖြင့် ကဋ္ဌဝါဟန မည်သော မင်းဖြစ်၍ တရားသဖြင့် မင်းပြု၍ ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း**—မြတ်စွာဘုရားသည် ကောသလမင်းကြီးအားဤမွေဒေသနာကိုဆောင်၍ နှစ်ပါးကုန်သော ဝတ္ထုတို့ကို ပြတော်မူ၍ အနုသန္ဓေကို စပ်၍

ယခုအခါ မဟာမာယာသည် ထိုအခါ အမိဖြစ်ပြီ၊ ယခုအခါ သုဒ္ဓေါဒနမင်းကြီးသည် ထိုအခါ အဘဖြစ်ပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ကဏ္ဍဝါဟနမင်းကြီး ဖြစ်ပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[ဇာတိယုတ်မြတ်၊ အမိလုပ်၊ ဘမြတ်ပဓာန မွေခံရ]

ခုနစ်ခုမြောက်သော ကဏ္ဍဝါဟနဇာတ်သည် ပြီး၏။

---

## ၈—ဂါမဏိဇာတ်

### ပညာရှိ အဆုံးအမခံတည်၍ အကျိုးထူး ခံစားရကြောင်း

**ပစ္စုပ္ပန် အတိတ်ဝတ္ထု**—နတ်နှင့်တကွသော လူကိုဆုံးမတော်မူတတ်သော မြတ်စွာဘုရားသည် "အပိ အတရမာနာနံ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤဂါမဏိဇာတ်ကို ဇေတဝန်ကျောင်းတော်၌ နေတော်မူစဉ် "လျော့သော ဝီရိယရှိသော ရဟန်း" ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ဤဂါမဏိဇာတ်၌ကား ပစ္စုပ္ပန်ဝတ္ထုသည်ရင်း အတိတ်ဝတ္ထုသည်ရင်း ဧကာဒသကနိပါတ် သံဝရဇာတ်၌ ထင်စွာဖြစ်လတ္တံ့၊ ထိုစကားသည်မှန်၏၊ အတိတ်ဝတ္ထုသည် သံဝရဇာတ်၌ရင်း ဂါမဏိဇာတ်၌ရင်း တူမျှသည် သာလျှင်တည်း။ ဂါထာသည်ကား ထူး၏၊ ဂါမဏိမင်းသားသည် ဘုရားလောင်း၏ အဆုံးအမခံတည်၍ အစ်ကိုတရာတို့၏ ညီအငယ်ဖြစ်လျက်လည်း အစ်ကိုတရာ ခြံရံသည်ဖြစ်၍ ထီးဖြူ၏အောက်၌ဖြစ်သော ပလ္လင်၌နေလျက် မိမိ၏စည်းစိမ် အခြံအရံ၏ပြည့်စုံခြင်းကိုကြည့်၍ ငါ၏ စည်းစိမ်အခြံအရံသည် ငါတို့ဆရာ၏ဥစ္စာတည်းဟု နှစ်သက်သည်ဖြစ်၍—

၈၊ အပိ အတရမာနာနံ၊ ဖလာသာဝ သမိဇ္ဈတိ။
ဝိပက္ကဗြဟ္မစရိယောသ္မိ၊ ဧဝံ ဇာနာဟိ ဂါမဏိ။

ဟူသော ဤဥဒါန်းဂါထာကို ကျူးရင့်၏။

**အတရမာနာနံ၊** ပညာရှိတို့၏ အဆုံးအမခံတည်၍ အဆောတလျင် မပြုမူ၍ အသင့်အားဖြင့် အမှုကို ပြုကုန်သော သူတို့အား။ **ဖလာသာ၊** တောင့်တအပ်သော အကျိုးသည်။ **သမိဇ္ဈတိ ဧဝ၊** ပြည့်စုံသည်သာတည်း။ **ဂါမဏိ၊** ဂါမဏိ။

အဟံ၊ ငါသည်။ ဝိပက္ကမြဲပ္ပာမှစရိယော၊ အကျိုးဖြစ်ပြီးသော သင်္ဂဟဝတ္ထုရှိသည်။ အသ္မိ၊ ဖြစ်၏။ ဝါ-အကျိုးဖြစ်ပြီးသော စည်းစိမ် အခြံအရံရှိသည်။ အသ္မိ၊ဖြစ်၏။ ဧဝံ၊ ဤသို့။ တွံ၊ သင်သည်။ ဇာနာဟိ၊ သိလော့။

အို-ဂါမဏိ သင်သည် ထိုအကြောင်းကို ဤသို့သိလော၊ ဆရာကိုမှီ၍အစ်ကို တရာကိုလွန်၍ ဤကြီးစွာသောမင်းအဖြစ်သို့ သင်သည်ရောက်၏ဟု ဝမ်းမြောက်သောစကားကို ကျူးရင့်၏၊ ဂါမဏိမင်းသည် မင်းအဖြစ်သို့ ရောက်သည်ရှိသော် ခုနစ်ရက်, ရှစ်ရက်လွန်သဖြင့်လျှင် အလုံးစုံသော အစ်ကိုတို့သည် မိမိ မိမိတို့၏ နေရာအရပ်သို့ သွားကြကုန်၏၊ ဂါမဏိမင်းသည် တရားသဖြင့် မင်းပြု၍ ကံအားလျော်စွာ လား၏၊ ဘုရားလောင်းသည်လည်း ကောင်းမှုတို့ကိုပြု၍ ကံအားလျော်စွာ လားရ၏၊ မြတ်စွာဘုရားသည် ဤ ဓမ္မဒေသနာကို ဆောင်၍ ဟောတော်မူ၍ သစ္စာတို့ကို ပြတော်မူ၏၊ သစ္စာတို့ကို ပြတော်မူသည်၏ အဆုံး၌ လျော့သော ဝီရိယရှိသော ရဟန်းသည် အရဟတ္တဖိုလ်၌ တည်၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် နှစ်ပါးကုန်သောဝတ္ထုတို့ကို ဟောတော်မူ၍ အနုသန္ဓေကိုစပ်၍ ယခုအခါ လျော့သော ဝီရိယရှိသောရဟန်းသည် ထိုအခါဂါမဏိမင်းဖြစ်ပြီ၊ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ပညာရှိဆရာ ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[ပညာရှိထံ၊ နည်းနာခံ၊ နိုင်ငံစိုးထွတ်ချာ]

ရှစ်ခုမြောက်သော ဂါမဏိဇာတ်သည် ပြီး၏။

---

## ၉-မဃဒေဝဇာတ်

### ဆံဖြူကိုမြင်၍ တောထွက်ခြင်း အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လူကို ဆုံးမတော် မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "ဥတ္တမင်္ဂရုဟာ မယှံ"အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤမဃဒေဝဇာတ်ကို ဇေတဝန်ကျောင်းတော်၌ နေတော်မူစဉ် မြတ်သော "တောထွက်တော်မူခြင်း"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုမြတ်သော တောထွက်ခြင်းကို အောက် နိဒါန်းစကား၌ ဆိုအပ်ပြီးသည်.

သာလျှင်တည်း၊ ထိုကာလ၌ကား ရဟန်းတို့သည် မြတ်စွာဘုရားတို့၏ တောထွက်တော်မူခြင်းကို ချီးမွမ်းလျက် နေကုန်၏၊ ထိုအခါ မြတ်စွာဘုရားသည် တရားသဘင်သို့ ကြွတော်မူ၍ မြတ်စွာဘုရားတို့၏နေရာ၌နေတော်မူလျက် ရဟန်းတို့ကို မိန့်တော်မူ၏၊ ရဟန်းတို့ ယခုအခါ အဘယ်စကားဖြင့် စည်းဝေးကြကုန်သနည်းဟု မေးတော်မူ၍ အရှင်ဘုရား တပါးသောစကားဖြင့် အကျွန်ုပ်တို့သည် မစည်းဝေးကုန်၊ အရှင်ဘုရားတို့၏သာလျှင် တောထွက်တော်မူခြင်းကို ချီးမွမ်းကုန်လျက် နေကုန်၏ဟု လျှောက်ကုန်၏၊ ရဟန်းတို့ ငါဘုရားသည် ယခုသာလျှင် တောထွက်သည်မဟုတ်သေး ရှေး၌လည်း တောထွက်ဘူးသည်သာလျှင်တည်းဟု မိန့်တော်မူ၏၊ ရဟန်းတို့သည် ထိုအကြောင်းကို ထင်စွာပြစိမ့်သောငှါ မြတ်စွာဘုရားကို တောင်းပန်ကုန်၏၊ မြတ်စွာဘုရားသည် ဘဝတပါးဖြင့် ဖုံးလွှမ်းအပ်သော အကြောင်းကို ထင်စွာ ပြတော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဝိဒေဟရာဇ်တိုင်း မိထိလာပြည်၌ မဃဒေဝမင်းသည် မင်းပြု၏၊ ထိုမဃဒေဝမင်းသည် တရားစောင့်၏၊တရားသဖြင့် မင်းပြု၏၊ ထိုမင်းသည် အနှစ်ရှစ်သောင်းလေးထောင် ကာလပတ်လုံး မင်းသားငယ်တို့၏ ကစားခြင်းကိုပြု၍ အနှစ်ရှစ်သောင်းလေးထောင် ကာလပတ်လုံး အိမ်ရှေ့မင်းအဖြစ်ကို ပြု၍ အနှစ် ရှစ်သောင်း လေးထောင် ကာလပတ်လုံး မြတ်သောမင်း၏အဖြစ်ကို ပြု၍ ရှည်စွာသော ကာလကို ကုန်စေ၍ တနေ့သ၌ ဆတ္တာသည်ကို အချင်းဆတ္တာသည် အကြင်အခါ၌ ငါ၏ဦးခေါင်း၌ ဆံဖြူကို မြင်ငြားအံ့၊ ထိုသို့ မြင်သည်ရှိသော် ငါ့အား ကြားလျှောက်လောဟုဆို၏၊ ဆတ္တာသည်လည်း ရှည်စွာသော ကာလကို ကုန်စေ၍ တနေ့သ၌ မင်း၏ မျက်စဉ်းညိုသို့ အဆင်းနှင့် တူကုန်သော ဆံတို့၏ အကြား၌ ဆံဖြူတပင်ကို မြင်၍ အရှင်မင်းကြီး အရှင်မင်းကြီးအား ဆံဖြူတပင်သည် ထင်၏ဟုကြားလျှောက်၏၊ ထိုသို့တပြီးကား အချင်းဆတ္တာသည် ငါ၏လက်၌ထိုဆံဖြူကိုနုတ်၍တင်လောဟု ဆိုသည်ရှိသော် ရွှေမွေးညှပ်ဖြင့် နုတ်၍ မင်း၏ လက်၌ တင်၏။

ထိုအခါ မင်း၏အသက်သည် ရှစ်သောင်းလေးထောင် ကြွင်းသည် ဖြစ်၏၊ ထိုသို့ဖြစ်သော်လည်း ဆံဖြူကိုမြင်၍ သေမင်း လာလတ်၍ အနီး၌ တည်ဘိသကဲ့သို့ရင်း မိမိကိုယ်သည် ပြောင်ပြောင်တောက်သော သစ်ရွက်မိုးအိမ်သို့ဝင်၍

နေရဘိသကဲ့သို့ရင်း ထင်မှတ်လျက် ထိလန့်ခြင်းသို့ ရောက်၍ ဆို-မိုက်စွာသော မဃဒေဝမင်း သင်သည် ဆံဖြူသည်တိုင်အောင် ဤကိလေသာတို့ကို စွန့်ခြင်းငှါ မတတ်နိုင်တကားဟု ကြံ၏၊ မဃဒေဝမင်း၏ ဤဆံဖြူရောက်သည်၏ အဖြစ်ကို ဆင်ခြင်သည့်အတွင်း၌ ပူခြင်းသည်ဖြစ်၍ ကိုယ်မှ ချွေးတို့သည် ယိုကုန်၏၊ ပုဆိုးတို့သည် ညှစ်၍ ပစ်အပ်သော အခြင်းအရာသို့ ရောက်ကုန်၏။ မဃဒေဝ မင်းသည် ယနေ့ပင်လျှင် ငါသည် တောထွက်၍ ရဟန်းပြုသင့်၏ဟု ကြံ၍ ဆတ္တာသည်အား အခွန်တသိန်းထွက်သော ရွာကို ဆုပေး၍ သားကြီးကို ခေါ်စေ၍ ချစ်သား ငါ၏ ဦးခေါင်း၌ ဆံဖြူသည် ထင်ရှားဖြစ်၏၊ ငါသည် အိုမင်းပြီ၊ငါသည် လူ၌ဖြစ်သောကာမဂုဏ်တို့ကို ခံစားအပ်ပြီးသာလျှင်ကတည်း၊ ယခုအခါ နတ်၌ဖြစ်သော ကာမဂုဏ်တို့ကိုရှာအံ့၊ငါ့အား တောထွက်ခါတန်ပြီ၊ သင်သည် ဤမင်းအဖြစ်ကို ယူလော၊ ငါကား ရဟန်းပြု၍ မဃဒေဝဥယျာဉ်၌ နေလျက် တရားကို ကျင့်အံ့ဟု ဆို၏၊ ဤသို့ ရဟန်းပြုလိုသော မဃဒေဝမင်းကို အမတ်တို့သည် ကပ်၍ အရှင်မင်းကြီး အရှင်မင်းကြီးတို့၏ ရဟန်းပြုခြင်း အကြောင်းသည် အသို့နည်းဟု လျှောက်ကုန်၏၊ မင်းသည် ဆံဖြူကို လက်ဖြင့် ယူ၍ အမတ်တို့အား—

၉၊ ဥတ္တမင်္ဂရုဟာ မယှံ၊ ဣမေ ဇာတာ ဝယောဟရာ။
ပါတုဘူတာ ဒေဝဒူတာ၊ ပဗ္ဗဇ္ဇာသမယော မမ။

ဟူသော ဤဂါထာကို ဆို၏။

ဘောန္တော အမစ္စာ၊ အိုအမတ်တို့။ ဒေဝဒူတာ၊ သေမင်း၏ တမန်ဖြစ်ကုန်သော။ ဝါ-ဒေဝဒူတာ၊ နတ်နှင့်တူသော တမန်ဖြစ်ကုန်သော။ ဝါ-ဒေဝဒူတာ၊ ဝိသုဒ္ဓိနတ်ဖြစ်ကုန်သော ဘုရားလောင်း၏ တမန်ဖြစ်ကုန်သော။ ဝယောဟရာ၊ အရွယ်သုံးပါးတို့ကို ဆောင်ကုန်သည်။ ဇာတာ၊ ဖြစ်ကုန်သော။ မယှံ၊ငါ့အား။ ဣမေ ဥတ္တမင်္ဂရုဟာ၊ ဤဆံဖြူတို့သည်။ ပါတုဘူတာ၊ ထင်ရှားဖြစ်ကုန်၏။ မမ၊ ငါ့အား။ ပဗ္ဗဇ္ဇာ သမယော၊ ရဟန်းပြုခါတန်ပြီ။

မဃဒေဝမင်းသည် ဤသို့ဆို၍ ထိုနေ့သာလျှင် မင်းအဖြစ်ကိုစွန့်၍ ရသေ့ ရဟန်းပြု၍ မဃဒေဝ သရက်ဥယျာဉ်၌နေလျက် အနှစ်ရှစ်သောင်း လေးထောင် တို့ပတ်လုံး ဗြဟ္မဝိဟာရ လေးပါးကိုပွားစေ၍ မယုတ်သောဈာန်၌ တည်လျက်

ထိုဘဝမှ စုတေ၍ ဗြဟ္မာ့ပြည်၌ဖြစ်၍ တဖန် ဗြဟ္မာ့ပြည်မှ စုတေ၍ မိထိလာပြည်၌လျှင် နေမိမည်သော မင်းဖြစ်၍ ဆုတ်နစ်သော မိမိအနွယ်ကိုစပ်၍ ထိုသရက်ဥယျာဉ်၌ ရဟန်းပြု၍ ဗြဟ္မဝိဟာရတရားတို့ကို ပွားစေ၍ တဖန် ဗြဟ္မာ့ပြည်သို့ လား၏။

သမ္ဗုဒ္ဓမြတ်စွာဘုရားသည်လည်း ရဟန်းတို့ ငါဘုရားသည် ယခုသာလျှင် မြတ်သော တောထွက်ခြင်းကို တောထွက်တော်မူသည် မဟုတ်သေး၊ ရှေး၌လည်း တောထွက်ဘူးသည် သာလျှင်တည်းဟု ဤ မဂ္ဃဒေသနာကို ဆောင်တော်မူ၍ သစ္စာလေးပါးတို့ကို ပြတော်မူသည်၏အဆုံး၌ အချို့ကုန်သော ရဟန်းတို့သည် သောတာပန် ဖြစ်ကုန်၏၊ အချို့ကုန်သောရဟန်းတို့သည် သကဒါဂါမ် ဖြစ်ကုန်၏၊ အချို့ကုန်သောရဟန်းတို့သည် အနာဂါမ် ဖြစ်ကုန်၏။

**ဇာတ်ပေါင်း**....ဤသို့ မြတ်စွာဘုရားသည် နှစ်ပါးကုန်သော ဝတ္ထုတို့ကို ဟောတော်မူ၍ အနုသန္ဓေကိုစပ်၍ ယခုအခါ အာနန္ဒာသည် ထိုအခါ ဆတ္တာသည်ဖြစ်ပြီ၊ ယခုအခါ ရာဟုလာသည် ထိုအခါ သားဖြစ်ပြီ၊ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ မဃဒေဝမင်း ဖြစ်ပြီ၊ ဤသို့ ဇာတ်ကိုပေါင်းတော်မူ၏။

[ဆံဖြူကိုပင်၊ သံဝေတင်၊ တောခွင် မြန်းလေတာ]

ကိုးခုမြောက်သော မဃဒေဝဇာတ်သည် ပြီး၏၊

---

## ၁၀—သုခဝိဟာရီဇာတ်

### ချမ်းသာစွာ နေလေ့ရှိခြင်း အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လူကိုဆုံးမတော်မူဘတ်သော မြတ်စွာဘုရားသည် "ယဥ္စ အညေ န ရက္ခန္တိ" အစရှိသောဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤသုခဝိဟာရီဇာတ်ကို အနုပိယမြို့ကိုမှီ၍ အနုပိယ သရက်ဥယျာဉ်၌ နေတော်မူစဉ် ချမ်းသာစွာနေလေ့ရှိသော "ဘဒ္ဒိယမထေရ်"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ခြောက်ယောက်သောမင်းတို့၏ အစည်းအဝေး၌ ဥပါလိလျှင် ခုနစ်ယောက်မြောက်ရှိသော ချမ်းသာစွာ နေလေ့ရှိသော ဘဒ္ဒိယမထေရ်သည်

ရဟန်းပြု၏၊ ထိုခုနစ်ယောက်သော မထေရ်တို့တွင် ဘဒ္ဒိယမထေရ်၊ ကိမိလမထေရ်၊ ဘဂုမထေရ်၊ ဉပါလိမထေရ်တို့သည် အရဟတ္တဖိုလ်သို့ ရောက်ကုန်၏၊ အာနန္ဒာမထေရ်သည် သောတာပန်ဖြစ်၏၊ အနုရုဒ္ဓါမထေရ်သည် ဒိဗ္ဗစက္ခုကို ရ၏၊ ဒေဝဒတ်သည် ဈာန်ရ၏၊ ခြောက်ယောက်သော မင်းတို့၏ အနုပိယမြို့သို့တိုင်အောင်သောဝတ္ထုသည် "ခဏ္ဍဟာလ"ဇာတ်၌ ထင်စွာ ပြလတ္တံ့။

အရှင် ဘဒ္ဒိယသည်ကား မင်းဖြစ်သော ကာလ၌ မိမိ၏ ရှေးဦးစွာ အစောင့်အရှောက်တို့ကိုထားခြင်းသည်လည်း၊ များစွာကုန်သော အစောင့်အရှောက်တို့ဖြင့် စောင့်ရှောက်၍ မြတ်သောပြာသာဒ်အပြင်ထက် မြတ်သောအိပ်ရာ၌ အိပ်လျက်လည်း မိမိအား ကြောက်ခြင်း ဖြစ်ခြင်းကိုလည်း အရဟတ္တဖိုလ်သို့ရောက်၍ တောအစရှိသည်တို့တွင် အမှတ်မရှိသောအရပ်၌ နေလျက်လည်း မိမိ၏ ကင်းသောဘေးရှိသည်၏ အဖြစ်ကိုလည်း မြင်သည်ဖြစ်၍ ဩော်—ချမ်းသာစွ ဩော်—ချမ်းသာစွဟု ဝမ်းသာသော စကားကို ကျူးရင့်၏၊ ရဟန်းတို့သည် ထိုစကားကို ကြားကုန်၍ အရှင် ဘဒ္ဒိယမထေရ်သည် အရဟတ္တဖိုလ်ကို ကြား၏ဟု မြတ်စွာဘုရားအား လျှောက်ကုန်၏၊ မြတ်စွာဘုရားသည် ရဟန်းတို့ ဘဒ္ဒိယသည် ယခုသာလျှင် ချမ်းသာစွာ နေလေ့ရှိသည် မဟုတ်သေး၊ ရှေး၌လည်း ချမ်းသာစွာနေလေ့ရှိသည်သာလျှင်တည်းဟု မိန့်တော်မူ၏၊ ရဟန်းတို့သည် ထိုအကြောင်းကို ထင်စွာပြစိမ့်သောငှါ မြတ်စွာဘုရားကို တောင်းပန်ကုန်၏၊ မြတ်စွာဘုရားသည် ဘဝတပါးသည် ဖုံးလွှမ်းအပ်သောအကြောင်းကို ထင်စွာပြတော်မူ၏။

**အတိတ်ဝတ္ထု**—လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မင်းသည် မင်းပြုလတ်သည်ရှိသော် ဘုရားလောင်းသည် ဥဒိစ္စပုဏ္ဏားသူကြွယ်ဖြစ်၍ ကာမတို့၌ အပြစ်ကိုလည်း ရဟန်းအဖြစ်၌ အကျိုးအာနိသင်ကိုလည်းမြင်၍ ကာမတို့ကိုစွန့်၍ ဟိမဝန္တာသို့ဝင်၍ ရသေ့ရဟန်းပြု၍ ရှစ်ပါးသော သမာပတ်တို့ကို ဖြစ်စေ၏၊ ဘုရားလောင်း၏ အခြံအရံသည်လည်း များ၏၊ ငါးရာကုန်သော ရသေ့တို့သည် ဖြစ်ကုန်၏၊ ဘုရားလောင်းသည် မိုးကာလ၌ ဟိမဝန္တာမှ ထွက်ခဲ့၍ ရသေ့အပေါင်းခြံရံလျက် ရွာနိဂုံးစသည်တို့၌ ဒေသစာရီ သွားသည်ရှိသော် ဗာရာဏသီပြည်သို့ရောက်၍ မင်းကိုမှီ၍ မင်းဉယျာဉ်၌နေ၏၊ မိုးတွင်းလေးလပတ်လုံးနေ၍ မင်းကိုပန်ကြား၏၊ ထိုအခါ ဘုရားလောင်းကို မင်းကြီးသည် အရှင်

ဘုရား အရှင်ဘုရားတို့သည် အိမ်မင်းကုန်ပြီ၊ အရှင်ဘုရားတို့အား ဟိမဝန္တာ၌နေ သဖြင့် အဘယ်အကျိုးရှိအံ့နည်း၊ တပည့်တို့ကို ဟိမဝန္တာသို့လွှတ်၍ အရှင်ဘုရား တို့သည် ဥယျာဉ်၌လျှင် နေကုန်လောဟု တောင်းပန်၏။

ဘုရားလောင်းသည် တပည့်ကြီးအား ရသေ့ငါးရာကို အပ်နှင်း၏၊ သင်သည် သွားလေလော၊ ဤရသေ့တို့နှင့်တကွ ဟိမဝန္တာ၌ နေလေလော၊ ငါသည် ဤ ဥယျာဉ်၌လျှင် နေရစ်အံ့ဟု တပည့်တို့ကိုလွှတ်လိုက်၍ မိမိသည်လျှင် ဥယျာဉ်၌ ကား နေခြင်းကို ပြု၏၊ ဘုရားလောင်း၏ တပည့်ကြီးသည်ကား မင်းအဖြစ်မှ ရဟန်းပြု၏၊ ကြီးစွာသောမင်း၏ အဖြစ်ကိုစွန့်၍ ကသိုဏ်းပရိကံကိုပြု၍ ရှစ်ပါး သော သမာပတ်ကိုရ၏၊ ရသေ့တို့နှင့်တကွ ဟိမဝန္တာ၌နေသော တပည့်ကြီးသည် တနေ့သ၌ ဆရာကိုဖူးမြင်လိုသည်ဖြစ်၍ ရသေ့တို့ကိုခေါ်၍ သင်တို့သည် မငြိုးငွေ့ သည်ဖြစ်၍ ဟိမဝန္တာ၌သာလျှင် နေနှင့်ကြကုန်လော၊ ငါသည် ဆရာကိုရှိခိုး၍ လာအံ့ဟု ဆို၍ ဆရာ့အထံသို့ သွား၍ ပျူငှါ လောကဝတ်ကိုပြု၍ တခုသော သပေါ့အခင်းကိုဖြန့်၍ ဆရာ့အထံ၌သာလျှင် လျောင်း၏၊ ထိုအခါ မင်းသည် ရသေ့ကို ဖူးမြင်အံ့ဟု ဥယျာဉ်သို့သွား၍ ရှိခိုး၍ တင့်အပ် လျောက်ပတ်စွာနေ၏၊ တပည့်ကြီးဖြစ်သော ရသေ့သည် မင်းကြီးကိုမြင်၍လည်း မထ၊ လျောင်းလျက် သာလျှင် "ဩော်—ချမ်းသာစွ, ဩော်—ချမ်းသာစွ"ဟု ဝမ်းမြောက်သော စကားကို ကျူးရင့်၏၊ မင်းသည် ဤရသေ့သည် ငါ့ကိုမြင်၍လည်းမထဟု နှလုံး မသာသည်ဖြစ်၍ ဘုရားလောင်းကို အရှင်ဘုရား ဤရသေ့သည် အလိုရှိတိုင်း စားသည်ဖြစ်လတ္တံ့၊ ထို့ကြောင့် ဥဒါန်းကျူးရင့်လျက် ချမ်းသာစွာ အိပ်ခြင်း ကိုသာ ပြု၏ဟု လျှောက်၏၊ မင်းကြီး ဤရသေ့သည် ရှေး၌ သင်ကဲ့သို့သော တယောက်သော မင်းသည် ဖြစ်ဘူး၏၊ ထိုရသေ့သည် ငါသည် ရှေးလူဖြစ်သော ကာလ၌ မင်း၏ အသရေကို ခံစားလျက် လက်နက်စွဲကုန်သော များစွာကုန် သောသူတို့သည် စောင့်ရှောက်ငြားသော်လည်း ဤသို့သဘောရှိသော ချမ်းသာ မည်သည်ကို မရစဘူးဟု မိမိ၏ ရဟန်းချမ်းသာကိုရင်း ဈာန်ချမ်းသာကိုရင်း စွဲ၍ ဥဒါန်းကို ကျူးရင့်၏၊ ဤသို့ဆိုပြီးလျှင် ဘုရားလောင်းသည် မင်းအား တရားစကားကို ဟောခြင်းငှါ—

၁၀၊ ယဥ္ဆ အညေ န ရက္ခန္တိ၊ ယော စ အညေ န ရက္ခတိ။
သ ဝေ ရာဇ သုခံ သေတိ၊ ကာမေသု အနပေက္ခဝါ။

ဟူသော ဤဂါထာကို ဆို၏။

ရာဇ၊ မင်းမြတ်။ ယဥ္ဆ၊ အကြင်သူကိုလည်း။ အညေ၊ တပါးကုန်သော သူတို့သည်။ န ရက္ခန္တိ၊ မစောင့်ရှောက်ကုန်။ ယော စ၊ အကြင်သူသည်လည်း။ အညေ၊ တပါးသောသူတို့ကို။ န ရက္ခတိ၊ မစောင့်ရှောက်။ ကာမေသု၊ ဝတ္ထုကာမ ကိလေသာကာမတို့၌။ အနပေက္ခဝါ၊ ငဲ့ကွက်ခြင်းမရှိသော။ သ-သော၊ ထိုသူသည်။ ဝေ၊ စင်စစ်။ သုခံ၊ ချမ်းသာစွာ။ သေတိ၊ အိပ်ရ၏။

ဤ"သုခံ သေတိ"ဟူသောပုဒ်သည် အဦးအမြတ်ဖြစ်သောဣရိယာပုထ် တပါးကိုသာလျှင် ပြသောပုဒ်တည်း၊ စင်စစ်ကား ချမ်းသာစွာ အိပ်ရကာသာလျှင် မဟုတ်သေး၊ ဤသို့ သဘောရှိသော ပုဂ္ဂိုလ်သည်ကား ချမ်းသာစွာ အိပ်ရ၏၊ ချမ်းသာစွာ ရပ်ရ၏၊ ချမ်းသာစွာ ထိုင်ရ၏၊ ချမ်းသာစွာ လျှောက်ရ၏၊ ဤသို့ ခပ်သိမ်းသော ဣရိယာပုထ်တို့၌ ချမ်းသာသည်သာလျှင် ဖြစ်ကုန်၏။

မင်းသည် တရားဒေသနာကို နာရ၍ နှစ်သက်သော စိတ်ရှိသည်ဖြစ်၍ ရှိခိုး၍ နန်းတော်သို့သာလျှင် သွား၏၊ တပည့်ကြီးသည်လည်း ဆရာကို ရှိခိုး၍ ဟိမဝန္တာသို့သာလျှင် သွားလေ၏၊ ဘုရားလောင်းသည်ကား ထိုဥယျာဉ်၌နေလျက် မယုတ်သော ဈာန်ရှိသည်ဖြစ်၍ ဗြဟ္မာ့ပြည်၌ ဖြစ်၏။

ဇာတ်ပေါင်း...မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကိုဆောင်၍ပြတော်မူ၍ နှစ်ပါးကုန်သော ဝတ္ထုတို့ကို ဟောတော်မူ၍ အနုသန္ဓေကိုစပ်၍ ယခုအခါ ဘဒ္ဒိယမထေရ်သည် ထိုအခါ တပည့်ကြီးဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ဂိုဏ်းဆရာ ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[ဝတ္ထုကာမ၊ ကိလေသာ၊ ပယ်က လွန်ချမ်းသာ]

ဆယ်ခုမြောက်သော သုခဝိဟာရိဇာတ်သည် ပြီး၏။

ဘုန်းတော် အလွန်ကြီးမြတ်တော်မူသော ဆင်ဖြူများရှင် တရားမင်းမြတ်၏ သားတော်ကြီး မဟာဥပရာဇ်သည် အလွန်ခဲယဉ်းစွာသော ရခိုင်ပြည်ကြီးကို မင်းနှင့်တကွ သိမ်းယူတော်မူပြီး၍ ရဟန်းရှင်လူ ပြည်သူအပေါင်းတို့၏စီးပွား ချမ်းသာအကျိုးငှါ ပင့်ဆောင်တော်မူခဲ့သော မဟာမုနိဘုရားရှင်၏ အရှေ့ မျက်နှာအရပ်၌ မဟာဥပရာဇ် မယ်တော် အသျှင်မိဖုယားမြတ်သည် ဆောက် လုပ်အပ်သော မင်္ဂလာဘုံကျော်ကျောင်းတော်နေ ညောင်ကန်ဆရာတော်သည် မြန်မာပြန်ဆိုအပ်သော ဧကနိပါတ်၌ ရှေးဦးစွာသော အပဏ္ဏကဝဂ်သည် ဤမျှသော သဒ္ဒါ၏အစဉ် အနက်၏ အစဉ်အားဖြင့် အပြီးသို့ရောက်၏။

အပဏ္ဏကဝဂ် ပြီး၏။

---

## ၂—သီလဝဂ် ၁၁—လက္ခဏမိဂဇာတ်

### မလိမ္မာသောကြောင့် အခြံအရံမှ ဆုတ်ယုတ်ခြင်းအကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် “ဟောတိ သီလဝတံ” အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤလက္ခဏမိဂဇာတ်ကို ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်း ၌ သီတင်းသုံး နေတော်မူစဉ် “ဒေဝဒတ်” ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ဒေဝဒတ်၏ ဝတ္ထု လေးသွားတို့ကို စေလွှတ်သည်တိုင်အောင်သော အခဏ်း သည် “ခဏ္ဍဟာလဇာတ်”၌ ထင်စွာဖြစ်လတ္တံ့၊ နေပါလဆင်ကို လွှတ်သည်တိုင် အောင်သော အခဏ်းကား “စူဠဟံသဇာတ်”၌ ထင်စွာဖြစ်လတ္တံ့၊ မြေမျိုသည် တိုင်အောင်သော အခဏ်းကား “ဒွါဒသကနိပါတ် သမုဒ္ဒဝါဏိဇဇာတ်”၌ ထင် စွာဖြစ်လတ္တံ့၊ ထိုစကားကိုချဲဦးအံ့ အခါတပါး၌ ဒေဝဒတ်သည် ငါးပါး သော ဝတ္ထုတို့ကိုတောင်းပန်၍မရသည်ရှိသော် သံဃာကိုခွဲ၍ ငါးရာသောရဟန်းတို့ကို ယူ၍ ဂယာသီသ၌ နေ၏၊ ထိုအခါ ရဟန်းတို့အား ဉာဏ်ရင့်ခြင်းသို့ ရောက်၏၊ သဗ္ဗညု မြတ်စွာဘုရားသည် ထိုအကြောင်းကို သိတော်မူ၍ နှစ်ပါးကုန်သော အဂ္ဂသာဝကတို့ကို သာရိပုတ္တရာ, မောဂ္ဂလ္လာန်တို့ သင်တို့၏ တပည့်ဖြစ်ကုန်သော ရဟန်း ငါးရာတို့သည် ဒေဝဒတ်၏ အယူကိုနှစ်သက်ကြကုန်၍ ဒေဝဒတ်နှင့်အတူ သွားကုန်၏၊ယခုတမူကား သင်ချစ်သားတို့သည် များစွာကုန်သောရဟန်းတို့နှင့်

တက္ကသွား၍ ထိုရဟန်းတို့အား တရားဟော၍ ထိုရဟန်းတို့ကို အရဟတ္တဖိုလ်ဖြင့် နိုးစေပြီးသော် ယူ၍ လာကြကုန်လောဟု မိန့်တော်မူ၏။

ထို အရှင်သာရိပုတ္တရာ, မောဂ္ဂလ္လာန်တို့သည် ထိုဂယာသီသသို့ သွား၍ ထိုငါးရာကုန်သောရဟန်းတို့အား တရားဟော၍ အရဟတ္တဖိုလ်ဖြင့် နိုးစေပြီးသော် နက်ဖြန် အရုဏ်တက်သောအခါ၌ ထိုငါးရာကုန်သောရဟန်းတို့ကို ယူ၍ ဝေဠုဝန် ကျောင်းတော်သို့သာ လာကုန်၏၊လာလတ်၍ကား အရှင်သာရိပုတ္တရာ မထေရ်၏ မြတ်စွာဘုရားကို ရှိခိုး၍ ရပ်သောကာလ၌ ရဟန်းတို့သည် အရှင်သာရိပုတ္တရာ မထေရ်ကို ချီးမွမ်းကုန်၍ မြတ်စွာဘုရားကို လျှောက်ကုန်၏၊ အဘယ်သို့ လျှောက်ကုန်သနည်းဟူမူကား ဘုန်းတော်ကြီးသော အရှင်ဘုရား အကျွန်ုပ်တို့၏ အစ်ကိုကြီးဖြစ်သော ဓမ္မသေနာပတိ မထေရ်သည် ငါးရာကုန်သောရဟန်းတို့ဖြင့် ခြံရံ၍လာလျက် အလွန်လျှင် တင့်တယ်ပေစွ၊ ဒေဝဒတ်သည် တမူကား အခြံအရံမရှိသည်ဖြစ်၏ဟု လျှောက်ကုန်၏၊ ရဟန်းတို့ သာရိပုတ္တရာသည် ယခုအခါ၌သာလျှင် မိမိဆွေမျိုးအပေါင်း ခြံရံလျက် တင့်တယ်သည် မဟုတ်သေး ရှေး၌လည်း တင့်တယ်သည်သာလျှင်တည်း၊ ဒေဝဒတ်သည်ကား ယခုအခါ၌သာလျှင် မိမိအမျိုးအပေါင်းမှ ယုတ်သည်မဟုတ်သေး၊ ရှေး၌လည်း ယုတ်ဘူးသည်သာလျှင်တည်းဟု သဗ္ဗညု မြတ်စွာဘုရားသည် မိန့်တော်မူ၏၊ ရဟန်းတို့သည် ထိုအကြောင်းကို ထင်စွာ ပြစိမ့်သောငှါ ဘုန်းတော်ကြီးသော မြတ်စွာဘုရားကို တောင်းပန်ကုန်၏၊ ဘုန်တော်ကြီးမြတ်သော မြတ်စွာဘုရားသည် ဘဝတပါးဖြင့် ဖုံးလွှမ်းအပ်သောအကြောင်းကို ထင်စွာပြတော်မူ၏။

**အတိတ်ဝတ္ထု** .... လွန်လေပြီးသောအခါ မဂဓတိုင်း ရာဇဂြိုဟ်ပြည်၌ တယောက်သော မဂဓမည်သောမင်းသည်မင်းပြု၏၊ထိုအခါ ဘုရားလောင်းသည် သမင်မျိုး၌ ပဋိသန္ဓေကိုယူ၍ ကြီးခြင်းသို့ရောက်လတ်သော် သမင်တထောင် ခြံရံလျက်တော၌သာလျှင်နေ၏၊ ထိုဘုရားလောင်းအား လက္ခဏမည်သောသား, ကာဠမည်သော သားဟူ၍ နှစ်ခုသောသားတို့သည် ဖြစ်ကုန်၏၊ထိုဘုရားလောင်း သည် မိမိ၏ကြီးရင့်သောကာလ၌ အမောင်တို့ ငါသည် ယခုအခါ၌ အိုမင်းပြီ၊ သင်တို့သည် ဤအခြံအရံ အပေါင်းကို ဆောင်ကြလေကုန်လော့ဟု ငါးရာ ငါးရာကုန်သော သမင်တို့ကို တဦးတဦးသော သားအား အပ်နှင်း၏၊ ထိုအခါမှ

စ၍ ထိုနှစ်ခုသော သမင်တို့သည် သားအပေါင်းကို ဆောင်ကုန်၏၊ မဂဓတိုင်း၌ လည်း ကောက်မှည့်သောကာလ၌ ကောက်ဖြင့်မှည့်သော တော၌ သမင်တို့၏ ဘေးရန်သည်ဖြစ်၏၊ လူတို့သည် ကောက်ကိုစားကုန်သော သမင်တို့ကို သတ်အံ့ သောငှါ ထိုထိုသောအရပ်၌ တွင်းကို တူးကုန်၏၊ တံကျင်တို့ကို စိုက်ကုန်၏၊ ကျောက်ယန္တရားတို့ကို လွှတ်ကုန်၏၊ စဉ်းလဲသော ကြော့ကွင်း အစရှိသည်တို့ကို ထောင်ကုန်၏၊ များစွာသော သမင်တို့သည် ပျက်စီးခြင်းသို့ ရောက်ကုန်၏၊ ဘုရားလောင်းသည် ကောက်၏ ပြည့်စုံသောအခါကိုသိ၍ နှစ်ခုသောသားတို့ကို ခေါ်၍ ဤသို့ဆို၏။

အမောင်တို့ ဤအခါသည်ကား ကောက်ပြည့်စုံသောအခါတည်း၊ များစွာ ကုန်သော သမင်တို့လည်း ပျက်စီးခြင်းသို့ ရောက်ကုန်၏၊ အိုကုန်သော ငါတို့ သည်ကား တစုံတခုသောဥပါယ်တမျဉ်ဖြင့် တခုသောအရပ်၌ ကာလကိုလွန်စေ ကုန်အံ့၊ သင်တို့သည် သင်တို့၏ သမင်အပေါင်းတို့ကိုယူကုန်၍ တောင်ခြေရင်း သို့ဝင်ကုန်၍ ကောက်တို့ကို သိမ်းဆည်းပြီးသော ကာလ၌ သင်တို့သည် လာကြ ကုန်လောဟုဆို၏၊ ထိုသမင်တို့သည် ကောင်းပြီဟု အဘစကားကို နားထောင် ကုန်၍ အခြံအရံနှင့်တကွ ထွက်ကုန်၏၊ လူတို့သည် ဤကာလ၌ သမင်တို့သည် တောင်ကိုတက်ကုန်၏၊ ဤကာလ၌ တောင်မှဆင်းကုန်၏ဟု သမင်တို့သွားသော လမ်းကိုသိကုန်၏၊လူတို့သည် ဖုံးလွှမ်းရာအရပ်၌ ပုန်းအောင်းနေကုန်လျက် များ စွာကုန်သော သမင်တို့ကို ပစ်သတ်ကုန်၏၊ ကာဠမည်သောသမင်သည်လည်း မိမိ ၏ အသိဉာဏ် နုန့်နှေးသည်၏အဖြစ်ကြောင့် ဤအခါ၌ မသွားအပ်ဟူ၍ မသိ ရကား သမင်အပေါင်းကိုယူ၍ နံနက်အခါ၌ရင်း ညချမ်းအခါ၌ရင်း ညဦးယံ အခါ၌ရင်း မိုးသောက်ယံအခါ၌ရင်း ရွာတံခါးအနီး၌ သွား၏၊ လူတို့သည် ထို ထိုအရပ်၌ ပကတိအားဖြင့် တည်ကုန်လျက်ရင်း ပုန်းအောင်း ကုန်လျက်ရင်း များစွာသော သမင်တို့ကို ပျက်စီးခြင်းသို့ ရောက်စေကုန်၏၊ ဤသို့ ထိုကာဠမည် သော သမင်သည် မိမိနုန့်နှေးသော ပညာရှိသည်၏အဖြစ်ကြောင့် များစွာကုန် သော သမင်တို့ကို ပျက်စီးခြင်းသို့ ရောက်စေ၍ အနည်းငယ်သာလျှင် ဖြစ်ကုန် သော သမင်တို့ဖြင့် တောသို့ဝင်လာ၏။

လက္ခဏမည်သော သမင်သည်ကား ပညာရှိ၏ လိမ္မာ၏ အကြောင်းကို သိတတ်၏၊ ထိုအခါ မသွားအပ်ဟူ၍ သိ၏၊ ထိုလက္ခဏသမင်သည် ရွာတံခါး၏ နီးသောအရပ်၌လည်း မသွား နေ့၌လည်းမသွား ညဦးယံအခါ၌လည်း မသွား မိုးသောက်ထအခါ၌လည်း မသွား သမင်အပေါင်းကိုယူ၍ သန်းခေါင်ယံ၌သာ သွား၏၊ ထို့ကြောင့် တခုသောသမင်ကိုလည်း မပျက်စီးစေမူ၍ တောသို့ ဝင်ရ၏၊ ထိုသမင်တို့သည် ထိုတော၌ လေးလပတ်လုံး နေကုန်ပြီး၍ ကောက်တို့ကို သိမ်းဆည်းကုန်ပြီးသည်ရှိသော် တောင်မှသက်ကုန်၏၊ ကာဠမည်သော သမင်သည် ပြန်လာသော်လည်း အကြွင်းမဲ့ သမင်တို့ကို ပျက်စီးခြင်းသို့ ရောက်စေ၍ တကိုယ်တည်းသာလျှင် ပြန်လာ၏၊ လက္ခဏသမင်သည်ကား တခုသောသမင်ကိုမျှ မပျက်စီးစေမူ၍ ငါးရာကုန်သော သမင်တို့ဖြင့် ခြံရံလျက် မိဘတို့၏အထံသို့ ပြန်လာ၏၊ ဘုရားလောင်းသည် လာလတ်ကုန်သော နှစ်ယောက်ကုန်သော သားတို့ကိုလည်း မြင်၍ သမင်အပေါင်းတို့နှင့်တကွ ပြောဆိုလျက်—

၁၁၊ ဟောတိ သီလဝတံ အတ္ထော၊ ပဋိသန္ထာရဝုတ္တိနံ။
လက္ခဏံ ပဿ အာယန္တံ၊ ဉာတိသံဃပုရက္ခတံ။
အထ ပဿသိမံ ကာဠံ၊ သုဝိဟီနံဝ ဉာတိဘိ။

ဟူသော ဤဂါထာကို ဆို၏။

သီလဝတံ၊ အကျင့်သီလ ရှိကုန်သော။ ပဋိသန္ထာရဝုတ္တိနံ၊ ဓမ္မပဋိသန္ထာရ, အာမိသပဋိသန္ထာရဟူသော ဖြစ်ခြင်းရှိကုန်သောသူတို့အား။ အတ္ထော၊ အကျိုးစီးပွားသည်။ ဟောတိ၊ ဖြစ်၏။ ဉာတိသံဃပုရက္ခတံ၊ ဆွေမျိုးအပေါင်း ခြံရံလျက်။ အာယန္တံ၊ လာလတ်သော။ လက္ခဏဥ္စ၊ လက္ခဏကိုလည်း။ ပဿ၊ ရှုပါလော။ အထ၊ ထိုမှို။ ဉာတိဘိ၊ အဆွေအမျိုးတို့မှ။ သုဝိဟီနံဝ၊ အလွန်ယုတ်သည်သာလျှင် ဖြစ်သော။ ဣမံ ကာဠဥ္စ၊ ဤကာဠမည်သော သမင်ကိုကိုလည်း။ ပဿသိ၊ ရှုပါလော။

ဤဂါထာ၌ မကောင်းသည်မှ ကြဉ်စေခြင်း အဆုံးအမ၏ အစွမ်းအားဖြင့် ဓမ္မပဋိသန္ထာရကို သိအပ်၏၊ ကျက်စားရာသို့ သွားခြင်း နာသူတို့အား လုပ်ကျွေးခြင်း တရားနှင့် လျော်စွာ စောင့်ရှောက်ခြင်း၏ အစွမ်းအားဖြင့် အာမိသပဋိသန္ထာရကို သိအပ်၏၊ ဤနှစ်ပါးကုန်သော

ပဋိသန္ထာရတို့၌ တည်ကုန်သော အကျင့်နှင့် ပြည့်စုံကုန်သောပညာရှိတို့အား အစီးအပွားမည်သည်ဖြစ်၏ဟု ဆိုလိုသည်၊ ထိုအစီး အပွားဖြစ်ခြင်းကို သက်သေပြုလိုရကား "လက္ခဏံ ပဿ" အစရှိသည်တို့ကို ဆိုသတည်း၊ အဓိပ္ပါယ်ကား အကျင့် သီလ အာစာရနှင့် ပြည့်စုံသည်ဖြစ်၍ တခုသော သမင်ကိုမျှလည်း မပျက်စီးစေမူ၍ ဆွေမျိုးအပေါင်းသည် ခြံရံလျက် လာလတ်သော လက္ခဏကိုလည်း ကြည့်ပါလော၊ အကျင့် သီလ ပဋိသန္ထာရ၏ပြည့်စုံခြင်းမှကင်းသည်ဖြစ်၍ နုန့်နှေးသော ပညာရှိသော တခုသော အဆွေ အမျိုးကို မကြွင်းစေမူ၍ ဆွေမျိုးအပေါင်းတို့မှ အလွန်ကင်းသည်ဖြစ်၍လျှင် တကိုယ်တည်း လာလတ်သော ကာဠမည်သော သမင်ကိုလည်း ကြည့်ပါလော ဟူလိုသည်။

ဤသို့သားကို နှစ်သက်စေပြီး၍ကား ဘုရားလောင်းသည် အသက် အပိုင်းအခြား ကာလပတ်လုံး တည်၍ ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း**....သဗ္ဗညုမြတ်စွာဘုရားသည် ရဟန်းတို့ သာရိပုတ္တရာသည် ယခုအခါ၌သာလျှင် ဆွေမျိုးအပေါင်းခြံရံလျက် တင့်တယ်သည် မဟုတ်သေးရှေး၌လည်း တင့်တယ်ဘူးသည် သာလျှင်တည်း၊ ဒေဝဒတ်သည် ယခုအခါ၌ သာလျှင် ဂိုဏ်းအခြွေအရံမှ ကင်းသည်မဟုတ်သေး ရှေး၌လည်း ကင်းဘူးသည် သာလျှင်တည်းဟု မိန့်တော်မူလျက် ဤဓမ္မဒေသနာကိုပြတော်မူ၍ နှစ်ပါးသော ဝတ္ထုတို့ကို ဟောတော်မူ၍ ယခုအခါ ဒေဝဒတ်သည် ထိုအခါ ကာဠမည်သော သမင်ဖြစ်ဘူးပြီ၊ ယခုအခါဒေဝဒတ်၏ပရိသတ်တို့သည် ထိုအခါ ကာဠမည်သော သမင်၏ ပရိသတ်တို့သည် ဖြစ်ဘူးကုန်ပြီ၊ ယခုအခါ သာရိပုတ္တရာသည် ထိုအခါ လက္ခဏမည်သောသမင်ဖြစ်ဘူးပြီး ယခုအခါ ဘုရားပရိသတ်တို့သည် ထိုအခါ လက္ခဏသမင်၏ ပရိသတ်တို့သည် ဖြစ်ဘူးကုန်ပြီ၊ ယခုအခါ ရာဟုလ မယ်တော်သည် ထိုအခါ လက္ခဏသမင်,ကာဠသမင်တို့၏အမိဖြစ်ဘူးပြီ၊ယခုအခါငါဘုရားသည်လျှင် ထိုအခါ လက္ခဏသမင်,ကာဠသမင်တို့၏အဘဖြစ်ဘူးပြီဟူ၍ ဇာတ်ကို ပေါင်းတော်မူ၏။

[အသိအမှန်၊ မရှိပြန်၊ ခြံရံယုတ်တတ်စွာ]

ရှေးဦးစွာသော လက္ခဏမိဂဇာတ်သည် ပြီး၏၊

## ၁၂–နိဂြောဓမိဂဇာတ်

### အသက်ချင်း လှယ်၍ ကယ်ဘူးသော အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညုမြတ်စွာဘုရားသည်"နိဂြောဓမေဝ သေဝေယျ"အစရှိသောဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော နိဂြောဓမိဂဇာတ်ကို သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်၌ နေတော်မူစဉ် "ကုမာရ ကဿပ မထေရ်၏ အမိ"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုမထေရ်၏ အမိသည် ရာဇဂြိုဟ်ပြည်၌ များသော စည်းစိမ်ရှိသော သူဌေး၏သမီး ဖြစ်သတည်း၊ ထိုသူဌေးသမီးသည် များစွာသော ကုသိုလ်မူလရှိ၏၊ ဝိပဿနာလက်ဖြင့် သုံးသပ် ဆုပ်နယ်အပ်သော သင်္ခါရတရားရှိ၏၊ ပစ္ဆိမဘဝိက သတ္တဝါဖြစ်၏၊ အိုး၏ အတွင်း၌ရှိသော ဆီမီးကဲ့သို့ ထိုသူဌေးသမီး၏ နှလုံး၌လည်း အရဟတ္တဖိုလ်၏ ဥပနိဿယသည် ထွန်းပ၏၊ ထိုသူဌေးသမီးသည် ကိုယ်ကို သိသောကာလမှစ၍ အိမ်၌မမွေ့လျော်သည်ဖြစ်၍ ရဟန်းပြုလိုရကား အမိအဘတို့ကို မိခင်ဘခင်တို့ အိမ်၌ အကျွန်ုပ်သည်မမွေ့လျော် အကျွန်ုပ်သည် ဝဋ္ဋဆင်းရဲမှ ထွက်မြောက်စေတတ်သော ဘုရားသာသနာတော်၌ ရဟန်းပြုလို၏၊ အကျွန်ုပ်ကို ရဟန်းပြုကုန်လောဟု ဆို၏၊ ချစ်သမီးအသို့ဆိုဘိသနည်း ဤအမျိုးသည် များသောစည်းစိမ်ရှင်ဖြစ်၏၊ချစ်သမီးသည်လည်း ငါတို့၏တယောက်ထည်းသော သမီးဖြစ်ခဲ့၏၊ ချစ်သမီးသည် ရဟန်းပြုခြင်းငှါ အခွင့်မရထိုက် တကားဟု မိဘတို့ ဆိုကုန်၏၊ ထိုသူဌေးသမီးသည် အကြိမ်ကြိမ် ခွင့်တောင်းသော်လည်း မိဘတို့ထံမှ ရဟန်းပြုခွင့်ကို မရ၍ မရသည်ပင်ဖြစ်စေဦး လင့်အိမ်သို့ရောက်သော အခါမှ လင်ကို နှစ်သိမ့်စေ၍ ရဟန်းပြုအံ့ဟု ကြံ၏။

ထိုသူဌေးသမီးသည် အရွယ်ရောက်၍ လင့်အိမ်သို့ ရောက်သည်တွင် လင်ကို နတ်ကဲ့သို့ ရိုသေ၍ သီလနှင့်ပြည့်စုံစွာ ကောင်းသော အကျင့်ရှိလျက် အိမ်၌ နေ၏၊ ထိုအခါ ထိုသူဌေးသမီးအား သံဝါသကိုအစွဲပြု၍ ကိုယ်ဝန်တည်လေ၏၊ ထိုသူဌေးသမီးသည် ကိုယ်ဝန်တည်သည်၏အဖြစ်ကိုမသိ၊ ထိုအခါ ရာဇဂြိုဟ်ပြည်၌ နက္ခတ်သဘင်ကို ကြွေးကြော်ကုန်၏၊ အလုံးစုံသော မြို့သူတို့သည် နက္ခတ်သဘင် ကစားကုန်၏၊ မြို့သည် နတ်ပြည်ကဲ့သို့ ဆင်ယင်အပ်သော တန်ဆာနှင့်စပ်၏၊ ထိုသူဌေးသမီးသည်ကား မြတ်သော နက္ခတ်သဘင် ကစားခြင်းသည် ဖြစ်ငြား

ထက်ဝယ် ဖွဲ့ခွေလျက် နေ၍ သတ္တဝါတို့သည် ဤသို့မကောင်းမှု၏ အကျိုးကို အကယ်၍ သိကုန်ငြားအံ့၊ ပါဏာတိပါတကို မပြုလေကုန်ရာဟု သာယာသော အသံဖြင့် တရားဟောလိုရကား—

၁၈၊ ဧဝံ စေ သတ္တာ ဇာနေယျုံ၊ ဒုက္ခာယံ ဇာတိသမ္ဘဝေါ။
န ပါဏော ပါဏိနံ ဟညေ၊ ပါဏဃာတီ ဟိ သောစတိ။

ဟူသော ဤဂါထာကို ဆို၏။

ဘောန္တော၊ အချင်းတို့။ ပါဏဃာတီ၊ သတ္တဝါကို သတ်သောသူသည်။ စတူသု အပါယေသု၊ အပါယ်လေးပါးတို့၌။ မဟာဒုက္ခံကြီးစွာသောဆင်းရဲကို။ အနုဘဝမာနော၊ ခံစားရလျက်။ ဒီဃရတ္တံ၊အခါလေးမြင့်။ ဟိ ယသ္မာ၊အကြင် ကြောင့်။ သောစတိ၊ စိုးရိမ်ရ၏။ တသ္မာ၊ထို့ကြောင့်။အယံ ဇာတိ၊ထိုထိုဘဝ၌ ဤသို့ သဘောရှိသော ပဋိသန္ဓေ နေခြင်းသည်ရှင်း။ အယံ သမ္ဘဝေါ စ၊ ဤသို့ မသိစဉ် အစဉ်သဖြင့် ကြီးခြင်းသည်ရှင်း။ ဒုက္ခော၊ အိုခြင်း နာခြင်း သေခြင်း မုန်းသောသူတို့နှင့် မိတ်ဖွဲ့ပေါင်းဘော်ရခြင်း ချစ်သောသူတို့နှင့် ကွေကွင်းရခြင်း လက် ခြေပြတ်ခြင်း အစရှိကုန်သော ဆင်းရဲတို့၏ တည်ရာဖြစ်၏။ ဧဝံ၊ ဤသို့။ သတ္တာ၊ သတ္တဝါတို့သည်။ စေ ဇာနေယျုံ၊ အကယ်၍ သိကုန်ငြားအံ့။ ပါဏော၊ သတ္တဝါသည်။ ပါဏိနံ၊ သတ္တဝါကို။ န ဟညေ၊ မသတ်ရာ။

ဤသို့ ဘုရားလောင်းသည်လည်း ငရဲဘေးဖြင့် ခြိမ်းခြောက်၍ တရားဟော တော်မူ၏၊ လူတို့သည် ထိုတရားကို နာရကုန်၍ ငရဲဘေးမှ ကြောက်ကုန်သဖြင့် ပါဏာတိပါတမှ ကြဉ်ကြကုန်၏၊ ဘုရားလောင်းသည်လည်း တရားဟော၍ လူများကို သီလ၌ တည်စေ၍ ကံအားလျော်စွာ လားရလေ၏၊ လူများသည် လည်း ဘုရားလောင်း၏ အဆုံးအမ၌တည်၍ ဒါန အစရှိသော ကောင်းမှုတို့ကို ပြု၍ နတ်ပြည်ကို ပြည့်စေ၏။

**ဇာတ်ပေါင်း**....သဗ္ဗညုမြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်၍ အနုသန္ဓေကိုစပ်၍ ယခုအခါ ငါဘုရားသည် ထိုအခါ ရုက္ခဇိုဝ်းနတ် ဖြစ်ဘူး ပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[သေသူရည်မှတ်၊ အလှူမြတ်၊ မသတ်ရှောင်ခွါ ပါဏာတိပါ]

ရှစ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော မထကဘတ္တဇာတ်သည် ပြီး၏။

## ၁၉—အာယာစိတဘတ္တဇာတ်

### သတ္တဝါတို့ကိုသတ်၍ နတ်အားပူဇော်ခြင်း၌ အကျိုးမရှိသည်ကို ပြခြင်းအကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညုမြတ်စွာဘုရားသည် "သစေ မုစ္စေ ပေစ္စ မုစ္စေ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤ အာယာစိတဘတ္တဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "နတ်တို့အား တောင်းပန်ခြင်း ရှိခိုးပူဇော်ခြင်း အမှု"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုအခါ လူတို့သည် ကုန်သွယ်အံ့သောငှါ သွားကုန်လတ်သည်ရှိသော် သတ္တဝါတို့ကို သတ်ကုန်၍ နတ်တို့အား ပူဇော်ခြင်းအမှုကို ပြုကုန်၍ အကျွန်ုပ်တို့သည် အန္တရာယ်မရှိသဖြင့် အကျိုး၏ ပြီးခြင်းသို့ ရောက်ကုန်သည်ရှိသော် လာကုန်၍ တဖန် ရှင်နတ်မင်းတို့အား ပူဇော်ပါကုန်အံ့ဟု တောင်းပန်ကုန်၍ သွားကြကုန်၏၊ ထိုကုန်သွယ်ခြင်းအမှု၌ အန္တရာယ်မရှိသဖြင့် အကျိုး၏ပြီးခြင်းသို့ ရောက်လတ်သော် လာလတ်ကုန်၍ နတ်တို့၏ အာနုဘော်ကြောင့် ဤအကျိုးပြီးခြင်းသည် ဖြစ်၏ဟု ထင်မှတ်ရကား များစွာသော သတ္တဝါတို့ကို သတ်ကုန်၍ တောင်းပန်ခြင်းမှ လွတ်စိမ့်သောငှါ ပူဇော်ခြင်းအမှုကို ပြုကုန်၏၊ ရဟန်းတို့သည် ထိုအမှုကို မြင်ကုန်၍ ဘုန်းတော်ကြီးသော အရှင်ဘုရား ဤသတ္တဝါတို့ကိုသတ်၍ နတ်အား ပူဇော်သောအမှုကို ပြုရာ၌ အကျိုးရှိသလောဟု မြတ်စွာဘုရားအား လျှောက်ကုန်၏၊ သဗ္ဗညုမြတ်စွာဘုရားသည် အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....ရဟန်းတို့ လွန်လေပြီးသောအခါ ကာသိတိုင်း တခုသောရွာငယ်၏ တံခါး၌နေသော သူကြွယ်သည် ပညောင်စောင့်နတ်အား ပူဇော်ခြင်းအမှုကိုဝန်ခံ၍ အန္တရာယ်မရှိသဖြင့် လာလတ်၍ များစွာကုန်သော သတ္တဝါတို့ကိုသတ်၍ ဝန်ခံခြင်းမှလွတ်စေအံ့ဟု ပညောင်ပင်ရင်းသို့လာ၏၊ ရုက္ခဇိုဝ်းနတ်သည် ပညောင်ခွ၌ ရပ်၍—

၁၉၊ သစေ မုစ္စေ ပေစ္စ မုစ္စေ၊ မုစ္စမာနော ဟိ ဗဇ္ဈတိ။
နှ ဟေဝံ ဓီရာ မုစ္စန္တိ မုတ္တိ၊ ဗာလဿ ဗန္ဓနံ။

ဟူသော ဤဂါထာကို ဆို၏။

ဘောဟုရိယာ၊ အိုအချင်းယောကျ်ား။ တွံ၊သင်သည်။ သစေ မုစ္စေ၊အကယ်၍ ဝန်ခံခြင်းမှ လွတ်လိုငြားအံ့။ ပေစ္စ၊ တမလွန်ဘဝ၌။ မုစ္စေ၊ လွတ်အောင်ပြုရာ၏။ ဟိ-ယသ္မာ၊ အကြင်ကြောင့်။ မုစ္စမာနေ၊ ပါဏာတိပါတကိုပြု၍ ဝန်ခံခြင်းမှ လွတ်စေလိုသော သူကို။ ဗဇ္ဈတိ၊ မကောင်းမှုသည် မိ၏။ တသ္မာ၊ထို့ကြောင့်။ ဓီရာ၊ ပညာရှိတို့သည်။ ဧဝံ၊ ဤသို့။ နမုစ္စန္တိ၊ ဝန်ခံခြင်းကို မပြေကုန်။ ဗာလဿ၊သူမိုက်၏။ မုတ္တိ၊ ပါဏာတိပါတကိုပြု၍ ဝန်ခံခြင်းမှ လွတ်စေခြင်းသည်ကား။ ဗန္ဓနံ၊ မကောင်းမှုဖြင့် မိသည်။ ဟောတိ၊ ဖြစ်၏။

ဘုရားလောင်း ရုက္ခဒေဝိုးနတ်သည် ဤသို့ ဟော၏၊ ထိုအခါမှစ၍ လူတို့သည် ပါဏာတိပါတမှ ကြဉ်ကုန်လျက် တရားကို ကျင့်ကုန်၍ နတ်ပြည်ကို ပြည့်စေကုန်၏။

**ဇာတ်ပေါင်း**....သဗ္ဗညုမြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ အနုသန္ဓေကိုစပ်၍ ယခုအခါ ငါဘုရားသည် ထိုအခါ ရုက္ခဒေဝိုးနတ်ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[ပါဏာတိပါတ်၊ သူ့သက်သတ်၊ ယင်နတ်ပူဇော် ခံဘို့မြော်]

ကိုးခုတို၏ပြည့်ကြောင်းဖြစ်သော အာယာစိတဘတ္တဇာတ်သည်ပြီး၏။

---

## ၂၀—နဠပါနဇာတ်

### ကျူရိုးတို့၌ အလုံးစုံ အခေါင်းပေါက်သောအကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညုမြတ်စွာဘုရားသည် "ဒိသွာ ပဒမနုတ္တိဏ္ဏံ"အစရှိသောဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤနဠပါနဇာတ်ကို ကောသလတိုင်းတို့၌ ဒေသစာရီ ကြွတော်မူလတ်သော် နဠပါနရွာသို့ရောက်၍ နဠပါန ရေကန်နား ဆပ်သွားတော၌ သီတင်းသုံး နေတော်မူစဉ်"ကျူရိုး"တို့ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုအခါ ရဟန်းတို့သည် နဠပါနရေကန်၌ ရေချိုးကုန်၍ အပ်ကျည်ဘို့သာမဏေတို့ကို ကျူရိုးယူစေ၍ အလုံးစုံ၌လျှင် အပေါက်ရှိကုန်သော ထိုကျူရိုး

တို့ကိုမြင်ကုန်၍ ဘုရားအထံတော်သို့ ကပ်ကုန်၍ ဘုန်းတော်ကြီးသော အရှင်ဘုရား အကျွန်ုပ်တို့သည် အပ်ကျည်ဘို့ ကျူးရိုးတို့ကို ယူစေကုန်၏၊ ထိုကျူရိုးတို့သည် အရင်းမှ အဖျားတိုင်အောင် အလုံးစုံလျှင် ပေါက်ကုန်၏၊ ထိုအကြောင်းကား အသို့တုံနည်းဟု မေးလျှောက်ကုန်၏၊ သဗ္ဗညုမြတ်စွာဘုရားသည် ရဟန်းတို့ ဤကျူရိုးတို့၏ပေါက်ခြင်းသည်ကား ငါ၏ ရှေးအဓိဋ္ဌာန်တည်းဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ထိုကျူတောသည် လူမနေသောတောအရပ် ဖြစ်သတတ်၊ ထိုရေကန်၌လည်း တယောက်သော ဒကရက္ခိုသ်သည် ရေသို့သက်တိုင်း သက်တိုင်းကုန်သော သတ္တဝါတို့ကို စား၏၊ ထိုအခါ ဘုရားလောင်းသည် သမင်ပါးငယ် ပမာဏရှိသော မျောက်မင်းဖြစ်၍ မျောက်ရှစ်သောင်း ခြံရံလျက် မျောက်အပေါင်းကိုဆောင်၍ ထိုတော၌ နေ၏၊ ဘုရားလောင်း မျောက်မင်းသည် မျောက်အပေါင်းအား အမောင်တို့ ဤတော၌ အဆိပ်ပင်တို့သည်လည်း ရှိကုန်၏၊ ဘီလူး သိမ်းဆည်းသော ရေကန်တို့သည်လည်း ရှိကုန်၏၊ သင်တို့သည် မစားဘူးသော သစ်သီးကြီးငယ်တို့ကို စားလိုကုန်သော်ငြားလည်း၊ မသောက်ဘူးသော ရေကို သောက်လိုကုန်သော်ငြား ငါ့ကို ပန်ကြားကုန်ဟု ဩဝါဒပေး၏၊ ထိုမျောက်တို့သည် ကောင်းပြီဟု ဝန်ခံကုန်၍ တနေ့သ၌ မရောက်ဘူးသော အရပ်သို့ ရောက်ကုန်လတ်သော် ထိုအခါ၌ များစွာသောနေ့ပတ်လုံး ကျက်စားကုန်၍ ရေကို ရှာကြကုန်လတ်သော် တခုသော ရေကန်ကို မြင်ကုန်၍ ရေကို မသောက်ကုန်ဦးဘဲ ဘုရားလောင်း၏ လာခြင်းကို မြှော်ကုန်လျက် နေကြကုန်၏။

ဘုရားလောင်းသည် လာလတ်၍ အမောင်တို့ အဘယ့်ကြောင့် ရေကို မသောက်ကုန်သနည်းဟု ဆို၏၊ အရှင်တို့၏ လာခြင်းကိုမြှော်ကုန်လျက် နေပါကုန်သည်ဟု မျောက်တို့ဆိုကုန်၏၊ အမောင်တို့ ကောင်းပြီဟု ဘုရားလောင်းသည် ရေကန်ကိုဆင်ခြင်၍ ခြေရာကို ပိုင်းခြားကြည့်ရှုလတ်သော် သက်သောခြေရာကိုသာလျှင် မြင်၏၊ တက်သောခြေရာကို မမြင်၊ ထိုဘုရားလောင်းသည် ယုံမှားမရှိ ဤရေကန်ကို ဘီလူးစောင့်၏ဟုသိ၍ အမောင်တို့ ရေကို မသောက်ကုန်သော သင်တို့သည် ကောင်းသောအမှုကို ပြုအပ်၏၊ ဤရေကန်ကို ဘီလူး

စောင့်၏ဟု ဆိုလေ၏၊ ဒကရက္ခိုသ်သည်လည်း ထိုမျောက်တို့၏ မသက်မဆင်း သောအဖြစ်ကိုသိ၍ ညိုသောဝမ်း ဖြူသောမျက်နှာ နီသောလက်ခြေ ဖောက်ပြန် သော အဆင်းရှိသည်ဖြစ်၍ ရေကို နှစ်ဖြာခွဲလျက် ထွက်လာ၏၊ သင်တို့ အဘယ့်ကြောင့် ဆိုင်းငံ့၍ နေကြကုန်သနည်း၊ ဆင်း၍ ရေကို သောက်ကြကုန် လောဟု ဆို၏၊ ထိုအခါ ဒကရက္ခိုသ်ကို ဘုရားလောင်းသည် သင်ကား ဤ ရေကန်၌ ဖြစ်သော ဒကရက္ခိုသ်လောဟု မေး၏၊ ဟုတ်၏ဟု ဒကရက္ခိုသ်ဆို၏၊ သင်ကား ရေကန်သို့ ဆင်းသက်သောသတ္တဝါတို့ကို ရသလောဟု မေး၏၊ရသည် မှန်၏၊ ငါကား ဤရေကန်သို့ သက်လတ်သော် အယုတ်သဖြင့် ငှက်ကိုအစပြု၍ တစုံတခုသောသတ္တဝါကို မလွတ်၊အလုံးစုံသော သင်တို့ကိုလည်း စားအံ့ဟုဆို၏၊ ငါတို့သည် ကိုယ်ကို သင့်အား စားစိမ့်သောငှါ မပေးကုန်ဟု ဘုရားလောင်း ဆို၏၊ သင်တို့သည် ရေကိုသောက်ကုန်အံ့လောဟု ဒကရက္ခိုသ်မေး၏၊ ငါတို့ သည် ရေကို သောက်ကုန်အံ့၊ ထိုသို့ သောက်ကုန်သော်လည်း သင့်နိုင်ငံသို့ မရောက်ကုန်လတ္တံ့ဟု ဘုရားလောင်းဆို၏၊ငါ့နိုင်ငံသို့ မရောက်ကုန်သည်ရှိသော် အသို့လျှင် ရေကို သင်တို့ သောက်ကုန်လတ္တံ့နည်းဟု ဒကရက္ခိုသ်ဆို၏၊ ရေကန် သို့သက်၍ ရေသောက်ကုန်လတ္တံ့ဟု အောက်မေ့မှတ်ထင်သလော၊ ရှစ်သောင်း ကုန်သော ငါတို့သည်လည်း ရေကန်သို့ မသက်ကုန်မူ၍ တချောင်းတချောင်း စီသော ကျူရိုးကို ယူကုန်၍ ကြာရိုးဖြင့် ရေကိုသောက်ကုန်သကဲ့သို့ သင့်ရေကန် မှ ရေကို သောက်ကုန်အံ့၊ ဤသို့ သောက်လတ်ကုန်သော ငါတို့ကို သင်သည် စားခြင်းငှါ မတတ်နိုင်လတ္တံ့ဟု ဘုရားလောင်း ဆို၏၊ ဤအနက်ကို သိစေ တော်မူ၍ သဗ္ဗညုမြတ်စွာဘုရားသည် ဘုရားဖြစ်တော်မူပြီး၍—

၂၁၊ ဒိသွာ ပဒမနုတ္တိဏ္ဏံ၊ ဒိသွာ နောတရိတံ ပဒံ။
နဠေန ဝါရိံ ပိဿာမ၊ နေဝ မံ တွံ ဝဓိဿသိ။

ဟူသော ဤဂါထာ၏ ရှေးနှစ်ပါဒကို ဟောတော်မူ၏။

ဘိက္ခဝေ၊ရဟန်းတို့။ ကပိရာဇာ၊မျောက်မင်းသည်။ တဿာပေါက္ခရဏိယာ၊ ထိုရေကန်၌။ ဥတ္တိဏ္ဏံ၊ တက်သော။ ပဒံ၊ ခြေရာကို။ အနဒိသွာ၊ မမြင်မူ၍။ ဩတရိတံ၊ သက်သော။ ပဒံ၊ ခြေရာကိုသာ။ ဒိသွာန၊ မြင်၍။ အယံ၊ ဤ ရေကန်ကား။ အဒ္ဓါ၊စင်စစ်။အမနုဿပရိဂ္ဂဟိတာတိ၊ဘီလူးစောင့်သော ရေကန်

တည်းဟု။ ဥတ္တ၊ သိ၍။ တေန၊ ထိုဘီလူးနှင့်။ သဒ္ဓိ၊ တကွ။ သလ္လပန္တော၊ စကားပြောဟောလျက်။နင္ဂုနေ၊ကျူရိုးဖြင့်။ ဝါရိ၊ ရေကို။ မယံ၊ငါတို့သည်။ ပိဿာမ၊ သောက်ကုန်အံ့။ ပိဝံ၊ဤသို့ကျူရိုးဖြင့် ရေကိုသောက်သော။သပရိသံ၊ ပရိသတ်နှင့် တကွသော။ မံ၊ ငါ့ကို။ တွံ၊ သင်သည်။ နေဝ ဝဓိဿသိ၊ မသတ်ရလတ္တံ့။ ဣတိ၊ ဤသို့။ အာဟ၊ ဆို၏။

ဘုရားလောင်းသည်ဤသို့ဆိုပြီး၍ တခုသော ကျူရိုးကိုယူစေ၍ ပါရမီတို့ကို ဆင်ခြင်၍ သစ္စာပြု၍ နှုတ်သီးဖြင့် မှုတ်၏၊ ကျူသည် အတွင်း၌ တစုံတခုသော အဆစ်ကို မကြွင်းစေမူ၍ အလုံးစုံသာလျှင် အခေါင်းရှိသည်ဖြစ်၏၊ဤအမှတ်ဖြင့် တပါးလည်းဖြစ်သော ကျူကိုဆောင်စေ၍ နှုတ်သီးဖြင့်မှုတ်၍မျှောက်အပေါင်း အားပေး၏၊ ဤသို့မှုတ်ရသည်ရှိသော် ပြီးစေခြင်းငှါမတတ်ကောင်း၊ ထိုကြောင့် ဤသို့ မယူလေအပ်၊ စင်စစ်သဖြင့် ဘုရားလောင်းသည် ဤရေကန်ကို ရံ၍ ရောက်ကုန်သော အလုံးစုံသော ကျူတို့သည်လည်း တပေါက်တည်းဖြစ်စေကုန် သတည်းဟု အဓိဋ္ဌာန်၏၊ ထိုစကားသည် မှန်၏၊ အစီးအပွားကိုဆောင်ရွက်သော ကျေးဇူး၏ များသည်၏ အဖြစ်ကြောင့် ဘုရားလောင်းတို့အား အဓိဋ္ဌာန်သည် ပြည့်စုံ၏၊ ထိုအခါမှစ၍ ထိုရေကန်ကိုရံ၍ရောက်ကုန်သော အလုံးစုံသောကျူရိုး တို့သည်လည်း တပေါက်တည်းသာ ရှိသည်ဖြစ်ကုန်၏၊ ထိုစကားသည်မှန်၏။

ဤ ဘဒ္ဒကပ်ကမ္ဘာ၌ တကမ္ဘာပတ်လုံး တည်ကုန်သော လေးပါးကုန်သော တန်ခိုးတို့သည် ရှိကုန်၏၊ ထိုလေးပါးကုန်သော တန်ခိုးတို့သည် အဘယ်သည်တို့နည်းဟူမူကား လ၌ ယုန်ရေးသည် အလုံးစုံသော ဘဒ္ဒကပ် ကမ္ဘာပတ်လုံး တည်လတ္တံ့၊ဝဋ္ဋကဇာတ်၌ မီးငြိမ်းရာ အရပ်ကို အလုံးစုံသော ဤဘဒ္ဒကပ်ကမ္ဘာပတ်လုံးလည်း မီးတို့သည်မလောင်ကုန် လတ္တံ့၊ ဃဋီကာရ၏ နေရာအရပ်သည် ဤအလုံးစုံသော ဘဒ္ဒကပ်ကမ္ဘာ ကပ်ပတ်လုံးလည်း မိုးမစွတ်သည်ဖြစ်၍ တည်လတ္တံ့၊ ဤရေကန်ကို ရံ၍ ရောက်ကုန်သောကျူတို့သည်လည်း အလုံးစုံသော ဘဒ္ဒကပ်ကမ္ဘာ ပတ်လုံးလည်း တခုသော အပေါက်ရှိသည် ဖြစ်ကုန်လတ္တံ့၊ဤလေးပါး တို့တည်း။

ဘုရားလောင်းသည် ဤသို့ အမိဋ္ဌာန်ပြီး၍ တခုသောကျူကို ယူ၍ နေ၏၊ ထိုရှစ်သောင်းကုန်သော မျောက်တို့သည်လည်း တခု တခုစီသော ကျူကို ယူကုန်၍ ရေကန်ကိုဝန်းရံ၍ နေကုန်၏၊ ဘုရားလောင်းသည် ကျူရိုးဖြင့်ငင်၍ ရေကိုသောက်သောကာလ၌ ထိုအလုံးစုံသောမျောက်တို့သည်လည်း ကမ်းနား၌ နေကုန်လျက် ရေကို သောက်ကုန်၏၊ ထိုသို့မျောက်တို့သည် ရေကိုသောက်ကုန်ပြီးသော် ဒကရက္ခိုသ်သည် တစုံတခုသော မျောက်ကို မရ၍ နှလုံးမသာ၍ မိမိနေရာသို့သာလျှင် ပြန်သွားလေ၏၊ ဘုရားလောင်းသည်လည်း ပရိသတ်တို့နှင့်တကွ တောသို့ ဝင်လေ၏။

**ဇာတ်ပေါင်း**....သဗ္ဗညုမြတ်စွာဘုရားသည်ကား ရဟန်းတို့ ဤကျူရိုးတို့၏ တခုတည်းသော အပေါက်ရှိသည်၏ အဖြစ်သည် ငါ၏သာလျှင် ရှေးအမိဋ္ဌာန်ကြောင့် ဖြစ်သတည်းဟု ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ အနုသန္ဓေကိုစပ်၍ ယခုအခါ ဒေဝဒတ်သည် ထိုအခါ ဒကရက္ခိုသ်ဖြစ်ဘူးပြီ၊ ယခုအခါငါဘုရား၏ ပရိသတ်သည် ထိုအခါ မျောက်မင်းပရိသတ်တို့သည် ဖြစ်ဘူးကုန်ပြီ၊ ယခုအခါ ငါဘုရားသည် ထိုအခါ မျောက်မင်း ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[ကျူ, လ, ဖုံး, အိမ်၊ ထုံးမတိမ်၊ ဘုန်းရှိန် ကမ္ဘာတည်]

ဆယ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော နဠကပါနဇာတ်သည် ပြီး၏။

---

## ၃—ကုရုင်္ဂဝဂ် ၂၁—ကုရုင်္ဂမိဂဇာတ်

### ဒေဝဒတ်အလောင်းသည် ဘုရားလောင်းအား သတ်ခြင်းငှါ ကြံသော်လည်း မကြံနိုင်သော အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့် တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "ဉာတမေတံ ကုရုင်္ဂဿ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤကုရုင်္ဂမိဂဇာတ်ကို ဝေဠုဝန်ကျောင်းတော်၌နေတော်မူစဉ် "ဒေဝဒတ်"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုစကားကို ချဲ့ဦးအံ့၊ တပါးသောအခါ တရားသဘင်၌ စည်းဝေးကုန်၍ ရဟန်းတို့သည် ငါ့သျှင်တို့ ဒေဝဒတ်သည် မြတ်စွာဘုရားအား သတ်ခြင်းအလို့ငှါ လေးသမားတို့ကို

စေလွှတ်၏၊ ကျောက်ကိုလှိမ့်၏၊ နေပါလဆင်ကိုလွှတ်၏၊ ခပ်သိမ်းသော အခြင်းအရာအားဖြင့် မြတ်စွာဘုရားအား သတ်ခြင်းငှါ လုံ့လပြု၏ဟု ဒေဝဒတ်၏ ကျေးဇူးမဲ့ကို ပြောဆိုလျက် နေကုန်၏၊ မြတ်စွာဘုရားသည် ကြွတော်မူ၍ ခင်းအပ်သောနေရာ၌ နေတော်မူလျက် ရဟန်းတို့ ယခုအခါ အဘယ်စကားဖြင့် စည်းဝေးကြကုန်သနည်းဟု မိန့်တော်မူ၏၊အရှင်ဘုရား ဒေဝဒတ်သည် အရှင်ဘုရားတို့အား သတ်ခြင်းငှါ လုံ့လပြု၏ဟု ဒေဝဒတ်၏ ကျေးဇူးမဲ့စကားဖြင့် စည်းဝေးကုန်၏ဟု လျှောက်ကုန်၏၊မြတ်စွာဘုရားသည် ရဟန်းတို့ ဒေဝဒတ်သည် ယခုသာလျှင် ငါ့အား သတ်ခြင်းငှါ လုံ့လပြုသည် မဟုတ်သေး၊ ရှေး၌လည်း လုံ့လပြုဘူးသည်သာလျှင်တည်း၊ ထိုသို့ လုံ့လပြုငြားသော်လည်း ငါ့ကို သတ်ခြင်းငှါ မတတ်နိုင်ဟု မိန့်တော်မူ၍ လွန်လေပြီးသော အကြောင်းကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုလတ်သော် ဘုရားလောင်းသည် ဆတ်မည်သော သားဖြစ်၍ တခုသောတောနေရာ၌ သစ်သီးကြီးငယ်တို့ကို စား၍နေ၏၊ ဘုရားလောင်းသည် တပါးသော ကာလ၌ အသီးနှင့်ပြည့်စုံသော ယမနေပင်၌ ယမနေသီးတို့ကိုစားလျက် သွား၏၊ ထိုအခါ တယောက်သော ရွာ၌နေသော လင့်စောင့်မုဆိုးသည် အသီးသီးသော သစ်ပင်ရင်းတို့၌ သားတို့၏ ခြေရာတို့ကို စုံစမ်း၍ သစ်ပင်ထက်၌ လင့်ဆောက်၍နေလျက် သစ်သီးစားအံ့သောငှါ လာကုန်သော သားတို့ကို လှံဖြင့်ထိုး၍ ရကုန်သောအသားတို့ကို ရောင်းလျက် အသက်မွေး၏၊ ထိုမုဆိုးသည် တနေ့သ၌ ထိုယမနေပင်ရင်း၌ ဘုရားလောင်း၏ ခြေရာကိုမြင်၍ ထိုယမနေပင်၌ လင့်ဆောက်၍ စောစောကလျှင် ထမင်းစား၍ လှံကိုယူ၍ တောသို့ဝင်၍ ထိုယမနေပင်သို့ တက်၍ လင့်၌နေ၏။

ဘုရားလောင်းသည်လည်း စောစောကလျှင် နေရာအရပ်မှ ထွက်၍ ယမနေသီးတို့ကို စားအံ့ဟု လာလတ်၍ ထိုယမနေပင်ရင်းသို့ အဆောတလျင် မဝင်မူ၍ ရံခါ လင့်၌နေသောမုဆိုးသည် သစ်ပင်တို့၌ လင့်ဆောက်၏၊ ဤသို့သဘောရှိသော ဥပဒ္ဒဝေါသည် ရှိသလောဟု စုံစမ်းလျက် အပ၌သာလျှင် ရပ်၏၊ မုဆိုးလည်း ဘုရားလောင်း မလာသည်၏ အဖြစ်ကိုသိ၍ လင့်၌နေ၍လျှင် ယမနေ

သီးတို့ကို ပစ်၍ ပစ်၍ ဘုရားလောင်း၏ရှေ့၌ကျစေ၏၊ ဘုရားလောင်း ဆတ်သည် ဤ ယမနေသီးတို့သည် လာ၍ ရှေ့၌ ကျကုန်၏၊ အထက်၌ မုဆိုးရှိသလောဟု အဖန်တလဲလဲ ကြည့်သည်ရှိသော် မုဆိုးကိုမြင်၍ မမြင်သကဲ့သို့ပြု၍ အိုယမနေပင် ရှေး၌ သင်သည် အောက်သို့ တွဲလွဲဆွဲလျက် ဆောင်သကဲ့သို့ ဖြောင့်တန်းစွာ လျှင် သစ်သီးတို့ကို ကျစေ၏၊ ယခုကား သင်သည် သစ်ပင်၏တရားကို စွန့်၏၊ ဤသို့ သင်သည် သစ်ပင်တရားကို စွန့်သည်ရှိသော် ငါလည်း တပါး သစ်ပင် ရင်းသို့ ကပ်၍ ငါ၏အာဟာရကို ရှာရအံ့ဟု ဆိုလို၍—

၂၁၊ ဉာတမေတံ ကုရုင်္ဂဿ၊ ယံ တွံ သေပဏ္ဏိ သိယျသိ။
အညံ သေပဏ္ဏိ ဂစ္ဆာမိ၊ န မေ တေ ရုစ္စတေ ဖလံ။

ဟူသော ဤဂါထာကို ရွတ်၏။

သေပဏ္ဏိ၊ ယမနေပင်။ တွံ၊ သင်သည်။ ယံ သိယျသိ၊ အကြင် ငါ့ရှေ့သို့ရှေး ရှု သစ်သီးတို့ကို ကျစေလျက်လိမ့်၏၊ တေ၊ ထိုအကြောင်းကို။ ကုရုင်္ဂဿ၊ ဆတ် သည်။ ဉာတံ၊ သိအပ်၏။ တနည်းကား တေ၊ ထိုအကြောင်းကို။ ကုရုင်္ဂဿ၊ ဆတ်အား။ ဉာတံ၊ ထင်ရှား၏။ မေ၊ ငါသည်။ တေ၊ သင်သစ်ပင်၏။ ဖလံ၊ အသီးကို။ န ရုစ္စတေ၊ မနှစ်သက်။ အဟံ၊ ငါသည်။ အညံ၊ တပါးသော။ သေပဏ္ဏိ၊ ယမနေပင်သို့။ ဂစ္ဆာမိ၊ သွားအံ့။

ထိုအခါ မုဆိုးသည် လင့်၌နေလျက်လှံကိုလွှတ်၍ သင်သည် သွားလေလော၊ ယခု သင့်ကို မထိုးမိ ချွတ်ယွင်း၏ဟု ဆို၏၊ ဘုရားလောင်းသည် ပြန်၍ရပ်လျက် အို-ယောကျာ်း ယခု ငါ့ကို အကယ်၍ကား ချွတ်ယွင်း၏၊ သို့ချွတ်ယွင်းငြားသော် လည်း ငရဲကြီး ရှစ်ထပ်တို့ကိုရင်း တဆယ့်ရှစ်ရပ်သော ဥဿဒရက် ငရဲတို့ကိုရင်း ငါးပါးအပြားရှိသော အနှောင်အဖွဲ့ အစရှိသည်တို့ကိုရင်း ညှဉ်းဆဲခြင်းတို့ကိုရင်း မချွတ်ယွင်းသည်သာလျှင်တည်းဟု ဆို၏၊ ဤသို့ ဆိုလျက်ပြေး၍ အလိုအား လျော်စွာ သွား၏၊ မုဆိုးလည်း ဆင်း၍ အလိုအားလျော်စွာ သွား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည်လည်း ရဟန်းတို့ ဒေဝဒတ်သည် ယခု သာလျှင် ငါ့အား သတ်ခြင်းငှါ လုံ့လပြုသည် မဟုတ်သေး၊ ရှေး၌လည်း ငါ့ အားသတ်ခြင်းငှါ လုံ့လပြုသည်သာလျှင်တည်း၊ ထိုသို့လုံ့လပြုငြားသော်လည်း

ငါ့ကို သတ်ခြင်းငှါ မတတ်နိုင်ဟု မိန့်တော်မူ၍ ဤ ဓမ္မဒေသနာကို ဆောင်၍ အနုသန္ဓေကိုစပ်၍ ယခုအခါ ဒေဝဒတ်သည် ထိုအခါ လင့်၌နေသောမုဆိုးဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါဆတ်မည်သော သားဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[လောင်းမြတ်ဗုဒ္ဓါ၊ သေစိမ့်ငှါ၊ ကြံရာမပြီး အချည်းနှီး]

ရှေးဦးစွာသော ကုရုင်္ဂမိဂဇာတ်သည် ပြီး၏။

---

## ၂၂—ကုက္ကုရဇာတ်

### ဆွေမျိုးတို့၏ အကျိုးကို သည်ပိုးဆောင်ရွက်ခြင်း အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**...နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "ယေ ကုက္ကုရာ"အစရှိသောဂါထာပုဒ်ဖြင့်တန်ဆာဆင်အပ်သော ဤကုက္ကုရဇာတ်ကို ဇေတဝန် ကျောင်းတော်၌ နေတော်မူစဉ် "အဆွေအမျိုးတို့၏အကျိုးကို ကျင့်ခြင်း"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုအကျင့်သည် "ဒွါဒသကနိပါတ်ဘဒ္ဒသာလဇာတ်"၌ ထင်စွာဖြစ်လတ္တံ့. ဤဝတ္ထုကိုကား ဖြစ်စေ၍လျှင် လွန်လေပြီးသော အကြောင်းကိုဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**...လွန်လေပြီးသောအခါဗာရာဏသီပြည်၌ဗြဟ္မဒတ်မင်းသည် မင်းပြုသည် ရှိသော် ဘုရားလောင်းသည် ထိုသို့ သဘောရှိသော ကံကိုစွဲ၍ ခွေးအမျိုး၌ ဖြစ်၍ များစွာသော ခွေးအပေါင်းခြံရံလျက် သုသာန်မ၌ နေ၏၊ ထိုအခါ တနေ့သ၌ မင်းသည် ကိုယ်လုံးဖြူသောသိန္ဓောမြင်းတို့ဖြင့် က,အပ်သော ခပ်သိမ်းသော တန်ဆာတို့ဖြင့် တန်ဆာဆင်အပ်သော ရထားကိုစီး၍ ဥယျာဉ်သို့ သွား၍ ဥယျာဉ်၌ နေ့အဘို့ပတ်လုံး ကစား၍ နေဝင်သည်ရှိသော် မြို့သို့ဝင်၏၊ မင်း၏ ရထားမြတ်ကို ထားမြဲတိုင်းသာလျှင် မင်းယင်ပြင်၌ ထားကုန်၏၊ ရထားသည် ညဉ့်၌ မိုဃ်းရွာသည်ရှိသော် စွတ်၏၊ နန်းပြာသာဒ်ထက်မှ မင်းမျိုးတို့သည် မွေးစားသော ခွေးတို့သည် ဆင်းသက်ကုန်၍ ရထားကာသော သားရေကိုရင်း ဖွဲ့သော သားရေလွန်ကိုရင်း စားကုန်၏၊ နက်ဖြန် နေ့၌ မင်းအား ရှင်မင်းကြီး ပြွန်ပေါက်မှ ခွေးတို့ဝင်ကုန်၍ ရထား၏ ကာသော သားရေကိုရင်း

ဖွဲ့သော သားရေလွန်ကိုရင်း စားကုန်၏ဟု လျှောက်ကုန်၏၊ မင်းသည် ခွေးတို့အား အမျက်ထွက်၍ မြင်တိုင်း မြင်တိုင်းသော အရပ်၌ ခွေးတို့ကို သတ်လေကုန်ဟု ဆို၏၊ ထိုအခါမှစ၍ ခွေးတို့အား ကြီးစွာသောပျက်စီးခြင်းသည် ဖြစ်၏၊ မြင်တိုင်း မြင်တိုင်းသော အရပ်၌ သတ်အပ်ကုန်သော ခွေးတို့သည် ပြေးကုန်၍ သုသာန်မသို့ သွား၍ ဘုရားအလောင်း၏ အထံသို့ လာကုန်၏။

ဘုရားလောင်းသည် များစွာကုန်သော သင်တို့သည် အဘယ်အကြောင်းကြောင့် စည်းဝေး ကုန်သနည်းဟု မေး၏၊ ခွေးတို့သည် နန်းတော်တွင်း၌ ရထား၏ ကာသော သားရေကိုရင်း ဖွဲ့သော သားရေလွန်ကိုရင်း ခွေးတို့သည် စားကုန်သတတ်ဟု အမျက်ထွက်၍ မင်းသည် ခွေးတို့ကို သတ်စိမ့်သောငှါ စေ၏၊ များစွာကုန်သော ခွေးတို့သည် ပျက်စီးကုန်၏၊ ကြီးစွာသော ဘေးဖြစ်၏ဟု ဆိုကုန်၏၊ ဘုရားလောင်းသည် မင်းစောင့်ရှောက်သော အရပ်၌ များစွာကုန်သော ခွေးတို့အား စားခွင့်သည် မရှိ၊ ထိုသားရေကို စားသော အမှုသည်ကား နန်းတော်တွင်း၌ မင်းမျိုးတို့သည် မွေးစားအပ်သောခွေးတို့၏ အမှုသည် ဖြစ်လတ္တံ့၊ ယခုကား ခိုးစားကုန်သော ခွေးတို့အား တစုံတခုသော ဘေးသည်မရှိ၊ မခိုးစားကုန်သော ခွေးတို့သာ သေရကုန်၏၊ ငါသည် ခွေး သူခိုးတို့ကို မင်းအားပြ၍ ဆွေမျိုး အပေါင်းတို့အား အသက်အလှူကို လှူရမူကားကောင်း၏ဟု ကြံ၍ ဘုရားလောင်းသည် အဆွေအမျိုးတို့ကို သက်သာရာရစေ၍ သင်တို့သည် မကြောက်ကုန်လင့်၊ ငါသည် သင်တို့အား ဘေးမဲ့ကို ဆောင်အံ့၊ အကြင်မျှလောက်သော ကာလပတ်လုံး ငါသည် မင်းကို ဖူးမြင်အံ့၊ ထိုမျှလောက်သော ကာလပတ်လုံး သင်တို့သည် ဤအရပ်၌လျှင် နေနှင့်ကြကုန်လောဟု ဆို၍ ပါရမီတို့ကို ဆင်ခြင်၍ မေတ္တာဘာဝနာကို ရှေ့သွားပြု၍ ငါ၏ ကိုယ်ပေါ်၌ ခဲကိုရင်း ဆောက်ပုတ်ကိုရင်း တစုံတယောက်သော သူသည် ပစ်ခြင်းငှါ မဝံ့စေသတည်းဟု အဓိဋ္ဌာန်၍ တကောင်တည်းလျှင် မြို့တွင်းသို့ ဝင်၏။

ထိုအခါ ဘုရားလောင်း ခွေးကို မြင်၍ တယောက်သော သတ္တဝါသည် အမျက်ထွက်၍ ကြည့်သောမည်သည်မရှိ၊ မင်းသည်လည်းခွေးတို့ကိုသတ်ခြင်းငှါ စေ၍ မိမိသည် ဆုံးဖြတ်ရာ အရပ်၌ နေ၏၊ ဘုရားလောင်းသည် ထိုအရပ်သို့

ပြေးသွား၍ မင်း၏ နေရာအောက်သို့ ဝင်၏၊ ထိုအခါ ဘုရားလောင်းခွေးကို မင်းချင်းတို့သည် ထုတ်အံ့သောငှါ အားထုတ်ကုန်၏၊ မင်းသည် မြစ်၏၊ ဘုရားလောင်းခွေးသည် အတန်ငယ် အပင်အပန်းဖြေ၍ နေရာအောက်မှ ထွက်ပြီးသော် မင်းကိုရှိခိုး၍ ရှင်မင်းကြီးတို့သည် ခွေးတို့ကို သတ်စေကုန်သလောဟုမေး၏၊ ငါသည် သတ်စေ၏ဟု ဆို၏၊ မင်းကြီး ခွေးတို့၏အပြစ်ကား အဘယ်နည်းဟု မေး၏၊ ရထားကို ကာရံသော သားရေကိုဂင်း ဖွဲ့သော သားရေလွန်ကိုဂင်း စားကုန်၏ဟု ဆို၏၊အကြင်ခွေးတို့သည် စားကုန်၏၊ ထိုခွေးတို့ကို သိပါသလောဟု မေး၏၊ မသိကုန်ဟု ဆို၏၊ မင်းကြီး ဤမည်သော ခွေးတို့သည် သားရေကို စားသော ခွေးသူခိုးတည်းဟု မှန်သောအားဖြင့် မသိမူ၍ မြင်တိုင်းမြင်တိုင်းသော အရပ်၌သာလျှင် သတ်စေခြင်းသည် မသင့်ဟု ဆို၏၊ ရထား၏ သားရေကို ခွေးတို့သည် စားကုန်သောကြောင့် မြင်တိုင်း မြင်တိုင်းသော အလုံးစုံသော ခွေးတို့ကို သတ်ကုန်လောဟု ခွေးတို့ကို သတ်စေခြင်းငှါ စေ၏၊ လူတို့သည် အလုံးစုံသောခွေးတို့ကိုလျှင် သတ်ကုန်သလော၊ ထိုသို့မဟုတ်မူ၍ မသေရကုန်သော ခွေးတို့သည် ရှိကုန်သလောဟု မေး၏၊ ရှိ၏ ငါတို့အိမ်၌ မင်းမျိုးတို့သည် မွေးစားအပ်သော ခွေးတို့သည် မသေရကုန်ဟု ဆို၏။

မင်းကြီး ယခုပင်လျှင် ရှင်မင်းကြီးတို့သည် ရထား၏ သားရေကို ခွေးတို့သည် စားကုန်သောကြောင့် မြင်တိုင်း မြင်တိုင်းကုန်သော ခပ်သိမ်းကုန်သော ခွေးတို့ကိုသတ်ကုန်လောဟု ခွေးတို့ကိုသတ်စိမ့်သောငှါစေ၏ဟူ၍ဆိုကုန်၏၊ ယခုပင်လျှင် ရှင်မင်းကြီးတို့၏အိမ်၌ မင်းမျိုးတို့သည် မွေးအပ်သော ခွေးတို့ကား မသေရကုန်ဟု ဆို၏၊ ဤသို့ ဖြစ်ကုန်သည်ရှိသော် ရှင်မင်းကြီးတို့သည် ဆန္ဒအစရှိသည်တို့၏ အစွမ်းအားဖြင့် အဂတိသို့ လိုက်ခြင်းသို့ ရောက်သည်မဟုတ်တုံလော၊ အဂတိသို့ လိုက်ခြင်းမည်သည်ကား မသင့်၊ မင်းကျင့်တရား မဟုတ်၊ မင်းမည်သည်ကား အကြောင်းဟုတ်သည် မဟုတ်သည်ကို ရှာတတ်သည့်ချိန်နှင့်တူသည်ဖြစ်သင့်၏၊ ယခုအခါ၌ မင်းမျိုးတို့သည် မွေးစားအပ်သောခွေးတို့ကား မသေရကုန်၊ အားနည်းသော ခွေးတို့သာ သေရကုန်၏၊ဤသို့ဖြစ်သည်ရှိသော် ဤခွေးသတ်ခြင်းသည်ကား အလုံးစုံသော ခွေးကို သတ်ခြင်းမဟုတ်၊ ဤခွေးသတ်ခြင်းသည် အားနည်းသော ခွေးတို့ကို သတ်ခြင်းမည်၏၊ ဤသို့ ဆိုပြီး၍

လည်း ဘုရားလောင်းသည် သာယာစွာသောအသံကိုမြွက်၍ ရှင်မင်းကြီး ရှင်မင်းကြီးတို့သည် အကြင်အမှုကို ပြုကုန်၏၊ ထိုအမှုကား တရားမဟုတ်ဟု မင်းအား တရားဟောလိုရကား—

၂၂၊ ယေ ကုက္ကုရာ ရာဇကုလမှိ ဝဒ္ဓါ။
ကောလေယျကာ ဝဏ္ဏဗလူပပန္နာ။
တေမေ န ဝဇ္ဈာ မယမသ္မ ဝဇ္ဈာ၊
နာယံ သဃစ္စာ ဒုဗ္ဗလဃာတိကာယံ။

ဟူသော ဤဂါထာကို ဆို၏။

ရာဇ၊ မင်းကြီး။ ယေကုက္ကုရာ၊အကြင်ခွေးတို့သည်။ရာဇကုလမှိ၊မင်းအိမ်၌။ ဝဒ္ဓါ၊ ကြီးကုန်၏။ ကောလေယျကာ၊ မင်းအိမ်၌ဖြစ်ကုန်၏။ ဝဏ္ဏဗလူပပန္နာ၊ အဆင်းအားနှင့် ပြည့်စုံကုန်၏။ တေ မေ-တေ ဣမေ၊ထိုခွေးတို့ကား။ န ဝဇ္ဈာ၊ မသတ်အပ်ကုန်သော ခွေးတို့တည်း။မယံ၊ငါတို့သည်သာ။ ဝဇ္ဈာ၊သတ်အပ်ကုန်သောခွေးတို့သည်။ အသ္မ၊ဖြစ်ကုန်၏။ အယံ သဃစ္စာ၊ ဤခွေးသတ်ခြင်းသည်။ န သဗ္ဗ သုန္ခသဃစ္စာ၊ အလုံးစုံသောခွေးတို့ကို သတ်ခြင်းမဟုတ်။ အယံ၊ ဤခွေးသတ်ခြင်းသည်။ ဒုဗ္ဗလဃာတိကာ၊အားနည်းသောခွေးတို့ကိုသာ သတ်ခြင်းမည်၏။

မင်းတို့မည်သည်ကား ခိုးသူတို့ကို နှိပ်စက်အပ်ကုန်၏၊ ခိုးသူမဟုတ်သော သူတို့ကို မနှိပ်စက်အပ်ကုန်၊ ဤအရာ၌ကား ခိုးစားကုန်သောခွေးတို့အား တစုံ တခုသောဘေးသည် မရှိ၊ မခိုးစားကုန်သော ခွေးတို့သာ သေရကုန်၏၊ အဲ့ဘွယ်ရှိစွ၊ ဤလောက၌ မသင့်မလျော်ခြင်းသည် ဖြစ်ခဲ၏ အံ့ဘွယ်ရှိစွ၊ ဤလောက၌ အဓမ္မသည် ဖြစ်ခဲ့၏ဟု ဘုရားလောင်းဆို၏၊ မင်းသည် ဘုရားလောင်းစကားကို နာရ၍ ပညာရှိ သင်သည် ဤမည်သော ခွေးတို့သည် ရထား၏ သားရေကို စားကုန်၏ဟု သိသလောဟု မေး၏၊ သိ၏ဟု ဆို၏၊ အဘယ် ခွေးတို့သည် စားသနည်းဟု မေး၏၊ ရှင်မင်းကြီးတို့၏ နန်းတော်၌ နေကုန်သော မင်းမျိုးတို့သည် မွေးစားအပ်ကုန်သောခွေးတို့သည် စားကုန်၏ဟု ဆို၏၊ ထိုခွေးတို့သည် စားသောအဖြစ်ကို အဘယ်အကြောင်းဖြင့် သိသနည်းဟုမေး၏၊ ငါသည်ထိုခွေးတို့စားသောအဖြစ်ကို ပြအံ့ဟု ဆို၏၊ ပညာရှိ ပြလောဟုဆို၏၊ ရှင်မင်းကြီးတို့အိမ်၌ မင်းမျိုးတို့သည် မွေးစားအပ်သော ခွေးတို့ကိုခေါ်စေ၍ အတန်ငယ်သော

ယက်တက်ကိုရင်း နေစာမြက်တို့ကိုရင်း ဆောင်စေကုန်လောဟု ဆို၏၊ မင်းသည် ဘုရားလောင်း ဆိုတိုင်း ပြု၏။

ထိုအခါ မင်းကိုဘုရားလောင်းသည်ဤမြက်တို့ကိုဆုံ၍ထောင်း၍ ယက်တက် ရည်ဖြင့် ဖျော်၍ ထိုခွေးတို့ကိုတိုက်ကုန်လောဟုဆို၏၊ မင်းသည် ဘုရားလောင်း ဆိုတိုင်း တိုက်၏၊ သောက်တိုင်း သောက်တိုင်းကုန်သော ခွေးတို့သည် သားရေ တို့နှင့်တကွ အန်ကုန်၏၊ မင်းသည် သဗ္ဗညု မြတ်စွာဘုရား၏ ဖြေခြင်းသည် ဖြစ်ပေ၏ဟု နှစ်သက်သည် ဖြစ်၍ ဘုရားလော င်းအား ထီးဖြူဖြင့် ပူဇော်၏၊ ဘုရားလောင်းသည်လည်း"မမ္ဗဒ္ဓရ မဟာရာဇ၊မာတာပိတူသုခတ္တိယ"အစရှိသော "တေသကုဏဇာတ်"*၌ လာကုန်သော မင်းကျင့်တရားကို ပြတတ်ကုန်သော ဆယ်ဂါထာတို့ဖြင့် မင်းအား တရားဟော၍ မင်းကြီး ဤအခါမှစ၍ မမေ့ မလျော့ဖြစ်လောဟုဆို၍ မင်းကို ငါးပါးကုန်သောသီလတို့၌ တည်စေ၍ ထီးဖြူ ကို မင်းအားသာလျှင် အပ်နှင်း၏၊ မင်းသည် ဘုရားလောင်း၏တရားစကားကို နာရ၍ ခပ်သိမ်းသော သတ္တဝါတို့အား ဘေးမဲ့ပေး၍ ဘုရားလောင်းကိုအစပြု၍ ခပ်သိမ်းသောခွေးတို့အား မိမိ၏ဘောဇဉ်နှင့်တူသည်သာလျှင်ဖြစ်သော နိစ္စဘတ် ကို ဖြစ်စေ၍ ဘုရားလောင်း၏အဆုံးအမ၌တည်လျက် အသက်ထက်ဆုံး တည်၍ ဒါနအစရှိသောကောင်းမှုတို့ကိုပြု၍စုတေသော် နတ်ပြည်၌ဖြစ်၏၊ဘုရားလောင်း ခွေးမင်း၏ အဆုံးအမတော်သည် အနှစ်တသောင်းနှစ်ထောင်တို့ပတ်လုံးတည်၏၊ ဘုရားလောင်း ခွေးမင်းသည်လည်း အသက်ထက်ဆုံးတည်၍ ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ရဟန်းတို့ ငါဘုရားသည် ယခုသာ လျှင် ဆွေမျိုးတို့၏အကျိုးစီးပွားကို ကျင့်သည်မဟုတ်သေး၊ ရှေး၌လည်း ကျင့် ဘူးသည်သာလျှင်တည်းဟု မိန့်တော်မူ၍ အနုသန္ဓေကိုစပ်၍ ယခုအခါ အာနန္ဒာ သည် ထိုအခါ မင်းဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရား ပရိသတ်တို့သည် ထိုအခါ ကြွင်းသောပရိသတ် ဖြစ်ဘူးကုန်ပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ခွေးပညာရှိ ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[ဆွေမျိုးတွက်တာ၊ တို့ဘုန်းလျှာ၊ ကျင့်ရှာခဲ့လေပြီ]

နှစ်ခုမြောက်သော ကုက္ကုရဇာတ်သည်ပြီး၏၊

---

* တေသကုဏဇာတ်သနိပါတ်မှ၊

## ၂၃—ဘောဇာဇာနီယဇာတ်

### တည်ရာကို မရအပ်သော အမှု၌လည်း ဝီရိယကို မလျှော့အပ်သော အကြောင်း

ပစ္စုပ္ပန်ဝတ္ထု....နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "အပိ ပဿေန သေမာနော" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤ ဘောဇာဇာနီယဇာတ်ကို ဇေတဝန်ကျောင်းတော်၌ နေတော်မူစဉ် "လျှော့သော ဝီရိယရှိသော တယောက်သောရဟန်း" ကို အကြောင်းပြု၍ဟောတော်မူ၏၊ ထိုစကားကိုခဲ့ဦးအံ့၊ ထိုအခါ မြတ်စွာဘုရားသည် ရဟန်းကို ခေါ်တော်မူ၍ ရဟန်း ရှေး၌လည်း ပညာရှိတို့သည် မိမိသည် တည်ရာကို မရအပ်သော အမှု၌ ဝီရိယကို ပြုကုန်၏၊ မြှားမှန်ကုန်လျက်လည်း ဝီရိယကို မလျှော့ကုန်သည် သာလျှင်တည်းဟု မိန့်တော်မူ၍ လွန်လေပြီးသော အကြောင်းကို ဆောင်တော်မူ၏။

အတိတ်ဝတ္ထု....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ဗြဟ္မဒတ်မင်းသည် မင်းပြုလတ်သည်ရှိသော် ဘုရားလောင်းသည် ဘောဇာဇာနီယသိန္ဓောမျိုး၌ ဖြစ်၍ ခပ်သိမ်းသော တန်ဆာတို့နှင့် ပြည့်စုံသော ဗာရာဏသီမင်း၏ မင်္ဂလာမြင်းတော် ဖြစ်၏၊ ထိုမြင်းသည် အဘိုးတသိန်း ထိုက်သော ရွှေခွက်၌လျှင် အထူးထူးသော အရသာတို့နှင့်ပြည့်စုံသော သုံးနှစ်ပတ်လုံး နှံ့သာတို့ဖြင့်ထုံအပ်သော မွှေးသော သလေးဘောဇဉ်ကိုစားရ၏၊နံ့သာမျိုးလေးပါးတို့ဖြင့်လိမ်းကျံအပ်သည်သာလျှင် ဖြစ်သော မြေ၌ နေရ၏၊ ထိုအရပ်ကို ကမ္ဗလာ တင်းတိမ်တို့ဖြင့် ကာရံစေ၏၊ အထက်၌ ရွှေကြယ်စီသော ပုဆိုးဗိတာန်ကို ကြက်၏၊ ထက်ဝန်းကျင်မှ ဆွဲအပ်သောနံ့သာဆိုင်းပန်းဆိုင်းလည်းရှိ၏၊မငြိမ်းစေအပ်သော ဆီမီးလည်းဖြစ်၏၊ဗာရာဏသီမင်းအဖြစ်ကိုကား မတောင့်တသောသူ မည်သည် မရှိ၊ တပါးသောအခါ၌ ခုနစ်ပြည်ထောင်သော မင်းတို့သည် ဗာရာဏသီပြည်ကို ရံ၍ ငါတို့အား မင်းအဖြစ်ကိုတည်း ပေးအံ့လော၊ စစ်ထိုးခြင်းကိုတည်း ပြုအံ့လောဟု ဗာရာဏသီမင်းအား အမှာစာ ပေးကုန်၏၊ မင်းသည် အမတ်တို့ကို စည်းဝေးစေ၍ ထိုအကြောင်းကို ကြား၍ အမောင်တို့ ယခု အသို့ ပြုကြကုန်အံ့နည်းဟု မေး၏၊ အရှင်မင်းကြီး ရှင်မင်းကြီးတို့သည် လက်ဦးစွာ အစ၌လျှင်

စစ်ထိုးခြင်းငှါ မသွားအပ်၊ ဤအမည်ရှိသော မြင်းစီးသူရဲကို စေ၍ စစ်ထိုးခြင်းကို ပြုစေကုန်လော၊ ထိုမြင်းစီးသူရဲ မတတ်နိုင်သည် ရှိသော် နောက်မှ သိရကုန်လတ္တံ့ဟု လျှောက်ကုန်၏၊ မင်းသည် ထိုမြင်းစီးသူရဲကို ခေါ်စေ၍ အမောင် ခုနစ်ပြည်ထောင်သော မင်းတို့နှင့် တကွ စစ်ထိုးခြင်းငှါ တတ်နိုင်လတ္တံ့လောဟု ဆို၏၊ ရှင်မင်းကြီး ဘောဇာဇာနီယ သိန္ဓောမြင်းကို အကယ်၍ ရသည် ဖြစ်အံ့၊ ခုနစ်ပြည်ထောင်သော မင်းကို ထားဘိဦး၊ အလုံးစုံသော ဇမ္ဗူဒိပ်မင်းတို့နှင့်လည်း စစ်ထိုးခြင်းငှါ တတ်နိုင်ပါလတ္တံ့ဟု ဆို၏၊ အမောင် မြင်းစီးသူရဲ ဘောဇာဇာနီယသိန္ဓောမြင်း သည်မူလည်း ဖြစ်စေ၊ တပါးသော မြင်းသည်မူလည်း ဖြစ်စေ၊ အကြင်မြင်းကို အလိုရှိသည် ဖြစ်၏၊ ထိုမြင်းကို ယူ၍ စစ်ထိုးခြင်းကို ပြုလောဟု ဆို၏။

ထိုမြင်းစီးသူရဲသည် ရှင်မင်းကြီး ကောင်းပြီဟု မင်းကိုရှိခိုး၍ ပြာသာဒ်မှ သက်၍ဘောဇာဇာနီယသိန္ဓောမြင်းကို ဆောင်၍ကောင်းစွာချပ်ကိုဖွဲ့၍ မိမိသည်လည်း ချပ်ဖြင့် ကောင်းစွာဖွဲ့လျက် သန်လျက်ကို လွယ်၍ သိန္ဓောမြင်းမြတ်၏ ကျောက်ကုန်းထက် စီးလျက် မြို့မှထွက်၍ လျှပ်စစ်နွယ်ကဲ့သို့ ပြိုးပြိုးပြက် သွားလျက် ရှေးဦးစွာသော ဗိုလ်စုကိုဖျက်၍ တယောက်သော မင်းကို အရှင် ဖမ်း၍ လျင်စွာ လာလတ်၍ မြို့သို့ ဗိုလ်ပါအား အပ်နှင်း၏၊ တဖန်သွား၍ နှစ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော ဗိုလ်စုကို ဖျက်၍ နှစ်ယောက်မြောက်သော မင်းကို အရှင်ဖမ်း၍ ထိုအတူ သုံးယောက်မြောက်သော မင်းကို အရှင်ဖမ်း၍ ဤနည်းဖြင့်သာလျှင် ငါးယောက်ကုန်သော မင်းတို့ကို အရှင်ဖမ်း၍ ခြောက်ခု တို့၏ ပြည့်ကြောင်းဖြစ်သော ဗိုလ်စုကို ဖျက်၍ ခြောက်ယောက်မြောက် မင်းကို ဖမ်းသောကာလ၌ ဘောဇာဇာနီယသိန္ဓောမြင်းသည် ဒဏ်ချက်ကို ရ၏၊ သွေး သည် ယို၏၊ အားကြီးကုန်သော ဝေဒနာတို့သည် ဖြစ်ကုန်၏၊ မြင်းစီးသူရဲသည် ထိုဘောဇာဇာနီယသိန္ဓောမြင်းအား မြှားမှန်သည်၏အဖြစ်ကိုသိ၍ ဘောဇာဇာ နီယသိန္ဓောမြင်းကို မင်းအိမ်တံခါး၌ အိပ်စေ၏၊ အနှောင်အဖွဲ့ကို လျှော့သည်ကို ပြု၍ တပါးသော မြင်းကို ချပ်တန်ဆာဖြင့် ဖွဲ့ခြင်းငှါ အားထုတ်၏၊ ဘုရား လောင်းသည် မြတ်သော နံပါးဖြင့် လျောင်းလျက်လျှင် မျက်စိတို့ကို ဖွင့်၍ မြင်းစီးသူရဲကို ကြည့်၍ ဤမြင်းစီးသူရဲသည် တပါးသော မြင်းကို ဖွဲ့၏၊

ဤမြင်းသည်လည်း ခုနစ်ခုမြောက်၏ ပြည့်ကြောင်းဖြစ်သော ဗိုလ်စုကို ဖျက်၍ ခုနစ်ယောက်မြောက်သော မင်းကို ဖမ်းခြင်းငှါ မတတ်နိုင်လတ္တံ့၊ ငါသည် ပြုအပ်သောအမှုသည်လည်း ပျက်လတ္တံ့၊ အတုမရှိသော မြင်းစီးသူရဲသည်လည်း ပျက်စီးလတ္တံ့၊ မင်းသည်လည်း သူ့လက်သို့ ရောက်လတ္တံ့၊ ငါ့ကိုထား၍ တပါးသောမြင်းသည် ခုနစ်ခုမြောက်ဖြစ်သော ဗိုလ်စုကိုဖျက်၍ ခုနစ်ယောက်မြောက်သော မင်းကို ဖမ်းခြင်းငှါ တတ်နိုင်သော မြင်းမည်သည် မရှိဟု လျောင်းလျက်လျှင် မြင်းစီးသူရဲကို ခေါ်၍ အချင်း မြင်းစီးသူရဲ ခုနစ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော ဗိုလ်စုကိုဖျက်၍ ခုနစ်ယောက်မြောက်သောမင်းကိုဖမ်းခြင်းငှါစွမ်းနိုင်သော မြင်းမည်သည် ငါ့ကိုထား၍ တပါးမရှိ သင်ပြုအပ်သောအမှုကို ငါသည် မပျက်စေအံ့၊ ငါ့ကို ထစေ၍ ဖွဲ့လောဟု ဆိုလို၍—

၂၃၊ အပိ ပဿေန သေမာနော၊ သလ္လေဘိ သလ္လလီကတော။
သေယျောဝ ဝဠဝါ ဘောဇ္ဈော၁၊ ယုဉ္ဇ မညေဝ သာရထိ။

ဟူသော ဤဂါထာကို ဆို၏။

သာရထိ၊ မြင်းစီးသူရဲ။ သလ္လေဘိ၊မြှားတို့သည်။ သလ္လလီကတော၊ စူးသည်ဖြစ်၍။ ပဿေန၊လကျ်ာနံပါးဖြင့်။ သေမာနောအပိ၊လျောင်းငြားသော်လည်း။ ဘောဇ္ဈော စ၊ ဘောဇာဇာနီယ သိန္ဓောမြင်းသည်သာလျှင်။ ဝဠဝါ၊မြင်းယုတ်ထက်။ သေယျော၊ မြတ်၏။ တသ္မာ၊ ထိုကြောင့်။ မညေဝ၊ ငါ့ကိုသာလျှင်။ ယုဉ္ဇ၊ ကလော့။

မြင်းစီးသူရဲသည် ဘုရားလောင်းကို ထစေ၍ မြှားမှန်ရာကို ဖွဲ့စည်း၍ ကောင်းစွာ ချုပ်တန်ဆာတို့ဖြင့် ဖွဲ့၍ မြင်း၏ ကျောက်ကုန်း၌ စီး၍ ခုနစ်ခုမြောက်သော ဗိုလ်စုကိုဖျက်၍ ခုနစ်ယောက်မြောက်သောမင်းကို အရှင်ဖမ်း၍ ဗိုလ်ပါအားပေးအပ်၏၊ဘုရားလောင်းကိုလည်း မင်းအိမ်တံခါးသို့ဆောင်ကုန်၏၊ မင်းသည် ဘုရားလောင်းကို ရှုအံ့သောငှါ ထွက်၏၊ ဘုရားလောင်းသည် မင်းကို မင်းကြီး ခုနစ်ပြည်ထောင်သောမင်းတို့ကို မသတ်ပါကုန်လင့်၊ သစ္စာရေတိုက်၍ လွှတ်တော်မူကုန်လော၊ အကျွန်ုပ်အားရင်း မြင်းစီးသူရဲအားရင်း ပေးအပ်သော အခြံအရံကို မြင်းစီးသူရဲအားသာ ပေးကုန်လော၊ ခုနစ် ပြည်ထောင်သော

---

၁၊ ဘောဇ္ဈော (သီ) ဇေါဇော (က)



၅၅၀-ပ၊ ဘောဇာဇာနီယဇာတ်

သေလုနီးပါးဒါဏ်ရာရလျက် ဝိရိယကိုမလျှော့ဘဲ တိုက်ပွဲဝင်ရန်ပြင်နေပုံ

မင်းတို့ကို ဖမ်း၍ပေးသော သူမည်သည်ကို ဖျက်ခြင်းငှါမသင့်၊ သင်မင်းကြီး တို့သည်လည်း အလှူပေးကုန်လော၊ သီလစောင့်ကုန်လော၊ တရားသဖြင့် မင်းပြု ကုန်လောဟု ဆို၏၊ဤသို့ ဘုရားလောင်းသည် မင်းအား အဆုံးအမပေးပြီးသည် ရှိသော် ဘုရားလောင်းအား ဖွဲ့အပ်သော ချုပ်တန်ဆာကို ဖြေကုန်၏၊ ဘုရား လောင်းသည် ချုပ်တန်ဆာကို ဖြေစဉ်လျှင် စုတိချုပ်၏၊မင်းသည် ဘုရားလောင်း ၏အလောင်းကို သင်္ဂြိုဟ်၍ မြင်းစီးသူရဲအား များစွာသော စည်းစိမ်ကိုပေး၍ ခုနစ်ပြည်ထောင်သော မင်းတို့ကို တဖန် မိမိအား မပြစ်မှားစိမ့်သောငှါ သစ္စာ ဆိုစေ၍ မိမိ့မိမိတို့၏နေရာအရပ်တို့သို့ ပို့စေ၍ တရားနှင့်ညီစွာမင်းပြု၍ အသက် ၏အဆုံး၌ ကံအားလျော်စွာ လား၏။

မြတ်စွာဘုရားသည် ရဟန်း ရှေး၌လည်း ပညာရှိတို့သည် မိမိသည်တည်ရာကို မရအပ်သောအမှု၌လည်း ဝီရိယကိုပြုကုန်၏၊ ဤသို့သဘောရှိသော မြွားမှန်ချက် ကိုရကုန်၍လည်း ဝီရိယကို မလျော့ကုန်၊ သင်သည်ကား ဤသို့ သဘောရှိသော ဝဋ်ဆင်းရဲမှ ထွက်မြောက်စေတတ်သော သာသနာတော်၌ ရဟန်းပြု၍ အဘယ့် ကြောင့် ဝီရိယကိုလျော့ဘိသနည်းဟု မိန့်တော်မူ၍ သစ္စာလေးပါးတို့ကိုပြတော် မူ၏၊ သစ္စာလေးပါးတို့ကို ပြတော်မူသည်၏ အဆုံး၌ လျော့သော ဝီရိယရှိသော ရဟန်းသည် အရဟတ္တဖိုလ်၌ တည်လေ၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည်လည်း ဤဓမ္မဒေသနာကို ဆောင်၍ အနုသန္ဓေကိုစပ်၍ ယခုအခါ အာနန္ဒာသည် ထိုအခါ မင်းဖြစ်၏၊ ယခုအခါ ရှင် သာရိပုတ္တရာသည် ထိုအခါ မြင်းစီးသူရဲ ဖြစ်၏၊ ယခုအခါ ငါဘုရားသည် ထို အခါ ဘောဇာဇာနီယသိန္ဓောမြင်းဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[ရှေးပညာရှင်၊ ပမာတင်၊ အစဉ်ဝီရိ၊ လုလ္လရှိလော့]

သုံးခုမြောက်သော ဘောဇာဇာနီယဇာတ်သည် ပြီး၏။

---

## ၂၄—အာဇည ဇာတ်

### ကြီးစွာသောဒဏ်ကို ခံရလျက် ဝီရိယကိုမလျော့သောအကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လူကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "ယဒါ ယဒါ" အစရှိသောဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်

သော ဤ အာဇညဇာတ်ကို ဇေတဝန်ကျောင်းတော်၌ နေတော်မူစဉ် "လျှော့သော ဝီရိယရှိသောရဟန်း"ကိုလျှင် အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုရဟန်းကို သဗ္ဗညုမြတ်စွာဘုရားသည်ခေါ်တော်မူ၍ ရဟန်း ရှေး၌ ပညာရှိတို့သည် မိမိသည် တည်ရာကို မရအပ်သောအမှု၌လည်း ရအပ်သော ဒဏ်ချက်ရှိကုန်လျက်လည်း ဝီရိယကို ပြုကုန်၏ဟု မိန့်တော်မူ၍ လွန်လေပြီးသော အကြောင်းကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မင်းသည် မင်းပြုလတ်သည်ရှိသော် ရှေးနည်းဖြင့်လျှင် ခုနစ်ပြည်ထောင်သောမင်းတို့သည် ရံကုန်၏၊ ထိုအခါ တယောက်သော ရထားစီးသူရဲသည် ညီနောင်ဖြစ်ကုန်သော သိန္ဓောမြင်း နှစ်စီးတို့ကို ရထား၌ က,၍ မြို့မှထွက်၍ ခြောက်ခုသောဗိုလ်စုကို ဖျက်ဆီး၍ ခြောက်ယောက်သော မင်းတို့ကို ဖမ်း၏၊ ထိုခဏ၌ အစ်ကိုမြင်းကြီးသည် ဒဏ်ချက်ကိုရ၏၊ ရထားထိန်းသည် ရထားကိုနှင်လျက် မင်းအိမ်တံခါးသို့လာ၍ မြင်းကြီးကို ရထားမှချွတ်၍ ဖွဲ့သော ချပ်တန်ဆာကို လျှော့၍ နံပါးတဘက်ဖြင့် လျောင်းစေ၍ တပါးသော မြင်းကိုဖွဲ့ခြင်းငှါ အားထုတ်၏၊ ဘုရားလောင်းသည် ရထားထိန်းကိုမြင်၍ ရှေးနည်းဖြင့်လျှင်ကြံ၍ ရထားထိန်းကိုခေါ်၍ လျောင်းလျက်သာလျှင်—

၂၄၊ ယဒါ ယဒါ ယတ္ထ ယဒါ၊ ယတ္ထ ယတ္ထ ယဒါ ယဒါ။
အာဇညော ကုရုတေ ဝေဂံ၊ တတ္ထ ဟာယန္တိ ဝါဠဝါ။

ဟူသော ဤဂါထာကို ဆို၏။

သာရထိ၊ ရထားထိန်း။ ယဒါ ယဒါ၊ အကြင် အကြင်သို့ သဘောရှိသော နံနက်အစရှိသော ကာလ၌။ ယတ္ထ၊ အကြင်သို့ သဘောရှိသောခရီး စစ်မြေဦး ဖြစ်သော အရပ်၌။ ယဒါ၊ အကြင်သို့သဘောရှိသော ခဏ၌။ ယတ္ထ ယတ္ထ၊ အကြင် အကြင်သို့ သဘောရှိကုန်သော စစ်ထိုးရာအရပ်တို့၌။ ယဒါ ယဒါ၊ အကြင် အကြင်သို့ သဘောရှိသော ဒဏ်ချက်ကို ရသော ကာလ, မရသော ကာလ၌။ အာဇညော၊ ရထားထိန်း၏ စိတ်နှစ်သက်သော အကြောင်းကို သိတတ်သော သဘောရှိပေသော သိန္ဓောမြင်းသာလျှင်။ ဝေဂံ၊ လုံ့လကို။ ကုရုတေ၊ ပြု၏။ တတ္ထ၊ ထိုလုံ့လပြုရာ၌။ ဝါဠဝါ၊ မြည်းမှဖြစ်ကုန်သော မြင်းယုတ်

တို့သည်။ ဟာယန္တိ၊ ယုတ်တတ်ကုန်၏။ တသ္မာ၊ ထို့ကြောင့်။ ဣမံသို့ ရထေ၊ ဤရထား၌။ မညေဝ၊ ငါ့ကိုသာလျှင်။ ယောဇေတိ၊ ကလော့။

ရထားထိန်းသည် ဘုရားလောင်းကို ထစေ၍ ရထား၌ ကပြီး၍ ခုနစ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော ဗိုလ်ထုကိုဖျက်၍ ခုနစ်ယောက်မြောက်သောမင်းကိုယူ၍ ရထားကိုနှင်လျက် မင်းအိမ်တံခါးသို့သွား၍ သိန္ဓောမြင်းကိုချွတ်၏၊ဘုရားလောင်းသည် နံပါးတဘက်ဖြင့် လျောင်းလျက် ရှေးနည်းဖြင့်သာလျှင် မင်းအား အဆုံးအမကိုပေး၍ စုတိချုပ်၏၊ မင်းသည် ဘုရားလောင်း၏ အလောင်းကိုသင်္ဂြိုဟ်၍ ရထားစီးသူရဲအား ဆုလာဘ်ကိုပေး၍ တရားနှင့်ညီစွာ မင်းပြု၍ ကံအားလျော်စွာ လား၏၊ မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကိုဆောင်တော်မူ၍ သစ္စာတို့ကို ပြတော်မူ၏၊ သစ္စာတို့ကို ပြတော်မူသည်၏အဆုံး၌ ထိုရဟန်းသည် အရဟတ္တဖိုလ်၌ တည်၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ယခုအခါ အာနန္ဒာသည် ထိုအခါ မင်းဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ သိန္ဓောမြင်း ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[ဇာနည်သိန္ဓဝ၊ ဝီရိယ၊ စံပြဥပမာ ကြိုးစားရာ]

လေးခုမြောက်သော အာဇညဇာတ်သည် ပြီး၏။

---

## ၂၅–တိတ္ထဇာတ်

### သူတပါး၏အလိုကို သိသဖြင့် မိမိအလိုသို့ ရောက်လွယ်သည့် အကြောင်း

**ပဉ္စမဝတ္ထု**....နတ်နှင့် တကွသော လူအပေါင်းကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "အညမညေဟိ တိတ္ထေဟိ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤတိတ္ထဇာတ်ကို ဇေတဝန်ကျောင်းတော်၌နေတော်မူစဉ် တရားစစ်သူကြီးဖြစ်သော အရှင်သာရိပုတ္တရာ၏ အတူနေတပည့်ဖြစ်သော တယောက်သော "ရွှေပန်းထိမ်သည့်သား ရဟန်း"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ အာသယာနုသယဉာဏ် [၁] သည် အကြင် အကြောင်းကြောင့်

---

၁၊ အလိုဆန္ဒနှင့် ဘဝအဆက်ဆက် ကိန်းစက်လာသော တရားကိုသိသောဉာဏ်။

ဘုရားတို့အားသာဖြစ်၏၊ တပါးကုန်သော သူတို့အားကား မဖြစ်၊ ထို့ကြောင့် တရားစစ်သူကြီးဖြစ်သော ရှင်သာရိပုတ္တရာမထေရ်သည် မိမိအား အာသယာနုသယဉာဏ်၏ မရှိသည်၏အဖြစ်ကြောင့် အတူနေတပည့်ရဟန်း၏ အလိုအာသယကို မသိသည်ဖြစ်၍ အသုဘကမ္မဋ္ဌာန်းကိုသာလျှင် ဟော၏၊ ထိုအသုဘကမ္မဋ္ဌာန်းသည် အတူနေ တပည့်ရဟန်းအား မလျောက်ပတ်၊ အဘယ့်ကြောင့် မလျောက်ပတ်သနည်းဟူမူကား ထိုရဟန်းသည် အစဉ်သဖြင့် ဘဝငါးရာတို့ပတ်လုံး ရွှေပန်းထိမ်သည် အိမ်၌သာလျှင် ပဋိသန္ဓေကို ယူ၏၊ ထိုသို့ အစဉ်သဖြင့် ဘဝငါးရာတို့ပတ်လုံး ရွှေပန်းထိမ်သည်အိမ်၌ ဖြစ်ရကား ထိုရဟန်း၏ အခါလေးမြင့် စင်ကြယ်စွာသော ရွှေကို မြင်ခြင်းကိုသာလျှင် လေ့လာဘူးသည်၏ အဖြစ်ကြောင့် အသုဘကမ္မဋ္ဌာန်းသည် မလျောက်ပတ်၊ ထိုရဟန်းသည် အသုဘကမ္မဋ္ဌာန်း၌ နိမိတ်မျှကိုလည်း ဖြစ်စေခြင်းငှါ မတတ်နိုင်သည်ဖြစ်၍ လေးလတို့ကို လွန်စေ၏။

အရှင်သာရိပုတ္တရာ မထေရ်သည် မိမိ၏ အတူနေ တပည့်ရဟန်းအား အရဟတ္တဖိုလ်ကို ရခြင်းငှါ မတတ်နိုင်သည်ဖြစ်၍ ဤရဟန်းသည် မချွတ် ဘုရားဆုံးမအပ်သော ရဟန်းဖြစ်လတ္တံ့ဟု မြတ်စွာဘုရား အထံတော်သို့ ဆောင်အံ့ဟုကြံ၍ စောစောကလျှင် ထိုရဟန်းကိုခေါ်၍ ဘုရားအထံတော်သို့ သွား၏၊ မြတ်စွာဘုရားသည်လည်း သာရိပုတ္တရာ အဘယ့်ကြောင့် ထိုရဟန်းကိုခေါ်၍ လာသနည်းဟု မေးတော်မူ၏၊ အရှင်ဘုရား အကျွန်ုပ်သည် ဤရဟန်းအား ကမ္မဋ္ဌာန်းကိုပေး၏၊ ဤရဟန်းသည် လေးလတို့ဖြင့် နိမိတ်မျှကိုလည်း မဖြစ်စေနိုင်၊ အကျွန်ုပ်သည် ဤရဟန်းကား ဘုရားဆုံးမတော်မူအပ်သော ရဟန်းသည် ဖြစ်လတ္တံ့ဟု ကြံ၍ အရှင်ဘုရားတို့၏ အထံသို့ခေါ်၍လာ၏ဟု လျှောက်၏၊ သာရိပုတ္တရာ သင်သည် အတူနေ တပည့်ရဟန်းအား အဘယ်ကမ္မဋ္ဌာန်းကို ပေးသနည်းဟု မေးတော်မူ၏၊ ဘုန်းတော်ကြီးမြတ်သော အရှင်ဘုရား အသုဘကမ္မဋ္ဌာန်းကို ပေး၏ဟု လျှောက်၏။

သာရိပုတ္တရာ သင်၏ သန္တာန်၌ အာသယာနုသယဉာဏ်သည်မရှိ၊ သင်သည် သွားလေ၊ ညချမ်းအခါမှ လာ၍ သင်၏ အတူနေ တပည့်ရဟန်းကို ခေါ်၍ သွားလောဟု မြတ်စွာဘုရားသည် အရှင်သာရိပုတ္တရာမထေရ်ကို လွှတ်လိုက်၍

ထိုရဟန်းအား နှစ်သက်ဘွယ်သော သင်္ကန်းကိုရင်း သင်းပိုင်ကိုရင်း ပေးစေ၍ ဤရဟန်းကို ခေါ်၍ ဆွမ်းအလို့ငှါဝင်၍ မြတ်သော ခဲဘွယ်ဘောဇဉ်ကို ပေး၍ များစွာသော ရဟန်းအပေါင်း ခြံရံလျက် တဖန် ကျောင်းသို့လာ၍ ဂန္ဓကုဋိ၌ နေ့အဘို့ကို ကုန်စေ၍ ညချမ်းအခါ၌ ထိုရဟန်းကိုခေါ်၍ ကျောင်းစဉ် လှည့်လည်လျက် သရက်ဥယျာဉ်၌ တခုသော လေးထောင့်ကန်ကို ဖန်ဆင်း၍ ထိုလေးထောင့်ကန်၌ ကြီးစွာသော ပဒုမာကြာရုံကို ဖန်ဆင်း၍ ထိုပဒုမာကြာရုံ၌လည်း ကြီးစွာသော တခုသော ပဒုမာကြာပွင့်ကိုဖန်ဆင်း၍ ပဒုမာကြာပွင့်ကို ကြည့်လျက် နေလေလောဟု နေစေ၍ ဂန္ဓကုဋိသို့ ဝင်တော်မူ၏၊ ထိုရဟန်းသည် ပဒုမာပွင့်ကို အဖန်တလဲလဲကြည့်၏၊ ပဒုမာကြာပွင့်သည် ထိုရဟန်း၏ရှုစဉ်လျှင် အိုခြင်းသို့ ရောက်၍ အဆင်းပျက်သည်ဖြစ်၏၊ ထိုပဒုမာကြာပွင့်၏ အစွန်းမှစ၍ ပွင့်ချပ်တို့သည် ကျကုန်လျက် ခဏခြင်းဖြင့် အလုံးစုံသော ပွင့်ချပ်တို့သည် ကြွေကုန်၏၊ ထိုနောင်မှ ဝတ်မှုံသည် ကြွေ၏၊ အချက်မျှသည်သာလျှင် ကြွင်း၏၊ ရဟန်းသည် ပဒုမာပွင့်ကိုကြည့်လျက် ပဒုမာကြာပွင့်သည် ယခုပင်လျှင် လှသော အဆင်းရှိ၏၊ ရှုဘွယ်ရှိ၏၊ ထိုသို့ဖြစ်လျက် ပဒုမာကြာ၏ အဆင်းသည် ဘောက်ပြန်၏၊ ပွင့်ချပ်တို့သည်ရင်း ဝတ်မှုံတို့သည်ရင်း ကြွေ၏၊ အချက်မျှသည် သာလျှင် ကြွင်း၏၊ ဤသို့ သဘောရှိသော ပဒုမာကြာဖြစ်လျက် အိုခြင်းသည် ရောက်တုံသေး၏၊ ငါ၏ ကိုယ်အားသော်ကား အဘယ့်ကြောင့် အိုခြင်းသည် မရောက်လတ္တံ့နည်း၊ ခပ်သိမ်းကုန်သော သင်္ခါရတို့သည် အမြဲ မရှိကုန်ဟု ဝိပဿနာကို ဖြစ်စေ၏၊ မြတ်စွာဘုရားသည် ထိုရဟန်း၏စိတ်သည် ဝိပဿနာသို့ တက်ပြီဟု သိတော်မူလျှင် အရောင် အဝါကို နှံ့စေ၍—

ဥစ္ဆိန္ဒ သိနေဟမတ္တနော၊ ကုမုဒံ သာရဒိကံဝ ပါဏိနာ။
သန္တိမဂ္ဂမေဝ ဗြူဟယ၊ နိဗ္ဗာနံ သုဂတေန ဒေသိတံ။

ဟူသော ဤဂါထာကို ဟောတော်မူ၏။

ဘိက္ခု၊ ရဟန်း။ သာရဒိကံ၊ တန်ဆောင်မုန်းလ၌ ပွင့်သော။ ကုမုဒံ၊ ကုမုဒြာ ကြာကို။ ပါဏိနာ၊ လက်ဖြင့်။ ဆိန္ဒတိ ဣဝ၊ ဖြတ်သကဲ့သို့။ အတ္တနော၊ မိမိ၏။ သိနေဟံ၊ ချစ်ခြင်းကို။ တွံ၊ သင်သည်။ ဥစ္ဆိန္ဒ၊ ဖြတ်လော့။ သုဂတေန၊ မြတ်စွာဘုရားသည်။ နိဗ္ဗာနံ၊ နိဗ္ဗာန်ကို။ ဒေသိတံ၊ ဟောတော်မူအပ်၏။ တွံ၊

သင်သည်။ သန္တိမဂ္ဂမေဝ၊ ငြိမ်းရာဖြစ်သော နိဗ္ဗာန်ခရီးကိုသာလျှင်။ ဗြူဟယ၊ ပွားစေလော။

ထိုရဟန်းသည် ဂါထာ၏အဆုံး၌ အရဟတ္တဖိုလ်သို့ရောက်၍ ငါသည် စင်စစ် ခပ်သိမ်းသော ဘဝမှ လွတ်၏ဟု ကြံ၍—

သော တုဋ္ဌဟဋ္ဌော ပရိပုဏ္ဏမာနသော၊
ခီဏာသဝေါ အန္တိမဒေဟဓာရီ။
ဝိသုဒ္ဓသီလော သုသမာဟိတိန္ဒြိယော၊
စန္ဒော ယထာ ရာဟုမုခါ ပမုတ္တော။
သမောတတံ [၁] မောဟမဟန္ဓကာရံ၊
ဝိနောဒယိံ သဗ္ဗမလံ အသေသံ။
အာလောကပဇ္ဇောတကရော [၂] ပဘင်္ကရော၊
သဟဿရံသီ ဝိယ ဘာဏုမာ နဘေ။

ဤသို့ အစရှိသော ဂါထာတို့ဖြင့် ဥဒါန်းကျူး၏။

ရာဟုမုခါ၊ရာဟုခံတွင်းမှ။ ပမုတ္တော၊လွတ်သော။ စန္ဒော ယထာ၊ လကဲ့သို့။ တုဋ္ဌဟဋ္ဌော၊ နှစ်သက်ရွှင်လန်းသော။ ပရိပုဏ္ဏမာနသော၊ ပြည့်စုံသောစိတ်ရှိသော။ ခီဏာသဝေါ၊ ကုန်ပြီးသော အာသဝေါရှိသော။ အန္တိမဒေဟဓာရီ၊ အဆုံးစွန်သော ကိုယ်ကိုဆောင်သော။ ဝိသုဒ္ဓသီလော၊ အထူးသဖြင့် စင်ကြယ်သောသီလရှိသော။သုသမာဟိတိန္ဒြိယော၊ ကောင်းစွာတည်ကြည်သော ဣန္ဒြေရှိသော။ သော ဘိက္ခု၊ ထိုရဟန်းသည်။ မောဟမဟန္ဓကာရံ၊ မောဟဟူသော ကြီးစွာသော အမိုက်မှောင်ကို။ သမောတတံ၊ ဖြန့်အပ်သည်ဖြစ်၍။ သဗ္ဗမလံ၊ အလုံးစုံသော အညစ်အကြေးကို။ အသေသံ၊ အကြွင်းမဲ့။ ဝိနောဒယိံ၊ ဖျောက်ပြီ။ နဘေ၊ ကောင်းကင်၌။ သဟဿရံသီ၊ အထောင်သော ရောင်ခြည်ရှိသော။ ဘာဏုမာ၊ နေမင်းသည်။ ပဘင်္ကရော ဝိယ၊ အရောင်ကို ပြုသကဲ့သို့။ သော ဘိက္ခု၊ ထိုရဟန်းသည်။ အာလောကပဇ္ဇောတကရော၊ အလင်းရောင်ကို ပြု၏။

၁၊ သမောကတံ(သျာ)၊ သမ္ဗာဟတံ(က) ၂၊ အာလောကမုဇ္ဇောတကရော (သီ၊ သျာ)

ဥဒါန်းကျူးပြီးလျှင် သွား၍ မြတ်စွာဘုရားကို ရှိခိုး၏၊ ရှင်သာရိပုတ္တရာ မထေရ်သည်လည်း လာ၍ မြတ်စွာဘုရားကို ရှိခိုး၍ မိမိ၏အတူနေ တပည့် ရဟန်းကို ခေါ်၍ သွား၏၊ ဤအကြောင်းသည် ရဟန်းတို့၏အတွင်း၌ ထင်ရှား ဖြစ်၏၊ ရဟန်းတို့သည် တရားသဘင်၌ ငါ့သျှင်တို့ ရှင်သာရိပုတ္တရာမထေရ်သည် အာသယာနုသယဉာဏ်၏ မရှိခြင်းကြောင့် မိမိအတူနေ တပည့်ရဟန်း၏ အလိုကို မသိနိုင်၊ မြတ်စွာဘုရားသည်ကား သိတော်မူ၍ တနေ့ခြင်းဖြင့်လျှင် ထိုရဟန်း အား ပဋိသမ္ဘိဒါတို့နှင့်တကွ အရဟတ္တဖိုလ်ကို ပေးတော်မူ၏၊ ဘုရားတို့မည် သည်ကား ကြီးသော အာနုဘော်ရှိကုန်၏ဟု မြတ်စွာဘုရား၏ ကျေးဇူးတော်ကို ချီးမွမ်းကုန်လျက် နေကုန်၏၊ မြတ်စွာဘုရားသည် ကြွလာတော်မူ၍ ခင်းအပ် သော နေရာ၌ နေတော်မူ၍ ရဟန်းတို့ ယခုအခါ၌ အဘယ်စကားဖြင့် စည်းဝေး ကြကုန်သနည်းဟု မေးတော်မူ၏၊ ဘုန်းတော်ကြီးမားသော အရှင်ဘုရား တပါး သောစကားဖြင့် မစည်းဝေးပါကုန်၊ အရှင်ဘုရားတို့၏သာလျှင် တရားစစ်သူကြီး ဖြစ်သော အရှင်သာရိပုတ္တရာ၏ အတူနေ တပည့်ရဟန်း၏ အလိုအာသယကိုသိ သော ဉာဏ်၏စကားဖြင့် စည်းဝေးကြကုန်၏ဟု လျှောက်ကုန်၏၊မြတ်စွာဘုရား သည် ရဟန်းတို့ ငါသည် ဘုရားဖြစ်တော်မူ၍ ထိုရဟန်း၏ အလို အာသယ အကြောင်း အခြင်းအရာကို သိတော်မူ၏၊ ထိုသိခြင်းသည် အံ့ဘွယ်မရှိသေး၊ ရှေး၌လည်း ငါဘုရားသည် ထိုရဟန်း၏ အလိုကိုသိသည် သာတည်းဟု မိန့်တော် မူ၍ လွန်လေပြီးသော အကြောင်းကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည် သောမင်းသည် မင်းပြု၏၊ ထိုအခါ ဘုရားလောင်းသည် မင်းအား အကျိုးကို ၎င်း အကြောင်းကို၎င်း ဆုံးမ၏၊ ထိုအခါ မင်း၏ မင်္ဂလာမြင်း၏ ရေချိုးဆိပ်၌ တပါးသော မြည်းတို့၏ အမျိုးဖြစ်သော မြင်းယုတ်ကို ရေချိုးကုန်၏၊ မင်္ဂလာ မြင်းသည် မြင်းယုတ်ကို ရေချိုးသောဆိပ်သို့ သက်ခြင်းကို စက်ဆုပ်သည်ဖြစ်၍ သက်ခြင်းကို အလိုမရှိ၊ မြင်းထိန်းသည်သွား၍ အရှင်မင်းကြီး မင်္ဂလာမြင်းသည် ရေဆိပ်သို့ သက်ခြင်းငှါ အလိုမရှိဟု မင်းအားလျှောက်၏၊ မင်းသည် ပညာရှိ သွားချေ၊ မင်္ဂလာမြင်းသည် ရေဆိပ်သို့ ချသည်ရှိသော် အဘယ့်ကြောင့် မသက်သနည်း စုံစမ်းချေလောဟု ဘုရားလောင်းကို ဆို၏၊ ဘုရားလောင်း

သည် ရှင်မင်းကြီး ကောင်းပြီဟု မြစ်နားသို့ သွား၍ မြင်းကိုကြည့်၍ မြင်း၏ ရောဂါ မရှိသည်ကိုသိ၍ အဘယ့်ကြောင့် ဤမြင်းသည် ရေဆိပ်သို့ မသက် သနည်းဟု စုံစမ်းလျက် ဤရေဆိပ်၌ ရှေးဦးစွာ တပါးသောမြင်းကို ရေချိုး သည် ဖြစ်လတ္တံ့၊ ထို့ကြောင့် ဤမြင်းသည် စက်ဆုပ်သည်ဖြစ်၍ ရေဆိပ်သို့ မသက်ယောင်တကားဟု ကြံ၍ အချင်းတို့ ဤရေဆိပ်၌ ရှေးဦး အဘယ်မြင်းကို ရေချိုးကုန်သနည်းဟု မြင်းထိန်းတို့ကိုမေး၏၊ အရှင် မထင်ရှားသော မြင်းယုတ် တို့ကို ရေချိုးကုန်၏ဟု ဆို၏၊ ဘုရားလောင်းသည် ဤမင်္ဂလာမြင်းသည် မိမိ၏ သိန္ဓောမျိုး၌ ဖြစ်သည်၏အဖြစ်ကြောင့် စက်ဆုပ်သည်ဖြစ်၍ ဤဆိပ်၌ ရေချိုး ခြင်းငှါ အလိုမရှိ၊ မင်္ဂလာမြင်းကို တပါးသောဆိပ်၌ ရေချိုးခြင်းငှါ သင့်၏ဟု ထိုမြင်း၏ အလိုကိုသိ၍ အချင်း မြင်းထိန်း ရှေးဦးစွာ တပါးသောဆိပ်သို့ချ၍ လည်း ရေချိုးစေကုန်လော၊ သောက်လည်း သောက်စေကုန်လောဟု ဆိုလို၍—

၂၅၊ အညမညေဟိ တိတ္ထေဟိ၊ အဿံ ပါယေဟိ သာရထိ။
အစ္စာသနဿ သုဟိတော၊ ပါယာသဿပိ တပ္ပတိ။

ဟူသော ဤဂါထာကို ဆို၏။

သာရထိ၊ မြင်းထိန်း။ အစ္စာသနဿ-အစ္စာသနေန၊ အလွန်စားသော။ ပါယာသဿပိ-ပါယာသေနပိ၊ ဃနာထမင်းဖြင့်လည်း။ သုဟိတော၊ ဝသည် ဖြစ်၍။ တပ္ပတိ၊ ရောင့်ရဲ၏။ အညမညေဟိ၊ တပါး တပါးကုန်သော။ တိတ္ထေ ဟိ၊ ရေဆိပ်တို့ဖြင့်။ အဿံ၊ မင်္ဂလာမြင်းကို။ ပါယေဟိ၊ ချိုးစေ သောက်စေ လော။

မြင်းထိန်းတို့သည် ဘုရားလောင်း၏စကားကို ကြားကုန်၍ မင်္ဂလာမြင်းကို တပါးသော ဆိပ်သို့ချ၏၊ သောက်လည်း သောက်စေကုန်၏၊ ချိုးလည်းချိုးစေ ကုန်၏၊ ဘုရားလောင်းသည် မင်္ဂလာမြင်းသည် ရေသောက်ပြီး၍ ရေချိုးသော ကာလ၌ မင်း၏အထံသို့ သွား၏၊ အမောင် အသို့နည်း၊ မင်္ဂလာမြင်းသည် ချိုးလည်း ချိုး၏၊ သောက်လည်း သောက်၏လောဟု မေး၏၊ ရှင်မင်းကြီး ချိုးလည်း ချိုး၏၊ သောက်လည်း သောက်၏ဟု လျှောက်၏၊ ရှေးဦးစွာ အဘယ့်ကြောင့် ချိုးခြင်း သောက်ခြင်းငှါ အလိုမရှိသနည်းဟု မေးလေ၏၊

ဤမည်သော အကြောင်းကြောင့်ပါတည်းဟု အလုံးစုံကို လျှောက်၏။မင်းသည် ဤသို့ သဘောရှိသော တိရစ္ဆာန်၏ အလိုကို စင်လျက်လည်း သိနိုင်၏၊ ပညာရှိစွ တကားဟု ဘုရားလောင်းအား ကြီးစွာသော စည်းစိမ်တို့ကို ပေး၍ အသက်၏ အဆုံး၌ ကံအားလျော်စွာ လား၏၊ ဘုရားလောင်း သည်လည်း ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ရဟန်းတို့ ငါသည် ယခုသာလျှင် ဤရဟန်း၏ အလိုကို သိသည် မဟုတ်သေး၊ ရှေး၌လည်း သိသည်သာလျှင် တည်းဟု မိန့်တော်မူ၍ ဤဓမ္မဒေသနာကို ဆောင်၍ အနုသန္ဓေကို စပ်၍ ယခုအခါ ဤရဟန်းသည် ထိုအခါ မင်္ဂလာမြင်း ဖြစ်ဘူးပြီ၊ ယခုအခါ၌ အာနန္ဒာသည် ထိုအခါ မင်းဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ပညာရှိ အမတ်ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[အလိုဆန္ဒ၊ သိလတ်က၊ မုချအမှန် အကျိုးသန်]
ငါးခုမြောက်သော တိတ္ထဇာတ်သည် ပြီး၏။

---

## ၂၆—မဟိဠာမုခဇာတ်

### မြင်တိုင်း မြင်တိုင်းသောသူတို့ကို ဆည်းကပ်၍ အကျင့်သီလ ပျက်စီးသည်၏ အကြောင်း

**ပေါရာဏံ စောရာနံ**....နတ်နှင့်တကွသောလူအပေါင်းကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "ပုရာဏ စောရာန ဝစော နိသမ္မ" အစရှိသော ဂါထာပုဒ်ဖြင့်တန်ဆာဆင်အပ်သောဤမဟိဠာမုခဇာတ်ကို ဝေဠုဝန်ကျောင်း၌ နေတော်မူစဉ် "ဒေဝဒတ်"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ဒေဝဒတ်သည် အဇာတသတ် မင်းသားကို ကြည်ညိုစေ၍ လာဘ် ပူဇော်သကာကို ဖြစ်စေ၏၊ အဇာတသတ် မင်းသားသည် ဒေဝဒတ်အား ဂယာသီသ၌ ကျောင်းဆောက်၍ အထူးထူးသော မြတ်သော အရသာတို့ဖြင့် သုံးနှစ်ပတ်လုံး ထုံအပ်သော မွှေးကြိုင်သော သလေး ဘောဇဉ်၏ ဆွမ်းအိုး ငါးရာတို့ကို နေ့တိုင်း နေ့တိုင်း ပို့စေ၏၊ လာဘ် ပူဇော် သက္ကာကို မှီ၍ ဒေဝဒတ်အား အခြံအရံ များ၏၊

ဒေဝဒတ်သည်အခြံအရံနှင့်တကွကျောင်း၌သာလျှင်နေ၏၊ထိုအခါရာဇဂြိုဟ်ပြည်၌ နေကုန်သော အဆွေခင်ပွန်း နှစ်ယောက်တို့သည် ရှိကုန်၏၊ ထိုနှစ်ယောက်တို့တွင် တယောက်သော အဆွေခင်ပွန်းသည် မြတ်စွာဘုရားအထံ၌ ရဟန်းပြု၏၊ တယောက်သော အဆွေ ခင်ပွန်းသည် ဒေဝဒတ်၏ အထံ၌ ရဟန်းပြု၏၊ ထိုနှစ်ယောက်သော ရဟန်းတို့သည် အချင်းချင်း ထိုအရပ်၌လည်း မြင်ကုန်၏၊ ကျောင်းသို့ သွားကုန်၍လည်း မြင်ကုန်သလျှင်ကတည်း။

ထိုအခါတနေ့သ၌ဒေဝဒတ်၏တပည့်သည်ဘုရားတပည့်ကိုဆို၏၊ငါ့သျှင်သည် နေ့တိုင်း နေ့တိုင်း ချွေးကို ထွက်ယိုစေလျက် ဆွမ်းအလို့ငှါ အဘယ့်ကြောင့် သွားသနည်း၊ ဂယာသီသ၌ နေ၍လျှင် အထူးထူးသော အရသာ တို့ဖြင့် ကောင်းသော ဘောဇဉ်ကို စားလော၊ ဤသို့သဘောရှိသော ဃနာဆွမ်းသည် မရှိ၊ သင်သည် အယ့်ကြောင့် ဆင်းရဲကို ခံဘိသနည်း၊ သင်သည် စောစော ကလျှင် ဂယာသီသသို့ သွား၍ ဟင်းလျာနှင့် တကွသော ယာဂုကို သောက်၍ တဆယ့်ရှစ်ပါး အပြားရှိသောဘောဇဉ်ကိုစား၍ အထူးထူးသောအရသာတို့ဖြင့် ကောင်းသော ဘောဇဉ်ကို စားခြင်းငှါ မသင့်လောဟု ဆို၏၊ ထိုရဟန်းသည် အဖန်တလဲလဲဆိုလတ်သည်ရှိသော် သွားလိုသည်ဖြစ်၍ထိုနေ့မှစ၍ ဂယာသီသသို့ သွား၍စားပြီးသော်စောစောကလျှင်ဝေဠုဝန်ကျောင်းသို့လာ၏၊ထိုရဟန်းသည် ခပ်သိမ်းသောကာလ၌ ဖုံးလွှမ်းအုံ့သောငှါ မတတ်နိုင်၊ ဂယာသီသသို့ သွား၍ ဒေဝဒတ်အား တည်သောဆွမ်းကို စား၏ဟု မကြာမြင့်မီလျှင် ထင်ရှား၏။

ထိုအခါ ထိုရဟန်းကို အဆွေခင်ပွန်း ရဟန်းတို့သည် ငါ့သျှင် သင်သည် ဒေဝဒတ်အား တည်သောဆွမ်းကိုစားသတတ်ဟူသည်မှန်သလောဟုမေးကုန်၏၊ အဘယ်သူသည် ဤသို့ ဆိုသနည်းဟု ဆို၏၊ ဤမည်သော သူလည်း ဆို၏၊ ဤမည်သောသူလည်းဆို၏ဟု ဆိုကုန်၏၊ငါ့သျှင်တို့မှန်ပေ၏၊ငါသည် ဂယာသီသသို့သွား၍ စား၏၊ ငါ့အား ဒေဝဒတ်သည် ဆွမ်းကို မပေး၊ တပါးကုန်သော သူတို့သည် ပေးကုန်၏ဟု ဆို၏၊ ငါ့သျှင် ဒေဝဒတ်သည် ဘုရား၏ ဆန့်ကျင်ဘက် ဆူးငြောင့်ဖြစ်၏၊ သီလမရှိ၊ အဇာတသတ်မင်းကို ကြည်ညိုစေ၍ အဓမ္မဖြင့် မိမိအား လာဘ် ပူဇော်သက္ကာကို ဖြစ်စေ၏၊ သင်သည် ဤသို့ သဘောရှိသော ဝဋ်ဆင်းရဲမှထွက်မြောက်စေတတ်သောသာသနာတော်၌ရဟန်းပြု၍ ဒေဝဒတ်၏

အစမ္မဖြင့် ဖြစ်သော ဘောဇဉ်ကို အဘယ့်ကြောင့် စားဘိသနည်း၊ လာလော သင့်ကို ဘုရားအထံသို့ ဆောင်ကုန်အံ့ဟု ထိုရဟန်းကို ခေါ်၍ တရားသဘင်သို့ သွားကုန်၏။

မြတ်စွာဘုရားသည်မြင်တော်မူ၍လျှင် ရဟန်းတို့အား အဘယ့်ကြောင့် အလို မရှိသည်သာလျှင်ဖြစ်သော ထိုရဟန်းကိုခေါ်၍ လာကြကုန်သနည်းဟု မိန့် တော်မူ၏၊ အရှင်ဘုရား ဟုတ်၏၊ ဤရဟန်းသည် အရှင်ဘုရားတို့၏ အထံ၌ ရဟန်းပြု၍ ဒေဝဒတ်၏ အစမ္မဖြင့်ဖြစ်သော ဘောဇဉ်ကို စား၏ဟု လျှောက်ကုန် ၏၊ ရဟန်း သင်သည် ဒေဝဒတ်၏ အစမ္မဖြင့်ဖြစ်သောဆွမ်းကို စားသတတ်ဟူ သည် မှန်သလောဟု မိန့်တော်မူ၏၊ အရှင်ဘုရား ဒေဝဒတ်သည် အကျွန်ုပ်အား မပေး၊ တပါးကုန်သော သူတို့သည် ပေးကုန်၏၊ ထိုဆွမ်းကို အကျွန်ုပ်သည် စား၏ဟု လျှောက်၏၊ မြတ်စွာဘုရားသည် ရဟန်း သင်သည် ဤဒေဝဒတ်၏ ဆွမ်းကို စားရာ၌ ရှောင်လွှဲခြင်းကို မပြုလင့်၊ ဒေဝဒတ်သည် အကျင့်မရှိ၊ သီလ မရှိ၊ အသို့မူ၍လျှင် သင်သည် ရဟန်းပြု၍ ငါဘုရား၏ သာသနာတော်သို့ ဝင် လျက်လျှင် ဒေဝဒတ်၏ ဆွမ်းကိုစားဘိသနည်း၊ အခါခပ်သိမ်းလည်း သင်သည် မြင်တိုင်း မြင်တိုင်းလျှင် ဖြစ်ကုန်သောသူတို့သို့ ဆည်းကပ်ဘူး၏ဟု မိန့်တော်မူ၍ လွန်လေပြီးသော အကြောင်းကို ဆောင်တော်မူ၏။

**အတိတ် ဝတ္ထု**...လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မင်း သည် မင်းပြုသည် ရှိသော် ဘုရားလောင်းသည် ထိုမင်း၏ အမတ်ဖြစ်၏၊ထိုအခါ မင်းအား မဟိင်္ဂ္ဃမုခမည်သော မင်္ဂလာဆင်သည် ရှိ၏၊ သီလရှိ၏၊ အကျင့်နှင့် ပြည့်စုံ၏၊ တစုံတယောက်သောသူကို မညှဉ်းဆဲ၊ ထိုအခါ တနေ့သ၌ ထိုဆင်၏ တင်းကုပ်အနီး ညဉ့်အတွင်း၌ ခိုးသူတို့သည် လာကုန်၍ ထိုဆင်၏အနီး၌ နေ ကုန်လျက် ခိုးသူတို့၏ စိုင်ပင်ခြင်းကို တိုင်ပင်ကြကုန်၏၊ ဤသို့ ဥမင်ကို တူးအပ် ၏၊ ဤသို့ ခြံစပ်ဖြတ်ခြင်းအမှုကို ပြုအပ်၏၊ ဥမင်ကိုရင်း ခြံစပ်ဖြတ်ရာကိုရင်း ခရီးနှင့်တူစွာ ရေဆိပ်နှင့်တူစွာ အမှိုက်မရှိ ချုံမရှိသည်ကိုပြု၍ ဥစ္စာကို ခိုးခြင်း ငှါ သင့်၏၊ ခိုးသောသူသည် သတ်၍သာလျှင် ခိုးအပ်၏၊ ဤသို့ ခိုးသည်ရှိသော် ထားခြင်းငှါ စွမ်းနိုင်သော သူမည်သည် မဖြစ်လတ္တံ့၊ ခိုးသောသူ မည်သည်ကို

မသိလတ္တံ့၊ အကျင့်နှင့်ယှဉ်သည် မဖြစ်ရာ၊ ရှန့်ရင်းသည်ရင်း ကြမ်းကြုတ်သည် ရင်း နိုင်ထက်မှုတတ်သည်ရင်း ဖြစ်ရာ၏၊ ဤသို့ ခိုးသူတို့၏ တိုင်ပင်ခြင်းကို တိုင် ပင်ကုန်၏၊ ဤသို့ တိုင်ပင်၍ အချင်းချင်းသင်၍ သွားကြကုန်၏။

ဤသို့သော နည်းဖြင့်လျှင် နက်ဖြန် နေ့၌ရင်း တိုင်ပင်ကုန်၏၊ ဤသို့ များ သောနေ့တို့၌ ထိုအရပ်သို့လာ၍ တိုင်ပင်ကုန်၏၊ ထိုမင်္ဂလာဆင်သည် ထိုခိုးသူ တို့၏စကားကိုကြား၍ ငါ့ကို ထိုသူတို့သည် သင်ကုန်၏ဟူသောအမှတ်ဖြင့် ယခု ငါသည် ရှန့်ရင်းကြမ်းကြုတ်စွာ နှိပ်စက်တတ်သည် ဖြစ်ရာ၏၊ ဤသို့ နှလုံး သွင်းခြင်းကို ပြု၍ ထိုသို့သဘောရှိသည်ဖြစ်၏၊ စောစောကလျှင် လာသော ဆင်ထိန်းကို နှာမောင်းဖြင့်ယူ၍ မြေ၌ ပုတ်သတ်၏၊ တယောက်သော ဆင်ထိန်း ကိုလည်း ထို့အတူ သတ်၏၊ဤသို့ လာတိုင်း လာတိုင်းကုန်သော ဆင်ထိန်းတို့ကို သတ်လေသလျှင်ကတည်း၊ မဟိဠာမုခဆင်သည် ရူးသည်ဖြစ်၏၊ မြင်တိုင်းမြင် တိုင်းသောသူကို သတ်၏ဟု မင်းကြီးအား ကြားကုန်၏၊ မင်းသည် ဘုရား လောင်းကို ပညာရှိ သွားချေ၊ အဘယ်အကြောင်းကြောင့် ထိုဆင်သည် ပျက် စီးလေသနည်း စုံစမ်းချေလောဟူ၍ စေ၏၊ ဘုရားလောင်းသည် သွား၍ ထို ဆင်၏ကိုယ်၌ ရောဂါမရှိသည်၏အဖြစ်ကိုသိ၍ အဘယ်အကြောင်းကြောင့်လျှင် ဤဆင်သည် ပျက်စီးသနည်းဟု စုံစမ်းသည်ရှိသော် စင်စစ် အနီး၌ တစုံ တယောက်သောသူတို့၏ စကားကိုကြား၍ ငါ့ကို ထိုသူတို့သည် သင်ကုန်၏ဟူ သောအမှတ်ဖြင့် ပျက်စီးဘိ၏ဟု ဆုံးဖြတ်ခြင်းကို ပြု၍ ဆင်ထိန်းတို့ကို ဆင် တင်းကုပ်၏အနီး၌ ညဉ့်အခါ၌ တစုံတယောက်သော သူတို့သည် တစုံတခုသော စကားကို ဆိုဘူးကုန်သလောဟု မေး၏၊ အရှင် ဆိုဘူး၏၊ ခိုးသူတို့သည် လာ ကုန်၍ ဆိုကုန်၏ဟု ဆို၏။

ဘုရားလောင်းသည် သွား၍ ရှင်မင်းကြီး ဆင်၏ကိုယ်၌ တစုံတခုသော ဖောက်ပြန်ခြင်းသည် မရှိ၊ ခိုးသူတို့၏စကားကိုကြား၍ ပျက်စီး၏ဟု မင်းအား ကြားလျှောက်၏၊ ယခု အသို့ပြုအံ့သောငှါ သင့်သနည်းဟု ဆို၏၊ သီလရှိသော ရဟန်းပုဏ္ဏားတို့ကို ဆင်တင်းကုပ်၌ နေစေ၍ သီလအကျင့်စကားကို ပြောဆို ခြင်းငှါ သင့်၏ဟု ဆို၏၊ အမောင် ဤသို့ပြုလောဟု ဆို၏၊ ဘုရားလောင်းသည် သီလရှိသော ရဟန်း ပုဏ္ဏားတို့ကို ဆင်တင်းကုပ်၌ နေစေ၍ အရှင်ဘုရားတို့

သီလအကျင့်စကားကို ပြောဆိုကြကုန်လော့ဟု ဆို၏၊ ထိုရဟန်း ပုဏ္ဏားတို့သည် ဆင်တင်းကုပ်၏ အနီး၌ နေကုန်လျက် တစုံတယောက်သောသူတို့ကို မှားသော အားဖြင့် မသုံးသပ်အပ်၊ သီလအကျင့်နှင့် ပြည့်စုံသည် ခန္တီ မေတ္တာ ကရုဏာနှင့် ယှဉ်သည်ဖြစ်ခြင်းငှါသင့်၏ဟု သီလစကားကိုပြောဆိုကုန်၏၊ထိုမင်္ဂလာဆင်သည် ထိုစကားကို ကြား၍ ငါ့ကို ထိုသူတို့သည် သင်ကုန်၏၊ ယနေ့မှစ၍ ငါသည် သီလရှိသည် ဖြစ်ရာ၏ဟု နှလုံးသွင်း၍ သီလရှိသည် ဖြစ်၏၊ မင်းသည် ဘုရား လောင်းကို အမောင် ဆင်သည် သီလရှိသည် ဖြစ်ပြီလော့ဟု မေး၏၊ ဘုရားလောင်းသည် ရှင်မင်းကြီး သီလရှိသည် ဖြစ်ပြီ၊ ဤသို့ သဘောရှိသော ပျက်စီးပြီးသော ဆင်သည် ပညာရှိတို့ကို မှီ၍ ရှေးဖြစ်သော အကျင့်တရား၌ သာလျှင် တည်၏ဟု ဆိုလို၍—

၂၆၊ ပုရာဏစောရာန ဝစော နိသမ္မ၊ မဟိဠာမုခေါ ပေါထယ မန္ဝစာရီ။
သုသညတာနံ ဟိ ဝစော နိသမ္မ၊ ဂဇုတ္တမော သဗ္ဗဂုဏေသု အဋ္ဌာ။

ဟူသော ဤဂါထာကို ဆို၏။

မဟာရာဇ၊မင်းကြီး။ မဟိဠာမုခေါ၊ ဆင်မ၏မျက်နှာနှင့်တူသောဆင်သည်။ ပုရာဏ၊ရှေးမဆွက။ စောရာနံ၊ ခိုးသူတို့၏။ ဝစော၊စကားကို။ နိသမ္မ၊ကြား၍။ ပေါထယံ-ပေါထယန္တော၊ ပုတ်သတ်လျက်။ အနွစာရီ၊ အတုလိုက်၍ ကျင့်၏။ ဂဇုတ္တမော၊ မဟိဠာမုခဆင်မြတ်သည်။ သုသညတာနံ ဟိ၊ကောင်းစွာ ကိုယ်နှုတ် နှလုံးကို စောင့်ရှောက်ကုန်သောရဟန်းပုဏ္ဏားတို့၏သာလျှင်။ ဝစော၊စကားကို။ နိသမ္မ၊ကြား၍။ သဗ္ဗဂုဏေသု၊ခပ်သိမ်းကုန်သော ကျေးဇူးတို့၌။အဋ္ဌာ၊တည်၏။

မင်းသည် တိရစ္ဆာန်၏ အလိုကိုလည်း သိပေ၏ဟု ဘုရားလောင်းအား ကြီးစွာသော စည်းစိမ်ကို ပေး၏၊ ထိုမင်းသည် အသက်ထက်ဆုံး တည်၍ ဘုရားလောင်းနှင့်အကွ ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း**...မြတ်စွာဘုရားသည် ရဟန်း ရှေး၌လည်း သင်သည် မြင် တိုင်း မြင်တိုင်းကုန်သောသူတို့ကိုသာလျှင် ဆည်းကပ်ဘတ်၏၊ခိုးသူတို့၏ စကား ကို ကြား၍ ခိုးသူတို့သို့ ဆည်းကပ်၏၊တရားကိုစောင့်ကုန်သော သူတို့၏စကားကို ကြား၍ တရားစောင့်သောသူတို့သို့ ဆည်းကပ်ဘူး၏ဟု ဤ ဓမ္မဒေသနာကို

ဆောင်၍ အနုသန္ဓေကို စပ်၍ ယခုအခါ ဆန့်ကျင်ဘက် အပေါင်းအဘော်ကို မှီဝဲသော ရဟန်းသည် ထိုအခါ မဟိဠာမုခဆင်ဖြစ်ဘူးပြီ၊ ယခုအခါ အာနန္ဒာသည် ထိုအခါ မင်းဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ အမတ်ပညာရှိ ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[မြင်တွေ့ရာရာ၊ ဆည်းကပ်ပါ၊ မဂ်လာ မုခ မဟိဠ]

ခြောက်ခုတို့၏ ပြည့်ကြောင်းဖြစ်သော မဟိဠာမုခဇာတ်သည် ပြီး၏။

---

## ၂၇–အဘိဏှဇာတ်

### လွန်စွာ အကျွမ်းဝင်ကြသော တိရစ္ဆာန်နှစ်ခုတို့၏ အကြောင်း

ပစ္စုပ္ပန်ဝတ္ထု....နှတ်နှင့်တကွသော လူကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် “နာလံ ကဗဠံ ပဒါတဝေ” အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤအဘိဏှဇာတ်ကို ဇေတဝန်ကျောင်းတော်၌ နေတော်မူစဉ် တယောက်သော “သီတင်းသည်”ကိုရင်း“မထေရ်ကြီး”ကိုရင်းအကြောင်း ပြု၍ ဟောတော်မူ၏၊သာဝတ္ထိပြည်၌နှစ်ယောက်ကုန်သောအဆွေခင်ပွန်းတို့သည် ရှိကုန်သတတ်၊ ထိုနှစ်ယောက်ကုန်သော အဆွေခင်ပွန်းတို့တွင် တယောက်သော အဆွေ ခင်ပွန်းသည် ရဟန်းပြု၍ တယောက်သော အဆွေခင်ပွန်း၏ လူ၏ အိမ်သို့ နေ့တိုင်း နေ့တိုင်း သွား၏၊ အဆွေခင်ပွန်းဖြစ်သော သီတင်းသည်သည် အဆွေခင်ပွန်း ရဟန်းအား ဆွမ်းကိုလှူ၍ မိမိလည်း စား၍ ထိုရဟန်းနှင့်တကွ ကျောင်းသို့ သွား၍ နေဝင်သည် တိုင်အောင် ရှေးဦးစွာ ပြောခြင်း အတုံ့ ပြောခြင်းဖြင့် နေ၍ မြို့သို့ ဝင်၏၊ အဆွေခင်ပွန်း ရဟန်းသည်လည်း ထိုအဆွေ ခင်ပွန်း သီတင်းသည်ကို မြို့တံခါးတိုင်အောင် ပို့လိုက်၍ ပြန်ခဲ့၏၊ ရဟန်းလူတို့၏ ထိုအကျွမ်းဝင်ခြင်းသည် ရဟန်းတို့ အတွင်း၌ ထင်ရှား၏၊ ထိုအခါ တနေ့သ၌ ရဟန်းတို့သည် ထိုရဟန်းလူတို့၏ အကျွမ်းဝင်ခြင်းကို ပြောဆိုကုန်လျက် တရား သဘင်၌ နေကုန်၏၊ မြတ်စွာဘုရားသည် ကြွတော်မူ၍ ရဟန်းတို့ ယခုအခါ သင်တို့သည် အဘယ်စကားဖြင့် စည်းဝေးကြကုန်သနည်းဟု မေးတော်မူ၏၊ ထိုရဟန်းတို့သည် အရှင်ဘုရား ဤမည်သောစကားဖြင့် စည်းဝေးပါကုန်၏ဟု နားတော်လျှောက်ကုန်၏၊ မြတ်စွာဘုရားသည် ရဟန်းတို့ ဤရဟန်းလူတို့သည်

ယခုသာလျှင် အကျွမ်းဝင်သည် မဟုတ်သေး၊ ရှေး၌လည်း အကျွမ်းဝင်ဘူး ကုန်သည်သာလျှင်တည်းဟု မိန့်တော်မူ၍ လွန်လေပြီးသော အကြောင်းကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုလတ်သော် ဘုရားလောင်းသည် ထိုမင်း၏အမတ်ဖြစ်၏၊ ထိုအခါ တခုသော ခွေးသည် ဆင်တင်းကုပ်သို့ သွား၍ မင်္ဂလာဆင်၏စားရာ အရပ်၌ ကျကုန်သော ထမင်းလုံးတို့ကို စား၏၊ ထိုခွေးသည် အစာကြောင့် အဆွေခင်ပွန်းဖွဲ့လျက် မင်္ဂလာဆင်အား အကျွမ်းဝင်သည်ဖြစ်၍ ဆင်၏အထံ၌ သာလျှင် စား၏၊ နှစ်ခုကုန်သော သတ္တဝါတို့သည် ကင်း၍နေခြင်းငှါ မတတ်နိုင်ကုန်၊ မင်္ဂလာဆင်သည် ခွေးကို နှာမောင်းဖြင့် ယူ၍ တပြောင်းပြန်ပြန်ကစား၏၊ မြှောက်၍ ဦးကင်း၌ တင်၏၊ ထိုအခါ တနေ့သ၌ တယောက်သော ရွာ၌နေသော သူသည် ဆင်ထိန်းအား အဘိုးပေး၍ ထိုခွေးကိုယူ၍ မိမိရွာသို့သွား၏၊ ထိုအခါမှစ၍ မင်္ဂလာဆင်သည် ခွေးကိုမမြင်သည်ဖြစ်၍ စားလည်းမစား သောက်လည်း မသောက် ရေလည်းမချိုး ထိုအကြောင်းကို မင်းအား ကြားလျှောက်ကုန်၏၊ မင်းသည် ဘုရားလောင်းကို ပညာရှိ သွားချေ အဘယ့်ကြောင့် ဆင်သည် ဤသို့ ပြုသနည်းဟု စုံစမ်းချေလောဟု စေ၏။

ဘုရားလောင်းသည် ဆင်တင်းကုပ်သို့ သွား၍ ဆင်၏ နှလုံးမသာသည်၏ အဖြစ်ကိုသိ၍ ဤဆင်၏ ကိုယ်၌ ရောဂါသည်မထင်၊ ထိုဆင်အား တစုံတခုသော သတ္တဝါနှင့်တကွ မိတ်ဖွဲ့သည်ဖြစ်ရာ၏၊ ဤမင်္ဂလာဆင်သည် အကျွမ်းဝင်သော သတ္တဝါကို မမြင်ရ၍ စိုးရိမ်ခြင်း နှိပ်စက်လေယောင် တကားဟု နှလုံးသွင်း၍ ဆင်ထိန်းတို့ကို ဤဆင်အား တစုံတခုသော သတ္တဝါနှင့် အကျွမ်းဝင်သည် ရှိသလောဟု မေး၏၊ အရှင် ရှိ၏၊ တခုသော ခွေးနှင့်တကွ အားကြီးစွာသော ချစ်ခြင်းသည် ဖြစ်၏ဟု ဆို၏၊ ထိုခွေးသည် ယခု အဘယ်မှာနည်းဟု မေး၏၊ တယောက်သော လူသည် ဆောင်အပ်၏ဟု ဆို၏၊ ထိုသူ၏ နေရာအရပ်ကို သိကြကုန်၏လောဟု မေး၏၊ အရှင် အကျွန်ုပ်တို့ မသိကုန်ဟု ဆို၏၊ ဘုရားလောင်းသည် မင်းအထံသို့သွား၍ ရှင်မင်းကြီး မင်္ဂလာဆင်အား တစုံတခုသောအနာ

မြတ်သောမင်းကြီး သင်မင်းကြီးသည် စစ်မြေ၏ အရာကိုရင်း၊ အထောင်ကိုရင်း၊ အသိန်းကိုရင်း အောင်သဖြင့် ကိလေသာတို့ကို မအောင်သည်၏အဖြစ်ကြောင့် မကောင်းသဖြင့် အောင်အပ်သည်သာ ဖြစ်၏၊ ငါသည်ကား ငါ၏ ကိုယ်တွင်း၌ လောဘကို နှိပ်နင်းလျက် ကိလေသာတို့ကို အောင်ပြီဟု ဘုရားလောင်း ဆို၏၊ ဤသို့ဆိုလျက်သာလျှင် မြစ်ကြီးကို ကြည့်၍ အာပေါကသိုဏ်းလျှင် အာရုံရှိသော ဈာန်ကို ဖြစ်စေ၍ ရောက်သော အာနုဘော် ရှိသည်ဖြစ်၍ ကောင်းကင်၌ နေပြီးလျှင် မင်းအား တရားဟောလိုရကား—

၇၀၊ န တံ ဇိတံ သာဓု ဇိတံ၊ ယံ ဇိတံ အဝဇီယတိ။
တံ ခေါ ဇိတံ သာဓု ဇိတံ၊ ယံ ဇိတံ နာဝဇီယတိ။

ဟူသော ဤဂါထာကို ဆို၏။

ယံ ဇိတံ၊ အကြင် အောင်ခြင်းကို။ အဝဇီယတိ၊ ရန်သူတို့သည် တဖန် အောင်အပ်၏။ တံ ဇိတံ၊ ထိုအောင်ခြင်းသည်။ န သာဓု ဇိတံ၊ ကောင်းသော အောင်ခြင်းမမည်။ ယံ ဇိတံ၊ အကြင် အောင်ခြင်းကို၊ နာဝဇီယတိ၊ ရန်သူသည် တဖန် မအောင်အပ်။ တံ ခေါ ဇိတံ၊ ထိုအောင်ခြင်းသည်သာလျှင်။ သာဓု ဇိတံ၊ ကောင်းသော အောင်ခြင်းမည်၏။

မင်းအား တရားကို နာစဉ်လျှင် တဒင်္ဂပဟာန် အစရှိသည်တို့၏ အစွမ်းအားဖြင့် ကိလေသာတို့သည် ပျောက်ကုန်၏၊ ရဟန်းပြုခြင်းငါ စိတ်သည်ညွတ်၏၊ မင်း၏ ဗိုလ်ပါတို့အားလည်း ထိုအတူသာလျှင် ကိလေသာတို့သည် ပျောက်ကုန်၏၊ မင်းသည် ယခုအခါ သင်တို့သည် အဘယ်သို့ သွားကုန်အံ့နည်းဟု ဘုရားလောင်းကို မေး၏၊ မြတ်သောမင်းကြီး ဟိမဝန္တာသို့ ဝင်ပြီးလျှင် ရသေ့ရဟန်းပြုအံ့ဟု ဆို၏၊ ထိုသို့တပြီးကား ငါသည်လည်း ရဟန်းပြုအံ့ဟု ဘုရားလောင်းနှင့် တကွသာလျှင် လိုက်၏၊ ဗိုလ်ပါတို့သည်ရင်း ပုဏ္ဏား သူကြွယ်တို့သည်ရင်း အလုံးစုံသော စစ်သည် တို့သည်ရင်း ဤသို့လျှင် ထိုခဏ၌ စည်းဝေးသော အလုံးစုံသော လူအပေါင်းသည် မင်းနှင့်တကွ ထွက်၏။

ဗာရာဏသီပြည်၌ နေကုန်သော သူတို့သည် ငါတို့မင်းကြီးသည် ကုဒ္ဒါလပဏ္ဍိတ၏ ဓမ္မဒေသနာကို နာရ၍ ရဟန်းအဖြစ်သို့ ရှေးရှုသည်ဖြစ်၍ ဗိုလ်ပါနှင့်

တကွ တောထွက်ပြီ၊ ငါတို့သည် ဤအရပ်၌ အဘယ်ပြုအံ့နည်းဟု တဆယ့်နှစ်ယူဇနာရှိသော သူတို့သည် ထွက်ကုန်၏၊ တဆယ့်နှစ်ယူဇနာရှိသော ပရိသတ်သည် ဖြစ်၏၊ ထိုပရိသတ်တို့ကိုယူ၍ ဘုရားလောင်းသည် ဟိမဝန္တာသို့ ဝင်၏၊ ထိုခဏ၌ သိကြား နတ်မင်း၏ နေရာ ပဏ္ဍုကမ္ဗလာသည် ပူသော အခြင်းအရာကို ပြ၏၊ ထိုအခါ သိကြားမင်းသည် ဆင်ခြင်လတ်သည်ရှိသော် ကုဒ္ဒါလပဏ္ဍိတသည် မြတ်သော တောထွက်ခြင်းဖြင့် ထွက်၏ဟုမြင်၍ များစွာသော အစည်းအဝေးသည် ဖြစ်လတ္တံ့၊ နေရာအရပ်ကို ရခြင်းငှါ သင့်၏ဟု နှလုံးသွင်း၍ ဝိသုကြုံနတ်သားကိုခေါ်ပြီးလျှင် အမောင်ဝိသုကြုံနတ်သားကုဒ္ဒါလပဏ္ဍိတသည် မြတ်သော တောထွက်ခြင်းဖြင့် ထွက်၏၊ မနေရာ အရပ်ကို ရခြင်းငှါ သင့်၏၊ သင်သည် ဟိမဝန္တာသို့ သွား၍ ညီညွတ်သော မြေအဘို့၌ အလျား ယူဇနာသုံးဆယ်, အနံ တဆယ့်ငါးယူဇနာရှိသော ရသေ့တို့၏နေရာအရပ်ကိုဖန်ဆင်းချေလောဟုဆို၏။

ထိုဝိသုကြုံနတ်သားသည် အရှင်မင်းကြီး ကောင်းပြီဟုဝန်ခံ၍ သွားပြီးလျှင် သိကြားမင်းဆိုတိုင်း ပြု၏၊ ဤသို့ ဆိုခဲ့ပြီးသော စကားသည် ဤကုဒ္ဒါလပဏ္ဍိတဇာတ်၌ အကျဉ်းသာတည်း၊ အကျယ်သည်ကား "ဟတ္ထိပါလဇာတ်*"၌ ထင်စွာ ဖြစ်လတ္တံ့၊ ထိုစကားသည် မှန်၏၊ ဤကုဒ္ဒါလပဏ္ဍိတဇာတ်၌ ရသေ့တို့၏ နေရာ အရပ်သည်၎င်း၊ ထိုဟတ္ထိပါလဇာတ်၌ ရသေ့တို့၏ နေရာ အရပ်သည်၎င်း တူမျှသော အပိုင်းအခြား ရှိသည်သာလျှင် ဖြစ်၏၊ ထိုဝိသုကြုံနတ်သားသည်လည်း ရသေ့တို့၏ နေရာ အရပ်၌ သစ်ရွက်မိုးသော ကျောင်းကို ဖန်ဆင်းပြီးလျှင် မကောင်းသော အသံ ရှိကုန်သော သားတို့ကို၎င်း၊ ငှက်တို့ကို၎င်း၊ ဘီလူးတို့ကို၎င်း ဖဲစေ၍ ထိုကုဒ္ဒါလပဏ္ဍိတသည် လာအံ့သော အရပ်မျက်နှာအဘို့ဖြင့် တယောက်သွားသာရုံ လမ်းခရီးကို သွယ်၍ မိမိနေရာအရပ်သို့ သာလျှင် ပြန်သွား၏၊ ထိုကုဒ္ဒါလပဏ္ဍိတသည်လည်း ထိုပရိသတ်တို့ကိုယူ၍ ဟိမဝန္တာသို့ ဝင်ပြီးလျှင် သိကြားပေးအပ်သော ရသေ့တို့နေရာ အရပ်သို့သွား၍ ဝိသုကြုံနတ်သားသည် ဖန်ဆင်းအပ်သော ရသေ့တို့ ပရိက္ခရာကိုယူ၍ ရှေးဦးစွာမိမိသည် ရဟန်းပြု၍ နောက်မှ ပရိသတ်တို့ကိုရဟန်းပြုစေ၍ ရသေ့တို့အား နေရာအရပ်ကို ဝေ၍ ပေး၏၊ ဤနည်းဖြင့် ခုနစ်ပြည်ထောင်သော မင်းတို့သည် ခုနစ်ပြည်

---

* ဝီသတိနိပါတ်မှာ ပါသည်။

ထောင်ကို စွန့်ကုန်၏၊ ယူဇနာ သုံးဆယ်ရှိသော ရသေ့တို့၏ နေရာအရပ်သည် ပြည့်၏။

ကုဒ္ဒါလပဏ္ဍိတသည် အာပေါကသိုဏ်းမှ ကြွင်းသော ကသိုဏ်းတို့၌ ကသိုဏ်း ပရိကံကို ပြု၍ ဗြဟ္မဝိဟာရတို့ကို ပွားစေ၍ ပရိသတ်တို့အား ကမ္မဋ္ဌာန်းကို ကြား၏၊ ခပ်သိမ်းကုန်သော ရသေ့တို့သည် သမာပတ်ကို ရကုန်သည်ဖြစ်၍ ဗြဟ္မဝိဟာရတို့ကို ပွားစေ၍ ဗြဟ္မာ့ပြည်သို့ လားကုန်၏၊ အကြွင်းသူတို့သည်ကား ထိုရသေ့တို့ကို လုပ်ကျွေးပူဇော်ခြင်းကို ပြုကုန်၏၊ ထိုသူတို့သည် နတ်ပြည်သို့ လားကုန်၏၊ မြတ်စွာဘုရားသည် ရဟန်းတို့ ဤသို့လျှင် ကိလေသာတို့၏ အစွမ်းဖြင့် ကပ်ငြိတတ်သော ဤစိတ်ကို ဖြေနိုင်ခဲ၏၊ ဖြစ်ကုန်သော လောဘ တရားတို့ကို စွန့်နိုင်ခဲကုန်၏၊ ဤသို့ သဘောရှိသော ပညာရှိတို့ကိုသော်လည်း မိုက်မဲခြင်းတို့ကို ပြုတတ်ကုန်၏ဟု ဓမ္မဒေသနာတော်ကို ဆောင်၍ သစ္စာတို့ကို ပြတော်မူ၏၊ သစ္စာတို့ကို ပြတော်မူသည်၏ အဆုံး၌ အချို့ကုန်သော ရဟန်း တို့သည် သောတာပန် ဖြစ်ကုန်၏၊ အချို့ကုန်သော ရဟန်းတို့သည် သကဒါဂါမ် ဖြစ်ကုန်၏၊ အချို့ကုန်သော ရဟန်းတို့သည် အနာဂါမ် ဖြစ်ကုန်၏၊ အချို့ ကုန်သော ရဟန်းတို့သည် အရဟတ္တဖိုလ်သို့ ရောက်ကုန်၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည်လည်း အနုသန္ဓေကိုစပ်၍ ယခုအခါ အာနန္ဒာသည် ထိုအခါ ဗာရာဏသီမင်းဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားပရိသတ် တို့သည် ထိုအခါ ကုဒ္ဒါလပဏ္ဍိတ ရသေ့၏ပရိသတ်တို့သည် ဖြစ်ဘူးကုန်ပြီ၊ ယခု အခါ ငါဘုရားသည်လျှင် ထိုအခါ ကုဒ္ဒါလပဏ္ဍိတ ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[လောဘရမ္မက်၊ စွဲလမ်းချက်၊ ခွါခက်နိုင်သည်သာ]

ဆယ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော ကုဒ္ဒါလဇာတ်သည် ပြီး၏။

---

## ၈—ဝရုဏဝဂ် ၇၁—ဝရုဏဇာတ်

### ပြုချိန်မပြု နောက်မှပြုက သောကဖြစ်တတ်သည့် အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော ထဗ္ဗည့ု မြတ်စွာဘုရားသည် "ယော ပုဗ္ဗေ ကရဏီယာနိ" အစရှိသော ဂါထာ

ပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤဝရုဏဇာတ်ကို ဇေတဝန် ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "ကုဋုမ္ဗိယ ပုတ္တတိဿ မထေရ်"ကိုအကြောင်းပြု၍ ဟောတော်မူ၏၊ အခါတပါးသောနေ့၌ သာဝတ္ထိမြို့၌နေကုန်မသော အချင်းချင်း အဆွေခင်ပွန်းဖြစ်ကုန်သော သုံးကျိပ်အတိုင်းအရှည်ရှိကုန်သော အမျိုးကောင်း သားတို့သည် နံ့သာ, ပန်း, အဝတ် စသည်တို့ကို ယူကုန်၍ မြတ်စွာဘုရား၏ တရားတော်ကို နာကုန်အံ့ဟု များစွာသော လူတို့ဖြင့် ခြံရံကုန်လျက် ဇေတဝန် ကျောင်းတော်သို့ သွားကုန်၍ ကံ့ဂေါ်သား ... ပြုအပ်သော မဏ္ဍပ်,အင်ကြင်း သားဖြင့် ပြုအပ်သော မဏ္ဍပ် အစရှိသည်တို့၌ အတန်ငယ် နားနေကုန်ပြီး၍ ညချမ်းသော အခါ၌ မြတ်စွာဘုရားသည် ပန်းနံ့သာတို့ဖြင့် ထုံအပ်သော ဂန္ဓကုဋိမှ ထွက်တော်မူ၍ တရားသဘင်သို့ ကြွတော်မူပြီးလျှင် တန်ဆာဆင်သော ဘုရားနေရာ၌ နေတော်မူသည်ရှိသော် အခြံအရံနှင့်တကွ တရားသဘင်သို့ သွားကုန်၍ မြတ်စွာဘုရားကို နံ့သာ,ပန်းတို့ဖြင့်ပူဇော်၍ စက်ဖြင့် မှတ်အပ်သော အပြင်တို့၌ ပွင့်သော ပဒုမာကဲ့သို့ တင့်တယ်ကုန်သော ခြေတော်တို့၌ ရှိခိုး ကုန်လျက် တင့်အပ်လျောက်ပတ်စွာ နေကုန်လျက် တရားတော်ကို နာကုန်၏။

ထိုအခါ ထိုအမျိုးကောင်းသားတို့အား အကြင် အကြင်သို့သော အခြင်း အရာဖြင့် ငါတို့သည် မြတ်စွာဘုရား ဟောတော်မူအပ်သော တရားတော်ကို သိရှိကုန်၏၊ ရဟန်းပြုကုန်အံ့ ဤသို့သော အကြံသည် ဖြစ်၏၊ ထိုအမျိုးသား တို့သည် မြတ်စွာဘုရားသည် တရားဟောပလ္လင်မှ ထွက်တော်မူသော ကာလ၌ မြတ်စွာဘုရားသို့ ကပ်ကုန်၍ ရဟန်းအဖြစ်ကို တောင်းပန်ကုန်၏၊ မြတ်စွာဘုရား သည် ထိုအမျိုးကောင်းသားတို့အား ရဟန်း၏ အဖြစ်ကို ပေးတော်မူ၏၊ ထို အမျိုးကောင်းသား ရဟန်းတို့သည် ဆရာဥပဇ္ဈာယ်တို့ကို နှစ်သက်စေ၍ ရဟန်းအဖြစ်ကို ရကုန်၍ ငါးနှစ်တို့ပတ်လုံး ဆရာဥပဇ္ဈာယ်တို့၏ အထံ၌ နေကုန်၍ မာတိကာ နှစ်စောင်တို့ကို လေ့လာသည်ကိုပြုကုန်၍ သုံးပါးကုန်သော မင်္ဂလာအနုမောဒနာ, အမင်္ဂလာအနုမောဒနာ, ဆွမ်းအနုမောဒနာတို့ကို သင် ပြီးလျှင် သင်္ကန်းတို့ကို ချုပ်၍ဆိုး၍ ရဟန်းတရားကို ပြုကုန်အံ့ဟု ဆရာဥပဇ္ဈာယ် တို့ကို ပန်ကြားပြီးလျှင် မြတ်စွာဘုရားသို့ ကပ်ကုန်၍ ရှိခိုးလျက် တင့်အပ် လျောက်ပတ်စွာနေကုန်၏၊အရှင်ဘုရားအကျွန်ုပ်တို့သည် ဘဝတို့၌ငြီးငွေ့ကုန်၏၊

ပင့်ရှိသမျှ နေခြင်း, အိုခြင်း, ဖျားနာခြင်း, သေခြင်းဘေးမှ ကြောက်ကုန်၏၊ အကျွန်ုပ်တို့အား သံသရာမှ ထွက်စိမ့်သောငှါ ကမ္မဋ္ဌာန်းကို ဟောတော်မူပါ ကုန်လော့ဟု တောင်းပန်ကုန်၏။

မြတ်စွာဘုရားသည် ထိုရဟန်းတို့၏ အလိုကိုမှီ၍ အာလောက ကသိုဏ်း, အာကာသကသိုဏ်းသည်ကြဉ်အပ်ကုန်သော၁သုံးဆယ့်ရှစ်ပါးကုန်သောကမ္မဋ္ဌာန်း တို့တွင် လျော်ကပ်သော ကမ္မဋ္ဌာန်းကို ရွေး၍ ဟောတော်မူ၏၊ ထိုရဟန်း တို့သည် မြတ်စွာဘုရား အထံ၌ ကမ္မဋ္ဌာန်းကို ယူကုန်၍ မြတ်စွာဘုရားကို ရှိခိုး၍ လက်ျာရစ် လှည့်သည်ကိုပြု၍ ပရိဝုဏ်သို့ သွားပြီးလျှင် ဆရာဥပဇ္ဈာယ် တို့ကို ဖူးမြင်၍ သပိတ် သင်္ကန်းကိုယူ၍ ရဟန်းတရားကို ပြုအံ့ဟု ထွက်ကုန်၏၊ ထိုအခါ ထိုရဟန်းတို့တွင် တယောက်သောအမည်အားဖြင့် ကုဋုမ္ဗိယပုတ္တတိဿ မထေရ်မည်သော ရဟန်းသည် ပျင်း၏၊ ယုတ်သော ဝီရိယ ရှိ၏၊ ရသာရုံ၌ တပ်စွန်းတတ်၏၊ထိုကုဋုမ္ဗိယပုတ္တတိဿမထေရ်သည် ငါသည် တော၌နေခြင်းငှါ မတတ်နိုင်၊ကမ္မဋ္ဌာန်းကို အားထုတ်ခြင်းငှါ မတတ်နိုင်၊ဆွမ်းခံသဖြင့် မျှတခြင်းငှါ မတတ်နိုင်၊ ငါ့အား သွားသဖြင့် အဘယ်အကျိုး ရှိအံ့နည်း ပြန်အံ့ဟုကြံ၏၊ ကြံပြီး၍ ထိုကုဋုမ္ဗိယ ပုတ္တတိဿ မထေရ်သည် ဝီရိယကိုလွှတ်၍ ထိုရဟန်းတို့ကို ပို့လိုက်၍ ပြန်ခဲ့၏။

ထိုရဟန်းတို့သည်လည်း ကောသလတိုင်းတို့၌ ဒေသစာရီ ကြွကုန်သည် ရှိသော် တခုသော ပစ္စန္တရစ်သို့ ရောက်၍ ထိုရွာကိုမှီ၍ တခုသောကျောင်း၌ ဝါသို့ကပ်ကုန်၍ ဝါတွင်းသုံးလပတ်လုံး စေ့ဆော်ကုန်လျက် လုံ့လပြုကုန်လျက် ဝိပဿနာတို့ကို ဖြစ်စေကုန်၍ မြေကြီးကို ပဲ့တင်ထပ်စေကုန်လျက် အရဟတ္တဖိုလ် သို့ရောက်ကုန်၍ ရအပ်သော ကျေးဇူးကို မြတ်စွာဘုရားအား ကြားလျှောက် ကုန်အံ့ဟု ထိုရွာမှ ထွက်ခဲ့ကုန်၍ အစဉ်သဖြင့် ဇေတဝန် ကျောင်းတော်သို့ ရောက်ကုန်၍ သပိတ် သင်္ကန်းကို သိုမှီးပြီးလျှင် ဆရာဥပဇ္ဈာယ်တို့ကို ဖူးမြင်လို ကုန်သည်ဖြစ်၍ မြတ်စွာဘုရားအထံသို့ သွားကုန်၍ ရှိခိုး၍နေကုန်၏၊ မြတ်စွာ ဘုရားသည် ထိုရဟန်းတို့နှင့် တကွ သာယာစွာသော နှုတ်ခွန်းဆက်ခြင်းကို ပြုတော်မူ၏၊ ထိုရဟန်းတို့သည် ပြုအပ်ပြီးသော နှုတ်ခွန်းဆက်ခြင်း ရှိကုန်သည် ဖြစ်၍ မိမိတို့သည် ရအပ်သော ကျေးဇူးကို မြတ်စွာဘုရားအား လျှောက်ကုန်၏၊

မြတ်စွာဘုရားသည် ထိုရဟန်းတို့ကို ချီးမွမ်းတော်မူ၏၊ ကုဋုမ္ဗိယ ပုတ္တ တိဿ မထေရ်သည် ထိုရဟန်းတို့၏ ကျေးဇူးကို သိကောင်းမှုသော မြတ်စွာဘုရားကို မြင်၍ မိမိသည်လည်း ရဟန်းတရားကို ပြုလိုသည် ဖြစ်၏၊ ထိုရဟန်းတို့သည် အကျွန်ုပ်တို့သည် ထိုတောကျောင်းသို့သာလျှင် သွား၍ နေပါကုန်အံ့ဟု မြတ်စွာဘုရားကို ပန်ကြားကုန်၏၊ မြတ်စွာဘုရားသည်လည်း ကောင်းပြီဟု ခွင့်ပြုတော်မူ၏၊ ထိုရဟန်းတို့သည် ရှိခိုးပြီးလျှင် ပရိဝုဏ်သို့ ပြန်ခဲ့ကုန်၏။

ထိုကုဋုမ္ဗိယ ပုတ္တတိဿ မထေရ်သည် ညဉ့်အဘို့ အတွင်း၌ အလွန်သော အားထုတ်ခြင်းရှိသည်ဖြစ်၍ အလွန် လျှင်မြန်သဖြင့် ရဟန်းတရားကို ပြုသည်ရှိသော် မဇ္ဈိမယာမ်၏ အခြားမဲ့၌ တံကဲပျဉ်ကိုမှီ၍ ရပ်လျက်သာလျှင် ငိုက်မျဉ်းသည်ရှိသော် လည်း၍လည်း၏၊ ထိုကုဋုမ္ဗိယ ပုတ္တ တိဿမထေရ်၏ ပေါင်ရိုးသည် ကျိုး၏၊ ကြီးစွာသော ဝေဒနာသည် ဖြစ်၏၊ ထိုကုဋုမ္ဗိယပုတ္တတိဿ မထေရ်ကို လုပ်ကျွေးကုန်သော ရဟန်းတို့၏ သွားခြင်းသည် မပြည့်စုံ၊ ထိုအခါ မြတ်စွာ စွာဘုရားကို ခစားသောအခါ၌ လာကုန်သော ရဟန်းတို့ကို မြတ်စွာဘုရား သည် ရဟန်းတို့ သင်တို့သည် နက်ဖြန် သွားကုန်အံ့ဟု ယမန်နေ့ကပင် ပန်ကြား ကုန်သည် မဟုတ်လောဟု မေးတော်မူ၏၊ အရှင်ဘုရား ပန်ကြားကုန်သည် မှန်ပါ ၏၊ ထိုသို့ ပန်ကြားသော်လည်း အကျွန်ုပ်တို့၏ အဆွေ ခင်ပွန်းဖြစ်သော ကုဋုမ္ဗိယပုတ္တတိဿ မထေရ်သည် အခါမဟုတ်သည်၌ အလွန် လျှင်မြန်သဖြင့် ရဟန်းတရားကို ပြုသည်ရှိသော် ငိုက်မျဉ်းခြင်း နှိပ်စက်အပ်သည်ဖြစ်၍ လည်း၍ လည်း၏၊ ထိုကုဋုမ္ဗိယပုတ္တတိဿမထေရ်၏ ပေါင်ရိုးသည် ကျိုး၏၊ ထိုမထေရ်ကို မှီ၍ အကျွန်ုပ်တို့အား သွားခြင်းသည် မပြည့်စုံဟု ကြားလျှောက်ကုန်၏၊မြတ်စွာ ဘုရားသည် ရဟန်းတို့ ယခုအခါ၌သာလျှင် ဤကုဋုမ္ဗိယပုတ္တတိဿမထေရ်သည် မိမိ၏ယုတ်သော ဝီရိယရှိသည်၏အဖြစ်ကြောင့် အခါမဟုတ်သည်၌ အလွန်လျှင် မြန်သဖြင့် ရဟန်းတရားကို ပြုသည်ရှိသော် သင်တို့၏ သွားခြင်းအန္တရာယ်ကို ပြု သည် မဟုတ်သေး၊ ရှေး၌လည်း ဤ ကုဋုမ္ဗိယပုတ္တတိဿမထေရ်သည် သင်တို့ ၏ သွားခြင်းအန္တရာယ်ကို ပြုဘူးသည်သာလျှင်တည်းဟု မိန့်တော်မူ၍ ထို ရဟန်းတို့သည် တောင်းပန်အပ်သည်ဖြစ်၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသော အခါ ဂန္ဓာရတိုင်း တက္ကသိုလ်ပြည်၌ ဘုရားလောင်းသည် ဒိသာပါမောက္ခ ဆရာ ဖြစ်၏၊ ငါးရာသော တပည့်တို့ကို အတတ်သင်စေ၏၊ ထိုအခါ ဒိသာပါမောက္ခဆရာ၏ တပည့် လုလင်တို့သည် တနေ့သ၌ ထင်းခွေအံ့သောငှါ တောသို့ သွားကုန်၍ ထင်းတို့ကို ထုတ်ကုန်၏၊ ထိုလုလင်တို့၏အတွင်း၌ တယောက်သော ပျင်းရိသော လုလင်သည် ရေခံတက်ပင်ကြီးကို မြင်၍ ဤသစ်ပင်သည်ကား ခြောက်သော သစ်ပင်ဟု မှတ်၍ ရှေးဦးစွာ ခဏမျှအိပ်၍ နောက်မှ သစ်ပင်ကို တက်ပြီးလျှင် ထင်းတို့ကိုချိုး၍ သွားအံ့ဟု အပေါ်လွှမ်းပုဆိုးကို ခင်း၍ လျောင်းသည်ရှိသော် ကြီးသံကဲ့သို့ ဟောက်လျက် အိပ်ပျော်ခြင်းသို့ ရောက်၏၊ ဤလုလင်မှ တပါးကုန်သော လုလင်တို့သည် ထင်းစည်းတို့ကို ဖွဲ့ကုန်၍ ယူ၍ သွားသည်ရှိသော် ထိုအိပ်ပျော်သော လုလင်ကို ခြေဖြင့်ကျောက်၍ နှိုးပြီးလျှင် သွား၏၊ ပျင်းရိသော လုလင်သည် ထလတ်၍ မျက်စိတို့ကို သုတ်ပြီးလျှင် အိပ်ချင်ခြင်း မပြေသည်သာလျှင် ဖြစ်၍ ရေခံတက်ပင်သို့တက်ပြီးလျှင် သစ်ခက်တို့ကိုကိုင်၍ မိမိသို့ ရှေ့ရှုငင်၍ ချိုးသည်ရှိသော် ကျိုး၍ ထွက်ပေါ်သော အစွန်းဖြင့် မိမိ၏ မျက်စိကိုဖောက်၍ လက်တဘက်ဖြင့် မျက်စိကို ပိတ်၍ လက်တဘက်ဖြင့် စိုသော ထင်းတို့ကို ချိုး၍ သစ်ပင်မှ သက်ပြီးလျှင် ထင်းစည်းကိုဖွဲ့၍ ထမ်း၍ လျင်စွာ သွား၍ ထိုလုလင်တို့သည် ချအပ်သော ထင်းတို့၏အထက်၌ ချ၏။

ထိုနေ့၌လည်း ဇနပုဒ်ရွာမှ တဦးသောအမျိုးသည် နက်ဖြန် ပုဏ္ဏားတို့အား ဗေဒင်ရွတ်ဘတ် သရဇ္ဈာယ်ခြင်းကို ပြုစေအံ့ဟု ဆရာကို ဘိတ်၏၊ ဆရာသည် တပည့်လုလင်တို့ကို အမောင်တို့ နက်ဖြန်ခါ တခုသောရွာသို့ သွားအပ်၏၊ သင်တို့သည်ကား အာဟာရမရှိကုန်ဘဲ သွားအံ့သောငှါ မတတ်နိုင် လတ္တံ့၊ စောစောကလျှင် ယာဂုကိုကျို၍ ထိုရွာသို့ သွား၍ မိမိသည် ရအပ်သော အမှုကိုရင်း၊ ငါတို့သည် ရအပ်သော အစုကိုရင်း အလုံးစုံကိုယူ၍ လာကြကုန်လောဟု ဆို၏၊ ထိုလုလင်တို့သည် စောစောကလျှင်ထ၍ ယာဂုကို ကျိုစိမ့်သောငှါ ကျွန်မကိုထစေ၍ လျင်စွာ ငါတို့အား ယာဂုကိုကျိုလောဟု ဆိုကုန်၏၊ထိုကျွန်မသည် ထင်းတို့ကို ယူသည်ရှိသော် အထက်၌ တည်သော စိုသော ရေခံတက်သားထင်းတို့ကိုယူ၍ အဖန်တလဲလဲ နှုတ်သီးလေဖြင့် မှုတ်ငြားသော်လည်း မီးကို

တောက်စိမ့်သောငှါ မတတ်နိုင်သည်ဖြစ်၍ နေသည် ထွက်လတ်၏၊ လုလင်တို့သည် အလွန်နေမြင့်ခြင်းဘည် ဖြစ်၏၊ ယခုအခါ သွားခြင်းငှါ မတတ်နိုင်ဟု ဆရာ့အထံသို့ လာကုန်၏။

ဆရာသည် အမောင်တို့ မသွားကြကုန်သလောဟု မေး၏၊ ဆရာ မသွားကြကုန်သည် မှန်၏ဟု ဆိုကုန်၏၊ အဘယ် အကြောင်းကြောင့် မသွားကြကုန်သနည်းဟု မေး၏၊ ဤအမည်ရှိသော ပျင်းရိသော လုလင်သည် အကျွန်ုပ်တို့နှင့်တကွ ထင်းခွေအံ့သောငှါ တောသို့သွားပြီးလျှင် ရေခံတက်ပင်ရင်း၌ အိပ်၍ နောက်မှ လျင်မြန်သံဖြင့်တက်၍ မျက်စိကိုပျက်စေ၍ စိုသော ရေခံတက်ထင်းတို့ကို ဆောင်ခဲ့၍ အကျွန်ုပ်တို့သည် ဆောင်ခဲ့သော ထင်းတို့၏အထက်၌ချ၏၊ ယာဂုကိုကျိုသော ကျွန်မသည် ထိုထင်းတို့ကို ခြောက်သော ထင်းအမှတ်ဖြင့် ယူ၍ နေထွက်သည် တိုင်အောင် တောက်စိမ့်သောငှါ မတတ်နိုင်၊ ဤသို့သော အကြောင်းကြောင့် အကျွန်ုပ်တို့၏ သွားခြင်း အန္တရာယ်သည်ဖြစ်၏ဟု ဆိုကုန်၏၊ ဆရာသည် လုလင်ပြုသော အမှုကိုကြား၍ အလွန်မိုက်သော သူတို့၏ဘမှုကို မှီ၍ ဤသို့ သဘောရှိသော ယုတ်ခြင်းသည် ဖြစ်၏ဟု ဆိုလို၍—

၇၁၊ ယော ပုဗ္ဗေ ကရဏီယာနိ၊ ပစ္ဆာ သော ကာတုမိစ္ဆတိ။
ဝရုဏကဋ္ဌဘဉ္ဇောဝ[၁]၊ သ ပစ္ဆာ မနုတပ္ပတိ။

ဟူသော ဤဂါထာကို ဆို၏။

ယော၊ အကြင်သူသည်။ ပုဗ္ဗေ၊ ရှေး၌။ ကရဏီယာနိ၊ ပြုအပ်ကုန်သော အမှုတို့ကို။ ပစ္ဆာ၊ နောက်မှ။ ကာတုံ၊ ပြုခြင်းငှါ။ ဣစ္ဆတိ၊ အလိုရှိ၏။ သ-သော၊ ထိုသူသည်။ ဝရုဏကဋ္ဌဘဉ္ဇောဝ၊ ရေခံတက်ထင်းကို ချိုးသော လုလင်ကဲ့သို့။ ပစ္ဆာ၊ နောက်မှ။ အနုတပ္ပတိ၊ စိုးရိမ်ရ၏။

ဤသို့ ဘုရားလောင်းသည် တပည့်တို့အား အကြောင်းကိုဆို၍ ဒါန အစရှိကုန်သော ကောင်းမှုတို့ကိုပြု၍ အသက်၏အဆုံး၌ ကံအားလျော်စွာလား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ရဟန်းတို့ ဤ ကုဋုမ္ဗိယ ပုတ္တ တိဿ မထေရ်သည် ယခုအခါ၌သာလျှင် သင်တို့၏ သွားခြင်း အန္တရာယ်ကို ပြုသည်

၁၊ ဝရုဏကဋ္ဌဘဉ္ဇောဝ (သီ၊ သျာ၊ ဇူ)

မဟုတ်သေး၊ ရှေး၌လည်း ပြုဘူးသည်သာလျှင်ကတည်းဟု ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ အနုသန္ဓေကိုစပ်၍ ယခုအခါ ပေါင်ကျိုးခြင်းသို့ ရောက်သော ရဟန်းသည် ထိုအခါ မျက်စိပျက်ခြင်းသို့ ရောက်သော လုလင် ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားပရိသတ်တို့သည် ထိုအခါ ကြွင်းသောလုလင်တို့ ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ဆရာပုဏ္ဏား ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[ဝိရိယကင်း၊ ပျင်းရိခြင်း၊ ခပင်းသူငါ၊ ကျိုးပျက်ရှာ]

ရှေးဦးစွာသော ဝရုဏဇာတ်သည် ပြီး၏။

---

## ၇၂—သီလဝနာဂရာဇဇာတ်

### ကျေးဇူးကို မသိတတ်သောသူ၏ အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "အကတညုဿ ပေါသဿ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤ သီလဝနာဂရာဇဇာတ်ကို ဝေဠုဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "ဒေဝဒတ်" ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုစကားကို ချဲ့ဦးအံ့၊ တရားသဘင်၌ ရဟန်းတို့သည် ငါ့သျှင်တို့ ဒေဝဒတ်သည် ကျေးဇူးကို မသိတတ်၊ မြတ်စွာဘုရား၏ ကျေးဇူးတော်တို့ကို မသိဟု ပြောဆိုကုန်လျက် နေကြကုန်၏၊ မြတ်စွာဘုရားသည် လာတော် မူလတ်၍ ရဟန်းတို့ ယခုအခါ အဘယ်စကားဖြင့် စည်းဝေးကြ ကုန်သနည်းဟု မေးတော်မူ၍ ဤမည်သောစကားဖြင့် စည်းဝေးပါကုန်၏ဟု နားတော်လျှောက်သည်ရှိသော် ရဟန်းတို့ ယခုအခါ၌သာလျှင် ဒေဝဒတ်သည် ကျေးဇူးကိုမသိတတ်သည် မဟုတ်သေး၊ ရှေး၌လည်း ကျေးဇူးကို မသိတတ်သည် သာလျှင်တည်း၊ တရံတဆစ်မျှ ငါ၏ကျေးဇူးကို မသိတတ်ဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သော မင်းသည် မင်းပြုသည် ရှိသော် ဘုရားလောင်းသည် ဟိမဝန္တာအရပ်ဝယ် ဆင်အမျိုး၌ ဖြစ်၏၊ ထိုဘုရားလောင်းသည် အမိဝမ်းမှဖွားသည်ရှိသော် အလုံးစုံ

ဖြူ၏၊ ငွေစုနှင့်တူ၏၊ ထိုဘုရားလောင်း ဆင်မင်း၏ မျက်စိတို့သည်ကား ပတ္တမြားလုံးနှင့်တူကုန်သည်ဖြစ်၍ ထင်ကုန်လျက် ငါးပါးသော ကြည်ခြင်းရှိကုန်သည် ဖြစ်ကုန်၏၊ မျက်နှာသည်ကား နီသော ကမ္ဗလာနှင့်တူ၏၊ နှာမောင်းသည် နီသော ရွှေဇာပေါက်ဖြင့် တန်ဆာဆင်အပ်သော ငွေပန်းဆိုင်းကဲ့သို့ ဖြစ်၏၊ အခြေလေးဘက်တို့သည် ချိပ်ရည်ဖြင့် ဆိုးဘိသကဲ့သို့ ဖြစ်ကုန်၏၊ ဤသို့လျှင် ဘုရားလောင်း၏ ဆယ်ပါးသော ပါရမီတို့ဖြင့် တန်ဆာ ဆင်အပ်သည် ဖြစ်၍ အသင်း၏ တင့်တယ်ခြင်းအစုသို့ ရောက်သော ကိုယ်အဖြစ်သည် ရှိ၏၊ ထိုအခါ လိမ္မာသော အဖြစ်သို့ရောက်သော ဘုရားလောင်းကို အလုံးစုံသော ဟိမဝန္တာ၌ ဆင်အပေါင်းတို့သည် စည်းဝေးကုန်၍ လုပ်ကျွေးကုန်လျက် သွားကုန်၏ ဤသို့ ဘုရားလောင်းသည် ရှစ်သောင်းသော ဆင်အပေါင်းတို့သည် ခြံရံအပ်သည် ဖြစ်၍ ဟိမဝန္တာအရပ်၌ နေလျက် နောက်အဘို့၌ အပေါင်းအဖော်၌ အပြစ်ကို မြင်၍ ကိုယ်၏ငြိမ်းခြင်းအကျိုးငှါ အပေါင်းအဖော်မှ တစီးတည်းထွက်၍ တော၌ နေခြင်းကို ပြု၏၊ ထိုဘုရားလောင်း ဆင်မင်းအား သီလရှိသည်၏ အဖြစ်ကြောင့်ကား "သီလဝနာဂရာဇ" ဟူသော အမည်သည် ဖြစ်၏။

ထိုအခါ တယောက်သော ဗာရာဏသီပြည်၌ နေသော မုဆိုးသည် ဟိမဝန္တာသို့ဝင်၍ မိမိအသက်မွေးရာ ဘဏ္ဍာကို ရှာသည်ရှိသော် အရပ်မျက်နှာတို့ကို မှတ်ခြင်းငှါ မတတ်နိုင် ရကား မျက်စိလည်သည် ဖြစ်၍ သေဘေးမှ ကြောက်သောကြောင့် လက်နှစ်ဘက်တို့ကို မြှောက်၍ ငိုကြွေးလျက် သွား၏၊ ဘုရားလောင်းဆင်မင်းသည် ထိုမုဆိုး၏ သည်းစွာသော ငိုကြွေးသံကို ကြား၍ ဤယောကျ်ားကို ဆင်းရဲမှ လွတ်စေအံ့ဟု ကရုဏာသည် တိုက်တွန်းအပ်သည် ဖြစ်၍ ထိုမုဆိုး၏ အထံသို့ သွား၏၊ ထိုမုဆိုးသည် ဘုရားလောင်း ဆင်မင်းကို မြင်၍သာလျှင် ကြောက်သည်ဖြစ်၍ ပြေး၏၊ ဘုရားလောင်း ဆင်မင်းသည် ပြေးသော မုဆိုးကို မြင်၍ ထိုအရပ်၌ သာလျှင် ရပ်၏၊ ထိုယောကျ်ားသည် ရပ်သော ဘုရားလောင်း ဆင်မင်းကို မြင်၍ ရပ်၏၊ ဘုရားလောင်းသည် တဖန် သွားပြန်၏၊ ထိုမုဆိုးသည် တဖန် ပြေးပြန်၍ ဘုရားလောင်း ဆင်မင်း ရပ်သော ကာလ၌ ရပ်၍ ကြံ၏၊ အဘယ်သို့ ကြံသနည်း ဟူမူကား ဤဆင်မင်းသည် ငါပြေးသောကာလ၌ ရပ်၏၊ ငါရပ်သော ကာလ၌ လာ၏၊ ဤဆင်မင်းသည်

ငါ့အား အကျိုးမဲ့ကို အလိုရှိသည် မဖြစ်ရာ၊ ဤဆင်းရဲမှကား ငါ့ကို လွတ်စေလိုသည် ဖြစ်လတ္တံ့ဟု ရဲရင့်သည်ဖြစ်၍ ရပ်၏။

ဘုရားလောင်း ဆင်မင်းသည် ထိုမုဆိုးသို့ ကပ်၍ အိုယောကျ်ား သင်သည် အဘယ့်ကြောင့် ငိုကြွေးလျက် သွားသနည်းဟု မေး၏၊ အရှင် အရပ်မျက်နှာတို့ကို မှတ်ခြင်းငှါ မတတ်နိုင်ရကား မျက်စိလည်သည် ဖြစ်၍ သေဘေးမှ ကြောက်သဖြင့် ငိုကြွေးလျက် သွား၏ဟု ဆို၏၊ ထိုအခါ မုဆိုးကို ဘုရားလောင်း ဆင်မင်းသည် မိမိ၏ နေရာအရပ်သို့ ဆောင်၍ နှစ်ရက် သုံးရက် သစ်သီးကြီးငယ်တို့ဖြင့် ရောင့်ရဲစေ၍ အိုယောကျ်ား မကြောက်လင့်၊ ငါသည် သင့်ကို လူတို့လမ်းခရီးသို့ ဆောင်အံ့ဟု မိမိကျောက်ကုန်း၌ နေစေ၍ လူတို့လမ်းခရီးသို့ ပို့လိုက်၏၊ ထိုအခါ အဆွေခင်ပွန်းကို ပြစ်မှားတတ်သော ယောကျ်ားသည် တစုံတယောက်သောသူသည် အကယ်၍ငါ့ကိုမေးလတ္တံ့၊ ကြားအပ်သည် ဖြစ်ရာ၏ဟု ဘုရားလောင်း၏ ကျောက်ကုန်း၌ နေလျက်သာလျှင် သစ်ပင်နိမိတ်ကိုရင်း၊ တောနိမိတ်ကိုရင်း မှတ်လျက်သာလျှင် သွား၏။

ထိုအခါ မုဆိုးကို ဘုရားလောင်းသည် တောမှထုတ်၍ ဗာရာဏသီသို့ သွားသော ခရီးမ၌ ထား၍ အိုယောကျ်ား ဤခရီးဖြင့် သွားလော၊ ငါ၏နေရာအရပ်ကိုကား မေးသော်ရင်း၊ မမေးသော်ရင်း တစုံတယောက်သော သူအား မကြားလင့်ဟု ဆို၍ ထိုမုဆိုးကို လွှတ်လိုက်ပြီးလျှင် မိမိနေရာ အရပ်သို့သာလျှင် သွား၏၊ ထိုအခါ မုဆိုးသည် ဗာရာဏသီသို့ သွား၍ လှည့်လည်သည်ရှိသော် ဆင်စွယ်ပွတ်သမားတို့၏ အရပ်လမ်းသို့ရောက်၍ ဆင်စွယ်အထူးတို့ကို ပြုကုန်သော ဆင်စွယ်ပွတ်သမားတို့ကိုမြင်၍ အချင်းတို့ အသက်ရှင်သောဆင်၏အစွယ်ကိုလည်း ရသော် ယူကုန်အံ့လောဟုမေး၏၊ အချင်းယောကျ်ား သင်သည် အသို့ဆိုသနည်း၊ အသက်ရှင်သော ဆင်၏အစွယ်မည်သည်ကား သေသောဆင်၏ အစွယ်ထက် အဘိုးများစွာ ထိုက်၏ဟု ဆိုကုန်၏၊ ထိုသို့ တပြီးကား ငါသည် သင်တို့ကို အသက်ရှင်သော ဆင်၏ အစွယ်ကို ဆောင်အံ့ဟု ဆိုပြီးလျှင် ရိက္ခာကို ယူ၍ ထက်စွာသော လွှကိုယူ၍ ဘုရားလောင်း ဆင်မင်း၏ နေရာအရပ်သို့ သွား၏။

ဘုရားလောင်းသည် ထိုမုဆိုးကို မြင်၍ အဘယ်အကျိုးငှါ လာသနည်းဟု မေး၏၊ အရှင် အကျွန်ုပ်သည် ဆင်းရဲ၏၊ အထီးကျန်၏၊ အသက်မွေးခြင်းငှါ

မတတ်နိုင်သည်ဖြစ်၍ အရှင်တို့ကို ဆင်စွယ်ပိုင်းကို တောင်းပါ၏၊ အကယ်၍ ပေးကုန်ငြားအံ့၊ ထိုဆင်စွယ်ကို ယူ၍ ရောင်းပြီးလျှင် ထိုအဘိုးဖြင့် အသက် မွေးပါအံ့၊ ဤသို့သော အကြောင်းကြောင့် လာ၏ဟု ဆို၏၊ အချင်းယောကျ်ား ထိုသို့ လာခြင်းသည် ကောင်းသော လာခြင်း ဖြစ်စေ၊ ဆင်စွယ်ဖြတ်စရာ ဘဏ္ဍာသည် အကယ်၍ ရှိငြားအံ့၊ သင့်အား အစွယ်ကို လှူအံ့ဟု ဆို၏၊ အရှင် အကျွန်ုပ်သည် လွှကိုယူ၍ လာသည်ဖြစ်၏ဟု ဆို၏၊ ထိုသို့ တပြီးကား အစွယ် တို့ကို လွှဖြင့် ဖြတ်၍ ယူပြီးလျှင် သွားလေလောဟု ဆို၍ ဘုရားလောင်းသည် ခြေတို့ကိုခွေ၍ ငွေတောင်ထွဋ်နှင့်တူသော ဦးကင်းကို ညွတ်ပြီးလျှင် နွားထိုင် ထိုင်၏၊ ထိုမုဆိုးသည် ငွေတောင်ထွဋ်နှင့်တူသော ဦးကင်းသို့ တက်၍ နှစ်ချောင်း သော ဆင်စွယ်အဖျားကို ဖြတ်၏၊ ဘုရားလောင်းသည် ထိုဖြတ်ပြီးသော ဆင်စွယ်ကို နှာမောင်းဖြင့် ယူ၍ အချင်း ယောကျ်ား ငါသည် ထိုအစွယ်တို့ကို မချစ်မနှစ်သက်ဟူ၍ သင့်အားမပေး၊ဤအစွယ်တို့ထက် အဆအရာအားဖြင့်ငင်း အဆအထောင်အားဖြင့်ငင်း အဆအသိန်းအားဖြင့်ငင်း အလုံးစုံသော တရား တို့ကို သိခြင်းငှါ စွမ်းနိုင်သော သဗ္ဗညုတဉာဏ်တည်းဟူသောအစွယ်ကိုသာလျှင် အလွန်ချစ်၏၊ ထိုငါ့အား ဤအစွယ်ဟူသော အလှူသည် သဗ္ဗညုတဉာဏ်ကို သိခြင်း ရခြင်း အကျိုးငှါ ဖြစ်စေသောဟု သဗ္ဗညုတဉာဏ်ကို ဆုတောင်း၍ အစုံဖြစ်သော အစွယ်ကို လှူ၏။

ထိုမုဆိုးသည် ဆင်စွယ်ကို ယူ၍ သွားပြီးလျှင် ရောင်း၍ ထိုအဘိုးသည် ကုန်သည်ရှိသော် တဖန် ဘုရားလောင်း အထံသို့ လာလတ်၍ အရှင် အရှင်တို့၏ အစွယ်ကို ရောင်း၍ရသော အဘိုးသည် အကျွန်ုပ်အား ကြွေးမြီဆပ်၍ ပြေရုံမျှ သာလျှင်ဖြစ်၏၊ ကြွင်းသော အစွယ်တို့ကို အကျွန်ုပ်အား ပေးပါကုန်ဦးလောဟု ဆို၏၊ ဘုရားလောင်းသည် ကောင်းပြီဟု ဝန်ခံ၏၊ ရှေးနည်းဖြင့်သာလျှင် ဖြတ်၍ ကြွင်းသော အစွယ်တို့ကို လှူ၏၊ ထိုမုဆိုးသည် ထိုအစွယ်တို့ကိုလည်း ရောင်း၍ တဖန်လာပြီးလျှင် အရှင် အကျွန်ုပ်သည် အသက်မွေးခြင်းငှါမတတ်နိုင် အစွယ်ရင်းတို့ကို အကျွန်ုပ်အား ပေးပါကုန်လောဟု ဆို၏၊ ဘုရားလောင်းသည် ကောင်းပြီဟု ဝန်ခံ၍ ရှေးနည်းဖြင့်သာလျှင် ထိုင်၍ နေ၏၊ ထိုယုတ်မာစွာသော ယောကျ်ားသည် ဘုရားလောင်း၏ ငွေပန်းဆိုင်းနှင့်တူသော နှာမောင်းကို

နင်းလျက် ငွေတောင်ထွဋ်နှင့် တူသော ဦးကင်းပေါ်သို့ တက်ပြီးလျှင် နှစ်ဘက်သော နှုတ်သီးစွန်းတို့ကို ဖနောင့်ဖြင့်ဖွင့်၍ အသားကိုယူပြီးလျှင် ဦးကင်းပေါ်သို့ တက်၍ လွှဖြင့် အစွယ်ရင်းကို ဖြတ်၍ သွား၏။

ထိုယုတ်မာစွာသော ယောကျ်ားသည် ဘုရားလောင်း၏ မြင်ကောင်းရာ အရပ်ကို လွန်စဉ်၌ပင် နှစ်သိန်း လေးသောင်း အထုရှိသော တခဲနက်သော မြေကြီးသည် မြင်းမိုရ် ယုဂန္ဓိုရ် အစရှိသော ကြီးစွာသော ဝန်တို့ကိုရင်း မကောင်းသော အနံ့ရှိသော စက်ဆုပ် ရွံရှာဘွယ်ရှိသော ကျင်ကြီး ကျင်ငယ် တို့ကိုရင်း ဆောင်ခြင်းငှါ စွမ်းနိုင်ငြားသော်လည်း ထိုယောကျ်ားယုတ်၏ ကျေးဇူးမဲ့ အစုကို ဆောင်ခြင်းငှါ မတတ်နိုင်သကဲ့သို့ နှစ်ဖြာကွဲ၍ ဟင်းလင်း အပြင်ကို ပေး၏၊ ထိုခဏ၌သာလျှင် အဝီစိ ငရဲမီးလျှံတို့သည် ထွက်လတ်ကုန်၍ ထိုအဆွေခင်ပွန်း ပြစ်မှားတတ်သော ယောကျ်ားယုတ်ကို အမျိုး၏ ဥစ္စာ ဖြစ်သော ကမ္ဗလာဖြင့်ရုံသကဲ့သို့ ရစ်ပတ်၍ယူ၏၊ ဤသို့လျှင် ယောကျ်ားယုတ်ကို မြေမျိုသောကာလ၌ ထိုတောအုပ်၌စောင့်သော ရုက္ခစိုဝ်းနတ်သည် ကျေးဇူးကို မသိတတ်သော အဆွေခင်ပွန်းကို ပြစ်မှားတတ်သော ယောကျ်ားယုတ်ကို စကြဝတေးမင်း၏ အဖြစ်ကိုပေးသော်လည်း ရောင့်ရဲစိမ့်သောငှါ မတတ်နိုင်ရာဟု တောကို ပဲ့တင်ထပ်စေလျက် တရားဟောလိုသည်ဖြစ်၍--

၇၂။ အကတညုဿ ပေါသဿ၊ နိစ္စံ ဝိဝရဒဿိနော။
သဗ္ဗဉ္စေ ပထဝိံ ဒဇ္ဇာ၊ နေဝ နံ အဘိရာဓယေ။

ဟူသော ဤဂါထာကို ဆို၏။

အကတညုဿ၊ သူ့ကျေးဇူးကိုမသိတတ်သော။ နိစ္စံ၊ အမြဲ။ ဝိဝရဒဿိနော၊ ဆိတ်ကဲ့သို့ အပေါက်ကိုသာ ရှုလေ့ရှိသော။ ပေါသဿ၊ ယောကျ်ားအား။ သဗ္ဗံ၊ အလုံးစုံသော။ ပထဝိံ၊ မြေပြင်ကို အစိုးရသော စကြဝတေးမင်း အဖြစ်ကို။ စေ ဒဇ္ဇာ၊ အကယ်၍ ပေးငြားအံ့။ နံ၊ ထိုယောကျ်ားကို။ နေဝ အဘိရာဓယေ၊ မနှစ်သက်စေနိုင်ရာ။

ဤသို့လျှင် ရုက္ခစိုဝ်းနတ်သည် တောကို ပဲ့တင်ထပ်စေ၍ တရားဟော၏၊ ဘုရားလောင်းသည် အသက်ထက်ဆုံး တည်၍ ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ရဟန်းတို့ ဒေဝဒတ်သည် ယခု အခါ၌သာလျှင် ကျေးဇူးကို မသိတတ်သည် မဟုတ်သေး၊ ရှေး၌လည်း ကျေးဇူးကို မသိတတ်သည် သာလျှင်တည်းဟု ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ အနုသန္ဓေကိုစပ်၍ ယခုအခါ ဒေဝဒတ်သည် ထိုအခါ အဆွေခင်ပွန်း ပြစ်မှား တတ်သော ယောကျ်ားယုတ် ဖြစ်ဘူးပြီ၊ ယခုအခါ သာရိပုတ္တရာသည် ထိုအခါ ရက္ခဇိုဝ်းနတ် ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ သီလဝဆင် မင်းဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[ကျေးဇူးမသိ၊ လူတုံးတိ၊ ဝိစိရောက်ခါ မြေမျိုရှာ]

**နှစ်ခုတို့၏ပြည့်ကြောင်းဖြစ်သော သီလဝနာဂရာဇဇာတ်သည် ပြီး၏။**

---

## ၇၃—သစ္စံကိရဇာတ်

### ဒေဝဒတ်အလောင်းသည် ဘုရားလောင်းအား သတ်ခြင်းငှါ လုံ့လပြုကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့် တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "သစ္စံ ကိရေဝ မာဟံသု" အစရှိသော ဂါထာပုဒ် ဖြင့် တန်ဆာဆင်အပ်သော ဤ သစ္စံကိရ ဇာတ်ကို ဝေဠုဝန် ကျောင်းတော်၌ သီတင်းသုံးနေတော်မူစဉ် "ဒေဝဒတ်၏ ဘုရားကို သတ်ခြင်းငှါ လုံ့လပြုခြင်း" ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုစကားကို ချဲဦးအံ့၊ ရဟန်း သံဃာသည် တရားသဘင်၌နေ၍ ငါ့သျှင်တို့ ဒေဝဒတ်သည် မြတ်စွာဘုရား၏ ကျေးဇူးတော် ကို မသိ၊ မြတ်စွာဘုရားကို သတ်ခြင်းငှါသာလျှင် လုံ့လ ပြုပြီဟု ဒေဝဒတ်၏ ကျေးဇူးမဲ့ကို ပြောဆိုလတ်သည်ရှိသော် မြတ်စွာဘုရားသည် ကြွတော်မူလာ၍ ရဟန်းတို့ ယခုအခါ အဘယ်စကားဖြင့် စည်းဝေးကြကုန်သနည်းယု မေးတော်မူ ၏၊ ဤမည်သော စကားဖြင့် စည်းဝေးပါကုန်၏ဟု နားတော် လျှောက်သည် ရှိသော် ရဟန်းတို့ ယခုအခါ၌သာလျှင် ဒေဝဒတ်သည် ငါဘုရားအားသတ်ခြင်း ငှါ လုံ့လပြုသည် မဟုတ်သေး၊ ရှေး၌လည်း လုံ့လပြုဘူးသည် သာလျှင်တည်း ဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သော မင်းသည် မင်းပြုသည်ရှိသော် ထိုဗြဟ္မဒတ်မင်းအား ဒုဋ္ဌကုမာရမည်သောသားသည် ဖြစ်၏၊ ရှန့်ရင်း၏၊ ကြမ်းကြုတ်၏၊ လှံကန်ဖြင့် ခတ်အပ်သော မြွေဟောက်နှင့် တူ၏၊ မဆဲရေးဘဲရင်း မပုတ်ခတ်ဘဲရင်း တစုံတယောက်သောသူနှင့်တကွ စကားမဆို၊ ထိုဒုဋ္ဌကုမာရမင်းသားကို အတွင်းအပ၌ နေသောသူအပေါင်းသည် မျက်စိ၌ကျသော မြူကဲ့သို့ရင်း စားအံ့သောငှါ လာသောဘီလူးကဲ့သို့ရင်း မနှစ်သက်သည် ဖြစ်၏၊ ထိတ်လန့်ခြင်းကို ဖြစ်စေ၏၊ ထိုဒုဋ္ဌကုမာရမင်းသားသည် တနေ့သောအခါ၌ မြစ်၌ ကစားခြင်းကို ကစားလိုသည်ဖြစ်၍ များစွာသော အခြံအရံဖြင့် မြစ်နားသို့ သွား၏၊ ထိုခဏ၌ မိုဃ်းကြီးသည် တက်လတ်၍ အရပ်မျက်နှာတို့သည် အမိုက်အတိသာ ဖြစ်ကုန်၏၊ ထိုဒုဋ္ဌကုမာရမင်းသားသည် ကျွန်အစေအပါးတို့ကို ဟယ်အချင်းတို့ လာကြကုန်၊ ငါ့ကိုယူ၍ မြစ်လယ်သို့ ဆောင်ပြီးလျှင် ရေချိုး၍ ဆောင်ကြကုန်လော့ဟု ဆို၏၊ ထိုကျွန် အစေအပါးတို့သည် မင်းသားကို မြစ်လယ်သို့ ဆောင်၍ ငါတို့အား မင်းကြီးသည် အသို့ပြုလတ္တံ့နည်း၊ ဤယောကျ်ားယုတ်ကို မြစ်လယ်၌သာလျှင် သေစေအံ့ဟု တိုင်ပင်ကုန်၍ သူယုတ် ဤအရပ်သို့ သွားလေလော့ဟု ရေဖြင့်မျောစေ၍ မိမိတို့သည် ရေမှတက်ကုန်၍ ကမ်းနား၌ တည်ကုန်၏။

မင်းသားသည် အဘယ်မှာနည်းဟု မေးကုန်သည်ရှိသော် ငါတို့သည် မင်းသားကို မမြင်ကုန်၊ မိုဃ်းတက်လာလတ်သည်ကိုမြင်၍ ရေ၌ငုပ်သဖြင့် ကမ်းသို့သွား၍ ရှေ့မှလာသည် ဖြစ်လတ္တံ့၊ ဤသို့ ပြောဆိုကြအံ့ဟု တိုပ်ပင်၍ အမတ်တို့သည် မင်းကြီးအထံသို့ သွားကုန်၏၊ မင်းကြီးသည် ငါ့သား အဘယ်မှာနည်းဟု မေးသည်ရှိသော် ရှေ့မှလာသည် ဖြစ်လတ္တံ့ဟူသော အမှတ်ဖြင့် လာကုန်၏ဟုလျှောက်ကုန်၏၊ မင်းကြီးသည် တံခါးကို ဖွင့်စေ၍ မြစ်နားသို့ သွားပြီးလျှင် စုံစမ်းကြည့်ရှုကုန်လောဟု ထိုထိုအရပ်၌ စုံစမ်း ကြည့်ရှုစေ၏၊ တစုံတယောက်သောသူသည် မင်းသားကိုမမြင်၊ တိမ်အမိုက်ဖြင့် လွှမ်းလျက် မိုဃ်းရွာလတ်သည်ရှိသော် မြစ်၌မျောသော ဒုဋ္ဌကုမာရမင်းသားသည် တခုသော ထင်းတုံးကိုမြင်၍ ထင်းတုံး၌ စီး၍ သေဘေးမှ ကြောက်သည်ဖြစ်၍ ငိုကြွေးလျက် သွား၏၊ ထိုကာလ၌ကား ဗာရာဏသီပြည်၌ နေသော တယောက်သော သူဌေးသည်

မြစ်နားၐ္ဍ ကုဋ္ဌေလေးဆယ်သော ဥစ္စာကိုမြှုပ်၍ သေသည်ရှိသော် တပ်စွန်း ခြင်းကြောင့် ဥစ္စာအပြင်၌ မြွေ၏အဖြစ်ဖြင့် ဖြစ်၏၊ တယောက်သော သူဌေး သည်လည်း ထိုအရပ်၌သာလျှင် ကုဋ္ဌေသုံးဆယ်သော ဥစ္စာကိုမြှုပ်၍ ဥစ္စာ၌ တပ်စွန်းခြင်းကြောင့် ထိုအရပ်၌သာလျှင် ကြွက်၏အဖြစ်ဖြင့် ဖြစ်၏။

ထိုမြွေ,ကြွက်တို့၏ နေရာအရပ်ကို ရေသည် ဝင်၏၊ ထိုမြွေ, ကြွက်တို့သည် ရေဝင်သောခရီးဖြင့်သာလျှင် ထွက်ခဲ့ကုန်၍ ရေအယဉ်ကိုဖြတ်လျက် သွားကုန် ၏၊ မင်းသားစီးသော ထင်းတုံးသို့ရောက်၍ မြွေသည် တခုသောအစွန်းသို့,ကြွက် သည် တခုသော အစွန်းသို့ တက်၍ ထိုထင်းတုံးအပြင်၌သာလျှင် နေကုန်၏၊ ထို မြစ်၏သာလျှင် ကမ်းနား၌ တခုသော လက်ပံပင်သည် ရှိ၏၊ ထိုလက်ပံပင်၌ တခုသော ကျေးသားငယ်သည် နေ၏၊ ထိုလက်ပံပင်သည်လည်း ရေတိုက်အပ် သော အမြစ်ရှိသည်ဖြစ်၍ မြစ်၏အပြင်သို့ လည်း၏၊ ကျေးသားငယ်သည် မိုးကြီး ရွာလတ်သည်ရှိသော် ပျံသွားခြင်းငှါ မတတ်နိုင်သည်ဖြစ်၍ ပျံ၍ ထို ထင်းတုံး၏ တခုသော နံပါး၌ နား၏၊ ဤသို့လျှင် ထိုလေးယောက်ကုန်သော သူတို့သည် တပေါင်းတည်း မျောလျက် သွားကုန်၏။

ဘုရားလောင်းသည်လည်း ထိုကာလ၌ ကာသိတိုင်းဝယ် ဥဒိစ္စပုဏ္ဏားမျိုး၌ ဖြစ်၍ ကြီးခြင်းသို့ ရောက်သည်ရှိသော် ရသေ့ရဟန်းပြု၍ တခုသော မြစ်ကွေ့ ၌ သစ်ရွက်မိုးသောကျောင်းကို ဖန်ဆင်း၍ နေ၏၊ ထိုဘုရားလောင်း ရသေ့သည် သန်းခေါင်အခါ၌ စင်္ကြံသွားသည်ရှိသော် ထိုဒုဋ္ဌကုမာရမင်းသား၏ သည်းစွာ သော ငိုကြွေးသံကိုကြား၍ ငါကဲ့သို့သော မေတ္တာ,ကရုဏာနှင့် ပြည့်စုံသော ရသေ့သည် မြင်ပါလျက် ဤယောကျ်ား၏ သေခြင်းသည် မသင့်၊ ရေမှ ထုတ်ဆယ်၍ ထိုယောကျ်ားအား အသက်အလှူကို ပေးအံ့ဟု ကြံ၏၊ ကြံပြီး၍ ဘုရားလောင်းရသေ့သည် ထိုယောကျ်ားကို သင်သည် မကြောက်လင့်ဟု နှစ် သိမ့်စေ၍ ရေအယဉ်ကိုဖြတ်၍ သွားပြီးလျှင် ထိုထင်းတုံးကို တခုသောအစွန်း ၌ ကိုင်၍ ငင်သည်ရှိသော် ဆင်ပြောင်အားနှင့်တူသော အားရှိသောအစွမ်းနှင့် ပြည့်စုံသော ဘုရားလောင်းသည် တဟုန်တည်းဖြင့် ကမ်းနားသို့ ရောက်၍ မင်းသားကို ချီပြီးလျှင် ကမ်းနား၌ နေစေ၏၊ မြွေ အစရှိသည်တို့ကိုလည်း မြင်၍ ချီပြီးလျှင် ကျောင်းသို့ဆောင်၍ မီးကိုညှိ၍ ထိုသူတို့တွင်လည်း အလွန်

အားနည်းကုန်သော မြွေအစရှိသည်တို့၏ကိုယ်ကို ရှေးဦးစွာ မီးလှုံစေ၍ နောက်မှ မင်းသားကို မီးလှုံစေ၏၊ ထိုမင်းသားကိုလည်း အနာမရှိခြင်းကိုပြု၍ အာဟာရကို ပေးလျှင်လည်း မြွေ အစရှိသည်တို့အား သာလျှင် ပေးပြီး၍နောက်မှ မင်းသားအား သစ်သီးကြီးငယ်ကို ပေး၏။

မင်းသားသည် ဤရသေ့ကောက်သည် ငါ၏မင်းသားအဖြစ်ကို မရေမတွက်မူ၍ တိရစ္ဆာန်တို့အားသာလျှင် မြတ်နိုးခြင်းကိုပြု၏ဟု ဘုရားလောင်း၌ ရန်ငြိုးဖွဲ့၏၊ ထိုနေ့မှ နှစ်ရက် သုံးရက် လွန်သဖြင့် အလုံးစုံသော သူတို့သည်လည်း အစွမ်းကိုရကုန်၏၊ မြစ်၌ ရေအယဉ်ပြတ်သည်ရှိသော် မြွေသည် ရှင်ရသေ့ကိုရှိခိုး၍ အရှင်ဘုရား အရှင်ဘုရားတို့သည် အကျွန်ုပ်အား ကျေးဇူးပြုပေ၏၊ အကျွန်ုပ်သည် မဆင်းရဲ ဤမည်သောအရပ်၌ ကုဋေလေးဆယ်သော ရွှေအိုးတို့ကိုမြှုပ်၍ ထားအပ်ကုန်၏၊ အရှင်ဘုရားတို့အား ဥစ္စာဖြင့် ကိစ္စရှိသော် အလုံးစုံသော ဤဥစ္စာကို အရှင်ဘုရားတို့အား ပေးခြင်းငှါ စွမ်းနိုင်ပါ၏၊ထိုအရပ်သို့လာလတ်၍ မြွေဟု ခေါ်တော်မူကုန်လောဟု ဆိုပြီး၍ ဖဲခဲ့၏၊ ကြွက်သည်လည်း ထို့အတူ သာလျှင်ပင် ပင့်ဘိတ်၍ ဤမည်သောအရပ်၌ ရပ်ပြီးလျှင် ကြွက်ဟု ခေါ်တော်မူကုန်လောဟုဆို၍ ဖဲခဲ့၏၊ ကျေးသားသည်လည်း ရသေ့ကို ရှိခိုး၍ အရှင်ဘုရား အကျွန်ုပ်အား ဥစ္စာမရှိပါ၊ နီစွာသော သလေးတို့ဖြင့် အရှင်ဘုရားအား အလိုရှိသည်ရှိသော် အကျွန်ုပ်၏ ဤအမည်ရှိသော နေရာ အရပ်သို့ လာလတ်၍ ကျေးသားဟု ခေါ်တော်မူပါကုန်လော၊ အကျွန်ုပ်သည် အဆွေအမျိုးတို့အား ကြား၍ အရာမကသော လှည်းကို ပြည့်စေနိုင်သော ပမာဏရှိသော နီစွာသော သလေးကို ပေးခြင်းငှါ စွမ်းနိုင်ပါ၏ဟု ဆိုပြီးလျှင် ဖဲခဲ့၏။

အဆွေခင်ပွန်း ပြစ်မှားတတ်သော မင်းသားသည် ကျင့်ဝတ်တို့၌ ဓမ္မတာအားဖြင့် တစုံတခုသော စကားကို မဆိုမူ၍ သွားခြင်းသည် မသင့်၊ ဤသို့ ပင့်ဘိတ်သဖြင့် မိမိအထံသို့ လာသောရသေ့ကို သတ်အံ့ဟု ကြံပြီးလျှင် အရှင်ဘုရား အကျွန်ုပ် မင်းဖြစ်သည်ရှိသော် လာတော်မူလော၊ပစ္စည်းလေးပါးတို့ဖြင့် လုပ်ကျွေးပါအံ့ဟု ဆို၍ ဖဲခဲ့၏၊ ထိုမင်းသားသည် သွား၍ မကြာမြင့်မီလျှင် မင်းဖြစ်၏၊ ဘုရားလောင်းသည် ရှေးဦးစွာ ထိုသူတို့ကို စုံစမ်းအံ့ဟု ရှေးဦးစွာ မြွေ၏အထံသို့ သွား၍ အနီး၌ ရပ်လျက် မြွေဟူ၍ ခေါ်၏၊ ထိုမြွေသည် တခွန်း

တည်းသော စကားဖြင့်သာ ထွက်၍ ဘုရားလောင်းကိုရှိခိုး၍ အရှင်ဘုရား ဤအရပ်၌ ကုဋေလေးဆယ် ကုန်သော ရွှေတို့သည် ရှိကုန်၏၊ အလုံးစုံသော ထိုရွှေတို့ကို ဘော်၍ ယူကုန်လောဟု ဆို၏၊ ဘုရားလောင်းသည် ကောင်းပြီ၊ ငါ့အား အလိုရှိသောကိစ္စဖြစ်လတ်သော်သိအံ့ဟုဆို၍ ထိုမြွေကို ပြန်စေပြီးလျှင် ကြွက်အထံသို့သွား၍ အသံကိုပြု၏၊ ထိုကြွက်သည်လည်း ထိုမြွေအတူသာလျှင် ကျင့်၏၊ ဘုရားလောင်းသည် ထိုကြွက်ကိုလည်း ပြန်စေပြီးလျှင် ကျေးသား အထံသို့ သွား၍ ကျေးသားဟု ခေါ်၏၊ ထိုကျေးသားသည်လည်း တခွန်း တည်းသော စကားဖြင့် သင်လျှင် သစ်ပင်မှ သက်လတ်၍ ဘုရားလောင်းကို ရှိခိုးလျက် အရှင်ဘုရား အကျွန်ုပ်၏ အဆွေအမျိုးတို့၏ အထံသို့ သွား၍ ဟိမဝန္တာ အရပ်မှ အရှင်ဘုရားတို့၏ အကျိုးငှါ အလိုလိုသာလျှင် ဖြစ်သော သလေးကို ဆောင်ရအံ့လောဟုမေး၏၊ ဘုရားလောင်းသည် အလိုရှိသည်ရှိသော် သိရအံ့ဟု ဆို၍ ထိုကျေးသားကိုလည်း ပြန်စေပြီးလျှင် ယခုအခါ မင်းကိုစုံစမ်း အံ့ဟုသွား၍ မင်း၏ဥယျာဉ်၌နေပြီးလျှင် နက်ဖြန်နေ့၌ ရသေ့တို့အသွင်အပြင်နှင့် ပြည့်စုံခြင်းကိုပြု၍ ဆွမ်းခံဝတ်ဖြင့် ဗာရာဏသီမြို့သို့ ဝင်၏၊ ထိုခဏ၌ အဆွေ ခင်ပွန်း ပြစ်မှားတတ်သော ထိုမင်းသည် တန်ဆာဆင်အပ်သော မြတ်သော ဆင်ကျောက်ကုန်းထက်၌ စီးလျက် များပြားစွာသော အခြံအရံဖြင့် မြို့ကို လက်ျာရစ်လှည့်၏။

ထိုမင်းသည် ဘုရားလောင်းကို အဝေးမှလျှင် မြင်၍ ရသေ့ကောက် ငါ၏ အထံ၌ စား၍ နေလိုသည်ဖြစ်၍ လာ၏၊ အကြင်မျှလောက် ပရိသတ်အလယ်၌ မိမိသည် ငါ့အား ပြုဘူးသော ကျေးဇူးကိုမပြသေး၊ ထိုသို့မပြမီလျှင် ထိုရသေ့၏ ဦးခေါင်းကို ပြတ်စေအံ့ဟု မင်းချင်းယောက်ျားတို့ကို ကြည့်၏၊ အရှင်မင်းကြီး အဘယ်ကို ပြုရအံ့နည်းဟု လျှောက်သည်ရှိသော် ဤရသေ့ကောက်သည် ငါ့ကို တစုံတခုကို တောင်းလိုသည် ဖြစ်၍ လာယောင်တကား၊ ဤရသေ့ယုတ်အား ငါ့ကို မြင်ခြင်းငှါ မပေးမူ၍သာလျှင် ယခု ရသေ့ယုတ်ကို ဖမ်း၍ လက်ပြန်ဖွဲ့ ပြီးလျှင် ခရီးလေးဆုံ ခရီးလေးဆုံတိုင်း ပုတ်ခတ်ကုန်လျက် မြို့မှ ထွက်ကုန်၍ သုသာန်၌ ရသေ့၏ ဦးခေါင်းကို ဖြတ်ပြီးလျှင် ကိုယ်ကို တံကျင် လျှိုလေ ကုန်လောဟု ဆို၏၊ ထိုမင်းချင်းယောက်ျားတို့သည် ကောင်းပြီဟု ဝန်ခံပြီးလျှင်

သွားကုန်၍ အပြစ်မရှိသော ဘုရားလောင်းကို နှောင်ဖွဲ့၍ ခရီးလေးဆုံတိုင်း ပုတ်ခတ်ကုန်လျက် သုသာန်သို့ ဆောင်အံ့သောငှါ အားထုတ်ကုန်၏၊ ဘုရားလောင်းသည် ပုတ်ခတ်တိုင်း ပုခတ်တိုင်းသော အရပ်၌ အိုမိခင် ဘခင်တို့ဟု မငို မမြည်တမ်းမူ၍ ဖောက်ပြန်ခြင်း မရှိသည်ဖြစ်၍—

၇၃၊ သစ္စံ ကိရေဝ မာဟံသု၊ နရာ ဧကစ္စိယာ ဣဓ။
ကဋ္ဌံ နိပ္လဝိတံ[၁] သေယျော၊ နတွေဝေကစ္စိယော နရော။

ဟူသော ဤဂါထာကို ဆို၏။

ကဋ္ဌံ၊ မြစ်၌မျောသော ထင်းတုံးကို။ နိပ္လဝိတံ၊ ဆယ်တင်ခြင်းသည်။ သေယျော၊ မြတ်၏။ ဧကစ္စိယော၊ အချို့သော။ နရော၊ အဆွေခင်ပွန်း ပြစ်မှားတတ်သော ယောကျ်ားယုတ်ကို။ ဥတ္တာရိယာ၊ ဆယ်တင်ခြင်းသည်။ နတွေဝ သေယျော၊ မမြတ်သည်သာလျှင်တည်း။ ဧဝံ၊ ဤသို့။ ဣဓ၊ ဤလောက၌။ ဝဒမာနာ၊ ဆိုကုန်သော။ ဧကစ္စိယာ၊ အချို့ကုန်သော။ နရာ၊ ပညာရှိတို့သည်။ သစ္စံ၊ မှန်သောစကားကို။ အာဟံသု ကိရ၊ ဆိုကုန်သတတ်။

ဤသို့လျှင် ပုတ်ခတ်တိုင်း ပုတ်ခတ်တိုင်းသောအရပ်၌ ဤဂါထာကိုသာလျှင် ဆို၏၊ ထိုသို့သောစကားကိုကြား၍ ထိုသူအပေါင်းတို့တွင် အကြင် ပညာရှိသော ယောကျ်ားတို့သည် ရှိကုန်၏၊ ထိုပညာရှိသော ယောကျ်ားတို့သည် အိုရဟန်း သင်သည် ငါတို့ မင်းကြီးအား ပြုအပ်သော တစုံတခုသော ကျေးဇူးသည် ရှိသလောဟု ဆိုကုန်၏၊ ဘုရားလောင်းသည် ထိုအကြောင်းကို ကြား၍ ဤသို့လည်း ဤမင်းကို ကြီးစွာသော မြစ်ရေအယဉ်မှ ဆယ်တင်သော ငါသည်လျှင် မိမိဆင်းရဲကို ပြု၏၊ စင်စစ်သော်ကား ငါသည် ရှေးပညာရှိတို့၏ စကားကို မကျင့်မိဟု အောက်မေ့၍ ဤသို့ ဆို၏ဟု ဆို၏၊ ထိုစကားကို ကြားကုန်၍ မင်းပုဏ္ဏား အစရှိကုန်သော မြို့၌ နေကုန်သော သူတို့သည် အဆွေခင်ပွန်း ပြစ်မှားတတ်သော ထိုမင်းသည် ဤသို့သော ကျေးဇူးနှင့်ပြည့်စုံသော မိမိ၏အသက်ကို ပေးတတ်သောသူ၏ ကျေးဇူးကိုမျှလည်း မသိ၊ ထိုမင်းယုတ်ကို မှီ၍ အဘယ်မှာလျှင် ငါတို့အား စီးပွားချမ်းသာဖြစ်နိုင်အံ့နည်း၊ ထိုမင်းယုတ်ကို ဖမ်းကုန်လောဟု အမျက်ထွက်ကုန်သည် သာလျှင် ဖြစ်၍ ထက်ဝန်းကျင်မှ

---

၁၊ ဝိပ္လါဝိတံ (သီ၊ ဋ္ဌ)

ထကုန်လတ်၍ မြား,လှံ,ကျောက်,ဆောက်ပုတ် အစရှိကုန်သော လက်နက်တို့ဖြင့် ဆင်ကျောက်ကုန်းထက်၌စီးသော ထိုမင်းယုတ်ကို သတ်ကုန်၍ ခြေ၌ကိုင်ပြီးလျှင် ကျုံးအပြင်၌ စွန့်ပစ်၍ ဘုရားလောင်းကို အဘိသိက်သွန်း၍ မင်းပြုစေကုန်၏။

ထိုမင်းသည် တရားသဖြင့် မင်းပြုလျက် တဖန် တနေ့သ၌ မြွေ အစရှိသည်တို့ကို စုံစမ်းလိုသည်ဖြစ်၍ များစွာသော အခြံအရံဖြင့် မြွေနေရာအရပ်သို့သွား၍ မြွေဟု ခေါ်၏၊ မြွေသည်လာလတ်၍ ရှိခိုးပြီးလျှင် အရှင် ဤဥစ္စာသည် သင့်ဘို့တည်း၊ ယူလောဟု ဆို၏၊ မင်းသည် ကုဋေလေးဆယ်သော ရွှေဥစ္စာကို အမတ်တို့အား အပ်နှံပြီးလျှင် ကြွက်အထံသို့သွား၍ ကြွက်ဟု ခေါ်၏၊ထိုကြွက်သည်လည်း လာလတ်၍ ရှိခိုးပြီးလျှင် ကုဋေသုံးဆယ်သော ဥစ္စာကို ဆောင်နှင်း၏၊မင်းသည် ထိုကုဋေသုံးဆယ်သော ဥစ္စာကိုလည်း အမတ်တို့အား အပ်နှံပြီးလျှင် ကျေးသားနေရာ အရပ်သို့ သွား၍ ကျေးသားဟု ခေါ်၏၊ ထိုကျေးသားသည်လည်း ခြေ၌ ရှိခိုးပြီးလျှင် အရှင် သလေးကို ဆောင်ရအံ့လောဟု ဆို၏၊ မင်းသည် အလိုရှိသည်ရှိသော် ဆောင်ရလတ္တံ့၊ လာလှည့် သွားကြကုန်အံ့ဟု ဆို၍ ကုဋေခုနစ်ဆယ်ကုန်သော ရွှေ ငွေတို့နှင့်တကွ သုံးယောက်ကုန်သော သူတို့ကို ယူစေ၍ မြို့သို့သွားပြီးလျှင် မြတ်သောပြာသာဒ်အပြင်သို့ တက်၍ ဥစ္စာတို့ကို ကောင်းစွာလုံခြုံစေပြီးလျှင် မြွေ၏ နေရာအကျိုးငှါ ရွှေကျည်ကို,ကြွက်၏ နေရာအကျိုးငှါ ဖလ်လိုဏ်ကို, ကျေးသား၏ နေရာအကျိုးငှါ ရွှေချိုင့်ကို ပြုစေ၍ မြွေအားရင်း ကျေးသားအားရင်း အစာအကျိုးငှါ နေ့တိုင်းနေ့တိုင်း ရွှေခွက်ယပ်၌ ပျားရေပေါက်ပေါက်တို့ကို ပေး၏၊ ကြွက်အား မွှေးလှစွာသော သလေးဆန်ကိုပေး၏၊ ဒါန အစရှိသော ကောင်းမှုတို့ကို ပြု၏၊ ဤသို့လျှင် ထိုလေးယောက်ကုန်သော သူတို့သည် အသက်ထက်ဆုံး ညီညွတ်ကုန်သည်ဖြစ်၍ ဝမ်းမြောက်ကုန်သည်ဖြစ်၍ နေကုန်လျက် အသက်ကုန်သဖြင့် ကံအားလျော်စွာ လားကြရကုန်၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ရဟန်းတို့ ယခုအခါ၌သာလျှင် ဒေဝဒတ်မိုက်သည် ငါ့အား သတ်ခြင်းငှါ လုံ့လပြုသည် မဟုတ်သေး၊ ရှေး၌လည်း လုံ့လပြုဘူးသည်သာလျှင်တည်းဟု မိန့်တော်မူ၍ ဤမြေဒေသနာကို ဆောင်တော်မူပြီးလျှင် အနုသန္ဓေကိုစပ်၍ ယခုအခါ ဒေဝဒတ်သည် ထိုအခါ အဆွေခင်ပွန်းကို ပြစ်မှားတတ်သော မင်းဖြစ်ဘူးပြီ၊ ယခုအခါ သာရိပုတ္တရာသည် ထို

အခါ မြွေဖြစ်ဘူးပြီ၊ ယခုအခါ မောဂ္ဂလာန်သည် ထိုအခါ ကြွက်ဖြစ်ဘူးပြီ၊ ယခု အခါ အာနန္ဒာသည် ထိုအခါ ကျေးသား ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည် လျှင် ထိုအခါ နောက်မှ မင်းအဖြစ်သို့ရောက်သော တရားမင်း ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[ဗောဓိလောင်းလျှာ၊ သေစိမ့်ငှါ၊ ဖြာဖြာလုံ့လ ကျိုးမရ]

သုံးခုတို၌ ပြည့်ကြောင်းဖြစ်သော သစ္စံကိရဇာတ်သည် ပြီး၏။

---

## ၇၄-ရုက္ခဓမ္မ ဇာတ်

### ညီညွတ်သည်ရှိသော် သစ်ပင်ကိုသော်လည်း သူမညှဉ်းဆဲနိုင်သော အကြောင်း

**ပဋိုပ္ပန်ဝတ္ထု**...နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညုမြတ်စွာဘုရားသည် "သာမူ သမ္မဟုယာ ဉာတိ" အစရှိသော ဂါထာပုဒ် ဖြင့် တန်ဆောင်အပ်သော ဤရုက္ခဓမ္မဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်း သုံး နေတော်မူစဉ် "ရေ၏အကြောင်းကြောင့် ခိုက်ရန်ဖြစ်သော အခါ၌ ကိုယ်တော်၏ ဆွေတော် မျိုးတော်တို့အား ဖြစ်သတ္တံ့သော ကြီးစွာသော ပျက်စီးခြင်းကို သိတော်မူ၍ ကောင်းကင်ခရီးဖြင့် ကြွသွားတော်မူ၍ ရောဟိဏီ မြစ်၏အထက်၌ ထက်ဝယ်ဖွဲ့ခွေသဖြင့် နေတော်မူပြီးလျှင် ညိုသောရောင်ခြည်ကို လွှတ်တော်မူ၍ ဆွေတော် မျိုးတော်တို့ကို ထိတ်လန့်စေ၍ ကောင်းကင်မှ သက်တော်မူပြီးလျှင် မြစ်နား၌ နေတော်မူလျက် ထိုခိုက်ရန် ဖြစ်ခြင်း" ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုသို့ ဆိုအပ်ခဲ့ပြီးသော စကားသည် ဤရုက္ခ ဓမ္မဇာတ်၌ အကျဉ်းသာလျှင်တည်း၊ အကျယ်ကား "ကုဏာလဇာတ်" * ၌ ထင်စွာ ဖြစ်လတ္တံ့။

ထိုအခါ၌ကား မြတ်စွာဘုရားသည် ဆွေမျိုး မင်းကုန်သော သင်တို့သည် ညီညွတ်ကုန်သည် ဝမ်းမြောက်ကုန်သည်ဖြစ်ခြင်းငှါ သင့်၏၊ထိုစကားသည်မှန်၏၊ ဆွေမျိုးတို့၏ ညီညွတ်ခြင်းသည်ရှိခဲ့သော် ရန်သူတို့သည် အခွင့်မရကုန်၊ ရှေးဦးစွာ လူဖြစ်သောသူတို့ကို ထားဘိကုန်ဦးလော၊ စိတ်စေတနာ မရှိကုန်သော သစ်ပင်

---

* အသိတိနိပါတ်မှာ ပါသည်။

တို့အားလည်း ညီညွတ်ခြင်းကို ရခြင်းငှါ သင့်၏၊ ထိုစကားသည်မှန်၏၊ လွန်လေပြီးသောအခါ ဟိမဝန္တာတောအရပ်၌ လေကြီးသည် အင်ကြင်းတောကိုတိုက်၏၊ ထိုအင်ကြင်းတော၏ကား အချင်းချင်း သစ်ပင်ကြီး သစ်ပင်ငယ် ချုံနွယ်တို့ဖြင့် စပ်သည်၏ အဖြစ်ကြောင့် တခုသော သစ်ပင်မျှကိုလည်း လည်းစိမ့် သောငှါ မတတ်နိုင်၊ သစ်ပင်တကာတို့၏ ထိပ်ဖျားဖြင့်သာလျှင် သွားရ၏၊ လွင်ပြင်၌ ရောက်သော အခက်အခွနှင့်ပြည့်စုံသော တခုသော သစ်ပင်ကြီးကို တပါးသော သစ်ပင်နှင့် မစပ်သည်၏ အဖြစ်ကြောင့် အမြစ်ကိုနုတ်၍ မြေ၌ လည်းစေ၏၊ ဤအကြောင်းကြောင့် သင်တို့သည် ညီညွတ်ကုန်သည် ဝမ်းမြောက် ကုန်သည် ဖြစ်ခြင်းငှါ သင့်၏ဟု မိန့်တော်မူ၍ ထိုဆွေတော် မျိုးတော်တို့သည် တောင်းပန်အပ်ကုန်သည်ဖြစ်၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုသည်ရှိသော် ရှေးဦးစွာဖြစ်သော ဝေဿဝဏ်နတ်မင်းကြီးသည် စုတေ၍ သိကြားမင်းသည် တပါးသော ဝေဿဝဏ်ကိုလဲ၍ နောက်မှ ဖြစ်သော ဝေဿဝဏ်သည် သစ်ပင်ကြီးသစ်ပင်ငယ်ချုံနွယ်တို့၌ ဗိမာန်ကို မိမိမိမိတို့၏ နှစ်သက်ရာ အရပ်၌ ယူစေကုန်လောဟု သတင်းစကားကို စေလိုက်၏၊ ထိုအခါ ဘုရားလောင်းသည် ဟိမဝန္တာအရပ်၌ တခုသော အင်ကြင်းတော၌ ရုက္ခဇိုဝ်းနတ်၏ အဖြစ်ဖြင့် ဖြစ်၏၊ ထိုဘုရားလောင်းသည် ဆွေမျိုးတို့ကို သင်တို့သည် ဗိမာန်တို့ကို ယူကုန်သည်ရှိသော် လွင်ပြင်၌ရောက်သော သစ်ပင်တို့ကို မယူကြကုန်လင့်၊ ဤအင်ကြင်းတော၌ ငါသည်ယူအပ်သောဗိမာန်ကို ခြံရံ၍တည်သော ဗိမာန်တို့ကို ယူကုန်လောဟု ဆို၏၊ ထိုနတ်အပေါင်းတို့တွင် ဘုရားလောင်း စကားကို နားထောင်ကုန်သော ပညာရှိနတ်တို့သည် ဘုရားလောင်း ဗိမာန်ကို ခြံရံ၍ရောက်သော ဗိမာန်ကို ယူကုန်၏၊ ပညာမရှိသော နတ်တို့သည်ကား တောဗိမာန်ဖြင့် ငါတို့အား အဘယ်အကျိုးရှိအံ့နည်း၊ ငါတို့သည် လူ့ပြည်၌သာလျှင် ရွာ နိဂုံး မင်းနေပြည်တံခါး၌ ဗိမာန်တို့ကို ယူကုန်အံ့၊ ထိုစကားသည် မှန်၏၊ လူ့ရွာ အစရှိသည်တို့ကို မှီ၍နေကုန်သော နတ်တို့သည် လာဘ်လာဘ အစု, အခြံအရံအစုကို ရကုန်သည် ဖြစ်ကုန်၏ဟု လူ့ပြည်၌ လွင်ပြင်အရပ်၌ ဖြစ်သော သစ်ပင်ကြီးတို့၌ ဗိမာန်တို့ကို ယူကုန်၏။

ထိုအခါ တနေ့သ၌ကြီးစွာသောလေနှင့်တကွသော မိုးသည်းရွာခြင်းသည်ဖြစ်၏၊ ထိုလေ၏ အလွန်အားရှိသည်၏ အဖြစ်ကြောင့်သာလျှင် မြဲစွာသော အမြစ်ရှိသော တောသစ်ပင်ကြီးတို့သည်လည်း ကျိုးသော အခက်အခွ ရှိကုန်သည်ဖြစ်၍ အမြစ်နှင့်တကွ လည်းကုန်၏၊ အချင်းချင်း ပေါ်ကြသဖြင့်တည်သော ထိုအင်ကြင်းတောသို့ကား ရောက်၍ ထိုမှ ဤမှ တိုက်သည်ရှိသော် တခုသော သစ်ပင်ကို သော်လည်း လည်းစေခြင်းငှါ မတတ်နိုင်၊ ပျက်စီးသော ဗိမာန်ရှိသော နတ်တို့သည် ကိုးကွယ်ရာ မရှိကုန်သည်ဖြစ်၍ သူငယ်တို့ကို လက်ဆွဲကုန်လျက် ဟိမဝန္တာသို့ သွား၍ ထိုအကြောင်းကို အင်ကြင်းတော နတ်တို့အား ပြောဆိုကြကုန်၏၊ ထိုအင်ကြင်းတော နတ်တို့သည် နတ်တို့၏ လာသောအဖြစ်ကို ဘုရားလောင်း ရုက္ခဇိုဝ်းနတ်အား ကြားကုန်၏၊ ထိုဘုရားလောင်း နတ်မင်းသည် ပညာရှိတို့၏ စကားကို မယူမူ၍ အထောက်အပံ့မရှိသော အရပ်သို့ သွားကုန်သော သူတို့မည်သည်ကား ဤသို့ သဘောရှိသည် ဖြစ်ကုန်၏ဟု ဆို၍ တရားဟောလိုရကား—

၇၄၊ သာဓူ သမ္ဗဟုလာ ဉာတိ၊ အပိ ရုက္ခာ အရညဇာ။
ဝါတော ဝဟတိ ကေဋ္ဌံ၊ ဗြဟန္တမ္ပိ ဝနပ္ပတိံ ။

ဟူသော ဤဂါထာကို ဆို၏။

ဉာတိ၊ အဆွေအမျိုးတို့သည်။ သမ္ဗဟုလာ၊ များကုန်မူကား။ သာဓူ၊ ကောင်းကုန်၏။ အရညာ၊ တော၌ဖြစ်ကုန်သော။ ရုက္ခာ အပိ၊ သစ်ပင်တို့သည်လည်း။ သမ္ဗဟုလာ၊ များကုန်မူကား။ သာဓူ၊ ကောင်းကုန်၏။ ကေမ္ပိ၊ တပင်တည်းသာ တည်သော။ ဗြဟန္တံ၊ ကြီးစွာသော။ ဝနပ္ပတိမ္ပိ၊ တောစိုး သစ်ပင်ကိုလည်း။ ဝါတော၊ လေသည်။ ဝဟတိ၊ လှည်းနိုင်၏။

ထိုဘုရားလောင်း ရုက္ခဇိုဝ်းနတ်မင်းသည် ဤအကြောင်းကို ဆိုပြီး၍ အသက်၏ အဆုံး၌ ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည်လည်း မင်းကြီးတို့ ဤသို့လျှင် ရှေးဦးစွာ ဆွေမျိုးတို့၏ ညီညွတ်ခြင်းကိုသာလျှင် ရခြင်းငှါသင့်၏၊ ညီညွတ်ကုန်သည်ဖြစ်၍ ဝမ်းမြောက် ဝမ်းသာကုန်သည်ဖြစ်၍ ချမ်းသာစွာ နေခြင်းဖြင့်သာလျှင်

နေကြကုန်လော့ဟု မိန့်တော်မူ၍ ဤ ဓမ္မဒေသနာကို ဆောင်တော်မူ၍ အနုသန္ဓေကို စပ်၍ ယခုအခါ ငါဘုရား ပရိသတ်တို့သည် ထိုအခါ နတ်တို့သည် ဖြစ်ဘူးကုန်ပြီ၊ ယခုအခါ ငါဘုရားသည်သာလျှင် ထိုအခါ ပညာရှိသောနတ် ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[ ညီညွတ်သည့်အား၊ ဆောင်၍ထား၊ အမြားအမြောင် ရန်ကိုအောင် ]

လေးခုတို၏ ပြည့်ကြောင်းဖြစ်သော ရုက္ခဓမ္မဇာတ်သည် ပြီး၏။

---

## ၇၅-မစ္ဆဇာတ်

### ဘုရားလောင်း၏ သစ္စာတန်ခိုးဖြင့် မိုယ်းကို ရွာစေသောအကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**...နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "အဘိတ္ထနယ ပဇ္ဇုန္န" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤ မစ္ဆဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "ကိုယ်တော်သည် ရွာစေအပ်သော မိုယ်း" ကို အကြောင်းပြု၍ ဟောတော်မူ၏၊ အခါတပါး၌ ကောသလတိုင်းဝယ် မိုယ်းသည် မရွာသတတ်၊ ကောက်တို့သည် ညှိုးကုန်၏၊ ထိုထိုအရပ်၌ တဘက်ဆည်ကန် လေးထောင့်အိုင် တို့သည် ခြောက်ကုန်၏၊ ဇေတဝန်ကျောင်းတော် တံခါးမုတ်အနီး ဇေတဝန် ရေကန်၌လည်း ရေသည် ပြက်၏၊ ညွန်ပျောင်းသို့ ဝင်၍ ဝပ်အပ်ကုန်သော ငါး လိပ်တို့ကို ကျီး, စွန် အစရှိသည်တို့သည် သံတံကျင်နှင့် တူကုန်သော နှုတ်သီး တို့ဖြင့် ထိုးကုန် ထုတ်ကုန်၍ တုန်လှုပ်ကုန်စဉ် စားကုန်၏၊ မြတ်စွာဘုရားသည် ငါး,လိပ်တို့၏ ထိုသို့ ပျက်စီးခြင်းကို မြင်တော်မူ၍ မဟာကရုဏာတော်သည် တိုက်တွန်းအပ်သော နှလုံးတော် ရှိတော်မူသည်ဖြစ်၍ ယနေ့ ငါသည် မိုယ်းကို ရွာစေခြင်းငှါ သင့်၏ဟု ညဉ့်သည် လင်းလတ်သည်ရှိသော် ကိုယ်လက်သုတ်သင် ခြင်းကို ပြုတော်မူ၍ ဆွမ်းခံအခါကိုမှတ်၍ များစွာသော ရဟန်းသံဃာအပေါင်း ခြံရံလျက် ဘုရားတို့၏ တင့်တယ်စမ္မယ်ခြင်းဖြင့် သာဝတ္ထိမြို့သို့ ဆွမ်းအလို့ငှါ ဝင်တော်မူ၍ ဆွမ်းဘုဉ်းပေးပြီးသည်မှ နောက်အဘို့၌ ဆွမ်းခံရွာမှ ဖဲတော်မူ၍ သာဝတ္ထိမြို့မှ ကျောင်းတော်သို့ ကြွတော်မူသည်ရှိသော် ဇေတဝန် ရေကန်

**စောင်းတန်း၌ ရပ်တော်မူ၍ အရှင်အာနန္ဒာမထေရ်ကို အာနန္ဒာ ရေသနုပ်ကို ယူခဲ့လော၊ ဇေတဝန် ရေကန်၌ ရေချိုးအံ့ဟု မိန့်တော်မူ၏။**

အရှင်ဘုရား ဇေတဝန် ရေကန်၌ ရေပြတ်၏၊ ညွန်မျှသာလျှင် ကြွင်းသည် မဟုတ်လောဟု နားတော်လျှောက်၏၊ အာနန္ဒာ ဘုရားတို့၏ အစွမ်းမည်သည် ကား အလွန်ကြီး၏၊ သင်သည် ရေသနုပ်ကို ယူခဲ့လောဟု မိန့်တော်မူ၏၊ အရှင် အာနန္ဒာမထေရ်သည် ရေသနုပ်ကိုယူ၍ ကပ်၏၊ မြတ်စွာဘုရားသည် တခုသော အစွန်းဖြင့် ရေသနုပ်ကို ဝတ်တော်မူ၍ တခုသောအစွန်းဖြင့် ကိုယ်တော်ကို ရုံ တော်မူ၍ ဇေတဝန် ရေကန်၌ ရေချိုးအံ့ဟု မိန့်တော်မူပြီးလျှင် စောင်းတန်း၌ ရပ်တော်မူ၏၊ ထိုခဏ၌လျှင် သိကြားမင်း၏ ပဏ္ဍုကမ္ဗလာ ကျောက်နေရာ သည် ပူသော အခြင်းအရာကို ပြ၏၊ ထိုသိကြားမင်းသည် အကြောင်းကား အဘယ်သို့နည်းဟု ဆင်ခြင် လတ်သည်ရှိသော် ထိုအကြောင်းကိုသိ၍ မိုဃ်းနတ်သား ကို ခေါ်စေပြီးလျှင် အမောင် မိုဃ်းနတ်သား မြတ်စွာဘုရားသည် ဇေတဝန် ရေကန်၌ ရေချိုးအံ့ဟု စောင်းတန်းဦး၌ ရပ်တော်မူ၏၊ လျင်စွာ အလုံးစုံသော ကောသလတိုင်းကို တစပ်တည်းပြု၍ မိုဃ်းကို ရွာစေလောဟု ဆို၏၊ ထိုမိုဃ်း နတ်သားသည် ကောင်းပြီဟု ဝန်ခံပြီးလျှင် တထည်သော တိမ်ပုဆိုးကို ဝတ်၍ တထည်သော တိမ်ပုဆိုးကို ရုံ၍ မိုဃ်းသီချင်းကိုသီလျက် အရှေ့လောကဓာတ် သို့ ငဲ့ရှုပြေး၏။

အရှေ့မျက်နှာ အရပ်အဘို့၌ ကောက်နယ် တလင်းခန့်မျှ လောက်သော တခုသော တိမ်အဝန်းသည် ထလတ်၍ အထပ်တရာ အထပ်တထောင်ဖြစ်၍ ထစ်ကြိုးလျက် လျှပ်စစ်ပြက်လျက် အောက်သို့ မျက်နှာပြု၍ ထားအပ်သော ရေအိုးအသွင်ဖြင့် ရွာစေလျက် အလုံးစုံသော ကောသလတိုင်းကို ကြီးစွာသော ရေအယဉ်ဖြင့်လွှမ်းဘိသကဲ့သို့ မိုဃ်းသည် အယဉ်မပြတ်ရွာလျက် တခဏခြင်းဖြင့် သာလျှင် ဇေတဝန်ရေကန်ကို ပြည့်စေ၏၊ စောင်းတန်းဦးကို ဆိုက်၍ ရေသည် တည်၏၊ မြတ်စွာဘုရားသည် ရေကန်၌ ရေချိုးပြီးလျှင် အလွန်နီသော နှစ်ထပ်သော သင်းပိုင်တော်ကို ဝတ်၍ ခါးပန်းတော်ကို ဖွဲ့၍ မြတ်စွာဘုရား သင်္ကန်းတော်ကြီးကို ပခုံးတဘက်၌ စမွယ်တင်တော်မူ၍ ရဟန်းသံဃာအပေါင်း ခြံရံလျက် ဂန္ဓကုဋိ ပရိဝုဏ်၌ ခင်းအပ်သော မြတ်သော ဘုရားနေရာတော်၌

နေတော်မူ၍ ရဟန်းသံဃာသည် ဝတ်ပြုအပ်သည်ရှိသော် ထတော်မူ၍ ပတ္တမြား စောင်းတန်း၏ အပြင်၌ ရပ်တော်မူလျက် ရဟန်းသံဃာအား အဆုံးအမကို ပေးတော်မူ၍ လွှတ်လိုက်၍ မွှေးလှစွာသော ပန်းတို့ဖြင့် ထုံအပ်သော ဂန္ဓကုဋီသို့ ဝင်တော်မူ၍ လက်ျာနံပါးဖြင့် ကေသရာဇာခြင်္သေ့မင်း၏ အိပ်ခြင်းနှင့်တူသော ကျိန်းတော်မူခြင်းကိုပြု၍ ညချမ်းသောအခါ တရားသဘင်၌ စည်းဝေးကုန်သော ရဟန်းတို့သည် ငါ့သျှင်တို့ မြတ်စွာဘုရား၏ ခန္တီ, မေတ္တာ, ကရုဏာနှင့် ပြည့်စုံခြင်းကို ရှုကြကုန်လော့။

အထူးထူး အပြားပြားသော ကောက်တို့သည် ညှိုးကုန်သည်ရှိသော် အထူးထူးသော ရေကန် ရေအိုင်တို့သည် ခြောက်ကုန်သည်ရှိသော် ငါး, လိပ်တို့သည် ကြီးစွာသော ဆင်းရဲသို့ ရောက်ကုန်သည်ရှိသော် ကရုဏာတော်ကို ဖြစ်စေ၍ များစွာသော သတ္တဝါ အပေါင်းကို ဆင်းရဲမှလွတ်စေအံ့ဟု ရေသနုပ်တော်ကို ဝတ်တော်မူ၍ ဇေတဝန် ရေကန်၏ စောင်းတန်းဦး၌ ရပ်တော်မူ၍ တခဏခြင်းဖြင့် အလုံးစုံသော ကောသလတိုင်းကို များစွာသော ရေအယဉ်ဖြင့် မျောစေဘိသကဲ့သို့ မိုဃ်းကိုရွာစေ၍ များစွာသော သတ္တဝါကို ကာယိကဒုက္ခ, စေတသိကဒုက္ခမှ လွှတ်စေ၍ ကျောင်းတော်သို့ ဝင်တော်မူ၏၊ ဤစကား ဖြစ်လတ်သည်ရှိသော် ဂန္ဓကုဋီမှ ထွက်တော်မူ၍ တရားသဘင်သို့ ကြွတော်မူပြီးလျှင် ရဟန်းတို့ ယခုအခါ အဘယ်စကားဖြင့် စည်းဝေးကြကုန်သနည်းဟု မေးတော်မူ၍ ဤမည်သော စကားဖြင့် စည်းဝေးပါကုန်၏ဟု နားတော်လျှောက်သည်ရှိသော် ရဟန်းတို့ ငါဘုရားသည် ယခုအခါ၌သာ များစွာကုန်သော သတ္တဝါအပေါင်းသည် ပင်ပန်းသည်ရှိသော် မိုဃ်းကို ရွာစေသည် မဟုတ်သေး၊ ရှေး၌လည်း တိရစ္ဆာန်မျိုး၌ဖြစ်၍ ငါးမင်းဖြစ်သောကာလ၌လည်း မိုဃ်းကို ရွာစေဘူးသည် သာလျှင်တည်းဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဤကောသလတိုင်း သာဝတ္ထိပြည် ဇေတဝန် ရေကန်အရပ်၌ တခုသော ချုံနွယ်တို့ဖြင့် ခြံရံအပ်သော ရေအိုင်သည် ဖြစ်၏၊ ထိုအခါ ဘုရားလောင်းသည် ငါးမျိုး၌ဖြစ်၍ ငါးအပေါင်း ခြံရံလျက် ထိုရေအိုင်၌နေ၏၊ ယခုအခါ၌ကဲ့သို့လျှင် ထိုအခါ၌လည်း ဤကောသလတိုင်း၌

မိုယ်းသည် မရွာ၊ လူတို့၏ကောက်တို့သည် ညှိုးကုန်၏၊ ထုံးအိုင် အစရှိသည်တို့၌ မရေပြတ်၏၊ ငါး,လိပ်တို့သည် ညွန်ပျောင်းသို့ဝင်ကုန်၏၊ ဤအိုင်၌လည်း ငါး,လိပ်တို့သည် ညွန်ပျောင်းသို့ဝင်၍ ထိုထိုအရပ်၌ နေကုန်၏၊ ကျီးအစရှိသည်တို့သည် နှုတ်သီးဖြင့် ထိုး၍ ထုတ်ကုန်လျက် စားကုန်၏။

ဘုရားလောင်း ငါးမင်းသည် ဆွေမျိုးအပေါင်း၏ ပျက်စီးခြင်းကို မြင်၍ ထိုဆွေမျိုးတို့၏ ဤဆင်းရဲကို ငါ့ကို ထား၍ တပါးသော လွတ်စေခြင်းငှါ စွမ်းနိုင်သော သူမည်သည် မရှိ၊ သစ္စာပြုခြင်းကို ပြု၍ မိုယ်းကို ရွာစေပြီးလျှင် ဆွေမျိုးတို့ကို သေခြင်းဆင်းရဲမှ လွတ်စေအံ့ဟု မည်းသော အဆင်းရှိသော ညွန်ကို နှစ်ဖြာဃက်၍ ထွက်ပြီးလျှင် ညိုသော သစ်သားနှစ် တံကျင်အဆင်းနှင့် တူသော အဆင်းရှိသော ငါးကြီးသည် ကောင်းစွာ သွေးအပ်ပြီးသော နီသော ပတ္တမြားလုံးနှင့် တူကုန်သော မျက်စိတို့ကို ဖွင့်၍ ကောင်းကင်သို့ ကြည့်၍ ပဇ္ဇုန်နတ်မင်းအားအသံကိုပေး၍ အိုပဇ္ဇုန်နတ်မင်း ငါသည်ဆွေမျိုးအပေါင်းကို မှီ၍ ဆင်းရဲ၏၊ သင်သည် သီလရှိသော ငါသည် ပင်ပန်းလျက် အဘယ့်ကြောင့် မိုယ်းကိုမရွာစေသနည်း၊ ငါသည်ဇာတ်တူဖြစ်သောသတ္တဝါတို့ကို စားတတ်သော အမျိုး၌ ဖြစ်ပါလျက် ဆန်လုံးပမာဏရှိသော ငါးကို အစပြု၍ စားဘူးသော မည်သည် မရှိ၊ ငါသည် တပါးသော သတ္တဝါကိုလည်း ဇီဝိတိန္ဒြေမှ မချစဘူး၊ ဤသို့လျှင် ငါ၏သစ္စာကြောင့်မိုယ်းကိုရွာစေ၍ ငါ၏ဆွေမျိုးအပေါင်းတို့ကိုရင်း ငါ့ကိုရင်း ဆင်းရဲမှ လွတ်စေလော့ဟုဆို၍ အလုပ်အကျွေးအစေအပါးဖြစ်သော သူကို စေဘိသကဲ့သို့ မိုယ်းနတ်မင်းကို ခေါ်လိုရကား—

၇၅၊ အဘိတ္ထနယ ပဇ္ဇုန္န၊ နိဓိံ ကာကဿ နာသယ။
ကာကံ သောကာယ ရန္ဓေဟိ၊ မဉ္စ သောကာ ပမောစယ။

ဟူသော ဤဂါထာကို ဆို၏။

ပဇ္ဇုန္န၊ ပဇ္ဇုန်နတ်မင်း။ အဘိတ္ထနယ၊ ထစ်ကြိုးလော။ ကာကဿ၊ ကျီး၏။ နိဓိံ၊ ဥစ္စာအိုးကို။ နာသယ၊ ဖျက်ဆီးလော။ ကာကံ၊ ကျီးကို။ သောကာယ၊ စိုးရိမ်ခြင်းငှါ။ ရန္ဓေဟိ၊ ပြုလော။ မဉ္စ၊ ငါ့ကိုလည်း။ သောကာ၊ စိုးရိမ်ခြင်းမှ။ ပမောစယ၊ လွတ်စေလော။

ဤသို့ ဘုရားလောင်းသည် အလုပ်အကျွေး အစေအပါး ဖြစ်သူကို စေတိ သကဲ့သို့ မိုယ်းနတ်မင်းကိုစေ၍ အလုံးစုံသော ကောသလတိုင်း၌ မိုယ်းကြီးစွာ ရွာစေ၍ များစွာသော သတ္တဝါ အပေါင်းကို သေခြင်းဆင်းရဲမှ လွတ်စေ၍ အသက်၏အဆုံး၌ ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ရဟန်းတို့ ယခုအခါ၌သာလျှင် ငါ ဘုရားသည် မိုယ်းကို ရွာစေသည် မဟုတ်သေး၊ ရှေး၌ ငါးအမျိုး၌ ဖြစ်သော် လည်း ရွာစေဘူးသည်သာလျှင်တည်းဟုမိန့်တော်မူ၍ ဤဓမ္မဒေသနာကို ဆောင် တော်မူ၍ အနုသန္ဓေကိုစပ်တော်မူ၍ ယခုအခါ ငါဘုရားပရိသတ်တို့သည် ထို အခါ ငါးအပေါင်း ဖြစ်ဘူးကုန်ပြီ၊ ယခုအခါ အာနန္ဒာသည် ထိုအခါ ပဇ္ဇုန် နတ်မင်းဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ငါးမင်း ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[သတ္တဝါများ၊ ပင်ပန်းငြား၊ ထွတ်ဖျားဘုန်းရှင် မိုယ်းကိုဆင်]

ငါးခုတို၏ ပြည့်ကြောင်းဖြစ်သော မစ္ဆဇာတ်သည် ပြီး၏။

---

## ၇၆—အသင်္ကိယ ဇာတ်

### မိမိကိုယ်ကို စောင့်ငြားက သူတပါးတို့အားလည်း စောင့်သည် မည်ကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "အသင်္ကိယောမှိ ဂါမမှိ" အစရှိသော ဂါထာပုဒ် ဖြင့် တန်ဆာဆင်အပ်သော ဤအသင်္ကိယဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "တယောက်သော သာဝတ္ထိမြို့၌နေသော သီတင်း သည်"ကို အကြောင်းပြု၍ ဟောတော်မူ၏။

ထို သီတင်းသည်သည် သောတာပန်ဖြစ်သော ဘုရားတပည့် ဖြစ် သတတ်။

ထိုသီတင်းသည်သည် တစုံတခုသော ပြုဘွယ်ကိစ္စကြောင့် တဦးသော လှည်းကုန်သည် အပေါင်းနှင့် တကွ ခရီး သွားသည်ရှိသော် တခုသော တော

အရပ်၌ လှည်းတို့ကို ချွတ်၍ သစ်ခက်တပ်ဖွဲ့ခြင်းကို ပြုသည်ရှိသော် လှည်းကုန်သည်အပေါင်း၏ အနီး၌ မိမိသည် ကာလကို မှတ်၍ တခုသော သစ်ပင်ရင်း၌ စကြံသွား၏၊ ငါးရာကုန်သော ခိုးသူတို့သည် သစ်ခက်တပ်ကို လုယက်ကုန်အံ့ဟု လာလတ်ကုန်၍ လေး, ဆောက်ပုတ် အစရှိသည် လက်စွဲကုန်လျက် ထိုထိုအရပ်ကို ခြံရံကုန်၏၊ သီတင်းသည်လည်း စကြံသွားသလျှင်ကတည်း၊ ထိုခိုးသူတို့သည် သီတင်းသည်ကို မြင်ကုန်၍ စင်စစ် ဤသူသည် သစ်ခက်တပ်ကိုစောင့်သော တယောက်သောသူသည် ဖြစ်လတ္တံ့၊ ဤသူအိပ်ပျော်ခြင်းသို့ ရောက်သောကာလ၌ လုယက်ကုန်အံ့ဟု လွှမ်းမိုးခြင်းငှါ မတတ်နိုင်ကုန်သည် ဖြစ်၍ ထိုထိုအရပ်၌သာလျှင် တည်ကုန်၏၊ ထိုသီတင်းသည်သည်လည်း ပဌမယာမ်၌ရင်း၊ မဇ္ဈိမယာမ်၌ရင်း၊ ပစ္ဆိမယာမ်၌ရင်း စကြံသွားလျက်သာလျှင် တည်၏၊ မိုးသောက်သည်ရှိသော် ခိုးသူတို့သည် အခွင့်မရကုန်သည်ဖြစ်၍ ယူအပ်သော ကျောက်, ဆောက်ပုတ် အစရှိသည်တို့ကို စွန့်၍ ပြေးကုန်၏။

သီတင်းသည်သည်လည်း မိမိ၏အမှုကိုပြီးစေ၍ တဖန် သာဝတ္ထိမြို့သို့လာခဲ့၍ မြတ်စွာဘုရားသို့ ချဉ်းကပ်ပြီးလျှင် အရှင်ဘုရား ကိုယ်ကို စောင့်ကုန်သောသူတို့သည် သူတပါးကို စောင့်ကုန်သလောဟု မေးလျှောက်၏၊ သီတင်းသည် စောင့်သည် မှန်၏၊ ကိုယ်ကိုစောင့်သောသူသည် သူတပါးကို စောင့်၏၊ သူတပါးကို စောင့်သောသူသည် ကိုယ်ကိုစောင့်၏ဟု မိန့်တော်မူ၏၊ ထိုသီတင်းသည်သည် အရှင်ဘုရား အလွန်လျှင် ဤစကားကို ကောင်းစွာ ဆိုအပ်၏၊ ဘုန်းတော်ကြီးသော အရှင်ဘုရား အကျွန်ုပ်သည် တဦးသော လှည်းကုန်သည်အပေါင်းနှင့် တကွ ခရီးသွားသည်ရှိသော် သစ်ပင်ရင်း၌ စကြံသွားလျက် အကျွန်ုပ်၏ကိုယ်ကို စောင့်အံ့ဟု လှည်းကုန်သည် အပေါင်းတို့ကို စောင့်၏ဟု လျှောက်၏၊ မြတ်စွာဘုရားသည် သီတင်းသည် ရှေး၌လည်း ပညာရှိတို့သည် ကိုယ်ကိုစောင့်ကုန်လျက် သူတပါးကို စောင့်ဘူးကုန်၏ဟု မိန့်တော်မူ၍ ထိုသီတင်းသည်သည် တောင်းပန်အပ်သည်ဖြစ်၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် ပုဏ္ဏားမျိုး၌ ဖြစ်၍

အရွယ်သို့ရောက်သည်ရှိသော် ကာမတို့၌အပြစ်ကိုမြင်၍ ရသေ့ ရဟန်းပြု၍ ဟိမဝန္တာ၌ နေသည်ရှိသော် ချဉ်ဆားမှီဝဲအံ့သောငှါ ဇနပုဒ်သို့ ဒေသစာရီသွားသည်ရှိသော် တဦးသော လှည်းကုန်သည် အပေါင်းနှင့်တကွ ခရီးသွား၍ တခုသော တောအရပ်၌ လှည်းစခန်း တည်သည်ရှိသော် လှည်းအနီး၌ ဈာန်ချမ်းသာဖြင့် လွန်စေလျက် တခုသော သစ်ပင်ရင်း၌ စင်္ကြံသွားခြင်းကို ဆောက်တည်၏၊ ထိုအခါငါးရာကုန်သောခိုးသူတို့သည် ညစာထမင်းစားသောကာလ၌ ထိုလှည်းကုန်သည် အပေါင်းကို လုယက်ကုန်အံ့ဟုလာလတ်၍ခြံရံကုန်၏၊ ထိုခိုးသူတို့သည် ထိုရသေ့ကိုမြင်၍ ရသေ့သူမြတ် ငါတို့ကို အကယ်၍မြင်အံ့ လှည်းကုန်သည်တို့အား ကြားလတ္တံ့၊ ထိုရသေ့၏ အိပ်ပျော်ခြင်းသို့ ရောက်သောကာလ၌ လုယက်ကုန်အံ့ဟု ထိုအရပ်၌ သာလျှင် တည်ကုန်၏၊ ရသေ့သည်လည်း တညဉ့်ပတ်လုံး စင်္ကြံသွားသလျှင် ကတည်း၊ ခိုးသူတို့သည် အခွင့် မရကုန်၍ ယူအပ်သော ဆောက်ပုတ် ကျောက်တို့ကို စွန့်ကုန်၍ လှည်းကုန်သည်တို့အား အသံပေး၏၊ အိုလှည်းကုန်သည်တို့ သစ်ပင်ရင်း၌ စင်္ကြံသွားသောရသေ့သည် ယနေ့အကယ်၍ မရှိအံ့၊ အလုံးစုံသော သင်တို့သည် လုယက်သဖြင့် ကြီးစွာသော ပျက်စီးခြင်းသို့ ရောက်သည် ဖြစ်ကုန်ရာ၏၊ နက်ဖြန် ရသေ့အား ကြီးစွာသောပူဇော်သက္ကာရကို ပြုကုန်လောဟု ဆို၍ ဖဲကုန်၏။

ထိုလှည်းကုန်သည်တို့သည် မိုးသောက်သည် ရှိသော် ခိုးသူတို့သည် စွန့်အပ်သော ဆောက်ပုတ် ကျောက် အစရှိသည်တို့ကို မြင်၍ ကြောက်ကုန်သည် ဖြစ်၍ ဘုရားလောင်း အထံသို့ လာလတ်ကုန်၍ ရှိခိုးပြီးလျှင် အရှင်ဘုရား အရှင်ဘုရားတို့သည် ထိုခိုးသူတို့ကို မြင်ကုန်သလောဟု မေးလျှောက်ကုန်၏၊ ဒါယကာတို့ မြင်အပ်ကုန်သည် မှန်၏ဟု ဆိုသည်ရှိသော် အရှင်ဘုရား ဤမျှလောက်သော ခိုးသူတို့ကို မြင်၍ ကြောက်ခြင်းသည်ငင်း၊ ရွံ့ရှားခြင်းသည်ငင်း မဖြစ်လောဟု မေးလျှောက်ကုန်၏၊ ဘုရားလောင်းသည် ဒါယကာတို့ ခိုးသူတို့ကို မြင်၍ ကြောက်ခြင်းမည်သည်ကား ဥစ္စာရှိသော သူအားသာ ဖြစ်၏၊ ငါသည်ကား ဥစ္စာမရှိ၊ ထိုငါသည် အဘယ့်ကြောင့် ကြောက်အံ့နည်း၊ ထိုစကားသည် မှန်၏၊ ရွာ၌ငင်း တော၌ငင်း နေသော ငါ့အား ကြောက်ခြင်းသည်ငင်း ရွံ့ရှာခြင်းသည်ငင်း မရှိဟုဆို၍ လှည်းကုန်သည်တို့အား တရားဟောလိုရကား—

၇၆၊ အသင်္ကိယောမှိ ဂါမမှိ၊ အရညေ နတ္ထိ မေ ဘယံ။
ဥဇုံ မဂ္ဂံ သမာရုဠှော၊ မေတ္တာယ ကရုဏာယ စ။

ဟူသော ဤဂါထာကို ဆို၏။

ဘောဓွော၊ အို လှည်းကုန်သည်တို့။ အဟံ၊ ငါသည်။ ဂါမမှိ၊ ရွာ၌။ အသင်္ကိယော၊ ရွံရှာခြင်း မရှိသည်။ အမှိ၊ ဖြစ်ပေ၏။ မေ၊ ငါ့အား။ အရညေ၊ တော၌။ ဘယံ၊ ကြောက်ခြင်းသည်။ နတ္ထိ၊ မရှိ။ မေတ္တာယ စ၊ မေတ္တာဖြင့်ရင်း။ ကရုဏာယ စ၊ ကရုဏာဖြင့်ရင်း။ ဥဇုံ၊ ဖြောင့်စွာ။ မဂ္ဂံ၊ ဗြဟ္မာ့ပြည်ခရီးသို့။ သမာရုဠှော၊ ကောင်းစွာတက်၏။

ဤသို့လျှင် ဘုရားလောင်းသည် ဤဂါထာဖြင့် တရားဟော၍ နှစ်သက်သော စိတ်ရှိသည်ဖြစ်၍ လူတို့သည် အရိုအသေ ပြုအပ်သည်ဖြစ်၍ ပူဇော်အပ်သည်ဖြစ်၍ အသက်ထက်ဆုံး လေးပါးကုန်သော ဗြဟ္မဝိဟာရတို့ကို ပွားစေ၍ ဗြဟ္မာ့ပြည်၌ ဖြစ်၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ အနုသန္ဓေကို စပ်၍ ယခုအခါ ငါဘုရားပရိသတ်တို့သည် ထိုအခါ လှည်းကုန်သည်အပေါင်း ဖြစ်ဘူးကုန်ပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ရသေ့ ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကိုပေါင်းတော်မူ၏။

[ကိုယ်ကိုစောင့်ပြီး၊ လူအများ၊ တပါးစောင့်ရှောက်ပေ]

ခြောက်ခုတို့၏ပြည့်ကြောင်းဖြစ်သော အသင်္ကိယဇာတ်သည် ပြီး၏။

---

## ၇၇—မဟာသုပိနဇာတ်

### ကောသလမင်းကြီး၏ တဆယ့်ခြောက်ချက်သော အိပ်မက်အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "ဥသဘာ ရုက္ခာ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာ ဆင်အပ်သော ဤ မဟာသုပိနဇာတ်ကို ဇေတဝန်ကျောင်းတော်၌

သိတင်းသုံး နေတော်မူစဉ် "တဆယ့်ခြောက်ချက်သော အိပ်မက်ကြီး" တို့ကို အကြောင်းပြု၍ ဟောတော်မူ၏၊ တနေ့သ၌ ကောသလမင်းကြီးသည် ညဉ့်အခါ၌ မျောက်မျဉ်းအိပ်ပျော်လျက် ပစ္ဆိမယာမ်၌ တဆယ့်ခြောက်ချက်သော အိပ်မက်ကြီးတို့ကို မြင်မက်၏၊ ညဉ့်အခါ၌ ဖြစ်၍ ကြောက်လန့်လျက် နိုး၍ အိပ်မက်တို့ကို မြင်အပ်သည်၏ အဖြစ်ကြောင့် ငါ့အား အသို့ဖြစ်လတ္တံ့နည်းဟု သေဘေးမှ ကြောက်သည်ဖြစ်၍ အိပ်ရာအပြင်၌ ထိုင်လျက်သာလျှင် ညဉ့်ကို လွန်စေသတတ်၏။

ထိုအခါ မိုးသောက်သည်ရှိသော် ထိုမင်းကြီးသို့ ပုဏ္ဏားပုရောဟိတ်တို့သည် ကပ်ကုန်၍ မြတ်သော မင်းကြီး ရှင်မင်းကြီးတို့သည် ချမ်းသာစွာ အိပ်ရပါ၏လောဟုမေးလျှောက်ကုန်၏၊ဆရာတို့ ငါ့အား အဘယ်မှာချမ်းသာအံ့နည်း၊ယနေ့ ငါသည် မိုးသောက်လောအခါ တဆယ့်ခြောက်ချက်သော အိပ်မက်ကြီးတို့ကို မြင်ပြီး၍ ထိုငါသည် ထိုအိပ်မက်ကို မြင်သောအခါမှစ၍ ကြောက်ခြင်းသို့ ရောက်သည်ဖြစ်၏ဟု ဆို၏၊ မြတ်သောမင်းကြီး ဆိုတော်မူလော၊ ထိုအိပ်မက်ကို ကြား၍ သိရကုန်အံ့ဟု လျှောက်သည်ရှိသော် ပုဏ္ဏားတို့အား မြင်သော အိပ်မက်တို့ကိုဆို၍ ဤအိပ်မက်တို့ကို မြင်၏၊ အကြောင်းသည် အသို့ဖြစ်လတ္တံ့နည်းဟု မေး၏၊ ပုဏ္ဏားတို့သည် လက်တို့ကို ခါကုန်၏၊ အဘယ့်ကြောင့် လက်တို့ကို ခါကုန်သနည်းဟု ဆိုသည်ရှိသော် မြတ်သောမင်းကြီး အိပ်မက်တို့သည် ကြမ်းကုန်၏ဟု လျှောက်ကုန်၏၊ ထိုအိပ်မက်တို့၏ အကျိုးသည် အသို့ဖြစ်လတ္တံ့နည်းဟု မေး၏၊ မြတ်သောမင်းကြီး တိုင်းပြည်အန္တရာယ်ငှါး၊ မိဖုယားအန္တရာယ်ငှါး၊ အသက်အန္တရာယ်ငှါး ဤသုံးပါးသော အန္တရာယ်တို့တွင် တပါးပါးသော အန္တရာယ်သည် ဖြစ်လတ္တံ့ဟု လျှောက်ကုန်၏။

ဆရာတို့ ကုစားအပ်သော အိပ်မက်တို့လော၊ မကုစားအပ်သော အိပ်မက်တို့လောဟု မေး၏၊ မြတ်သောမင်းကြီး ထိုအိပ်မက်တို့သည် အလွန်ကြမ်းသည်၏အဖြစ်ကြောင့် မကုစားအပ်၊ အကယ်၍ မကုစားအပ်ကုန်သော်လည်း ကျွန်ုပ်တို့သည် ထိုအိပ်မက်တို့ကို ကုစားအပ်သည်တို့ကို ပြုပါကုန်အံ့၊ ထိုအိပ်မက်တို့ကို ကုစားအံ့သောငှါ မတတ်နိုင်ကုန်သည်ရှိသော် အကျွန်ုပ်တို့အား အတတ်သင်သော အဖြင်မည်သည် အဘယ် အကျိုး ရှိတော့အံ့နည်းဟု လျှောက်ကုန်၏၊

ဆရာတို့ အသို့ပြုလျက် ကုစားကုန်အံ့နည်းဟု မေး၏၊ မြတ်သောမင်းကြီး အလုံးစုံ လေးခုအပေါင်းဖြင့် ယင်ကိုပူဇော်ပါကုန်ဟုလျှောက်ကုန်၏၊ ထိုစကား ကိုကြား၍ မင်းကြီးသည် ကြောက်လန့်သည်ဖြစ်၍ ဆရာတို့ ထိုသို့တပြီးကား ငါ၏အသက်သည် သင်တို့၏လက်၌ ဖြစ်၏၊ လျင်စွာလျင် ချမ်းသာခြင်းကို ပြုကုန်လောဟု ဆို၏၊ ပုဏ္ဏားတို့သည် များစွာသော ဥစ္စာတို့ကို ရကုန်လတ္တံ့ များစွာသော ခဲဘွယ် ဘောဇဉ်တို့ကို ရကုန်လတ္တံ့ဟု နှစ်သက် ရွှင်လန်းသော စိတ်ရှိကုန်သည်ဖြစ်၍ မြတ်သောမင်းကြီး ကြံတော် မမူပါလင့်ဟု မင်းကြီးအား သက်သာရာ ရစေ၍ မင်းအိမ်မှ ထွက်ပြီးလျှင် မြို့အပ၌ ယင်တွင်းကိုပြု၍ များ စွာသော အခြေလေးချောင်း ရှိကုန်သော သတ္တဝါတို့ကို ယင်တွင်း၏ အနီး သို့ဆောင်၍ အလုံးစုံသော ငှက်အပေါင်းတို့ကို ပေါင်းစု၍ ဤမည်သော ဤ မည်သော ဝတ္ထုကို ရခြင်းငှါ သင့်၏ဟု အဖန်တလဲလဲ သွားကုန်၏။

ထိုအခါ မလ္လိကာ မိဖုယားသည် ထိုအကြောင်းကို သိ၍ မင်းကြီးသို့ကပ်ပြီး လျှင် မြတ်သောမင်းကြီး ပုဏ္ဏားတို့သည် အဖန်တလဲလဲ အဘယ့်ကြောင့် သွား ကုန်သနည်းဟု မေး၏၊ ရှင်မိဖုယား သင်သည်ကား ချမ်းသာပေ၏၊ ငါတို့၏ နားရင်း၌ သွားသော မြွေဟောက်ကို မသိသလောဟု မေး၏၊ ရှင်မင်းကြီး ထိုသို့သွားသော မြွေဟောက်ဟူသည် အဘယ်နည်းဟု မေး၏၊ ငါသည် ဤသို့ သဘောရှိကုန်သော မကောင်းသော အိပ်မက်တို့ကို မြင်အပ်ကုန်၏၊ ပုဏ္ဏားတို့ သည် သုံးပါးကုန်သော အန္တရာယ်တို့တွင် ကပါးပါးသော အန္တရာယ်သည် ထင်၏ဟု ဆို၍ ထိုအန္တရာယ်တို့ကို ပျောက်ခြင်းငှါ ယဇ်ပူဇော်ကုန်အံ့ ဟူ၍ အဖန်တလဲလဲ သွားကုန်၏ဟု ဆို၏။

ရှင်မင်းကြီး နတ်နှင့်တကွသော လောက၌ မြတ်သောပုဏ္ဏားကို အိပ်မက် ကုစားခြင်းငှါ ရှင်မင်းကြီးသည် မေးတော်မူပြီလောဟု လျှောက်၏၊ ရှင်မိဖုယား နတ်နှင့်တကွသော လောက၌ မြတ်သော ပုဏ္ဏားဟူသည် အဘယ်နည်းဟု မေး၏၊ ရှင်မင်းကြီး နတ်နှင့်တကွသော လောက၌ မြတ်သောပုဂ္ဂိုလ် ဖြစ်တော် မူသော ခပ်သိမ်းသော တရားတို့ကို သိတော်မူသော အထူးသဖြင့် ကိလေသာ တို့မှ စင်ကြယ်သော ကိလေသာ မရှိသော ကောင်းသော လာခြင်း ရှိတော် မူသော ဂေါတမအနွယ်ဖြစ်တော်မူသော ပုဏ္ဏားကို မသိသလော၊ထိုစကားသည်

မှန်၏၊ ထိုမြတ်စွာဘုရားသည် အိပ်မက် အကျိုးကို သိရာ၏၊ ရှင်မင်းကြီး ကြွတော်မူချေ ရှင်မင်းကြီးသည် ထိုမြတ်သော ပုဏ္ဏားကို မေးတော်မူလောဟု လျှောက်၏၊ ရှင်မိဖုယား ကောင်းပြီဟု မင်းကြီးသည် စောစောကလျှင် ကျောင်းတော်သို့သွား၍ မြတ်စွာဘုရားကို ရှိခိုးလျက် နေ၏။

မြတ်စွာဘုရားသည် သာယာသော အသံကို မြွက်တော်မူ၍ မြတ်သော မင်းကြီး အဘယ့်ကြောင့် စောစောကလျှင် လာသနည်းဟု မေးတော်မူ၏၊ အရှင်ဘုရား အကျွန်ုပ်သည် မိုးသောက်ထ အခါ၌ တဆယ့်ခြောက်ချက်သော အိပ်မက်ကြီးတို့ကို မြင်မက်၍ ကြောက်သောကြောင့် ပုဏ္ဏားတို့အား ကြား၏၊ ပုဏ္ဏားတို့သည် မြတ်သောမင်းကြီး အိပ်မက်တို့သည် ကြမ်းကြုတ်ကုန်၏၊ ထို အိပ်မက်တို့ကိုဖျောက်အံ့သောငှါ အလုံးစုံ လေးခုအပေါင်းဖြင့် ယဇ်ပူဇော်အံ့ဟု ယဇ်ကို စီရင်ကုန်၏၊ များစွာသောသတ္တဝါတို့သည် သေဘေးမှကြောက်ကုန်၏၊ အရှင်ဘုရားတို့သည်လည်း နတ်နှင့်တကွသော လောက၌ မြတ်သော ပုဂ္ဂိုလ် ဖြစ်တော်မူ၏၊ အတိတ် အနာဂတ် ပစ္စုပ္ပန်ကိုစွဲ၍ အကြင်သိအပ်သောတရားသည် အရှင်ဘုရားတို့၏ဉာဏ်တော်၌ထင်ခြင်းသို့မရောက် ထိုထင်ခြင်းသို့ မရောက်သော တရားမရှိ၊ ဘုန်းတော်ကြီးသော အရှင်ဘုရား အကျွန်ုပ်၏ ဤအိပ်မက်တို့၏ အကျိုးကို ဟောတော်မူပါကုန်လောဟု လျှောက်၏။

မြတ်သော မင်းကြီး ထိုသင်မင်းကြီး ဆိုသော စကားသည် မင်းကြီး ဆိုတိုင်းသာလျှင် မှန်၏၊ နတ်နှင့် တကွသော လောက၌ ငါဘုရားကို ထား၍ တပါးသောအိပ်မက်တို့၏အကျိုးကိုရင်း ဖြစ်ခြင်းကိုရင်း သိခြင်းငှါစွမ်းနိုင်သော သူမည်သည် မရှိ၊ ငါသည် သင် မင်းကြီးအား ဟောအံ့၊ စင်စစ်သော်ကား သင်မင်းကြီးသည် မြင်တိုင်းမြင်တိုင်းသော အမှတ်ဖြင့်သာလျှင် အိပ်မက်တို့ကို ဆိုလောဟု မိန့်တော်မူ၏၊ အရှင်ဘုရား ကောင်းပြီဟု မင်းကြီးသည် မြင်တိုင်း မြင်တိုင်းသော အမှတ်ဖြင့်သာလျှင် ဆိုအံ့သောငှါ အားထုတ်လို၍—

ဥသဘာ ရုက္ခာ ဂါဝိယော ဂဝါ စ၊
အဿော ကံသော သိင်ဂါလီ စ ကုမ္ဘော။
ပေါက္ခရဏီ စ အပါက စန္ဒနံ။

လာဗူနိ သီဒန္တိ သိလာ ပ္လဝန္တိ၊
မဏ္ဍူကိယော ကဏှသပ္ပေ ဂိလန္တိ။
ကာကံ သုဝဏ္ဏာ ပရိဝါရယန္တိ၊
တသာ ဝကာ ဋ္ဌေကာနံ ဘယာ ဟိ။

ဟူသော မာတိကာကို ထား၍ လျှောက်၏။

ဥသဘာ၊ နွားနက် ဥသဘာလေးခုတို့သည် ဝှေ့အုံ့သော အခြင်းအရာကိုပြ၍ ဖဲကုန်၏။ ရုက္ခာ၊ ငယ်စွာကုန်သော သစ်ပင်ချုံတို့သည် ပွင့်ကုန် သီးကုန်၏။ ဂါဝိယော၊ နွားမကြီးတို့သည် ယနေ့ မွေးသော နွားမငယ်၏ နို့ကို စို့ကုန်၏။ ဂဝါစ၊ လည်း၌ က,အပ်ကုန်သောနို့စို့ နို့ခွါ နွားငယ်တို့သည် ဝန်ကိုမရွက်ဆောင် နိုင်ကုန်။ အဿော၊ နှစ်ဘက်မျက်နှာရှိသောမြင်းသည် နှစ်ဘက်သောခံတွင်းဖြင့် အစာကို စား၏၊ ကံသော၊ အဘိုး တသိန်းထိုက်သော ရွှေလင်ပန်းကို ဤ၌ ကျင်ငယ် စွန့်လောဟု မြေခွေးအား ဆောင်နှင်း၏။ သိဂါလီစ၊ အထက်၌ ကျစ် အပ်သော လွန်ကို အောက်က မြေခွေးမ စား၏။ ကုမ္ဘော၊ အချည်းနှီးသော အိုးတို့ဖြင့် ခြံရံအပ်သော ရေပြည့်အိုး၌သာ ရေလောင်း၏။ ပေါက္ခရဏီ စ၊ ရေကန်အလယ်၌ ရေတို့သည် နောက်ကုန်၍ အနား၌ ရေတို့သည် ကြည် ကုန်၏။ အပါကံ၊ တလုံးတည်းသော အိုးဖြင့် ချက်အပ်သော ထမင်းသည် သုံးစုအားဖြင့် ကျက်၏။ စန္ဒနံ၊ အဘိုးတသိန်း ထိုက်သော စန္ဒကူးနံ့သာကို ရက်တက်ရည် ပုပ်ဖြင့် ရောင်းစား၏။ လာဗူနိ၊ ဗူးတောင်း တို့သည်။ သီဒန္တိ၊ ရေ၌ နစ်ကုန်၏။ သိလာ၊ ကျောက်ဖျာကြီး တို့သည်။ ပ္လဝန္တိ၊ ရေ၌ ပေါ်ကုန်၏။ မဏ္ဍူကိယော၊ ဘားမငယ် တို့သည်။ ကဏှသပ္ပေ၊ မြွေဟောက်တို့ကို။ ဂိလန္တိ၊ မျိုကုန်၏။ ကာကံ၊ ကျီးကို။ သုဝဏ္ဏာ၊ ရွှေဟသာ တို့သည်။ ပရိဝါရယန္တိ၊ ခြံရံကုန်၏။ တသာ၊ ထိတ်လန့်ခြင်းကို ဖြစ်စေတတ် ကုန်သော။ ဝကာ၊ သစ်တို့သည်။ ဋ္ဌေကာနံ၊ ဆိတ်တို့အား။ ဘယာ၊ ကြောက် ကုန်၏။

၁၊ အရှင်ဘုရား အကျွန်ုပ်သည် ရှေးဦးစွာသော တခုသော အိပ်မက်ကို ဤသို့ မြင်၏၊ မျက်စဉ်းညိုအဆင်းနှင့် တူကုန်သော နွားနက် ဥသဘာတို့သည် ဝှေ့ကုန်အံ့ဟု အရပ်လေးမျက်နှာတို့မှမင်းယင်ပြင်သို့လာလတ်ကုန်၍ နွားဥသဘာ

ရွေခြင်းကိုကြည့်ကုန်အံ့ဟု လူအများသည် မင်းယင်ပြင်၌ စည်းဝေးသည်ရှိသော် ရွှေအံ့သော အခြင်းအရာကိုပြု၍ တွန်၍ ကြုံဝါး၍ မဝေ့ကုန်မူ၍ သာလျှင် ဖဲကုန်၏၊ ရှေးဦးစွာ ဤအိပ်မက်ကို မြင်မက်၏၊ ဤအိပ်မက်၏ အကျိုးသည် အသို နည်းဟု လျှောက်၏။

မြတ်သောမင်းကြီး ဤအိပ်မက်၏ အကျိုးသည် သင်၏လက်ထက်၌ မဖြစ် သလျှင်ကတည်း၊ ငါဘုရားလက်ထက်တော်၌ မဖြစ်လတ္တံ့ သလျှင်ကတည်း၊ နောင်သောအခါ၌ကား တရားမစောင့်ကုန်သော မင်းဆင်းရဲတို့၏ငှင်း တရား မစောင့်ကုန်သော သူတို့၏ငှင်း လက်ထက်၌ လူတို့သည် ပြောင်းပြန်ဖြစ်ကုန်သည် ရှိသော် ကုသိုလ်သည် ဆုတ်ယုတ်သည် ရှိသော် အကုသိုလ်သည် ပြန့်ပြော သည်ရှိသော် လူတို့၏ ယုတ်သော လောက၌ မိုဃ်းသည် ကောင်းစွာ မရွာ မိုဃ်းရွာခြင်းတို့သည် ပြတ်ကုန်လတ္တံ့၊ ကောက်တို့သည် ညှိုးကုန်လတ္တံ့၊ ငတ် မွတ်ခြင်းတို့သည် ဖြစ်ကုန်လတ္တံ့၊ ရွာအံ့ဘိသကဲ့သို့ အရပ် လေးမျက်နှာတို့မှ မိုဃ်းတို့သည် တက်လတ်ကုန်၍ မိန်းမတို့သည် နေပူ၌ဖြန့်၍ လှန်းအပ်ကုန်သော ကောက် အစရှိသည်တို့ကို မိုဃ်းစွတ်အံ့သည်မှ ကြောက်သောကြောင့် အိမ် တွင်းသို့သွင်းသော ကာလ၌ ယောက်ျားတို့သည် ပေါက်တူး, တောင်း, လက်စွဲ ကုန်လျက် လယ်ကန်သင်း တည်အံ့သောငှါ ထွက်ကုန်သည်ရှိသော် ရွာအံ့သော အခြင်းအရာကိုပြု၍ ထစ်ကြိုး၍ လျှပ်စစ်နွယ်တို့ဖြင့် ပြက်လျက် ထိုနွားဥသဘတို့ သည် မဝေ့ကုန်မူ၍ ဖဲကုန်သကဲ့သို့ မရွာမူ၍ ပြေးကုန်လတ္တံ့၊ ဤသို့ဆိုအပ်ပြီး သည်ကား ရှေးဦးစွာ ထိုအိပ်မက်၏ အကျိုးတည်း၊ သင်မင်းကြီးအား ထို အိပ် မက်ဟူသော အကြောင်းကြောင့် တစုံတခုသော အန္တရာယ်မရှိ၊ အနာဂတ်ကို စွဲ၍ ဤအိပ်မက်ကို မြင်မက်၏၊ ပုဏ္ဏားတို့သည်ကား မိမိတို့၏ အသက်မွေးခြင်း ကိုမှီ၍ ဆိုကုန်၏ဟု မိန့်တော်မူ၏။

၂၊ ဤသို့လျှင် မြတ်စွာဘုရားသည် ပဌမ အိပ်မက်၏ အကြောင်းကို ဟောတော်မူ၍ မြတ်သောမင်းကြီး နှစ်ခုမြောက်သော အိပ်မက်ကို ဆိုလောဟု မိန့်တော်မူ၏၊ အရှင်ဘုရား အကျွန်ုပ်သည် နှစ်ခုမြောက်သော အိပ်မက်ကို ဤသို့ မြင်မက်၏၊ အလွန်ငယ်စွာကုန်သော သစ်ပင်တို့သည်ငှင်း ငယ်စွာကုန် သော ချုံတို့သည်ငှင်း မြေကိုဖောက်ကုန်၍ တထွာမျှငှင်း တတောင်မျှငှင်းတက်

ကုန်၍ ပွင့်လည်း ပွင့်ကုန်၏၊ သီးလည်း သီးကုန်၏၊ နှစ်ခုမြောက်သော ဤအိပ်မက်ကို မြင်မက်၏၊ ဤအိပ်မက်၏အကျိုးသည်ကား အသို့နည်းဟု လျှောက်၏။

မြတ်သောမင်းကြီး ဤအိပ်မက်၏ အကျိုးသည်လည်း လောက၏ ဆုတ်ယုတ်သော ကာလ၌ အသက်တိုသောကာလ၌ ဖြစ်လတ္တံ့၊ ထိုစကားသည် မှန်၏၊ နောင်အခါ သတ္တဝါတို့သည် ထက်သောရာဂ ရှိကုန်သည် ဖြစ်လတ္တံ့၊ အရွယ်သို့ မရောက်ကုန်သေးသည်သာလျှင်ဖြစ်ကုန်သော သတို့သမီးငယ်တို့သည် ယောကျ်ားတပါးသို့ ရောက်ကုန်၍ ဥတုလာကုန်သည်ရင်း ကိုယ်ဝန် ဆောင်ကုန်သည်ရင်း ဖြစ်ကုန်၍ သား,သမီးတို့ကို ဖွားကုန်လတ္တံ့၊ ထိုစကားသည် မှန်၏၊ ငယ်စွာကုန်သော သစ်ပင်ချုံတို့၏ အပွင့်တို့ကဲ့သို့ ထိုသတို့သမီးငယ်တို့အား ဥတုလာသော အဖြစ်သည် ဖြစ်လတ္တံ့၊ အသီးကဲ့သို့ သား,သမီးတို့သည် ဖြစ်ကုန်လတ္တံ့၊ ဤအိပ်မက်ဟူသော အကြောင်းကြောင့်လည်း သင် မင်းကြီးအား ဘေးမရှိ။

၃၊ မြတ်သောမင်းကြီး သုံးခုမြောက်သော အိပ်မက်ကိုလည်း ဆိုလောဟု မိန့်တော်မူ၏၊ အရှင်ဘုရား နွားမကြီးတို့သည် ထိုနေ့မွေးကုန်သော နွားမငယ်တို့၏နို့ကို မှုကုန်သည်တို့ကို မြင်မက်၏၊ အကျွန်ုပ်၏ သုံးခုမြောက်သော အိပ်မက်သည်ကား ဤအိပ်မက်တည်း၊ ဤအိပ်မက်၏ အကျိုးသည်ကား အသို့နည်းဟု လျှောက်၏။

မြတ်သောမင်းကြီး ဤအိပ်မက်၏ အကျိုးသည်လည်း နောင်အခါ၌သာ လူတို့၏ ကြီးသော သူတို့ကို အရိုအသေ ပြုသောအမှု၏ ပျောက်ကွယ်သော ကာလ၌ ဖြစ်လတ္တံ့၊ ထိုစကားသည် မှန်၏၊ နောင်အခါ၌ သတ္တဝါတို့သည် အမိ,အဘတို့၌ရင်း၊ ယောက္ခမမိန်းမ, ယောက္ခမ ယောကျ်ားတို့၌ရင်း အရှက်ကို မဖြစ်စေမူ၍ မိမိတို့သည်သာလျှင် ဥစ္စာကို စီရင်ကုန်၍ စားရုံ ဝတ်ရုံမျှကို ကြီးသောသူတို့အား ပေးလိုကုန်သော သူတို့သည် ပေးကုန်လတ္တံ့၊ မပေးလိုကုန်သောသူတို့သည် မပေးကုန်လတ္တံ့၊ ထိုနေ့၌ ဖွားကုန်သော နွားမငယ်တို့၏ နို့ကိုစို့ကုန်သော နွားမကြီးတို့ကဲ့သို့ ကြီးကုန်သော သူတို့သည် ကိုးကွယ်ရာမရှိကုန်သည်ဖြစ်၍ မိမိတို့မှဖြစ်သောသူငယ်တို့ကို နှစ်သက်စေ၍ အသက်မွေးရကုန်လတ္တံ့၊ ဤအိပ်မက်ဟူသော အကြောင်းကြောင့်လည်း သင်မင်းကြီးအား ဘေးမရှိ။

၄၊ မြတ်သောမင်းကြီး လေးခုမြောက်သော အိပ်မက်ကို ဆိုလောဟု မိန့်တော်မူ၏၊ အရှင်ဘုရား ဝန်ကိုရွက်ဆောင်နိုင်သော အလုံးအရပ်နှင့် ပြည့်စုံသော နွားကြီးတို့ကို ထမ်းပိုးအဆင့်ဆင့်တို့ဖြင့် မကကုန်မူ၍ နို့စို့နို့ခွါဖြစ်ကုန်သော နွားငယ်တို့ကို လှည်း၌ ကကုန်သည်တို့ကိုမြင်မက်၏၊ ထိုနို့စို့နို့ခွါဖြစ်သော နွားငယ်တို့သည် ဝန်ကိုရွက်ဆောင်ခြင်းငှါ မတတ်နိုင်သည်ဖြစ်၍ ဝန်ကို စွန့်၍ နေကုန်၏၊ လှည်းတို့သည်လည်း မလည်ကုန်၊ အကျွန်ုပ်၏ လေးခုမြောက်သော အိပ်မက်သည်ကား ဤအိပ်မက်တည်း၊ ဤအိပ်မက်၏အကျိုးကား အသို့နည်းဟု လျှောက်၏။

မြတ်သောမင်းကြီး ဤအိပ်မက်၏ အကျိုးသည်လည်း နောက်အခါ၌သာလျှင် တရားမစောင့်သော မင်းတို့၏လက်ထက်၌ ဖြစ်ကုန်လတ္တံ့၊ ထိုစကားသည် မှန်၏၊ နောင်အခါ၌ တရားမစောင့်ကုန်သော မင်းဆင်းရဲတို့သည် ပညာရှိကုန်သော အစဉ်အဆက်၌ လိမ္မာကုန်သော မင်းမှုကို ဆောင်ရွက်ခြင်းငှါ စွမ်းနိုင်ကုန်သော အမတ်ကြီးတို့အား စည်းစိမ်ကို မပေးကုန်လတ္တံ့၊ တရားသဘင်၌ တရားဆုံးဖြတ်သော အရာ၌လည်း ပညာရှိကုန်သော တရားဆုံးဖြတ်ခြင်း၌ လိမ္မာကုန်သော အမတ်တို့ကို မထားကုန်လတ္တံ့၊ ထိုအမတ်ကြီးတို့မှ ပြန်ကုန်သော အလွန်ငယ်ကုန်သော သူတို့အားကား စည်းစိမ်ကို ပေးကုန်လတ္တံ့၊ ထိုသို့ သဘောရှိသည်သာလျှင် ဖြစ်သော သူတို့ကို တရားဆုံးဖြတ်ရာအရပ်၌ ထားကုန်လတ္တံ့၊ ထိုငယ်ကုန်သော သူတို့သည် မင်းမှုတို့ကိုရင်း၊ သင့် မသင့်တို့ကိုရင်း မသိကုန်သည်ဖြစ်၍ ထိုစည်းစိမ်ကို ရွက်ဆောင်အံ့သောငှါ မတတ်နိုင် လတ္တံ့၊ မင်းမှုတို့ကိုလည်း ရွက်ဆောင်ခြင်းငှါ မတတ်နိုင်လတ္တံ့၊ ထိုအလွန် ငယ်ကုန်သော သူတို့သည် မတတ်နိုင်ကုန်သည် ဖြစ်၍ မင်းမှုဝန်ကို စွန့်ကုန်လတ္တံ့၊ ကြီးသည်လည်းဖြစ်ကုန်သော ပညာရှိကုန်သော အမတ်တို့သည် စည်းစိမ်ကို မရကုန်သည်ဖြစ်၍ မင်းမှုကိစ္စတို့ကို ရွက်ဆောင်အံ့သောငှါ တတ်နိုင်ကုန်သော်လည်း ငါတို့အား ထိုမင်းမှုတို့ဖြင့် အဘယ်မှုအံ့နည်း၊ ငါတို့သည် ပြင်ပသာ ဖြစ်ကုန်၏၊ အတွင်းသား ဖြစ်ကုန်သော ငယ်ကုန် အလွန်ငယ်ကုန်သော သူတို့သည် သိကုန်လတ္တံ့ဟု ဖြစ်ကုန်သော မင်းမှုတို့ကို မစောင့်ကုန်လတ္တံ့၊ ဤသို့ ဖြစ်သည်ရှိသော် ခပ်သိမ်းသော အခြင်းအရာအားဖြင့် ထိုတရားမစောင့်

ကုန်သော မင်းတို့အား ဆုတ်ယုတ်သည် သာလျှင် ဖြစ်ကုန်လတ္တံ့၊ ဝန်ကို ရွက်ဆောင်ခြင်းငှါမတတ်နိုင်ကုန်သော နို့စို့နွားငယ်ဖြစ်ကုန်သောနွားတို့ကိုလည်း၌ က,သော ကာလကဲ့သို့ ဝန်ကို ရွက်ဆောင်နိုင်ကုန်သော နွားကြီးတို့ကို ထမ်းပိုး အဆင့်ဆင့်ဖြင့် မက,သော ကာလကဲ့သို့ ဖြစ်ကုန်လတ္တံ့၊ ဤအိပ်မက်ဟူသော အကြောင်းကြောင့်လည်း သင်မင်းကြီးအား ဘေးမရှိ။

၅၊ မြတ်သော မင်းကြီး ငါးခုမြောက်သော အိပ်မက်ကို ဆိုလောဟု မိန့်တော်မူ၏၊ အရှင်ဘုရား အကျွန်ုပ်သည် တခုသော နှစ်ဘက်သော မျက်နှာ ရှိသော မြင်းကို မြင်မက်၏၊ ထိုမြင်း၏ နှစ်ဘက်သော နံပါးတို့၌ မုယောနှမ်းကို ပေးကုန်၏၊ ထိုမြင်းသည် နှစ်ဘက်သော ခံတွင်းဖြင့် စား၏၊ အကျွန်ုပ်၏ ငါးခု မြောက်သော အိပ်မက်သည် ဤအိပ်မက်တည်း၊ ဤအိပ်မက်၏ အကျိုးသည် အသို့နည်းဟု လျှောက်၏။

မြင်သောမင်းကြီး ဤအိပ်မက်၏ အကျိုးသည်လည်း နောင်သောအခါ တရားမစောင့်သော မင်းတို့၏ လက်ထက်၌သာလျှင် ဖြစ်လတ္တံ့၊ ထိုစကားသည် မှန်၏၊ နောင်သောအခါ တရားမစောင့်ကုန်သော မင်းမိုက်တို့သည် တရား မစောင့်ကုန်သော လျှပ်ပေါ်လော်လည်ကုန်သော သူတို့ကို တရားဆုံးဖြတ်သော အရာ၌ ထားကုန်လတ္တံ့၊ ကောင်းမှု, မကောင်းမှုတို့၌ မရှုသောထိုသူမိုက်တို့သည် တရားသဘင်၌ နေ၍ အဆုံးအဖြတ်ကို ပေးကုန်သည် ရှိသော် မြင်းသည် နှစ်ဘက်သော ခံတွင်းတို့ဖြင့် မုယော, နှမ်းကို စားသကဲ့သို့ နှစ်ဘက်လည်း ဖြစ်ကုန်သော တရားဘက်တို့၏ လက်မှ တံစိုးကိုယူ၍ စားကုန်လတ္တံ့၊ ဤအိပ်မက် ဟူသော အကြောင်းကြောင့်လည်း သင်မင်းကြီး၌ အပြစ်မရှိ။

၆၊ မြတ်သောမင်းကြီး ခြောက်ခု မြောက်သော အိပ်မက်ကို ဆိုလောဟု မိန့်တော်မူ၏၊ အရှင်ဘုရား လူအများသည် အဘိုးတသိန်းထိုက်သော ရွှေခွက်ကို သုတ်သင်၍ ဤရွှေခွက်၌ ကျင်ငယ် စွန့်လောဟု တခုသော မြေခွေးဖိုအား ဟောင်း၏၊ ဤရွှေခွက်၌ ကျင်ငယ်စွန့်ခြင်းကို ပြုသော ထိုမြေခွေးဖိုကို မြင်မက်၏၊ ဤအိပ်မက်၏ အကျိုးသည် အသို့နည်းဟု လျှောက်၏။

မြတ်သောမင်းကြီး ဤအိပ်မက်၏ အကျိုးသည်လည်း နောင်အခါ၌သာလျှင် ဖြစ်လတ္တံ့၊ ထိုစကားသည် မှန်၏၊ နောင်အခါ တရားမစောင့်ကုန်သော မင်းတို့သည် အမျိုးနှင့် ပြည့်စုံကုန်သော သူကောင်းသားတို့အား ရှိုရှာခြင်းကြောင့် စည်းစိမ်ကို မပေးကုန်လတ္တံ့၊ အမျိုးမြတ်သော သူတို့ကို စွန့်ကုန်လတ္တံ့၊ အမျိုးယုတ်ကုန်သော သူတို့အားသာလျှင် စည်းစိမ်ကို ပေးကုန်လတ္တံ့၊ ဤသို့ ဖြစ်သည်ရှိသော် အမျိုးမြတ်ကုန်သောသူတို့သည် ဆင်းရဲကုန်သည် ဖြစ်ကုန်လတ္တံ့၊ အမျိုးယုတ်သော လူတို့သည် အစိုးရသည် ဖြစ်ကုန်လတ္တံ့၊ အမျိုးမြတ်သော ယောကျ်ားတို့သည်လည်း အသက်မွေးခြင်းငှါ မတတ်နိုင်ကုန်သည် ဖြစ်၍ ဤသူယုတ်တို့ကိုမှီ၍ အသက်မွေးကုန်အံ့ဟု အမျိုးယုတ်ကုန်သော သူတို့အား သမီးကိုပေးကုန်လတ္တံ့၊ ဤသို့လျှင် မြေခွေးဖိုအား ရွှေခွက်၌ ကျင်ငယ်စွန့်ခြင်းနှင့်တူသော ထိုအမျိုးကောင်းသမီးတို့၏ အမျိုးယုတ်ကုန်သော သူတို့နှင့် တကွ ပေါင်းဘော်ခြင်းသည် ဖြစ်လတ္တံ့၊ ဤအိပ်မက်ဟူသော အကြောင်းကြောင့်လည်း သင်မင်းကြီးအား ဘေးမရှိ။

၇၊ မြတ်သောမင်းကြီး ခုနစ်ခုမြောက်သော အိပ်မက်ကို ဆိုလောဟု မိန့်တော်မူ၏၊ အရှင်ဘုရား တယောက်သော ယောကျ်ားသည် လွန်ကိုကျစ်၍ ခြေရင်း၌ထား၏၊ ထိုယောကျ်ားသည် ထိုင်အပ်သော အင်းပျဉ်အောက်၌ အိပ်သော တကောင်သော ဆာမွတ်သော မြေခွေးမသည် ထိုယောကျ်ား၏ မသိစဉ်လျှင် ထိုလွန်ကို စား၏၊ ဤသို့ အကျွန်ုပ်သည် မြင်မက်၏၊ အကျွန်ုပ်၏ ခုနစ်ခုမြောက်သော အိပ်မက်သည် ဤအိပ်မက်တည်း၊ ဤအိပ်မက်၏ အကျိုးသည် အသို့နည်းဟု လျှောက်၏။

မြတ်သောမင်းကြီး ဤအိပ်မက်၏အကျိုးသည်လည်း နောင်အခါ၌သာလျှင် ဖြစ်လတ္တံ့၊ ထိုစကားသည် မှန်၏၊ နောင်အခါ၌ မိန်းမတို့သည် ယောကျ်ား၌ လော်လည်ကုန်သည် သေသောက်ခြင်း၌ လော်လည်ကုန်သည် တန်ဆာဆင်ခြင်း၌ လော်လည်ကုန်သည် လှည့်ပတ်ခြင်း၌ လော်လည်ကုန်သည် အာမိသ၌ လော်လည်ကုန်သည် ဖြစ်ကုန်လတ္တံ့၊ သီလမရှိကုန်သည် ဖြစ်ကုန်လတ္တံ့၊ ယုတ်မာသော အကျင့်ရှိကုန်သည် ဖြစ်ကုန်လတ္တံ့၊ ထိုမိန်းမတို့သည် လင်တို့သည် လယ်ထွန်ခြင်း နွားကျောင်းခြင်း အစရှိသော အမှုတို့ကို ပြုကုန်၍ ငြိုငြင်သဖြင့်

ဆည်းပူးအပ်သော ဥစ္စာကို သယောက်လင်တို့နှင့် အတူတကွ သေကိုသောက် ကုန်လျက် ပန်း, နံ့သာ, နံ့သာပျောင်းတို့ကို ဆင်ယင်ကုန်လျက် အိမ်၌အဆော တလျင်ပြုအပ်သော အမှုကိစ္စကို မကြည့်မူ၍ အိမ်နံရံ၏ အထက်အဘို့တို့ဖြင့်၎င်း အပေါက်ရှိရာ အရပ်တို့ဖြင့်၎င်း သယောက်လင်ကို စုံစမ်းကြည့်ရှု ကုန်လျက် နက်ဖြန် မျိုးကြဲအပ်သည်နှင့်ယှဉ်သော မျိုးစပါးကိုလည်း ထောင်း၍ ယာဂု ထမင်း ခဲဘွယ် အစရှိသည်တို့ကို ပြည့်စုံစေ၍ ခဲကုန်လျက် ခိုးစားကုန်လတ္တံ့၊ အဘယ်သို့ ခိုးစားကုန်လတ္တံ့နည်းဟူမူကား အင်းပျဉ်အောက်၌ ဝင်၍နေသော ဆာမွတ်သော မြေခွေးမသည် ကျစ်၍ ကျစ်၍ ခြေရင်း၌ထားသော လွန်ကို ခိုးစားသကဲ့သို့ ခိုစားကုန်လတ္တံ့၊ ဤအိပ်မက်ဟူသော အကြောင်းကြောင့်လည်း သင်မင်းကြီးအား ဘေးမရှိ။

၈၊ မြတ်သောမင်းကြီး ရှစ်ခုမြောက်သောအိပ်မက်ကို ဆိုလောဟု မိန့်တော်မူ၏၊ အရှင်ဘုရား မင်းအိမ်တံခါး၌ များစွာကုန်သော အချည်းနှီးသော ရေအိုးတို့ဖြင့် ခြံရံ၍ထားအပ်သော တခုသော ကြီးစွာသော ရေပြည့်အိုးကို မြင်မက်၏၊ အမျိုးလေးပါးတို့သည် တရွှေဖြစ်သော အရပ်လေးမျက်နှာတို့မှ၎င်း အထောင့် ဖြစ်သော အရပ်လေးမျက်နှာတို့မှ၎င်း အိုးတို့ဖြင့် ရေကိုဆောင်ကုန် ဆောင်ကုန် ၍ ရေပြည့်သောအိုးကို လောင်းကုန်၏၊ လောင်းတိုင်း လောင်းတိုင်းသော ရေ သည် အထက်သို့ လျှံတက်၍ စီးသွား၏၊ ထိုလူတို့သည်လည်း အဖန်တလဲလဲ ထို ပြည့်သောအိုး၌သာလျှင် ရေကို လောင်းကုန်၏၊ အချည်းနှီးသော အိုးတို့ကို ကြည့်သောသူလည်း မရှိ၊ အကျွန်ုပ်၏ ရှစ်ခုမြောက်သော အိပ်မက်သည်ကား ဤအိပ်မက်တည်း၊ ဤအိပ်မက်၏ အကျိုးသည် အသို့နည်းဟု လျှောက်၏။

မြတ်သောမင်းကြီး ဤအိပ်မက်၏ အကျိုးသည်လည်း နောင်အခါ၌သာ လျှင် ဖြစ်လတ္တံ့၊ ထိုစကားသည် မှန်၏၊ နောင်အခါ၌ လူတို့သည် ယုတ်ကုန် လတ္တံ့၊ တိုင်းနိုင်ငံ၌ ဩဇာမရှိသည် ဖြစ်ကုန်လတ္တံ့၊ မင်းတို့သည် ဆင်းရဲသည် ဖြစ်ကုန်လတ္တံ့၊ အကြင်သူတို့သည် အစိုးရသော မင်းတို့သည် ဖြစ်ကုန်လတ္တံ့၊ ထိုမင်းတို့၏ ဘဏ္ဍာတိုက်၌ တသိန်းမျှသော အသပြာတို့သည် ဖြစ်ကုန်လတ္တံ့၊ ထိုမင်းတို့သည် ဤသို့ ဆင်းရဲကုန်သည်ရှိသော် ခပ်သိမ်းကုန်သော ဇနပုဒ်သား တို့ကို မိမိအမှုကိုသာလျှင် ပြုစေကုန်လတ္တံ့၊ လူတို့သည်လည်း မင်းတို့နှိပ်စက်

အပ်ကုန်သည်ဖြစ်၍ မိမိတို့၏ အမှုကို စွန့်ကုန်၍ မင်းတို့၏ အကျိုးငှါသာလျှင် ကောက်ပဲတို့ကို ကြဲကုန်လျက် စောင့်ရှောက်ကုန်လျက် ရိတ်ကုန်လျက် နယ်ကုန်လျက် သွင်းကုန်လျက် ကြံခင်းတို့ကို ပြုကုန်လျက် ယန္တရားတို့ကို ရွက်ဆောင်ကုန်လျက် တင်လဲအစရှိသည်တို့ကို ချက်ကုန်လျက် ပန်းအရံတို့ကို ပြုကုန်လျက် သစ်သီးအရံတို့ကို ပြုကုန်လျက် ထိုထိုအရပ်၌ ဖြစ်ကုန်သော ကောက်ပဲ အစရှိသည်တို့ကို ဆောင်ကုန်၍ မင်း၏ကျီကိုသာလျှင် ဖြစ်စေကုန်လတ္တံ့၊ မိမိတို့၏ အိမ်တို့၌ အချည်းနှီးသော ကျီတို့ကို ကြည့်ကုန်သော သူတို့မည်သည် မရှိကုန်လတ္တံ့၊ အချည်းနှီးသော အိုးတို့ကို မကြည့်မူ၍ ပြည့်သောအိုးကို လောင်းသည်နှင့် တူစွာသာလျှင် ဖြစ်ကုန်လတ္တံ့၊ ဤအိပ်မက်ဟူသော အကြောင်းကြောင့်လည်း သင်မင်းကြီးအား ဘေးမရှိ။

၉၊ မြတ်သော မင်းကြီး ကိုးခုမြောက်သော အိပ်မက်ကို ဆိုလော့ဟု မိန့်တော်မူ၏၊ အရှင်ဘုရား တခုသော ငါးပါးသောအဆင်းရှိသော ကြာပဒုမာတို့ဖြင့် ဖုံးလွှမ်းသော နက်စွာသော ထက်ဝန်းကျင် ဆိပ်ရှိသော ရေကန်ကို မြင်မက်၏၊ ထက်ဝန်းကျင်မှ အခြေနှစ်ချောင်း, အခြေလေးချောင်း ရှိကုန်သော သားငှက်တို့သည် သက်ကုန်၍ ထိုရေကန်၌ ရေကို သောက်ကုန်၏၊ ထိုရေကန်၏ အလယ်ဖြစ်သော နက်ရာအရပ်၌ ရေသည် နှောက်၏၊ ကမ်းနားအရပ်တို့၌ အခြေနှစ်ချောင်း,အခြေလေးချောင်းရှိကုန်သော သားငှက်တို့၏ နင်းရာအရပ်၌ ရေသည် မနှောက်,ကြည်လင်၏၊ ဤသို့ အကျွန်ုပ်သည် မြင်မက်၏၊ အကျွန်ုပ်၏ ကိုးခုမြောက်သော အိပ်မက်သည် ဤအိပ်မက်တည်း၊ ဤအိပ်မက်၏ အကျိုးသည် အဘယ်သို့နည်းဟု လျှောက်၏။

မြတ်သော မင်းကြီး ဤအိပ်မက်၏ အကျိုးသည်လည်း နောင်အခါ၌သာ ဖြစ်လတ္တံ့၊ ထိုစကားသည် မှန်၏၊ နောင်အခါ မင်းတို့သည် တရားမစောင့်သည် ဖြစ်ကုန်လတ္တံ့၊ ဆန္ဒာဂတိ အစရှိသည်တို့၏ အစွမ်းအားဖြင့် အဂတိသို့ လားကုန်လျက် မင်းပြုကုန်လတ္တံ့၊ တရားသဖြင့် ဆုံးဖြတ်ခြင်းမည်သည်ကို မပေးကုန်လတ္တံ့၊ တံစိုးစားသည် ဖြစ်ကုန်လတ္တံ့၊ ဥစ္စာ၌ လော်လည်ကုန်သည် ဖြစ်၍ တိုင်းနိုင်ငံ၌ နေကုန်သော သူတို့၌ ခန္တီ, မေတ္တာ, ကရုဏာ မည်သည် မဖြစ်ကုန်လတ္တံ့၊ ကြမ်းကြုတ်ကုန်သည်ဖြစ်လတ္တံ့၊ ကြံညှစ်ယန္တရား၌ ကြံချောင်း

ကိုကဲ့သို့ လူတို့ကိုနှိပ်စက်ကုန်လျက် အထူးထူး အပြားပြားသော အခြင်းအရာဖြင့် အခွန် အတုတ်ကို ဖြစ်စေ၍ ဥစ္စာကို ယူကုန်လတ္တံ့။ လူတို့သည် အခွန်အတုတ် တို့ဖြင့် နှိပ်စက်အပ်သည်ဖြစ်၍ တစုံတခုကိုပေးအံ့သောငှါ မတတ်နိုင်သည်ဖြစ်၍ ရွာ နိဂုံး အစရှိသည်တို့ကို စွန့်ကုန်၍ ရပ်စွန် ပြည်နားသို့သွား၍ နေကုန်လတ္တံ့။ ရေကန်၏ အလယ်၌ ရေသည် နောက်သကဲ့သို့ရင်း၊ ကမ်းနားအရပ်၌ ရေသည် ကြည်သကဲ့သို့ရင်း အလယ်ဖြစ်သောဇနပုဒ်သည် ဆိတ်သည် ဖြစ်လတ္တံ့။ ရပ်စွန် ပြည်နားသည် တခဲနက်သော လူနေရှိသည် ဖြစ်လတ္တံ့။ ဤအိပ်မက်ဟူသော အကြောင်းကြောင့်လည်း သင်မင်းကြီးအား ဘေးမရှိ။

၁၀။ မြတ်သော မင်းကြီး ဆယ်ခုမြောက်သော အိပ်မက်ကို ဆိုဦးလောဟု မိန့်တော်မူ၏၊ အရှင်ဘုရား တလုံးတည်းသော အိုးဖြင့် ချက်သော ထမင်းသည် ထမင်းအိုး၏ တခုသော နံပါး၌ အလွန်ပြော့၏၊ တခုသော နံပါး၌ မနပ်၊ တခုသော နံပါး၌ ကောင်းစွာ ကျက်၏၊ ဤသို့ သုံးစုအားဖြင့် ကျက်သည်ကို မြင်မက်၏၊ အကျွန်ုပ်၏ ဆယ်ခုမြောက်သော အိပ်မက်သည်ကား ဤအိပ်မက် တည်း၊ ဤအိပ်မက်၏ အကျိုးသည်ကား အသို့နည်းဟု လျှောက်၏။

မြတ်သော မင်းကြီး ဤအိပ်မက်၏ အကျိုးသည်လည်း နောင်အခါ၌သာ ဖြစ်လတ္တံ့။ ထိုစကားသည် မှန်၏၊ နောင်အခါ၌ မင်းတို့သည် တရားမစောင့် သည် ဖြစ်ကုန်လတ္တံ့။ ထိုသို့ တရားမစောင့်သောကြောင့် ထိုသူတို့၏ အစောင့် အရှောက် နတ်, ပူဇော်သက္ကာရကို ခံသောနတ်, ရုက္ခဇိုဝ်းနတ်, အာကာသဇိုဝ်း နတ်တို့သည် တရားမစောင့်သည် ဖြစ်ကုန်လတ္တံ့။ တရားမစောင့် ကုန်သော မင်းတို့၏ တိုင်းနိုင်ငံ၌ လေတို့သည် မညီညွတ်ကုန်သည်ဖြစ်၍ ပြင်းထန်ကုန်သည် ဖြစ်၍ လာကုန်လတ္တံ့။ ထိုလေတို့သည် ကောင်းကင်၌ တည်ကုန်သော ဗိမာန် တို့ကို တုန်လှုပ်စေကုန်၏၊ ထိုလေတို့သည် တုန်လှုပ်သည်ရှိသော် နတ်တို့သည် အမျက် ထွက်ကုန်သည် ဖြစ်၍ မိုဃ်းရွာစိမ့်သောငှါ မပေးကုန်လတ္တံ့။ ရွာ သော်လည်း အလုံးစုံသောတိုင်း၌ တပြိုင်နက်ဖြင့် မရွာစေလတ္တံ့။ အလုံးစုံသော တိုင်း၌ လယ်ထွန်ခြင်း အမှုအားဖြင့်ရင်း စိုက်ပျိုးသော အမှုအားဖြင့်ရင်း ကျေးဇူးရှိသည်ဖြစ်၍ မရွာလတ္တံ့။ တိုင်း၌ကဲ့သို့ ထိုအတူ ဇနပုဒ်၌ရင်း ရွာ၌ရင်း တခုသော တဘက်ဆည်ကန်၌ရင်း တခုသော အိုင်၌ရင်း တပြိုင်နက် မရွာလတ္တံ့။

တဘက် ဆည်ကန်၏ အထက်အဘို့၌ ရွာသော မိုးသည် အောက်အဘို့၌ မရွာလတ္တံ့၊ အောက်အဘို့၌ ရွာသောမိုးသည် အထက်အဘို့၌ မရွာလတ္တံ့၊ တခုသော အရပ်အဘို့၌ ကောက်တို့သည် အလွန်မိုးရွာသဖြင့် ပျက်စီးလတ္တံ့၊ တခုသော အရပ်အဘို့၌ မိုးမရွာသည်ဖြစ်၍ ကောက်တို့သည် ညှိုးကုန်လတ္တံ့၊ တခုသော အရပ်၌လည်း ကောင်းစွာ မိုးရွာသည်ဖြစ်၍ ပြည့်စုံကုန်လတ္တံ့၊ ဤသို့လျှင် တလုံးတည်းသော ထမင်းအိုး၌ ထမင်းကဲ့သို့ တယောက်သောမင်း၏ တိုင်းနိုင်ငံ၌ စိုက်ပျိုးသော ကောက်တို့သည်လည်း သုံးထွေပြားသည် ဖြစ်လတ္တံ့၊ ဤအိပ်မက်ဟူသော အကြောင်းကြောင့်လည်း သင်မင်းကြီးအား ဘေးမရှိ။

၁၁၊ မြတ်သောမင်းကြီး တဆယ့်တခုမြောက်သော အိပ်မက်ကိုဆိုဦးလော ဟု မိန့်တော်မူ၏၊ အရှင်ဘုရား အဘိုးတသိန်းထိုက်သော စန္ဒကူးနှစ်ကို ရက်စက်ပုပ်ဖြင့် ရောင်းစားသည်ကို မြင်မက်၏၊ အကျွန်ုပ်၏ တဆယ့်တခုမြောက်သော အိပ်မက်သည် ဤအိပ်မက်တည်း၊ ဤအိပ်မက်၏ အကျိုးသည် အသို့နည်း ဟု လျှောက်၏။

မြတ်သောမင်းကြီး ဤအိပ်မက်၏အကျိုးသည်လည်း နောင်အခါ၌သာလျှင် ငါ၏သာသနာတော် ဆုတ်ယုတ်သည်ရှိသော် ဖြစ်လတ္တံ့၊ ထိုစကားသည်မှန်၏၊ နောင်အခါ ပစ္စည်း၌ လောဘ်လည်ကုန်သော အလဇ္ဇီရဟန်းတို့သည် များကုန်လတ္တံ့၊ ထိုအလဇ္ဇီ ရဟန်းတို့သည် ပစ္စည်း၌ လောဘ်လည်ကုန်သည်ဖြစ်၍ ငါဘုရားသည် ပစ္စည်း၌ လောဘ်လည်ခြင်းကို ဖျက်ဆီး၍ ဟောတော်မူအပ်သော တရားတော်ကို သက်န်းအစရှိသော လေးပါးသော ပစ္စည်းဟူသော အကြောင်းကြောင့် သူတပါးတို့အား ဟောကုန်လတ္တံ့၊ ထိုစကားသည် မှန်၏၊ ပစ္စည်းလေးပါး၌ မက်မောကုန်၍ ဝဋ်ဆင်းရဲမှ ထွက်မြောက်ခစတတ်သော အဘို့၌ တည်ကုန်လျက် နိဗ္ဗာန်သို့ ရှေးရှုပြု၍ တရားကို မဟောကုန်လတ္တံ့၊ စင်စစ်သော် ကား ပုဒ်အက္ခရာတို့၏ ပြည့်စုံခြင်းမျှကိုရင်း သာယာသောအသံမျှကိုရင်း နာရ၍ အဘိုးများစွာထိုက်ကုန်သော သင်္ကန်း အစရှိသည်တို့ကို လှူလိမ့်မည် လှူချင်စိတ် ဖြစ်လိမ့်မည်ဟု ဟောကုန်လတ္တံ့၊ အသပြာမက် ရဟန်းပျက် အချို့တို့သည်လည်း ခရီးလမ်းမ လမ်းလေးခွနား မင်းအိမ်တံခါး အစရှိသည်တို့၌ နေကုန်၍ ကျပ်ပြား မူးမက် မအပ်သော အကပ္ပိယ ပစ္စည်းတို့ကိုမှီ၍ အလီလီအလာ

လာ အသပြာ လိုလားတော်မူကြ၍ တရားဟောကုန်လတ္တံ့၊ ဤသို့လျှင် ငါဘုရားသည် နိဗ္ဗာန်တရား အဘိုးထားဖြင့် ဟောကြားအပ်သော တရားမြတ် ဒေသနာကြီးကို ပစ္စည်းလေးပါး ကျပ်ပြား မှုးပဲအတွက် လက်ကား လက်လီ တရားကုန်သည် မထေရ်ကြီး မထေရ်ငယ်တို့သည် အဘိုးတသိန်း ထိုက်သော စန္ဒကူးနှစ်ကို ရက်စက်ပုပ်ဖြင့် ရောင်းသကဲ့သို့ ဒါယကာ ဒါယိကာမ အပေါင်းတို့အား ရောင်းစားကုန်လတ္တံ့၊ ဤအိပ်မက်ဟူသော အကြောင်းကြောင့်လည်း သင်မင်းကြီးအား ဘေးမရှိ။

၁၂။ မြတ်သောမင်းကြီး တဆယ့်နှစ်ခုမြောက်သောအိပ်မက်ကို ဆိုဦးလော ဟု မိန့်တော်မူ၏၊ အရှင်ဘုရား အချည်းနှီးသော ဗူးတောင်းတို့သည် ရေ၌နစ်သည်တို့ကို မြင်မက်၏၊ ဤအိပ်မက်၏အကျိုးသည် အသို့နည်းဟု လျှောက်၏။

မြတ်သောမင်းကြီး ဤအိပ်မက်၏အကျိုးသည်လည်း နောင်အခါ တရားမစောင့်သော မင်းတို့၏လက်ထက် လူတို့ ဖောက်ပြန်သော အခါ၌ သာလျှင် ဖြစ်လတ္တံ့၊ ထိုစကားသည် မှန်၏၊ ထိုအခါ တရားမစောင့်သော မင်းတို့သည် အမျိုးနှင့် ပြည့်စုံကုန်သော သူတော်ကောင်းတို့အား စည်းစိမ်ကို မပေးကုန်လတ္တံ့၊ အမျိုးယုတ်ကုန်သော သူတို့အားသာလျှင် စည်းစိမ်ကို ပေးကုန်လတ္တံ့၊ အမျိုးယုတ်ကုန်သော သူတို့သည် အစိုးရသည် ဖြစ်ကုန်လတ္တံ့၊ အမျိုးမြတ်ကုန်သော သူတို့သည် ဆင်းရဲကုန်လတ္တံ့၊ မင်းပွဲသဘင်၌၎င်း မင်းအိမ်တံခါး၌၎င်း အမတ်တို့၏ ပွဲသဘင်၌၎င်း တရားဆုံးဖြတ်ရာ အရပ်၌၎င်း အချည်းနှီးသော ဗူးတောင်းနှင့် တူကုန်သော အမျိုးယုတ်ကုန်သော သူတို့၏ စကားသည်သာလျှင် နစ်၍ တည်ဘိသကဲ့သို့ မတုန်မလှုပ် ကောင်းစွာ တည်သည်သာ ဖြစ်လတ္တံ့၊ သံဃာ့အစည်းအဝေး၌၎င်း၊ သံဃာ့ကံကို ဆောင်ရွက်ရာ၌၎င်း သီလမရှိသော ယုတ်မာကုန်သော ရဟန်းတို့၏စကားသည်သာလျှင် မတုန်မလှုပ် ကောင်းစွာ တည်သည်ဖြစ်လတ္တံ့၊ သီလကို ချစ်မြတ်နိုးကုန်သော ရဟန်းတို့၏စကားသည် မတုန်မလှုပ် ကောင်းစွာ မတည်လတ္တံ့၊ ဤသို့လျှင် ခပ်သိမ်းသော အခြင်းအရာအားဖြင့် အချည်းနှီးသော ဗူးတောင်း၏ ရေ၌ နစ်သော အခါကဲ့သို့ ဖြစ်လတ္တံ့၊ ဤအိပ်မက်ဟူသော အကြောင်းကြောင့်လည်း သင်မင်းကြီးအား ဘေးမရှိ။

၁၃၊ မြတ်သောမင်းကြီး တဆယ့်သုံးခုမြောက်သောအိပ်မက်ကို ဆိုဦးလော ဟု မိန့်တော်မူ၏၊ အရှင်ဘုရား ကြီးကုန် အလွန်ကြီးကုန်သော စုလစ်မွန်းချွန် တပ်သော အိမ်ပမာဏရှိသော တခဲနက်သော ကျောက်ဖျာကြီးသည်လှေကဲ့သို့ ရေ၌ပေါ်သည်တို့ကို မြင်မက်၏၊ ဤအိပ်မက်၏ အကျိုးသည်လည်း အသို့နည်း ဟု မေးလျှောက်၏။

မြတ်သောမင်းကြီး ဤအိပ်မက်၏ အကျိုးသည်လည်း ဆိုအပ်ခဲ့ပြီးသော ထိုသို့ သဘောရှိသော ကာလ၌သာလျှင် ဖြစ်လတ္တံ့၊ ထိုစကားသည် မှန်၏၊ ထိုအခါ တရားမစောင့်သော မင်းတို့သည် အမျိုးယုတ်ကုန်သော သူတို့အား စည်းစိမ်ကို ပေးကုန်လတ္တံ့၊ အမျိုးယုတ်ကုန်သော သူတို့သည် အစိုးရသည် ဖြစ်ကုန်လတ္တံ့၊ အမျိုးမြတ်ကုန်သော သူတို့သည် ဆင်းရဲကုန်လတ္တံ့၊ အမျိုး မြတ်ကုန်သော သူတို့၌ တစုံတယောက်ကုန်သော သူတို့သည် ရိုသေခြင်းကို မပြုကုန်လတ္တံ့၊ အမျိုးယုတ်သော သူတို့၌သာလျှင် ရိုသေခြင်းကို ပြုကုန်လတ္တံ့၊ မင်းပွဲသဘင်၌ရင်း အမတ်တို့၏ ပွဲသဘင်၌ရင်း တရားဆုံးဖြတ်ရာ အရပ်၌ရင်း တရားဆုံးဖြတ်ခြင်း၌ လိမ်မာကုန်သော တခဲနက်သော ကျောက်ဖျာကြီးနှင့် တူကုန်သော အမျိုးကောင်းသားတို့၏ စကားသည် သက်ဝင်၍ မတည်လတ္တံ့၊ ထိုအမျိုးသားတို့သည် စကားပြောဆိုကုန်သည်ရှိသော် ဤသူတို့သည် အဘယ် စကားကို ပြောဆိုကုန်သနည်းဟု အမျိုးယုတ်ကုန်သောသူတို့သည် ပြက်ရယ်ကို သာလျှင် ပြုကုန်လတ္တံ့၊ ဆိုအပ်ပြီးသော အပြားရှိကုန်သော ဆရာဖြစ်ကုန်သော ရဟန်းတို့၏ အစည်းအဝေး၌လည်း သီလကို ချစ်မြတ်နိုးကုန်သော ရဟန်းတို့ကို အရိုအသေအလေးအမြတ် ပြုအပ်သည်ဟူ၍မအောက်မေ့ကုန်လတ္တံ့၊ ထိုသီလကို ချစ်မြတ်နိုးကုန်သော ရဟန်းတို့၏ စကားသည် သက်ဝင်၍ မတည်လတ္တံ့၊ ကျောက်ဖျာတို့၏ ပေါ်သော အခါကဲ့သို့ ဖြစ်လတ္တံ့၊ ဤအိပ်မက်ဟူသော အကြောင်းကြောင့်လည်း သင်မင်းကြီးအား ဘေးမရှိ။

၁၄၊ မြတ်သောမင်းကြီး တဆယ့်လေးခုမြောက်သော အိပ်မက်ကို ဆိုဦး လောဟု မိန့်တော်မူ၏၊ အရှင်ဘုရား သစ်မည်စည်ပွင့်ငယ် ပမာဏရှိကုန်သော ဘားငယ်တို့သည် ကြီးကုန် အလွန်ကြီးကုန်သော မြွေဟောက်တို့ကို လျင်သော အဟုန်ဖြင့် ကိုက်လတ်၍ ကြာရိုး ကြာစွယ်ကိုကဲ့သို့ ဖြတ်၍ ဖြတ်၍ အသားကို

**စား၍ မျိုကုန်သည်တို့ကို မြင်မက်၏၊ ဤအိပ်မက်၏ အကျိုးသည်လည်း အသို နည်းဟု လျှောက်၏။**

မြတ်သောမင်းကြီး ဤအိပ်မက်၏ အကျိုးသည်လည်း နောင်အခါ လူတို့သည် ဆုတ်ယုတ်ကုန်သောကာလ၌ ဖြစ်ကုန်လတ္တံ့၊ ထိုစကားသည်မှန်၏၊ ထိုအခါ လူတို့သည် ပြင်းထန်သောရာဂရှိကုန်သည်ဖြစ်၍ ယုတ်သော သဘော ရှိကုန်သော ကိလေသာတို့၏ အလိုသို့ လိုက်ကုန်သည်ဖြစ်၍ ငယ်ကုန် အလွန် ငယ်ကုန်သော မိမိ၏ မယားတို့၏အလိုသို့ လိုက်ကုန်လတ္တံ့၊ အိမ်၌ ကျွန်အမှုလုပ် အစရှိသည်တို့သည်ငှင်း နွား, ကျွဲ အစရှိသည်တို့သည်ငှင်း သုံးဆောင်ပြီးသော ရွှေ, မသုံးဆောင်သေးသော ရွှေ အစရှိသည်တို့သည်ငှင်း အလုံးစုံလျှင် ထိုမိန်းမငယ်တို့နှင့် သာလျှင် စပ်သည် ဖြစ်လတ္တံ့၊ ဤမည်သော သုံးဆောင် ပြီးသော ရွှေ, မသုံးဆောင်သေးသော ရွှေတို့သည်ငှင်း ဤမည်သော အခြံအရံ အစရှိသော အမျိုးသည်ငှင်း အဘယ်မှာနည်းဟု မေးသည်ရှိသော် ရှိလိုရာ အရပ်၌ ရှိသည်ဖြစ်စေ သင့်အား ဤကြောင့်ကြခြင်းဖြင့် အဘယ်မူအံ့နည်း သင်သည်ငါ၏အိမ်၌ရှိသည်ကိုငှင်း မရှိသည်ကိုငှင်း အဘယ့်ကြောင့်သိလိုသနည်း ဟုဆို၍ အထူးထူးသော စကားတို့ဖြင့် ဆဲရေး၍ နှုတ်လုံ့တို့ဖြင့်ထိုး၍ ကျွန်အစေ အပါးကိုကဲ့သို့ အလိုသို့လိုက်စေ၍ မိမိ၏ အစိုးရခြင်းကို ဖြစ်စေကုန်လတ္တံ့၊ ဤသို့လျှင် သစ်မည်စည်ပွင့်ငယ်မျှ ပမာဏရှိသော ဘားမငယ်တို့၏ လျှင်သော အဆိပ်ရှိသော မြွေဟောက်ကို မျိုသော အခါကဲ့သို့ ဖြစ်လတ္တံ့၊ ဤအိပ်မက် ဟူသော အကြောင်းကြောင့်လည်း သင်မင်းကြီးအား ဘေးမရှိ။

၁၅၊ မြတ်သောမင်းကြီး တဆယ့်ငါးခုမြောက်သောအိပ်မက်ကို ဆိုဦးလော ဟု မိန့်တော်မူ၏၊ အရှင်ဘုရား ဆယ်ပါးကုန်သော သူယုတ်မာတို့၏ အကျင့်တို့ နှင့် ပြည့်စုံသော ရွာ၌ ကျက်စားသော ကျီးကို ရွှေအဆင်းနှင့်တူသော အဆင်း ရှိသည်၏အဖြစ်ကြောင့် သုဝဏ္ဏဟူ၍ ရအပ်သော အမည်ရှိကုန်သော ရွှေဟင်္သာ တို့သည် ခြံရံသည်တို့ကို မြင်မက်၏၊ ဤအိပ်မက်၏ အကျိုးသည်လည်း အသို နည်းဟု လျှောက်၏။

မြတ်သောမင်းကြီး ဤအိပ်မက်၏အကျိုးသည်လည်း နောင်အခါအားနည်း သော မင်းတို့လက်ထက်၌သာလျှင်ဖြစ်လတ္တံ့၊ထိုစကားသည်မှန်၏၊ နောင်သော

အခါ အားနည်းကုန်သော မင်းတို့သည် ဆင်အတတ် အစရှိသည်တို့၌ မလိမ်မာ ကုန်သည် ဖြစ်လတ္တံ့၊ စစ်ထိုးခြင်း၌ မရဲရင့်သည် ဖြစ်ကုန်လတ္တံ့၊ ထိုအားနည်းကုန်သောမင်းတို့သည် မိမိတို့၏ပြည်စည်းစိမ်ပျက်စီးခြင်းကို ရွံရှာကုန်သည်ဖြစ်၍ တူသောဇာတ်ရှိကုန်သော သူတော်ကောင်းသားတို့အား အစိုးရခြင်းကို မပေးမူ၍ မိမိ၏ခြေရင်း၌ ခစားကုန်သော ဆေတ္တာသည် အစရှိသော သူတို့အား စည်းစိမ်ကို ပေးကုန်လတ္တံ့၊ အမျိုးအနွယ်နှင့် ပြည့်စုံကုန်သော သူတော်ကောင်းသားတို့သည် မင်းအိမ်၌ ကိုးကွယ်ရာကို မရကုန်သည်ဖြစ်၍ အသက်မွေးခြင်းငှါ မတတ်နိုင်ကုန်သည် ဖြစ်၍ အစိုးရခြင်း၌ တည်ကုန်သော အမျိုး အနွယ် ယုတ်ကုန်သော မမြတ်ကုန်သော သူတို့၌ ခစားကုန်သည် ဖြစ်လတ္တံ့၊ ရွှေဟင်္သာတို့သည် ကျီးကို ခြံရံသော ကာလကဲ့သို့ ဖြစ်လတ္တံ့၊ ဤ အိပ်မက်ဟူသော အကြောင်းကြောင့်လည်း သင်မင်းကြီးအား ဘေးမရှိ။

၁၆၊ မြတ်သောမင်းကြီး ကဆယ့်ခြောက်ခုမြောက်သော အိပ်မက်ကို ဆိုဦးလောဟု မိန့်တော်မူ၏၊ အရှင်ဘုရား ရှေး၌ သစ်တို့သည် ဆိတ်တို့ကိုစားကုန်၏၊ အကျွန်ုပ်သည်ကား ဆိတ်တို့သည် သစ်တို့ကို လိုက်ကုန်၍ ကြွပ်ကြွပ် မြည်စေကုန်၍ စားကုန်သည်တို့ကို မြင်မက်၏၊ ထိုနောက်မှ တပါးကုန်သော ထိတ်လန့်ခြင်းကိုဖြစ်စေတတ်ကုန်သော သစ်တို့သည် ဆိတ်တို့ကို အဝေးမှသာလျှင် မြင်၍ ကြောက်ခြင်းသို့ ရောက်ကုန်သည် ဖြစ်၍ ဆိတ်တို့မှ ကြောက်ခြင်းကြောင့် ပြေးကုန်၍ တောချုံတို့သို့ ဝင်၍ ပုန်းကုန်၏၊ ဤအိပ်မက်၏ အကျိုးသည်လည်း အသို့နည်းဟု လျှောက်၏။

မြတ်သောမင်းကြီး ဤအိပ်မက်၏ အကျိုးသည်လည်း နောင်အခါ တရားမစောင့်သော မင်းတို့၏လက်ထက်၌သာလျှင် ဖြစ်လတ္တံ့၊ ထိုစကားသည် မှန်၏၊ ထိုအခါ အမျိုး ယုတ်ကုန်သော မင်းကျွမ်းဝင် ဖြစ်ကုန်သော သူတို့သည် အစိုးရသည် ဖြစ်ကုန်လတ္တံ့၊ အမျိုးမြတ်ကုန်သော သူတို့သည် မထင်ရှားသည် ဖြစ်၍ ဆင်းရဲသည် ဖြစ်ကုန်လတ္တံ့၊ ထိုမင်းကျွမ်းဝင် ဖြစ်ကုန်သော သူတို့သည် မင်းကို မိမိတို့၏ စကားကို ယူစေ၍ တရားဆုံးဖြတ်ရာ အရပ် အစရှိသည်တို့၌ အားရှိကုန်သည် ဖြစ်၍ အမျိုးမြတ်ကုန်သော သူတော်ကောင်း အပေါင်းတို့၏ အစဉ်အဆက်မှ လာကုန်သော လယ်ယာ အစရှိသည်တို့ကို ထိုလယ်ယာ အစ

ရှိသည်တို့သည် ငါတို့၏ဥစ္စာတည်းဟု တရားကိုတွေ့ကုန်၍ ထိုသို့တရားတွေ့ခြင်းကြောင့် သင်တို့၏ ဥစ္စာတည်း, ငါတို့၏ ဥစ္စာတည်းဟု လာလတ်ကုန်၍ တရားဆုံးဖြတ်ရာအရပ် အစရှိသည်တို့၌ ငြင်းခုံကြသည်ရှိသော် ကြိမ်နှယ် အစရှိသည်တို့ဖြင့် ပုတ်ခတ်စေ၍ လည်၌ ကိုင်၍ ငင်စေပြီးလျှင် မိမိ၏ ပမာဏကို မသိကြကုန် ငါတို့နှင့်တကွ ငြင်းခုံကြကုန်ဘိ၏၊ ယခုအခါ မင်းအားလျှောက်ထား၍ လက်ခြေတို့ကိုဖြတ်ခြင်း အစရှိသည်တို့ကို ပြုကုန်အံ့ဟု ခြိမ်းချောက်ကုန်လတ္တံ့။

ထိုအမျိုးမြတ်သော သူတို့သည် မင်းကျွမ်းဝင်ဖြစ်သော သူတို့မှ ကြောက်သောကြောင့် မိမိတို့၏ ဥစ္စာဖြစ်ကုန်သော လယ်ယာ အစရှိသည် တို့ကို ဤလယ်ယာ အစရှိကုန်သော ဝတ္ထုတို့သည် သင်တို့၏ ဥစ္စာသာလျှင်တည်း၊ ထိုဥစ္စာတို့ကို ယူကုန်လောဟု ပေးအပ်၍ မိမိတို့၏ အိမ်တို့သို့ဝင်၍ ကြောက်ကုန်သည်ဖြစ်၍ အိပ်ကုန်လတ္တံ့၊ အကျင့်ယုတ်မာကုန်သော ရဟန်းတို့သည်လည်း သီလ၌ ချစ်မြတ်နိုးကုန်သော ရဟန်းတို့ကို အလိုရှိတိုင်း ညှဉ်းဆဲကုန်လတ္တံ့၊ သီလကို ချစ်မြတ်နိုးကုန်သော ရဟန်းတို့သည် ကိုးကွယ်ရာကို မရသည်ဖြစ်၍ တောသို့ ဝင်ပြီးလျှင် ချုံတို့၌ ပုန်းကုန်လတ္တံ့၊ ဤသို့လျှင် ယုတ်သောဇာတ်ရှိကုန်သော သူတို့သည်၎င်း အကျင့် ယုတ်ကုန်သော ရဟန်းတို့ သည်၎င်း နှိပ်စက်အပ် ကုန်သည် ဖြစ်၍ ဇာတ်နှင့် ပြည့်စုံကုန်သော အမျိုးကောင်းသားတို့၏၎င်း သီလကို ချစ်မြတ်နိုး ကုန်သောရဟန်းတို့၏၎င်း ဆိတ်တို့မှ ကြောက်ခြင်းကြောင့် ထိတ်လန့်ခြင်းတို့ကို ဖြစ်စေတတ်ကုန်သော သစ်တို့၏ ပြေးသော ကာလကဲ့သို့ ဖြစ်လတ္တံ့၊ ဤအိပ်မက်ဟူသော အကြောင်းကြောင့်လည်း သင်မင်းကြီးအား ဘေးမရှိ၊ ဤအိပ်မက်ကိုလည်း အနာဂတ်ကိုလျှင် စွဲ၍ မြင်မက်၏၊ ပုဏ္ဏားတို့သည်ကား များစွာသော ဥစ္စာကို ရကုန်လတ္တံ့ဟု အာမိသကို ငဲ့သဖြင့် အသက်မွေးခြင်းကိုမှီ၍ ပြောဆိုကုန်၏ဟု မိန့်တော်မူ၏။

ဤသို့လျှင် မြတ်စွာဘုရားသည် တဆယ့်ခြောက်ချက်သောအိပ်မက်ကြီးတို့၏ အကျိုးကို ဟောတော်မူ၍ မြတ်သောမင်းကြီး ယခုအခါ၌ သင်မင်းကြီးသည် သာလျှင်တဆယ့်ခြောက်ချက်သောအိပ်မက်ကြီးတို့ကို မြင်မက်သည်မဟုတ်သေး ရှေးမင်းတို့သည်လည်းမြင်မက်ဘူးကုန်ပြီ၊ ပုဏ္ဏားတို့သည်လည်း ရှေးမင်းတို့အား ဤအတူသာလျှင် အိပ်မက်ကို ယူ၍ ယဇ်ထက်၌ ချဘူးကုန်ပြီ၊ ထိုနောင်



၅၅၀-ပ၊ မဟာသုပိနဇာတ်

ဖားငယ်က အဆိပ်ပြင်းသောမြွေအား ကိုက်သတ်နေပုံကို ကောသလမင်းကြီးအိပ်မက်မြင်မက်ပုံ

ပညာရှိတို့သည် ပေးအပ်သောနည်းဖြင့် သွား၍ ဘုရားလောင်းကို မေးကုန်၏၊ ရှေးပညာရှိတို့သည်လည်း ထိုရှေးမင်းတို့အား ဤအိပ်မက်တို့ကို ဟောကုန်သည် ရှိသော် ဤယခုအခါ၌ ငါဘုရား ဟောတော်မူသော နည်းဖြင့်သာလျှင် ဟော ဘူးကုန်ပြီဟု မိန့်တော်မူ၍ ထိုကောလလမင်းကြီးသည် တောင်းပန် အပ်သည် ဖြစ်၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**...လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည် သောမင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် ဥဒိစ္စ ပုဏ္ဏားမျိုး၌ဖြစ်၍ အရွယ်သို့ရောက်လတ်သော် ရသေ့ရဟန်းပြု၍ ငါးပါးသောအဘိညာဉ်တို့ကိုရင်း ရှစ်ပါးသော သမာပတ်တို့ကိုရင်း ဖြစ်စေ၍ ဟိမဝန္တာအရပ်၌ ဈာန်ကစားခြင်း ကို ကစားလျက် နေ၏၊ ထိုအခါ ဗာရာဏသီမြို့၌ ဗြဟ္မဒတ်မင်းကြီးသည် ဤ နည်းဖြင့်လျှင် ဤတဆယ့်ခြောက်ချက်သောအိပ်မက်ကြီးတို့ကိုမြင်မက်၍ ပုဏ္ဏား တို့ကိုမေး၏၊ ပုဏ္ဏားတို့သည် ဤအတူသာလျှင် ယဇ်ပူဇော်အံ့သောငှါ အား ထုတ်ကုန်၏၊ ထိုပုဏ္ဏားတို့တွင် ပုရောဟိတ်၏ ပညာရှိသော လိမ္မာသော တပည့် လုလင်သည် ဆရာကို ဆရာ သင်တို့သည် အကျွန်ုပ်ကို ဗေဒင်တို့ကို သင်စေ၏၊ ထိုဗေဒင်တို့၌ တယောက်သောသူကိုသတ်၍ တယောက်သောသူ၏ ချမ်းသာ ခြင်းအမှုကို ပြုခြင်းမည်သည် မရှိသည် မဟုတ်လောဟု ဆို၏၊ အမောင် လုလင် ဤဥပါယ်ဖြင့် ငါတို့အား များစွာသော ဥစ္စာသည် ဖြစ်လတ္တံ့၊ သင်သည်ကား မင်းဥစ္စာကို စောင့်လိုယောင်တကား ဟု ဆို၏၊ လုလင်သည် ဆရာ ထိုသို့တပြီး ကား သင်တို့သည်သာလျှင် သင်တို့အမှုကို ပြုကြကုန်လော၊ ငါသည်ကား သင် တို့အထံ၌ မပြုအံ့ဟုဆို၍ သွားသည်ရှိသော် မင်း၏ဥယျာဉ်သို့ ရောက်၏။

ထိုနေ့၌သာလျှင် ဘုရားလောင်းသည်လည်း ထိုအကြောင်းကိုသိ၍ ယနေ့ ငါသည် လူ့ပြည်သို့ သွားသည်ရှိသော် များစွာသော သတ္တဝါတို့၏ အနှောင် အဖွဲ့မှ လွတ်ခြင်းသည် ဖြစ်လတ္တံ့ဟု နှလုံးသွင်း၍ ကောင်းကင်ခရီးဖြင့် လာ လတ်ပြီးလျှင် မင်း၏ဥယျာဉ်၌သက်၍ ရွှေဆင်းတုကဲ့သို့ မင်္ဂလာကျောက်ဖျာ အပြင်၌ နေ၏၊ လုလင်သည် ဘုရားလောင်းသို့ကပ်၍ ရှိခိုးလျက် တင့်အပ် လျောက်ပတ်စွာ နေ၍ နှုတ်ခွန်းဆက်ခြင်းကို ပြု၏၊ ဘုရားလောင်းသည်လည်း ထိုလုလင်နှင့်တကွသာယာစွာသောနှုတ်ခွန်းဆက်ခြင်းကို ပြု၍ လုလင် မင်းကြီး

သည် တရားသဖြင့် မင်းပြုပါ၏လောဟု မေး၏၊ အရှင်ဘုရား မင်းသည်ကား တရားစောင့်၏၊ ထိုသို့ စောင့်သော်လည်း ပုဏ္ဏားတို့သည် မင်းကြီးကို ဆိပ်မဟုတ် ရာ၌ ပြေးသွားစေကုန်၏၊ မင်းကြီးသည် တဆယ့်ခြောက်ချက်သော အိပ်မက် ကြီးတို့ကို မြင်မက်၍ ပုဏ္ဏားတို့အား ကြား၏၊ ပုဏ္ဏားတို့သည် ယဇ်ပူဇော်အံ့ဟု အားထုတ်ကုန်၏၊ အရှင်ဘုရား ဤအိပ်မက်တို့၏ ဤမည်သောအကျိုးသည် ဖြစ် လတ္တံ့ဟု မင်းကို သိစေ၍ အရှင်ဘုရားတို့အား များစွာသော သတ္တဝါအပေါင်း ကို ဘေးမှ လွတ်စေခြင်းငှါ မအပ်ပါလောဟု လျှောက်၏၊ လုလင် ငါတို့သည် မင်းကို မသိကုန်၊ မင်းသည်လည်း ငါတို့ကို မသိ၊ဤအရပ်သို့လာလတ်၍ အကယ် ၍ မေးငြားအံ့၊ ငါတို့သည် ထိုမင်းအား ပြောဆိုကုန်အံ့ဟု ဆို၏။

လုလင်သည် အရှင်ဘုရား အကျွန်ုပ်သည် ထိုမင်းကို ဆောင်ပါအံ့၊ အရှင် ဘုရားတို့သည် အကျွန်ုပ်၏ လာခြင်းကို ငံ့လင့်ကုန်လျက် အတန်ငယ် နေတော်မူ ပါကုန်လောဟု ဘုရားလောင်းကို ဝန်ခံစေ၍ မင်းအထံသို့ သွား၍ မြတ်သော မင်းကြီး တယောက်သော ကောင်းကင်ပျံ ရှင်ရသေ့သည် ရှင်မင်းကြီးတို့သည် မြင်အပ်သော အိပ်မက်တို့၏ အကျိုးကို ဟောအံ့ဟု ရှင်မင်းကြီးတို့ကို ခေါ်စေ ၏ဟု လျှောက်၏၊ မင်းကြီးသည် ထိုလုလင်၏ စကားကိုကြား၍ ထိုခဏ၌သာ လျှင် များစွာသော အခြံအရံဖြင့် ဥယျာဉ်သို့သွား၍ ရှင်ရသေ့ကို ရှိခိုးလျက် တင့်အပ် လျှောက်ပတ်စွာ နေ၍ မေး၏၊ အရှင်ဘုရား အရှင်ဘုရားတို့သည် အကျွန်ုပ်သည် မြင်အပ်သော အိပ်မက်တို့၏ အကျိုးကို သိတော်မူသလောဟု လျှောက်၏၊ မြတ်သောမင်းကြီး သိသည် မှန်၏ဟု ဆို၏၊ အရှင်ဘုရား ထိုသို့ တပြီးကား ဟောတော်မူကုန်လောဟု လျှောက်၏၊ မြတ်သောမင်းကြီး ဟောအံ့ ရှေးဦးစွာ မြင်တိုင်းသော အိပ်မက်တို့ကို ဆိုလောဟု ဆို၏၊ အရှင်ဘုရား ကောင်းပြီဟု မင်းကြီးသည်—

၇၇၊ ဥသဘာ ရုက္ခာ ဂါဝိယော ဂဝါ စ၊
အဿော ကံသော သိင်္ဂါလီစ ကုမ္ဘော၊
ပေါက္ခရဏီ စ အပါက စန္ဒနံ။

လာဗူနိ သီဒန္တိ သိလာ ပ္လဝန္တိ၊
မဏ္ဍူကိယော ကဏှသပ္ပေ ဂိလန္တိ။
ကာကံ သုဝဏ္ဏာ ပရိဝါရယန္တိ၊
တသာ ဝကာ ဧဠကာနံ ဘယာ ဟိ။

ဟူသော ဤဂါထာကို ဆို၏။

ဥသဘာ၊ နွားနက်ဥသဘ လေးခုတို့သည် ဖွေအံ့သော အခြင်းအရာကိုပြ၍ ဖဲကုန်၏။ ရုက္ခာ၊ ငယ်စွာကုန်သော သစ်ပင်ချုံတို့သည် ပွင့်ကုန် သီးကုန်၏။ ဂါဝိယော၊ နွားမကြီးတို့သည် ယနေ့ မွေးသော နွားမငယ်၏နို့ကို စို့ကုန်၏။ ဂဝါစ၊ လှည်း၌က,အပ်ကုန်သော နို့စို့နို့ခွါ နွားငယ်တို့သည် ဝန်ကိုမရွက်ဆောင်နိုင်ကုန်။ အဿော၊ နှစ်ဘက်မျက်နှာရှိသော မြင်းသည် နှစ်ဘက်သောခံတွင်းဖြင့် အစာကို စား၏။ ကံသော၊ အဘိုးတသိန်းထိုက်သော ရွှေလင်ပန်းကို ဤ၌ကျင်ငယ် စွန့်လောဟု မြေခွေးအား ဆောင်နှင်း၏။ သိင်္ဂါလီစ၊ အထက်၌ကျစ်အပ်သော လွန်ကို အောက်က မြေခွေးမ စား၏။ ကုမ္ဘော၊ အချည်းနှီးသော အိုးတို့ဖြင့် ခြံရံအပ်သော ရေပြည့်အိုး၌သာ ရေလောင်း၏။ ပေါက္ခရဏီ စ၊ ရေကန်အလယ်၌ ရေတို့သည် နောက်ကုန်၍ အနား၌ ရေတို့သည် ကြည်ကုန်၏။ အပါကံ၊ တလုံးတည်းသော အိုးဖြင့် ချက်အပ်သော ထမင်းသည် သုံးစုအားဖြင့် ကျက်၏။ စန္ဒနံ၊ အဘိုးတသိန်းထိုက်သော စန္ဒကူးနံ့သာကို ရက်တက်ရည်ပုပ်ဖြင့် ရောင်းစား၏။ လာဗူနိ၊ ဗူးတောင်းတို့သည်။ သီဒန္တိ၊ ရေ၌ နစ်ကုန်၏။ သိလာ၊ ကျောက်ဖျာကြီးတို့သည်။ ပ္လဝန္တိ၊ ရေ၌ ပေါ်ကုန်၏။ မဏ္ဍူကိယော၊ ဘားမငယ်တို့သည်။ ကဏှသပ္ပေ၊ မြွေဟောက်တို့ကို။ ဂိလန္တိ၊ မျိုကုန်၏။ ကာကံ၊ ကျီးကို။ သုဝဏ္ဏာ၊ ရွှေဟင်္သာတို့သည်။ ပရိဝါရယန္တိ၊ ခြံရံကုန်၏။ တသာ၊ ထိတ်လန့်ခြင်းကို ဖြစ်စေတတ်ကုန်သော။ ဝကာ၊ သစ်တို့သည်။ ဧဠကာနံ၊ ဆိတ်တို့အား။ ဘယာ၊ ကြောက်ကုန်၏။

ဤသို့ဆို၍ ပသေနဒီကောသလမင်းကြီးသည် ဆိုသော နည်းဖြင့်သာလျှင် အိပ်မက်ကို ဆို၏၊ ဘုရားလောင်းသည်လည်း ထိုအိပ်မက်တို့၏ အကျိုးကို ယခုအခါ၌ မြတ်စွာဘုရားသည် ဟောတော်မူအပ်သောနည်းဖြင့်သာလျှင် အကျယ်

အားဖြင့် ဟော၍ အဆုံး၌ မိမိသည် "ဝိပရိယာသော ဝတ္တတိ နယိမမတ္ထိ"ဟူသော ဤစကားကို ဆို၏။

မဟာရာဇ၊ မြတ်သောမင်းကြီး။ ဧတသံ ပဋိယာဒတတ္တာယ၊ ထိုအိပ်မက်၏ အကျိုးတို့ကို ဖျောက်ခြင်းငှါ။ ယံ ပနေတံ ယညကမ္မံ၊ အကြင် ယဇ်အမှုသည်။ ဝတ္တတိ၊ ဖြစ်၏။ တံ၊ ထိုယဇ်အမှုသည်။ ဝိပရိယာသော၊ ဖောက်ပြန်သောအားဖြင့်။ ဝတ္တတိ၊ ဖြစ်၏။ ဣမ၊ ဤမင်းကြီးလက်ထက် ငါ့လက်ထက်ဖြစ်သောကာလ၌။ ဧတေသံ၊ ထိုအိပ်မက်တို့၏။ နိပ္ဖတ္တိ၊ အကျိုးသည်။ နတ္ထိ၊ မရှိ။

မြတ်သောမင်းကြီး ဤအိပ်မက်ဟူသော အကြောင်းကြောင့် သင်မင်းကြီးအား ဘေးသည်ရင်း ကိုယ်လက်ခက်တရော် ဖြစ်ဘွယ်သည်ရင်း မရှိဟု သိစေ၍ များစွာသော သတ္တဝါအပေါင်းကို အနှောင်အဖွဲ့မှ လွတ်စေ၍ တဖန် ကောင်းကင်၌ ရ[illegible]ျက် မင်းကြီးအား အဆုံးအမကိုပေး၍ ငါးပါးသော သီလတို့၌ တည်စေ၏၊ မြတ်သောမင်းကြီး ဤနေ့မှစ၍ ပုဏ္ဏားတို့နှင့် တပေါင်းတည်းဖြစ်၍ သားတို့ကို သတ်ခြင်းငှါ ယဇ်မည်သည်ကို မပူဇော်လင့်ဟု ဆို၍ တရားဟောပြီးလျှင် [illegible]ကောင်းကင်ဖြင့်သာလျှင် မိမိနေရာ အရပ်သို့သွား၏၊ မင်းကြီးသည်လည်း ဘုရားလောင်း၏ အဆုံးအမ၌တည်လျက် ဒါန အစရှိသော ကောင်းမှုတို့ကိုပြု၍ ကံအားလျော်စွာ လား၏။

ဇာတ်ပေါင်း....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ မြတ်သောမင်းကြီး ဤအိပ်မက်ဟူသော အကြောင်းကြောင့် သင်မင်းကြီးအား ဘေးမရှိ၊ ယဇ်ပူဇော်ခြင်းကို ပယ်လေဟု ယဇ်ကို ပယ်စေ၍ များစွာသော သတ္တဝါ အပေါင်းတို့အား ဇီဝိတဒါနကို ပေးတော်မူ၍ အနုသန္ဓေကိုစပ်၍ ယခုအခါ အာနန္ဒာသည် ထိုအခါ ဗာရာဏသီမင်း ဖြစ်ဘူးပြီ၊ ယခုအခါ သာရိပုတ္တရာသည် ထိုအခါ လုလင် ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ရသေ့ ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[အိပ်မက်အပြား၊ ဆယ့်ခြောက်ပါ။ ထွတ်ဖျားမဟေ ဟောမြွက်ပေ]

ခုနစ်ဂုတို့၏ ပြည့်ကြောင်းဖြစ်သော မဟာသုပိနဇာတ်သည် ပြီး၏။

# ၇၈—ဣလ္လိသဇာတ်

## မစ္ဆရိယသူဌေးကို အရှင်မောဂ္ဂလာန် ဆုံးမသောအကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညုမြတ်စွာဘုရားသည် "ဥဘော ခဉ္ဇာ"အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤဣလ္လိသဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးနေတော်မူစဉ် "မစ္ဆရိယသူဌေး"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ရာဇဂြိုဟ်မြို့၏ အနီး၌ သက္ကာရမည်သော နိဂုံးသည် ရှိသတတ်၊ ထိုသက္ကာရ နိဂုံး၌ တယောက်သော မစ္ဆရိယမည်သော ကုဋေရှစ်ဆယ် ကြွယ်ဝသော သူဌေးသည် နေ၏၊ ထိုသူဌေးသည် မြက်ဖျားဖြင့် ဆီပေါက်ကိုလည်း သူတပါးအား မပေးသလျှင်ကတည်း၊ဤသို့လျှင် ထိုသူဌေး၏စည်းစိမ်သည် သား,မယား အစရှိသည်တို့၏ အကျိုးကို မပြီးစေသလျှင်ကတည်း၊ ရဟန်း, ပုဏ္ဏားတို့၏ အကျိုးကို မပြီးစေသလျှင်ကတည်း၊ ရက္ခိုသ်စောင့်သော ရေကန်ကဲ့သို့ မသုံးမဆောင်ရသည်ဖြစ်၍ တည်၏၊ မြတ်စွာဘုရားသည် တနေ့သ၌ မိုးသောက်ထ အခါဝယ် မဟာကရုဏာ သမာပတ်မှ ထတော်မူ၍ အလုံးစုံသော လောကဓာတ်၌ ထစွာလေးပါး တရားတို့ကို သိခြင်းငှါ ထိုက်ကုန်သော အဆွေခင်ပွန်းတို့ကို ကြည့်ကုန်သည်ရှိသော် လေးဆယ့်ငါးယူဇနာထက်၌ နေသော မယားနှင့်တကွသော မစ္ဆရိယသူဌေး၏ သောတာပတ္တိဖိုလ်၏ ဥပနိဿယကို မြင်တော်မူ၏။

ထိုမြတ်စွာဘုရားသည် မြင်တော်မူသည်မှ ရှေးဖြစ်သော နေ့၌ကား မင်းကို ခစားအံ့သောငှါ မင်းအိမ်သို့ သွား၍ မင်းအား ခစားခြင်းကိုပြု၍ လာသော မစ္ဆရိယသူဌေးသည် တယောက်သော ထမင်းဆာမွတ်သော ဇနပုဒ်သား လူကို မုယောမုံ့ကိုရင်း၊ အိုးကင်းဖြင့် ကြော်သောမုံ့ကိုရင်း စားသည်ကိုမြင်၍ ထိုမုံ့၌ စားချင်ခြင်းကို ဖြစ်စေ၍ မိမိအိမ်သို့သွား၍ ငါသည် အိုးကင်းဖြင့် ကြော်သောမုံ့ကို စားလိုသည်ဖြစ်၏ဟု အကယ်၍ ဆိုအံ့၊ များစွာကုန်သော လူတို့သည် ငါနှင့်တကွ စားလိုကုန်သည် ဖြစ်လတ္တံ့၊ ဤသို့ ဖြစ်သည်ရှိသော် ငါ၏ များစွာကုန်သော ဆန်, ထောပတ်, ပျား, တင်လဲ အစရှိသည်တို့သည် ကုန်ခြင်းသို့ ရောက်ကုန်လတ္တံ့၊ တစုံတယောက်သောသူအား မပြောဆိုအံ့ဟု ကြံ၏၊ ကြံပြီး၍ စားချင်ခြင်းကို သည်းခံလျက် သွား၏၊ ထိုမစ္ဆရိယ သူဌေးသည် ရှည်မြင့်ခြင်းသို့

ရောက်သည်ရှိသော် ဖက်ရွက်ယော်ကဲ့သို့သော အဆင်းရှိသည်ဖြစ်၏၊ အကြော ပြိုင်းပြိုင်းထသော ကိုယ်ရှိသည် ဖြစ်၏၊ ထိုနေ့ခင်မှ စားချင်ခြင်းကို သည်းခံအံ့သောငှါ မတတ်နိုင်သည်ဖြစ်၍ တိုက်ခန်းသို့ ဝင်ပြီးလျှင် ညောင်စောင်းငယ်ကို ဖက်၍ လျောင်း၏၊ ဤသို့ ဖြစ်သော်လည်း ဥစ္စာကုန်အံ့သည်မှ ကြောက်သောကြောင့် တစုံတယောက်သောသူအား တစုံတခုသော စကားကို မဆို။

ထိုအခါ မစ္ဆရိယသူဌေးကို မယားသည် ကပ်၍ ကျောက်ကို ဆုပ်နယ်၍ အရှင် သင့်အား အဘယ်မချမ်းသာခြင်း ရှိသနည်းဟု မေး၏၊ ငါ့အား တစုံတခုသော မချမ်းသာခြင်းသည် မရှိဟု ဆို၏၊ သင့်အား မင်းသည် အမျက်ထွက်သလောဟု မေး၏၊ ငါ့အား မင်းသည်လည်း အမျက်မထွက်ဟုဆို၏၊ ထိုသို့ မင်း အမျက်မထွက်သည်ရှိသော် သင့်အား သားသမီးတို့သည်၎င်း၊ ကျွန်အမှုလုပ် အစရှိသည်တို့သည်၎င်း ပြုအပ်သော တစုံတခုသော မနှစ်သက်ဘွယ်သည် ရှိသလောဟု မေး၏၊ မရှိဟု ဆို၏၊ ထိုသို့ မရှိသည်ရှိသော် သင့်အား တစုံတခုသော ဝတ္ထု၌ တောင့်တခြင်းသည် ရှိသလောဟု မေး၏၊ ဤသို့ မေးသော်လည်း ဥစ္စာကုန်အံ့သည်မှ ကြောက်သောကြောင့် တစုံတခုသော စကားကို မဆို၊ အသံမရှိသည် ဖြစ်၍သာလျှင် အိပ်၏။

ထိုအခါ ထိုမစ္ဆရိယ သူဌေးကို မယားသည် အရှင် ဆိုလော၊ သင့်အား တစုံတခုသော ဝတ္ထု၌ တောင့်တခြင်းသည် ရှိသလောဟု ဆို၏၊ ထိုမစ္ဆရိယ သူဌေးသည် မယားစကားကိုပြက်ချက်ပြုသကဲ့သို့ ငါ့အား တခုသော တောင့်တခြင်းသည် ရှိ၏ဟု ဆို၏၊ အဘယ်တောင့်တခြင်းနည်းဟု မေး၏၊ ငါသည် အိုးကင်းဖြင့် ကြော်သောမုံ့ကို စားလို၏ဟု ဆို၏၊ ထိုသို့ စားလိုလျက် အဘယ် အကျိုးငှါ မဆိုသနည်း၊ သင်သည် ဆင်းရဲသလော၊ ယခုပင် အလုံးစုံသော သက္ကာရနိဂုံး၌ နေကုန်သောသူတို့အား စားလောက်သည်တို့ကိုပြု၍ ကြော်အံ့ဟု ဆို၏၊ ထိုအလုံးစုံသော သူတို့ဖြင့် သင့်အား အဘယ်အကျိုးရှိအံ့နည်း၊ ထိုသူတို့သည် မိမိတို့ အမှုကိုပြု၍ စားကုန်လတ္တံ့ဟု ဆို၏၊ ထိုသို့တပြီးကား တလမ်းတည်း၌ နေသော သူတို့အား စားလောက်သည်ကိုပြု၍ ကြော်အံ့ဟု ဆို၏၊ ငါသည် သင်၏ များစွာသော ဥစ္စာရှိသည်၏ အဖြစ်ကို သိ၏ဟု ဆို၏၊ ထိုသို့ တပြီးကား ဤအိမ်၏အနီး၌ အလုံးစုံသော သူတို့အား စားလောက်သည်ကိုပြု၍

ကြော်အံ့ဟု ဆို၏၊ ငါသည် သင်၏ အလိုကြီးသော အဖြစ်ကို သိ၏ဟု ဆို၏၊ ထိုသို့တပြီးကား သင်၏ သား,မယားအားသာလျှင် စားလောက်သည်ကို ပြု၍ ကြော်အံ့ဟု ဆို၏၊ ထိုသား,မယားတို့ဖြင့် သင့်အား အဘယ်အကျိုးရှိအံ့နည်းဟု ဆို၏၊ ထိုသို့တပြီးကား သင့်အားရင်း ငါ့အားရင်း စားလောက်သည်ကို ပြု၍ ကြော်အံ့ဟု ဆို၏၊ သင်သည် အဘယ်သို့ ပြုအံ့နည်းဟု ဆို၏၊ ထိုသို့တပြီးကား သင် တယောက်တည်းသာလျှင် စားလောက်သည်ကိုပြု၍ ကြော်အံ့ဟု ဆို၏။

ဤအရပ်၌ကြော်သော် မုံ့ကို များစွာကုန်သော လူတို့သည် တောင့်တကုန်လတ္တံ့၊ မကျိုးသော ဆန်တို့ကို ထားခဲ့၍ ကျိုးသော ဆန်တို့ကိုရင်း ခုံလောက်တို့ကိုရင်း အိုးကင်းတို့ကိုရင်းယူခဲ့စေ၍ အတန်ငယ်သော နို့ရည် ထောပတ် ပျား တင်လဲတို့ကို ယူခဲ့၍ ဘုံခုနစ်ဆင့်ရှိသော ပြာသာဒ်၏ အထက်ဖြစ်သော အပြင်သို့ တက်၍ ကြော်လော၊ ထိုအရပ်၌ ငါတယောက်တည်းသာလျှင် ထိုင်၍စားအံ့ဟု ဆို၏၊ ထိုသူဌေးမသည်လည်း ကောင်းပြီဟု ဝန်ခံ၍ ယူအပ်သည်တို့ကို ယူခဲ့စေ၍ ပြာသာဒ် အထက်သို့ တက်ပြီးလျှင် ကျွန်မတို့ကို လွှတ်လိုက်၍ သူဌေးကို ခေါ်စေပြီး ထိုမစ္ဆရိယ သူဌေးသည် အစမှစ၍ တံခါးကိုပိတ်လျက် အလုံးစုံသော တံခါးတို့၌ ကျည်မ,ကျည်ငယ်တို့ကို လျှို၍ ဘုံခုနစ်ဆင့်မြောက်သော ပြာသာဒ် ထက်သို့ တက်ပြီးလျှင် ထိုပြာသာဒ်၌လည်း တံခါးပိတ်၍ နေ၏၊ ထိုမစ္ဆရိယ သူဌေး၏ မယားသည်လည်း ခုံလောက်၌ မီးကိုညှိ၍ အိုးကင်းကိုတင်၍ မုံ့ကို ကြော်အံ့သောငှါ အားထုတ်၏။

ထိုအခါ မြတ်စွာဘုရားသည် နံနက်စောစောကလျှင် မဟာမောဂ္ဂလာန်ကို မောဂ္ဂလာန် ရာဇဂြိုဟ်မြို့၏အနီး၌ သက္ကာရမည်သောနိဂုံး၌ မစ္ဆရိယသူဌေးသည် အိုကင်းဖြင့် ကြော်သောမုံ့ကို စားအံ့ဟု တပါးကုန်သော သူတို့၏ မြင်ခြင်းမှ ကြောက်သောကြောင့် ဘုံခုနစ်ဆင့်ရှိသော ပြာသာဒ်အထက်၌ မုံ့တို့ကိုကြော်စေ၏၊ သင်သည် ထိုအရပ်သို့ သွား၍ ထိုသူဌေးကို ဆုံးမ၍ မာနမရှိသည်ကို ပြု၍ သူဌေးလင်မယား နှစ်ယောက်တို့တို့ရင်း နို့ရည် ထောပတ် ပျား တင်လဲတို့ကိုရင်း ယူခဲ့၍ သင်၏အစွမ်းဖြင့် ဇေတဝန်ကျောင်းတော်သို့ ဆောင်ခဲ့လော၊ ယနေ့ ငါဘုရားသည် ငါးရာကုန်သော ရဟန်းတို့နှင့်တကွ ကျောင်း၌သာလျှင် နေ၍ မုံ့တို့ဖြင့်သာလျှင် ဆွမ်းစားခြင်း ကိစ္စကို ပြုအံ့ဟု မိန့်တော်မူ၏၊ မဟာ

မောဂ္ဂလာန် မထေရ်သည် အရှင်ဘုရား ကောင်းပါပြီဟု မြတ်စွာဘုရား စကားတော်ကို ဝန်ခံ၍၊ ထိုခဏ၌သာလျှင် တန်ခိုးအစွမ်းဖြင့် ထိုသက္ကာမနိဂုံးသို့သွား၍ ထိုပြာသာဒ်၏ ခြသေ့်ခံသော လေသာတံခါးဝ၌ ကောင်းစွာဝတ်လျက် ကောင်းစွာရုံလျက် ကောင်းကင်၌သာလျှင် ပတ္တမြားညို ဆင်းတုကဲ့သို့ ရပ်၏။

မဟာမောဂ္ဂလာန် မထေရ်ကို မြင်၍သာလျှင် သူဌေးကြီး၏ နှလုံးသည် တုန်လှုပ်၏၊ ငါသည် ဤသို့သဘောရှိသော သူတို့မှ ကြောက်သောကြောင့်သာလျှင် ဤအရပ်သို့ လာ၏၊ ဤရဟန်းသည်လည်း လာလတ်၍ လေသာတံခါး၌ ရပ်၏ဟု စွဲလမ်းအပ်သော စွဲလမ်းဘွယ်ကို မမြင်သည် ဖြစ်၍ မီး၌ ထည့်အပ်သော ဆားကဲ့သို့ ဖြစ်ဖြစ်မြည်လျက် ရဟန်း ကောင်းကင်၌ ရပ်သော်လည်း သင်သည် အဘယ်ကို ရလတ္တံ့နည်း၊ ကောင်းကင်၌ ထိုမှဤမှ ခြေရာကိုပြ၍ စင်္ကြံသွားငြားသော်လည်း မရလတ္တံ့ သလျှင်ကတည်းဟု ဆို၏၊ မဟာမောဂ္ဂလာန် မထေရ်သည် ထိုအရပ်၌သာလျှင် ထိုမှဤမှ စင်္ကြံသွားတော်မူ၏၊ သူဌေးသည် စင်္ကြံသွားသော်လည်း အဘယ်ကို ရလတ္တံ့နည်း၊ ကောင်းကင်၌ ထက်ဝယ်ဖွဲ့သဖြင့် နေသော်လည်း မရလတ္တံ့ သလျှင်ကတည်းဟု ဆို၏၊ မဟာမောဂ္ဂလာန် မထေရ်သည် ထက်ဝယ်ဖွဲ့ခွေ နေတော်မူ၏၊ ထိုအခါ မဟာမောဂ္ဂလာန်မထေရ်ကို ထက်ဝယ်ဖွဲ့ခွေ နေငြားသော်လည်း အဘယ်ကို ရလတ္တံ့နည်း၊ လာလတ်၍ လေသာတံခါးခုံ၌ ရပ်သော်လည်း မရလတ္တံ့ဟု ဆို၏၊ မဟာမောဂ္ဂလာန် မထေရ်သည် လေသာတံခါးခုံ၌ ရပ်၏၊ လေသာတံခါးခုံ၌ ရပ်သော်လည်း အဘယ်ကို ရလတ္တံ့နည်း၊ အခိုးလွှတ်ငြားသော်လည်း မရလတ္တံ့ သလျှင်ကတည်းဟု ဆို၏။

မဟာမောဂ္ဂလာန်မထေရ်သည် အခိုးလွှတ်တော်မူ၏၊ အလုံးစုံသောပြာသာဒ်သည် တစပ်တည်းသော အခိုးရှိသည်ဖြစ်၍ သူဌေး၏ မျက်စိတို့သည် အပ်ဖြင့်ထိုးဘိသကဲ့သို့ဖြစ်၍ အိမ်ကို မီးလောင်အံ့သည်မှ ကြောက်ခြင်းကြောင့်ကား အလျှံလွှတ်ငြားသော်လည်း မရလတ္တံ့ဟု မဆိုမူ၍ ဤရဟန်းသည် အလွန်တပ်စွန်း၏၊ မရဘဲကို မသွားလတ္တံ့၊ ထိုရဟန်းအား တရုက်သော မုံ့ကို လှူအံ့ဟု ကြံ၏၊ ကြံပြီး၍ မယားကို ရှင်မ ငယ်စွာသော တရုက်သောမုံ့ကို ကြော်၍ ရဟန်းအား

လှူ၍ ထိုရဟန်းကို လွှတ်လိုက်လော့ဟု ဆို၏၊ သူဌေးမသည် အတန်ငယ်သာလျှင် မုံ့ညက်ကို အိုးကင်း၌ ထည့်၏၊ မုံ့ကြီးဖြစ်၍ အလုံးစုံသော အိုးကင်းကို ပြည့်စေ၍ အထက်သို့တက်လျက် တည်၏၊ သူဌေးကြီးသည် မုံ့ကိုမြင်၍ သင်သည် များစွာ မုံ့ညက်ကိုထည့်သည်ဖြစ်လတ္တံ့ဟုဆို၍ မိမိကိုယ်တိုင်သာလျှင် ယောက်မ စွန်းဖြင့် အတန်ငယ်မုံ့ညက်ကိုယူ၍ထည့်၏၊ မုံ့ညက်သည် ရှေးကမုံ့ထက်အလွန် ကြီးသည် ဖြစ်၏၊ ဤသို့လျှင် အကြင် အကြင် မုံ့ကို ကြော်၏၊ ထိုထိုမုံ့သည် ကြီးသည်သာလျှင်ဖြစ်၏၊ထိုသူဌေးကြီးသည် ငြီးငွေ့သည်ဖြစ်၍ မယားကို ရှင်မ ရဟန်းအား တရက်သောမုံ့ကို လှူလော့ဟု ဆို၏၊ ထိုသူဌေးမသည် တောင်းမှ မုံ့ကိုယူသည်ရှိသော် အလုံးစုံသောမုံ့တို့သည် တစပ်တည်းဖြစ်၍ကပ်ငြိကုန်၏။

ထိုသူဌေးမသည် သူဌေးကြီးကို အရှင် အလုံးစုံသော မုံ့တို့သည် တစပ်တည်း ကပ်ငြိကုန်သည်ဖြစ်၍ ခွဲအံ့သောငှါ မတတ်နိုင်ဟု ဆို၏၊ ငါပြုအံ့ဟု ဆို၍ ထိုသူဌေးသည်လည်း ပြုခြင်းငှါ မတတ်နိုင်၊ နှစ်ယောက်ကုန်သော သူတို့သည် အစွန်းကိုကိုင်၍ငင်သော်လည်းခွဲအံ့သောငှါမဘတ်နိုင်ကုန်သည်သာလျှင်တည်း၊ ထိုအခါ မုံ့တို့နှင့်တကွ လုံ့လပြုစဉ်၌သာလျှင် သူဌေးကြီးကိုယ်မှ ချွေးတို့သည် ထွက်ကုန်၏၊ စားချင်ခြင်းသည် ပြတ်၏၊ ထိုနောင်မှ သူဌေးမကို ရှင်မ ငါ့အား သင်၏မုံ့တို့ဖြင့် အလိုမရှိ၊ တောင်းနှင့်တကွ သာလျှင် ရဟန်းအား လှူလော့ဟု ဆို၏၊ ထိုသူဌေးမသည် တောင်းကိုယူ၍ မဟာမောဂ္ဂလာန် မထေရ်သို့ ကပ်ပြီး လျှင် အလုံးစုံသောမုံ့ကို မထေရ်အား လှူ၏၊ မဟာမောဂ္ဂလာန် မထေရ်သည် နှစ်ယောက်သော သူတို့အားလည်း တရားဟောတော်မူ၏၊ ရတနာသုံးပါးတို့၏ ဂုဏ်ကျေးဇူးကို ဟောတော်မူ၏၊ အလှူ၏အကျိုးသည် ရှိ၏၊ ပူဇော်ခြင်း၏ အကျိုးသည် ရှိ၏ဟု ဒါနအစရှိသည်တို့၏ အကျိုးကို ကောင်းကင်၌ လပြည့် ဝန်းကဲ့သို့ ပြတော်မူ၏၊ ထိုတရားကို နာရလျှင် ကြည်ညိုသော စိတ်ရှိသည် ဖြစ်၍ သူဌေးကြီးသည် အရှင်ဘုရား ကြွတော်မူ၍ ဤပလ္လင်၌နေ၍ မုံ့တို့ကို ဘုဉ်းပေးတော်မူပါလော့ဟု လျှောက်၏။

မဟာမောဂ္ဂလာန် မထေရ်သည် သူဌေးကြီး မြတ်စွာဘုရားသည် မုံ့တို့ကို ဘုဉ်းပေးအံ့ဟု ငါးရာကုန်သော ရဟန်းတို့နှင့်တကွ ကျောင်း၌ နေတော်မူ၏၊ သင်တို့ အလိုရှိသည်ရှိသော် သူဌေးမကို မုံ့တို့ကိုငင်း နို့ရည် အစရှိသည်တို့ကိုငင်း

ယူခဲ့စေကုန်လော၊ မြတ်စွာဘုရား အထံသို့ သွားကုန်အံ့ဟု မိန့်တော်မူ၏၊ အရှင်ဘုရား ယခုအခါ၌ မြတ်စွာဘုရားသည် အဘယ်မှာနည်းဟု လျှောက်၏၊ သူဌေးကြီး မြတ်စွာဘုရားသည် ဤသက္ကာရနိဂုံးမှ လေးဆယ့်ငါးယူဇနာထက် ဇေတဝန် ကျောင်းတော်၌ နေတော်မူသည်ဟု မိန့်တော်မူ၏၊ အရှင်ဘုရား ကာလကို မလွန်မူ၍ ဤမျှသောခရီးကို အသို့သွားကုန်ရအံ့နည်းဟု လျှောက်၏၊ သူဌေးကြီး သင်တို့အလိုရှိသည်ရှိသော် ငါသည် သင်တို့ကို ငါ၏တန်းခိုးအစွမ်း အားဖြင့် ဆောင်အံ့၊ သင်တို့ပြာသာဒ်၌ စောင်းတန်းဦးသည် တည်မြဲတိုင်းသော အရပ်၌သာ ဖြစ်လတ္တံ့၊ စောင်းတန်းခြေရင်းသည်ကား ဇေတဝန်ကျောင်းတော် တံခါးမုတ်၌ဖြစ်လတ္တံ့၊ ပြာသာဒ်ထက်မှ အောက်သို့ သက်ကာမျှဖြင့် ဇေတဝန် ကျောင်းတော်သို့ ဆောင်အံ့ဟု မိန့်တော်မူ၏၊ ထိုသူဌေးကြီးသည် အရှင်ဘုရား ကောင်းပြီဟု ဝန်ခံ၏၊ ရှင်မောဂ္ဂလာန်မထေရ်သည် စောင်းတန်းဦးကို ထိုတည်မြဲ တိုင်းသော အရပ်၌ သာလျှင် ပြု၍ စောင်းတန်း ခြေရင်းသည် ဇေတဝန် ကျောင်းတော်တံခါးမုတ်၌ ဖြစ်စေဟုအဓိဋ္ဌာန်တော်မူ၏၊ ထိုသို့ အဓိဋ္ဌာန်တော် မူတိုင်းသာလျှင် ဖြစ်၏။

ဤသို့လျှင် မဟာမောဂ္ဂလာန် မထေရ်သည် သူဌေးကြီးကိုရင်း သူဌေးမကို ရင်း ပြာသာဒ်ထက်မှ အောက်သို့ ဆင်းသက်သောကာလထက် အလွန်လျှင်စွာ ဇေတဝန် ကျောင်းတော်သို့ ရောက်စေ၏၊ ထိုသူဌေး လင်မယား နှစ်ယောက်တို့ သည်လည်း မြတ်စွာဘုရားသို့ ဆည်းကပ်ပြီးလျှင် ရှိခိုး၍ အခါကို ကြားလျှောက် ကုန်၏၊ မြတ်စွာဘုရားသည် ဆွမ်းစားစရပ်သို့ ဝင်တော်မူ၍ ခင်းအပ်သော မြတ်သော ဘုရားနေရာတော်၌ ရဟန်း သံဃာနှင့်တကွ နေတော်မူ၏၊ သူဌေး ကြီးသည် ဘုရားအမှူးရှိသော ရဟန်း သံဃာအား အလှူရေစက်ကို သွန်း၏၊ သူဌေးကြီး မယားသည်လည်း မြတ်စွာဘုရား သပိတ်တော်၌ မုံ့ကို ထည့်၏၊ မြတ်စွာဘုရားသည် ကိုယ်တော်မြတ် လောက်ရုံသော မုံ့ကို ခံတော်မူ၏၊ ငါးရာကုန်သော ရဟန်းတို့သည် မြတ်စွာဘုရားအတူသာလျှင် ခံကုန်၏၊ သူဌေး ကြီးသည် လူအပ်ကုန်သော နို့ရည် ထောပတ် ပျား တင်လဲ သကာ အစရှိသည် တို့သည် ကုန်ခြင်းသို့ မရောက်ကုန်၊ မြတ်စွာဘုရားသည် ငါးရာကုန်သော ရဟန်း တို့နှင့်တကွ ဆွမ်းစားခြင်းကိုပြီးစေတော်မူ၏၊သူဌေးကြီးသည်လည်း သူဌေးမနှင့်

တကွ အလိုရှိတိုင်း စား၏၊ မုံတို့၏ ကုန်ခြင်းသည် မထင်သည် သာလျှင်တည်း၊ အလုံးစုံသော ကျောင်း၌ ရဟန်းတို့အားရင်း, စားကြွင်းစားတို့အားရင်း ပေးသော်လည်း ကုန်ဆုံးခြင်းသည် မထင်၊ အရှင်ဘုရား မုံတို့သည် ကုန်ခြင်းသို့ မရောက်နိုင်ကုန်ပြီဟု မြတ်စွာဘုရားအား ကြားလျှောက်ကုန်၏၊ထိုသို့တပြီးကား ဇေတဝန်ကျောင်းတော် တံခါးမုတ်၌ စွန့်ကုန်လောဟု မိန့်တော်မူ၏။

ထိုအခါ မုံတို့ကို တံခါးမုတ်၏အနီး ချိုင့်ဝှမ်းရာအရပ်၌ စွန့်ကုန်၏၊ ယနေ့ ထက်တိုင်လည်း ကိုအရပ်သည် အိုးကင်းကြော်မုံတို့ကို စွန့်ရာ ကျင်း ဟူ၍သာလျှင် ထင်ရှား၏၊ သူဌေးကြီးသည် မယားနှင့်တကွ မြတ်စွာဘုရားသို့ ဆည်းကပ်၍ တင့်အပ်သောအရပ်၌တည်၏၊မြတ်စွာဘုရားသည် တရားဟောတော်မူ၏၊ တရားတော်၏အဆုံး၌ သူဌေးလင်မယား နှစ်ယောက်တို့သည်လည်း သောတာပတ္တိဖိုလ်၌တည်၍ မြတ်စွာဘုရားကို ရှိခိုးပြီးလျှင် တံခါးမုတ်အနီး စောင်းတန်းသို့တက်၍ မိမိတို့၏ ပြာသာဒ်၌သာလျှင် တည်ကုန်၏၊ ထိုအခါမှစ၍ မစ္ဆရိယ သူဌေးကြီးသည် ကုဋေရှစ်ဆယ်သော ဥစ္စာကို မြတ်စွာဘုရား သာသနာတော်၌သာလျှင် လှူဒါန်းပူဇော်၏၊ နက်ဖြန်နေ့၌ မြတ်စွာဘုရားသည် သာဝတ္ထိမြို့၌ ဆွမ်းခံတော်မူပြီးလျှင် ဇေတဝန်ကျောင်းတော်သို့ လာတော်မူလတ်၍ ရဟန်းတို့အား ဘုရားတို့၏ အဆုံးအမကို ပေးတော်မူပြီးလျှင် ဂန္ဓကုဋိသို့ ဝင်တော်မူ၍ ဖလသမာပတ်ကို ဝင်စားတော်မူသည်ရှိသော် ညချမ်းအခါ တရားသဘင်၌ စည်းဝေးကုန်သော ရဟန်းတို့သည် ငါ့သျှင်တို့ မဟာမောဂ္ဂလာန်၏ တန်ခိုးကို ကြည့်ကြပါကုန်လော၊ မစ္ဆရိယသူဌေးကြီးကို တခဏခြင်းဖြင့် ဆုံးမပြီးလျှင် မာန်မရှိသည်ကိုပြု၍ မုံတို့ကို ယူခဲ့စေပြီးလျှင် ဇေတဝန်ကျောင်းတော်သို့ ဆောင်ခဲ့၍ မြတ်စွာဘုရား မျက်မှောက်တော်၌ တည်သည်ကိုပြု၍ သောတာပတ္တိဖိုလ်၌ တည်စေ၏၊ မထေရ်သည် အာနုဘော်ကြီးစွဟု မဟာမောဂ္ဂလာန် မထေရ်၏ ကျေးဇူးစကားကို ပြောဆိုလျက် နေကြကုန်၏။

မြတ်စွာဘုရားသည် ကြွတော်မူလတ်၍ ရဟန်းတို့ ယခုအခါ အဘယ်စကားဖြင့် စည်းဝေးကြကုန်သနည်းဟု မိန့်တော်မူ၍ ဤမည်သော စကားဖြင့် စည်းဝေးကြပါကုန်၏ဟု နားတော် လျှောက်သည်ရှိသော် ရဟန်းတို့ ဒါယကာတို့ကို ဆုံးမသော ရဟန်းမည်သည်ကား ဒါယကာတို့ကို မညှဉ်းဆဲမူ၍ မပင်ပန်း

စေမူ၍ ပန်းပွင့်မှပန်းယက်ယူသော ပျားပိတုန်းကဲ့သို့ ဒါယကာတို့သို့ကပ်ပြီးလျှင် ဘုရားဂုဏ်ကျေးဇူးကို သိစေအပ်၏ဟု မဟာမောဂ္ဂလာန်မထေရ်ကို ချီးမွမ်းတော်မူလိုရကား—

ယထာပိ ဘမရော ပုပ္ဖံ၊ ဝဏ္ဏဂန္ဓ မဟေဌယံ။
ပလေတိ ရသမာဒါယ၊ ဧဝံ ဂါမေ မုနီ စရေ။

ဟူသော ဓမ္မပဒ၌ လာသော ဤဂါထာကို ဟောတော်မူ၏။

ဘမရော၊ ပျားပိတုန်းသည်။ ပုပ္ဖံ-ပုပ္ဖသား ပန်းပွင့်၏။ ဝဏ္ဏဂန္ဓံ၊ အဆင်းအနံ့ကို။ အဟေဌယံ-အဟေဌယန္တော၊ မပျက်စီးစေမူ၍။ ရသံ၊ ပန်းယက်ကို။ အာဒါယ၊ ယူ၍။ ပလေတိ ယထာပိ၊ ပျံသကဲ့သို့လည်း။ ဧဝံ-တထာ၊ ထိုအတူ။ ဂါမေ၊ ရွာ၌။ မုနိ၊ ရဟန်းသည်။ စရေ၊ ကျင့်ရာ၏။

ဤသို့ ဟောတော်မူပြီး၍ အလွန်လည်း မဟာမောဂ္ဂလာန်မထေရ်၏ ဂုဏ်ကျေးဇူးကို ပြတော်မူအံ့သောငှါ ရဟန်းတို့ ယခုအခါ၌သာလျှင် မဟာမောဂ္ဂလာန်သည် ဤမစ္ဆရိယသူဌေးကြီးကို ဆုံးမသည် မဟုတ်သေး၊ ရှေး၌လည်း ထိုမစ္ဆရိယသူဌေးကို ဆုံးမ၍ ကံ, ကံ၏အကျိုးနှင့် စပ်သည်ကို သိစေဘူးသည် သာလျှင်တည်းဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ရာဇဂြိုဟ်ပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုသည်ရှိသော် ဣလ္လိသမည်သော ကုဋေရှစ်ဆယ်ကြွယ်သော သူဌေးသည် ဖြစ်၏၊ထိုဣလ္လိသသူဌေးသည် ယောကျ်ားယုတ်တို့၏ အပြစ်နှင့်ပြည့်စုံ၏၊ ခွင်သော ခြေရှိ၏၊ ကောက်သော လက်ရှိ၏၊ စွေသော မျက်စိရှိ၏၊ သဒ္ဓါခြင်းမရှိ၊ ကြည်ညိုခြင်းမရှိ၊ ဝန်တို၏၊သူတပါးတို့အားမပေးသလျှင်ကတည်း၊ မိမိသည်လည်း မသုံးဆောင်သလျှင်ကတည်း၊ ရက္ခိုသ်စောင့်သော ရေကန်ကဲ့သို့ ထိုဣလ္လိသသူဌေး၏ အိမ်သည် ဖြစ်၏၊ ထိုဣလ္လိသသူဌေး၏ အမိအဘ တို့သည်ကား အမျိုးခုနစ်ဆက်တိုင်အောင် အလှူပေးတတ်သော အလှူရှင်တို့သည် ဖြစ်ကုန်၏၊ ထိုဣလ္လိသသည် သူဌေးအရာကို ရ၍သာလျှင် အမျိုး၏အနွယ်ကို ဖျက်ဆီး၍ ဒါနသာလာ တင်းကုပ်ကိုမီးတိုက်၍ အလှူခံတို့ကိုပုတ်ခတ်၍ နှင်ထုတ်၍ ဥစ္စာကိုသာလျှင် စုဆောင်းစေ၏၊ ထိုဣလ္လိသသူဌေးသည် တနေ့သ၌ မင်းခစားအံ့သောငှါ သွား၍

မိမိအိမ်သို့ လာခဲ့သည်ရှိသော် တယောက်သော ခရီးပင်ပန်းသော လူသည် တခုသော သုရာခွက်ကိုယူ၍ အင်းပျဉ်၌ထိုင်၍ ခြင်သော သုရာခွက်ကို ပြည့်စေ၍ ငါးပုပ်ခတ်သော ဟင်းလျာဖြင့် သောက်သည်ကိုမြင်၍ သုရာသောက်လိုသည် ဖြစ်၍ ငါသည် သုရာကို အကယ်၍ သောက်အံ့၊ ငါသောက်သည်ရှိသော် များစွာသော သူတို့သည် သောက်လိုသည် ဖြစ်ကုန်လတ္တံ့၊ ဤသို့ သောက်သည် ရှိသော် ငါ့အား ဥစ္စာကုန်ခြင်းသည် ဖြစ်လတ္တံ့ဟု ကြံ၏၊ ကြံပြီး၍ ထိုဇူလ္လိသ သူဌေးသည် သေသောက်ခြင်းကို သည်းခံလျက် သွား၏၊ ရှည်မြင့်သော ကာလ ရောက်လတ်သော် သည်းခံအံ့သောငှါ မဘတ်နိုင်သည်ဖြစ်၍ ကြိတ်အပ်သော ဝါဂွမ်းကဲ့သို့ ဖြော့တော့သော ကိုယ်ရှိသည်ဖြစ်၏၊ အကြောပြိုင်းပြိုင်း ထသော ကိုယ်ရှိသည် ဖြစ်၏။

ထိုအခါ တနေ့သ၌ တိုက်ခန်းသို့ ဝင်ပြီးလျှင် ဩဘင်စောင်းငယ်ကို ဖက်၍ လျောင်း၏၊ ထိုဇူလ္လိသသူဌေးကို မယားသည်ချဉ်းကပ်၍ ကျောက်ကို ဆုပ်နယ် လျက် အရှင် သင့်အား အဘယ် မချမ်းသာသနည်းဟု မေး၏၊ အလုံးစုံသော စကားကို အောက်၌ ဆိုအပ်ပြီးသော နည်းဖြင့်သာလျှင် သိအပ်၏၊ ထိုသို့ တပြီးကား သင်တယောက်တည်းအားသာလျှင် သောက်လောက်သော သေကို ပေးအံ့ဟု ဆိုသည်ရှိသော် အိမ်၌ သုရာကို စီရင်သဖြင့် များစွာကုန်သော သူတို့သည် တောင့်တကုန်လတ္တံ့၊ အိမ်ဈေးမှ ဆောင်စေ၍လည်း အိမ်၌နေ၍ သောက်အံ့သောငှါ မတတ်နိုင်ဟု ကြံ၍ တပဲမျှသော ဥစ္စာကိုပေး၍ အိမ်ဈေးမှ သေကိုဆောင်စေ၍အစေအပါးကိုယူခဲ့စေပြီးလျှင် မြို့မှထွက်ခဲ့၍ မြစ်ကမ်းနားသို့ သွား၍ ခရီးမ၏အနီး၌ တခုသော ချုံသို့ဝင်၍ သေခွက်ကို ထားခဲ့ပြီးလျှင် သင်သည် သွားလေလောဟု အစေအပါးကို အဝေး၌ နေစေ၍ သေခွက်ကို ပြည့်စေလျက် သေကို သောက်အံ့သောငှါ အားထုတ်၏၊ ထိုဇူလ္လိသသူဌေး၏ အဘသည်ကား ဒါနအစရှိသော ကောင်းမှုတို့ကို ပြုသည်၏ အဖြစ်ကြောင့် နတ်ပြည်၌ သိကြားမင်း၏ အဖြစ်ဖြင့်ဖြစ်၏၊ ထိုသိကြားမင်းသည် ထိုခဏ၌ပင် ငါ၏ အလှူတင်းကုပ်သည် ရှိသေးသလော မရှိပြီလောဟု ဆင်ခြင်သည်ရှိသော် ထိုအလှူတင်းကုပ် မရှိသောအဖြစ်ကို သိ၍ သား၏ အမျိုးအနွယ်ကို ဖျက်ဆီး၍ အလှူတင်းကုပ်ကိုမီးတိုက်၍ အလှူခံတို့ကို နှင်ထုတ်၍ ပန်တိုသော အဖြစ်၌တည်၍

ယခုလည်း တပါးသော သူတို့အား ပေးအပ်သည် ဖြစ်လတ္တံ့ဟု စေးရအံ့သည်မှ ကြောက်သောကြောင့် ချုံသို့ဝင်၍ တယောက်တည်းသာလျှင် သေသောက် သည်၏ အဖြစ်ကိုလည်း မြင်၍ သွားချေအံ့၊ ထိုဣလ္လိသကို ချောက်ချားစေ၍ ဆုံးမ၍ ကံ့ကံ၏အကျိုးနှင့်စပ်သည်ကို သိစေ၍ အလှူပေးပြီးလျှင် နတ်ပြည်၌ ဖြစ်ခြင်းငှါ ထိုက်သည်ကို ပြုအံ့ဟု လူ့ပြည်သို့သက်၍ ဣလ္လိသသူဌေးနှင့်တူစွာ ခွင်သော ခြေရှိသော ကောက်သော လက်ရှိသော စွေသော မျက်စိရှိသော အတ္တဘောကို ဖန်ဆင်းပြီးလျှင် ရာဇဂြိုဟ်ပြည်သို့ဝင်၍ မင်း၏ နန်းတော်တံခါး၌ ရပ်ပြီးလျှင် မိမိ၏လာသောအဖြစ်ကို မင်းအားကြားစေလျက် ဝင်စေလောဟု ဆိုသည်ရှိသော် နန်းတော်သို့ ဝင်၍ မင်းကို ရှိခိုးလျက် တည်၏။

မင်းကြီးသည် သူဌေးကြီး အခါမဟုတ်သည်၌ အဘယ့်ကြောင့် လာသနည်းဟုမေး၏၊ အရှင်မင်းကြီး အခါမဟုတ်သည်၌ လာသည်မှန်၏၊ အကျွန်ုပ်၏အိမ်၌ ကုဋေရှစ်ဆယ် ပမာဏရှိသော ဥစ္စာသည် ရှိ၏၊ ထိုဥစ္စာကို အရှင်မင်းကြီးသည် ဆောင်စေ၍ အရှင်မင်းကြီး၏ ဘဏ္ဍာတိုက်ကို ပြည့်စေလောဟု ဆိုသည်ရှိသော် သူဌေးကြီး ငါသည် အလိုမရှိ၊ သင်၏ဥစ္စာထက် ငါတို့၏အိမ်၌ဥစ္စာသည် အလွန်များ၏ဟု ဆို၏၊ အရှင်မင်းကြီး ရှင်မင်းကြီးတို့အား ကိစ္စသည် အကယ်၍မရှိအံ့၊ အကျွန်ုပ်သည် အလိုရှိတိုင်း ဥစ္စာကိုယူ၍ အလှူပေးအံ့ဟု ဆို၏၊ သူဌေးကြီး ပေးလောဟု ဆို၏၊ ထိုသိကြားသည် ရှင်မင်းကြီး ကောင်းပြီဟု မင်းကြီးကို ရှိခိုး၍ သွက်ခဲ့ပြီးလျှင် ဣလ္လိသသူဌေးအိမ်သို့ သွား၏၊ အလုံးစုံသော အလုပ်အကျွေး လူတို့သည် ခြံရံကုန်၍ တယောက်သော သူမျှလည်း ဤသူသည် ဣလ္လိသသူဌေး မဟုတ်ဟူ၍ သိခြင်းငှါ စွမ်းနိုင်သောသူမည်သည်မရှိ၊ ထိုသိကြားသည် အိမ်သို့ဝင်၍ တံခါးခုံအတွင်း၌ ရပ်လျက် တံခါးစောင့်ကို ခေါ်၍ ငါမှ တပါးသော ငါနှင့်တူသော သဘောရှိသော အကြင်သူသည် လာလတ်၍ ဤအိမ်သည် ငါ့အိမ်တည်းဟု ဝင်အံ့သောငှါ လာအံ့၊ ထိုသူကို ကျောက်၌ ကြိမ်ဖြင့် ရိုက်၍ နှင်ထုတ်ကုန်လောဟု ဆိုပြီး၍ ပြာသာဒ်ထက်သို့ တက်ပြီးလျှင် မြတ်သော သူတို့အားသာ ထိုက်သော နေရာ၌ နေ၍ သူဌေးမကို ခေါ်စေ၍ ပြုံးသော အခြင်းအရာကို ပြ၍ ရှင်မ အလှူပေးကြကုန်အံ့ဟု ဆို၏၊ ထိုသိကြား စကားကို ကြား၍သာလျှင် သူဌေးမယားသည်ရင်း, သား သမီးတို့သည်ရင်း,ကျွန်

အမှုလုပ်အစရှိသော သူတို့သည်ရင်း ဤမျှသော ကာလတိုင်အောင် အလှူပေးအံ့ သောငှါ စိတ်မျှသည်ပင်လျှင် မရှိ၊ ယနေ့မူကား သေကိုသောက်၍ နူးညံ့သော စိတ်ရှိသည်ဖြစ်၍ လှူလိုသော သဘောရှိသည် ဖြစ်လတ္တံ့ဟု ဆိုကုန်၏။

ထိုအခါ သိကြားကို သူဌေးမသည် အရှင် အလိုရှိတိုင်း ပေးကုန်လော့ဟု ဆို၏၊ ထိုသို့တပြီးကား စည်တီးလျက်သောသူကို ခေါ်၍ ရွှေ ငွေ ပတ္တမြား ပုလဲ အစရှိသည်တို့ဖြင့် အလိုရှိကုန်သော သူတို့သည် ဇလ္လိသသူဌေးအိမ်သို့ သွားစေ ကုန်သတည်းဟု အလုံးစုံသော မြို့၌ စည်လည်စေလော့ဟု ဆို၏၊ ထိုသူဌေး မယားသည်လည်း သိကြားဆိုတိုင်းသာလျှင် ပြုစေ၍ လူအများသည် တောင်း အိတ် အစရှိသည်တို့ကို ယူ၍ အိမ်တံခါး၌ စည်းဝေး၏၊ သိကြားသည် ရတနာ ခုနစ်ပါးတို့ဖြင့် ပြည့်ကုန်သော တိုက်တို့ကို ဖွင့်စေ၍ သင်တို့အား ငါပေး၏၊ အလိုရှိတိုင်း ယူ၍ သွားကုန်လော့ဟု ဆို၏၊ လူအများသည် ဥစ္စာကို ထုတ်၍ ကျယ်သော အပြင်၌ အစုကိုပြု၍ ဆောင်ခဲ့သော တောင်း အိတ် အစရှိသည်တို့ ကို ပြည့်စေ၍ သွား၏၊ တယောက်သော ဇနပုဒ်သားသည် ဇလ္လိသသူဌေး၏ နွားတို့ကို သူဌေး၏ ရထား၌သာလျှင် က,၍ ရတနာခုနစ်ပါးတို့ဖြင့် ပြည့်စေ၍ မြို့မှထွက်လတ်ပြီးလျှင် ခရီးမဖြင့်သွား၍ ထိုချုံ၏အနီးဖြင့် ထိုရထားကိုနှင်လျက် အရှင် ဇလ္လိသသူဌေး သင့်ကိုမှီ၍ ယခုအခါ ငါသည် အသက်ထက်ဆုံး အမှုကို မပြုမူ၍ အသက်မွေးအပ်သည် ဖြစ်၏၊ သင်၏ ရထားသာလျှင်တည်း၊ သင်၏ နွားတို့တည်း၊ သင်၏ ရတနာခုနစ်ပါးတို့တည်း၊ ငါ၏အမိသည် မပေးအပ်သာ လျှင်ကတည်း၊ ငါ၏အဘသည် မပေးအပ်သလျှင် ကတည်း၊ သင့်ကိုသာလျှင် မှီ၍ ရအပ်ကုန်၏၊ အရှင် သူဌေးကြီး သင်သည် အနှစ်တရာ အသက် ရှည်ပါစေ သတည်းဟု သူဌေးကြီး၏ ကျေးဇူးစကားကို ဆိုလျက် သွား၏။

ထိုဇလ္လိသသူဌေးသည် အသံကိုကြား၍ ကြောက်လန့်သည်ဖြစ်၍ ဤသူသည် ငါ၏ နှစ်သက်ဘွယ်ကိုယူ၍ ဤမည်သောစကား ဤမည်သောစကားကို ဆို၏၊ ငါ၏ဥစ္စာကို မင်းကြီးသည် လူများအား ပေးလေသလောဟု ကြံ၏ ကြံပြီးလျှင် ချုံမှထွက်၍ နွားတို့ကိုရင်း ရထားတို့ကိုရင်း သိ၍ ဟယ် ကျွန်ယုတ် ငါ၏ နွား တို့ဘည်း၊ ငါ၏ ရထားတည်းဟု ဆို၍ နွားတို့ကို နဖားကြိုး၌ ကိုင်၏၊ ဇနပုဒ် သားသည် ရထားမှ သက်လတ်၍ ဟယ် ကျွန်ယုတ် ဇလ္လိသ သူဌေးကြီးသည်

အလုံးစုံသော မြို့သူမြို့သားတို့အား အလှူပေး၏၊ သင်သည် အသို့ဖြစ်သနည်းဟု ပြောလာ၍ မိုဃ်းကြိုး ကျသကဲ့သို့ လည်၌ ရိုက်ခတ်ပြီးလျှင် ရထားကိုယူ၍ သွား၏၊ ထိုဣလ္လိသသူဌေးသည် တဖန် တုန်တုန်လှုပ်လှုပ်နှင့်ထ၍ မြေမှုန့်ကိုသုတ်၍ လျင်မြန်သဖြင့် သွား၍ ရထားကိုကိုင်၏၊ ဇနပုဒ်သားသည် ရထားမှသက်၍ ဆံပင်တို့၌ကိုင်၍ ညွတ်စေပြီးလျှင် တတောင်တို့ဖြင့် ထောင်း၍ လည်၌ ကိုင်ပြီးလျှင် လာရာခရီးသို့ ရှေ့ရှု၍ ပစ်လိုက်၍ သွား၏၊ ဤသို့ ထောင်းသတ်ကာမျှဖြင့် ဣလ္လိသသူဌေး၏ သုရာယစ်ခြင်းသည် ပြေ၏။

ထိုဣလ္လိသ သူဌေးသည် တုန်လှုပ်လျက် လျင်မြန်သဖြင့် အိမ်တံခါးသို့ သွားလျက် ဥစ္စာတို့ကို ယူ၍ သွားကုန်သော လူတို့ကို မြင်၍ အချင်းတို့ ဤအမှုသည် အဘယ်မည်သောအမှုနည်း၊ မင်းကြီးသည် ငါ၏ဥစ္စာကို လုယက်စေသလောဟု ဆို၍ ထိုထိုသူတို့ကိုသွား၍ ကိုင်၏၊ ကိုင်တိုင်း ကိုင်တိုင်းသော သူတို့သည် ပုတ်ခတ်ကုန်၍ ခြေရင်း၌သာလျှင် တည်စေကုန်၏၊ ထိုဣလ္လိသသူဌေးသည် ဝေဒနာသို့ ရောက်သည်ဖြစ်၍ အိမ်သို့ ဝင်အံ့သောငှါ အားထုတ်၏၊တံခါးစောင့်တို့သည် ဟယ်သူယုတ် အဘယ်သို့ ဝင်အံ့နည်းဟု ဆို၍ ဝါးခြမ်းစိတ်တို့ဖြင့် ရိုက်ခတ်ပြီးလျှင် လည်၌ကိုင်၍ ငင်ထုတ်ကုန်၏၊ ထိုဣလ္လိသသူဌေးသည် ယခုအခါ မင်းကိုထား၍ မင်းမှတပါးသော တစုံတယောက်သော ကိုးကွယ်ရာ ဖြစ်သောသူ မရှိဟု မင်း၏ အထံသို့သွား၍ ရှင်မင်းကြီး အကျွန်ုပ်၏အိမ်ကို ရှင်မင်းကြီးတို့သည် လုယက် စေကုန်သလောဟု လျှောက်၏၊ သူဌေးကြီး ငါမလုယက်စေ သင်သည်ပင်လျှင် လာ၍ မင်းကြီးတို့သည် အကယ်၍ မယူကုန်အံ့ အကျွန်ုပ်၏ ဥစ္စာကို အကျွန်ုပ်သည်ပင် အလှူပေးပါကုန်အံ့ဟု မြို့၌ စည်ကိုလည်စေ၍ အလှူပေးသည် မဟုတ်လောဟု ဆို၏၊ ရှင်မင်းကြီး အကျွန်ုပ်သည် အရှင်မင်းကြီး၏ အထံသို့ မလာရပါ၊ အရှင်မင်းကြီးတို့သည် အကျွန်ုပ်၏ ဝန်တိုသောအဖြစ်ကို မသိကုန်လော၊ အကျွန်ုပ်သည် မြက်ဖျားဖြင့် ဆီပေါက်ကိုလည်း တစုံတယောက်သောသူအား မပေး၊ အရှင်မင်းကြီး အကြင်သူသည် အလှူပေး၏၊ ထိုသူကို ခေါ်စေ၍ စုံစမ်းတော်မူကုန်လောဟု လျှောက်၏။

မင်းကြီးသည် သိကြားကို ခေါ်စေ၍ နှစ်ယောက်ကုန်သော သူတို့၏ အထူးကို မသိသလျှင်ကတည်း၊ အမတ်တို့သည်လည်း မသိကုန်သလျှင်ကတည်း၊

ဝ္လလိသသူဌေးသည် ရှင်မင်းကြီး အသျှင်နည်း အကျွန်ုပ်သည် ဝ္လလိသသူဌေး တည်းဟု ဆို၏၊ ငါတို့သည် မသိကုန် သင့်အား သိသောသူ ရှိသလောဟုဆို၏၊ ရှင်မင်းကြီး အကျွန်ုပ်၏ မယားသည် သိပါ၏ဟု ဆိုသည်ရှိသော် မယားကို ခေါ်စေ၍ သင်၏လင်သည် အဘယ်သူနည်းဟု မေး၏၊ ထိုမယားသည် ဤသူသည် အကျွန်ုပ်၏ လင်တည်းဟုဆို၍ သိကြား၏ အထင်္ဂသာလျှင် တည်း၏၊ သားတို့ကိုရင်း ကျွန်အမှုလုပ်တို့ကိုရင်း ခေါ်စေ၍ မေးကုန်၏၊ အလုံးစုံသော သူတို့သည် သိကြား၏အထင်္ဂသာ တည်ကုန်၏၊ တဖန် ဝ္လလိသသူဌေးသည် ငါ၏ ဦးခေါင်း၌ ဆံတို့ဖြင့် ဖုံးလွှမ်းသော မှဲ့သည် ရှိ၏၊ ထိုမှဲ့ကိုကား ဆေတ္တာသည် သည်သာလျှင် သိ၏၊ ထို ဆေတ္တာသည်ကို ခေါ်စေအံ့ဟု ကြံ၏၊ ကြံပြီးလျှင် ထိုဝ္လလိသသူဌေးသည် အရှင်မင်းကြီး အကျွန်ုပ်ကို ဆေတ္တာသည်သည် သိ၏၊ ထို ဆေတ္တာသည်ကို ခေါ်တော်မူပါစေကုန်လောဟု လျှောက်၏။

ထိုအခါ၌ကား ဘုရားလောင်းသည် ထိုဝ္လလိသ သူဌေး၏ ဆေတ္တာသည် ဖြစ်၏။

မင်းကြီးသည် ထိုဆေတ္တာသည်ကို ခေါ်စေ၍ ဝ္လလိသသူဌေးကို သင်သိ၏လောဟု မေး၏၊ အရှင်မင်းကြီး ဦးခေါင်းကို ကြည့်ရမူကား သိပါ၏ဟု လျှောက်၏၊ ထိုသို့ တပြီးကား နှစ်ယောက်ကုန်သော သူတို့၏ ဦးခေါင်းကို ကြည့်လောဟု ဆို၏၊ ထိုခဏ၌ သိကြားသည် ဦးခေါင်း၌ မှဲ့ကို ဖန်ဆင်း၏၊ ဘုရားလောင်းသည် နှစ်ယောက်ကုန်သော သူတို့၏ ဦးခေါင်းကို ကြည့်သည်ရှိသော် မှဲ့ကို မြင်၍ မြတ်သောမင်းကြီး နှစ်ယောက်ကုန်သော သူတို့၏ ဦးခေါင်း၌ မှဲ့သည်ရှိသည်သာလျှင်ကတည်း၊ အကျွန်ုပ်သည် ထိုထူ နှစ်ယောက် တို့တွင် တယောက်သော သူ၏ ဝ္လလိသသူဌေး၏ အဖြစ်ကို သိအံ့သောငှါ မတတ်နိုင်ပါဟု ဆိုလို၍—

၇၈၊ ဥဘော ခဉ္ဇာ ဥဘော ကုဏီ၊ ဥဘော ဝိသမစက္ခုကာ [၁]။
ဥဘိန္နံ ပိဠကာ ဇာတာ၊ နာဟံ ပဿာမိ ဣလ္လိသံ။

ဟူသော ဤဂါထာကို ဆို၏။

---

၁၊ ဝိသမစက္ခုလာ (သီ)

မဟာရာဇ၊ မြတ်သောမင်းကြီး။ ဥဘော၊ နှစ်ယောက်ကုန်သောသူတို့သည်။ ခန္ဓာ၊ ခြေခွင်ကုန်၏။ ဥဘော၊ နှစ်ယောက်ကုန်သော သူတို့သည်။ ကုဏီ၊ လက်ကောက်ကုန်၏။ ဥဘော၊ နှစ်ယောက်ကုန်သောသူတို့သည်။ ဝိသမစက္ခုကာ၊ မျက်စိစွေကုန်၏။ ဥဘိန္နံ၊ နှစ်ယောက်ကုန်သောသူတို့အား။ ပိဠကာ၊ မှဲ့တို့သည်။ ဇာတာ၊ ရှိသည်ဖြစ်ကုန်၏။ အဟံ၊ အကျွန်ုပ်သည်။ ဂ္ဂလ္လိသံ၊ ဂ္ဂလ္လိသကို။ န ပဿာမိ၊ မသိနိုင်။

ဘုရားလောင်း၏စကားကိုကြား၍ ဤဂ္ဂလ္လိသသူဌေးသည် တုန်လှုပ်လျက် ဥစ္စာ၌ စိုးရိမ်ခြင်းကြောင့် သတိကို ဖြစ်စိမ့်သောငှါ မတတ်နိုင်သည်ဖြစ်၍ ထိုအရပ်၌သာလျှင် လည်း၏၊ ထိုခဏ၌ သိကြားသည် မြတ်သောမင်းကြီး ငါသည် ဂ္ဂလ္လိသသူဌေးမဟုတ် သိကြားဖြစ်၏ဟု ဆို၍ ကြီးစွာသော တင့်တယ်စမွယ်ခြင်းဖြင့် ကောင်းကင်၌ရပ်၏၊ ထိုဂ္ဂလ္လိသသူဌေး၏ မျက်နှာကို သုတ်သင်၍ ရေဖြင့်လောင်း၏၊ ထိုဂ္ဂလ္လိသသူဌေးသည် ထလတ်၍ သိကြား နတ်မင်းကို ရှိခိုးလျက် ရပ်၏၊ ထိုအခါ ဂ္ဂလ္လိသကို သိကြားမင်းသည် ဂ္ဂလ္လိသ ဤဥစ္စာသည် ငါ၏ဥစ္စာတည်း၊ သင်၏ဥစ္စာမဟုတ်၊ ထိုစကားသည် မှန်၏၊ ငါသည် သင်၏ အဘတည်း၊ သင်သည် ငါ၏ သားတည်း၊ ငါသည် ဒါနအစရှိသော ကောင်းမှုတို့ကို ပြု၍ သိကြားအဖြစ်သို့ ရောက်၏၊ သင်သည်ကား ငါ၏ အမျိုးအနွယ်ကို ဖြတ်ပြီးလျှင် မလှူလိုသော အလေ့ရှိသည် ဖြစ်၍ ဝန်တိုခြင်း၌ တည်၍ အလှူတင်းကုပ်တို့ကို မီးတိုက်၍ အလှူခံတို့ကို နှင်ထုတ်ပြီးလျှင် ဥစ္စာကိုသာလျှင် တည်စေ၏၊ ထိုဥစ္စာကို သင်သည်လည်း မသုံးဆောင်၊ တပါးသော လူတို့အားလည်း မပေး၊ ရက္ခိုသ်စောင့်သော ရေကန်ကဲ့သို့ တည်၏၊ ငါ၏ အလှူတင်းကုပ်ကို ပကတိ ပြု၍ အလှူကို အကယ်၍ လှူအံ့၊ ထိုသို့ လှူမှုကားကောင်း၏၊ အကယ်၍ မလှူအံ့၊ အလုံးစုံသော သင်၏ဥစ္စာကို ကွယ်စေ၍ ဝရဇိန်လက်နက်ဖြင့် ဦးခေါင်းကိုခွဲ၍ အသက်ကုန်ခြင်းသို့ ရောက်စေအံ့ဟု ဆို၏၊ ထိုဂ္ဂလ္လိသ သူဌေးသည် သေဘေးမှ ကြောက်လန့်ရကား ဤနေ့မှစ၍ အလှူပေးပါအံ့ဟု ဝန်ခံခြင်းကိုပေး၏၊ သိကြားနတ်မင်းသည် ထိုဂ္ဂလ္လိသ၏ဝန်ခံခြင်းကို ယူ၍ ကောင်းကင်၌နေလျက် တရားဟော၍ သီလတို့၌ တည်စေပြီးလျှင် မိမိနေရာ တာဝတိံသာနတ်တို့ရွာသို့သာလျှင် သွား၏၊ ဂ္ဂလ္လိသ သူဌေးသည်လည်း ဒါနအစရှိသော ကောင်းမှုတို့ကိုပြု၍ နတ်ပြည်သို့ လား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ရဟန်းတို့ ယခုအခါ၌ သာလျှင် **မောဂ္ဂလာန်သည်** မစ္ဆရိယသူဌေးကို ဆုံးမသည် မဟုတ်သေး၊ ရှေး၌လည်း ဤ **မောဂ္ဂလာန်သည်** ဤမစ္ဆရိယသူဌေးကို ဆုံးမဘူးသည် သာလျှင်တည်းဟု ဤ **ဓမ္မဒေသနာကို** ဆောင်တော်မူ၍ အနုသန္ဓေကိုစပ်၍ ယခုအခါ မစ္ဆရိယသူဌေး **သည်** ထိုအခါ ဣလ္လိသသူဌေး ဖြစ်ဘူးပြီ၊ ယခုအခါ မောဂ္ဂလာန်သည် ထိုအခါ **မင်းဖြစ်ဘူးပြီ၊** ယခုအခါ ငါဘုရားသည်သာလျှင် ထိုအခါ ဆေတ္တာသည် ဖြစ် **ဘူးပြီ၊** ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

**[စေးနဲဝန်တို၊ မလှူလို၊ ကြည်ညိုပွားရန် မောဂ္ဂလာန်]**

**ရှစ်ခုတို့၏ပြည့်ကြောင်းဖြစ်သော ဣလ္လိသဇာတ်သည် ပြီး၏။**

---

## ၇၉—ခရဿရဇာတ်

### ခိုးသူတို့နှင့်ပူးပေါင်း၍ ဥစ္စာကို ထက်ဝက်စားသော အမတ်၏အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော **သဗ္ဗညု** မြတ်စွာဘုရားသည် "ယတော ဝိလုတ္တာ စ ဟတာ စ ဂါဝေါ" အစရှိ **သော** ဂါထာပုဒ်ဖြင့်တန်ဆာဆင်အပ်သော ဤ ခရဿရ ဇာတ်ကို ဇေတဝန် **ကျောင်းတော်၌** သီတင်းသုံး နေတော်မူစဉ် "မထင်ရှားသော အမတ်"ကို **အကြောင်းပြု၍** ဟောတော်မူ၏၊ ကောသလမင်း၏ တယောက်သောအမတ် **သည်** မင်းကို နှစ်သက်စေ၍ ပစ္စန္တရစ်ရွာ၌ မင်း၏ဗိုလ်ပါကို ရ၍ ခိုးသူတို့နှင့် **တပေါင်းတည်း** ဖြစ်၍ ငါသည် လူတို့ကို ယူ၍ တောသို့ဝင်အံ့၊ သင်တို့သည် **ရွာကို** လုယက်ကုန်၍ ထက်ဝက်သောဥစ္စာကို ငါ့အား ပေးကုန်လော့ဟု ဆို၍ **ရှေးဦးကလျှင်** လူတို့ကို စည်းဝေးစေ၍ တောသို့သွား၍ ခိုးသူတို့သည် လာလက် **ကုန်၍** နွားတို့ကိုသတ်ကုန်၍ အသားကို စားကုန်၍ ရွာကို လုယက်ကုန်၍ သွား **ကုန်သည်ရှိသော်** ညချမ်းအခါ၌ လူများခြံရံလျက် လာ၏၊ ထိုရွာစားအမှုသည် **မကြာမြင့်မီလျှင်** ထင်ရှားသည် ဖြစ်၏၊ လူတို့သည် ကောသလမင်းကြီးအား **ကြားလျှောက်ကုန်၏၊** ကောသလမင်းကြီးသည် ထိုရွာစားကိုခေါ်၍ အပြစ်ကို

ဝန်ခံစေပြီးလျှင် ကောင်းစွာ နှိပ်ခြင်းကို နှိပ်၍ တပါးသောရွာစားကို သွားစေပြီးလျှင် ဇေတဝန်ကျောင်းတော်သို့သွား၍ မြတ်စွာဘုရားအား ထိုအကြောင်းကို ကြားလျှောက်၏၊ မြတ်စွာဘုရားသည် မြတ်သောမင်းကြီး ဤရွာစားသည် ယခုအခါ၌သာလျှင် ဤသို့ သဘောရှိသည် မဟုတ်သေး၊ ရှေး၌လည်း ဤသို့ သဘောရှိသည် သာလျှင်တည်းဟု မိန့်တော်မူ၍ ထိုကောသလ မင်းကြီးသည် တောင်းပန်အပ်သည်ဖြစ်၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သော မင်းသည် မင်းပြုသည်ရှိသော် တဒယောက်သော အမတ်အား ပစ္စန္တရစ်ရွာကို ပေး၏၊ အလုံးစုံသော စကားသည် ရှေးစကားနှင့် တူသည်သာလျှင်တည်း၊ ထိုအခါ ဘုရားလောင်းသည် ကုန်သွယ်အံ့သောငှါ ပစ္စန္တရစ်ရွာ၌ လှည့်လည်သည်ရှိသော် ထိုရွာ၌ နေခြင်းကိုပြု၏၊ ထိုဘုရားလောင်းသည် ထိုရွာစားသည် ညချမ်းအခါ၌ လူများခြံရံသဖြင့် စည်ကြီးကိုတီးလျက် လာလတ်သည်ရှိသော် ဤရွာစားပျက်သည် ခိုးသူတို့နှင့် တပေါင်းတည်းပြု၍ ရွာကို လုယက်စေပြီးလျှင် ခိုးသူတို့သည် ပြေးကုန်၍ တောအုပ်သို့ဝင်ကုန်သည်ရှိသော် ယခုအခါ၌ အလွန်ငြိမ်သက်သကဲ့သို့ စည်ကြီးကိုတီးလျက် လာကုန်၏ဟု ဆိုလို၍—

၇၉၊ ယတော ဝိလုတ္တာ စ ဟတာ စ ဂါဝေါ၊
ဒဍ္ဍာနိ ဂေဟာနိ ဇနော စ နီတော။

အထာဂမာ ပုတ္တဟတာယ ပုတ္တော၊
ခရဿရံ ဍိဏ္ဍိမံ [၁] ဝါဒယန္တော။

ဟူသော ဤဂါထာကို ဆို၏။

ဘော၊ အို အချင်းတို့။ ယတော၊ အကြင်အခါ၌။ ဝိလုတ္တာ စ၊ လုယက်အပ်ကုန်ပြီးသည်လည်း။ ဟောန္တိ၊ ဖြစ်ကုန်၏။ ဂါဝေါ၊ နွားတို့ကို။ ဟတာ စ၊ အသားကို စားအံ့သောငှါ သတ်အပ်ကုန်ပြီးသည်လည်း။ ဟောန္တိ၊ ဖြစ်ကုန်၏။ ဂေဟာနိ၊ အိမ်တို့ကို။ ဒဍ္ဍာနိ စ၊ မီးတိုက် အပ်ကုန်သည်လည်း။ ဟောန္တိ၊ ဖြစ်ကုန်၏။ ဇနော၊ လူကို။ နီတော စ၊ သုံ့ချဖမ်းဆောင် ယူအပ်ပြီးသည်လည်း။

---

၁၊ ဓေဏ္ဍိမံ (သီ၊ သျာ)

**ဟောတိ၊ ဖြစ်၏။** အထ၊ ထိုအခါ၌။ ပုဋ္ဌဟတာယ၊ တရားသတ်၍ သေပြီးသော သားရှိသော မိန်းမ၏။ ပုဋ္ဌော၊ သားဖြစ်သော အရှက်မရှိသော ရွာစား ပျက်သည်။ ခရဿရံ၊ ကြမ်းသော အသံရှိသော။ ဍိဏ္ဍိမံ၊ ပတ်သာကို။ (ထက်စည်ကို)။ ဝါဒယန္တော၊ တီးလျက်။ အာဂမာ၊ လာ၏။

ဤသို့ဘုရားလောင်းသည် ဤဂါထာဖြင့်ထိုရွာစားကို ဆဲရေး၏၊ မကြာမြင့်မီ ပင်လျှင် ထိုရွာစား၏အမှုသည် ထင်ရှား၏၊ ထိုအခါ ထိုရွာစားအား မင်းသည် အပြစ်အားလျော်စွာ နှိပ်ခြင်းကို ပြု၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် မြတ်သောမင်းကြီး ဤရွာစားသည် ယခုအခါ၌သာလျှင် ဤသို့ သဘောရှိသည် မဟုတ်သေး၊ ရှေး၌လည်း ဤသို့ သဘောရှိသည်သာလျှင်တည်းဟု မိန့်တော်မူ၍ ဤဓမ္မဒေသနာကို ဆောင်တော်မူပြီးလျှင် အနုသန္ဓေကိုစပ်၍ ယခုအခါ အမတ်သည်လျှင် ထိုအခါ အမတ် ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ဂါထာကို ဆိုသော ပညာရှိ ယောကျ်ား ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[တပါးအကျိုး၊ နင်းနှိမ်ချိုး၊ ကိုယ်ကျိုးယုတ်မည်သာ]

**ကိုးခုတို၏ ပြည့်ကြောင်းဖြစ်သော ခရဿရဇာတ်သည် ပြီး၏။**

---

## ၈၀—ဘီမသေနဇာတ်

### သူတပါးတို့အား ကဲ့ရဲ့ရှုတ်ချတတ်သောသူ၏ အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညုမြတ်စွာဘုရားသည် "ယံ တေ ပဝိကတ္ထိတံ ပုရေ" အစရှိသော ဂါထာ ပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤဘီမသေနဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "မထင်ရှားသောသူတပါးတို့အား ရှုတ်ချတတ်သော ရဟန်း"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ တယောက်သော ရဟန်းသည် ငါ့သျှင်တို့ ငါတို့၏ အမျိုး အနွယ်တို့နှင့် တူသောမည်သည် မရှိကုန်၊ ငါ တို့သည် ဤသို့ သဘောရှိသည်မည်သော မင်းမျိုး၌ဖြစ်ကုန်၏၊ အနွယ်အားဖြင့် ရင်း၊ ဥစ္စာအားဖြင့်ရင်း၊ အမျိုးစဉ်ဆက်အားဖြင့်ရင်း ငါတို့နှင့်တူသော သူမည်

သည် မရှိ၊ ငါတို့၏ ရွှေ,ငွေ အစရှိသည်တို့၏ အဆုံးသည် မရှိ၊ ငါတို့၏ ကျွန်အမှု လုပ်သည်လည်း သလေးသားပြွမ်းထမင်းကိုစားရကုန်၏၊ကာသိတိုင်း၌ဖြစ်သော အဝတ်ကို ဝတ်ရကုန်၏၊ ကာသိတိုင်း၌ဖြစ်သောနံ့သာပျောင်းကို လိမ်းရကုန်၏၊ ငါတို့သည် ရဟန်းဖြစ်သဖြင့် ယခုအခါ၌ ဤသို့ သဘောရှိကုန်သော ရွန့်ရင်း ကုန်သော အစာတို့ကို စားရကုန်၏၊ ရွန့်ရင်းကုန်သော သင်္ကန်းတို့ကို ဆောင်ရ ကုန်၏ဟု သီတင်းကြီး သီတင်းငယ် သီတင်းလတ် ဖြစ်ကုန်သော ရဟန်းတို့၏ အတွင်း၌ သူတပါးတို့အားရှုတ်ချလျက် အမျိုးအစရှိသည်တို့၏ အစွမ်းအားဖြင့် သူတပါးတို့အား ကဲ့ရဲ့၍ သွားသတတ်။

ထိုအခါ တယောက်သော ရဟန်းသည် ထိုရဟန်း၏ အမျိုးစဉ်ဆက်ကို စုံစမ်း၍ သူတပါးတို့အား ရှုတ်ချတတ်သည် အဖြစ်ကို ရဟန်းတို့အားပြောဆို၏၊ ရဟန်းတို့သည် တရားသဘင်၌ စည်းဝေးကုန်လျက် ငါ့သျှင်တို့ ဤမည်သော ရဟန်းသည် ဤသို့ သဘောရှိသော ဝဠ္ဍဆင်းရဲမှ ထွက်မြောက်ကြောင်းဖြစ်သော သာသနာတော်၌ ရဟန်းပြု၍ သူတပါးတို့အား ရှုတ်ချလျက် သွား၏ဟု ထိုရဟန်း၏ ကျေးဇူးမဲ့ကို ပြောဆိုကုန်၏၊ မြတ်စွာဘုရားသည် လာတော် မူလတ်၍ ရဟန်းတို့ ယခုအခါ အဘယ်စကားဖြင့် စည်းဝေးကြကုန်သနည်းဟု မေးတော်မူ၏၊ ဤမည်သော စကားဖြင့် စည်းဝေးပါကုန်သည်ဟု နားတော် လျှောက်သည်ရှိသော် ရဟန်းတို့ ထိုရဟန်းသည် ယခုအခါ၌သာလျှင် သူတပါး တို့အား ရှုတ်ချလျက် ကဲ့ရဲ့လျက် သွားသည်မဟုတ်သေး၊ ရှေး၌လည်း သူတပါး တို့အား ရှုတ်ချ ကဲ့ရဲ့လျက် သွားဘူးသည် သာလျှင်တည်းဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည် သောမင်းသည်မင်းပြုသည်ရှိသော် ဘုရားလောင်းသည် တခုသော ရွာနိဂုံး၌ ဥဒိစ္စပုဏ္ဏားမျိုး၌ ဖြစ်၍ အရွယ်သို့ ရောက်လတ်သည်ရှိသော် တက္ကသိုလ်ပြည်၌ ဒိသာပါမောက္ခ ဆရာ့အထံ၌ ဗေဒင်သုံးပုံတို့ကိုရင်း၊ တဆယ့်ရှစ်ပါးသော အတတ်တို့ကိုရင်းသင်၍ ခပ်သိမ်းသောအတတ်တို့၌အပြီးသို့ရောက်၍ စူဠဓနုဂ္ဂဟ ပဏ္ဍိတမည်သည်ဖြစ်၏၊ ထိုဘုရားလောင်းသည် တက္ကသိုလ်ပြည်မှ ထွက်ခဲ့၍ အလုံးစုံသော အတတ်ကို ရှာလျက် မဟိံသကတိုင်းသို့ သွား၏။

ဤစူဠဓနုဂ္ဂဟ ဇာတ်၌ကား ဘုရားလောင်းသည် အတန်ငယ်ပု၏၊ ကုန်းသော ကိုယ်ရှိ၏။

ထိုဘုရားလောင်းသည် တစုံတယောက်သော မင်းသို့ အကယ်၍ ဆည်းကပ်ငြားအံ့၊ ဤသို့ ဆည်းကပ်သည်ရှိသော် ပုသော ကိုယ်ရှိသော သင်သည် ငါတို့၏ အမှုကို အသို့ပြုနိုင်လတ္တံ့နည်းဟု ဆိုလတ္တံ့၊ ငါသည် အလုံးအရပ်နှင့်ပြည့်စုံသော အဆင်းလှသော ယောကျ်ားကို အမှီပြု၍ ထိုယောကျ်ား၏ ကျောက်ရိပ်ဖြင့် အသက်မွေးခြင်းကို အကယ်၍ ပြုရမူကား ကောင်း၏ဟု ကြံ၏၊ ကြံပြီး၍ ဘုရားလောင်းသည် ထိုသို့ သဘောရှိသော ယောကျ်ားကို ရှာသည် ရှိသော် တယောက်သော ဘီမသေန မည်သော ရက်ကန်းသည်၏ ရက်ကန်းရက်ရာ အရပ်သို့ သွားပြီးလျှင် ထိုဘီမသေနနှင့် တကွ နှုတ်ခွန်းဆက်ခြင်းကိုပြု၍ အဆွေ သင်သည် အဘယ်အမည်ရှိသနည်းဟု မေး၏၊ ဘီမသေနမည်၏ဟု ဆို၏၊ သင် သည် ဤသို့သဘောရှိသောကိုယ်နှင့် ပြည့်စုံသည်ဖြစ်၍ ဤယုတ်သောအမှုကို အဘယ့်ကြောင့် ပြုသနည်းဟု မေး၏၊ အသက်မွေးခြင်းငှါ မတတ်နိုင်သည်ဖြစ်၍ ပြု၏ဟု ဆို၏၊ အဆွေ ဤအမှုကို မပြုလင့်၊ အလုံးစုံသော ဇမ္ဗူဒိပ်၌ ငါနှင့်တူသော လေးသွားမည်သည် မရှိ၊ ငါသည် တစုံတယောက်သော မင်းကို အကယ်၍ မြင်ငြားအံ့၊ ဤသို့မြင်သည်ရှိသော် ထိုမင်းသည် ငါ့ကို ဤလူပုသည် ငါ၏အမှုကို အသို့ ပြုနိုင်လတ္တံ့နည်းဟု ပြက်ရယ်ပြုရာ၏၊ သင်သည် မင်းကို ဖူးမြင်၍ အရှင်မင်းကြီး အကျွန်ုပ်သည် လေးသွားတည်း၊ အရှင်မင်းကြီးသည် ထောက်ပံ့ခြင်းကို ပြုတော်မူပါလောဟု သင်ဆိုအံ့၊ မင်းသည် သင့်အား ရိက္ခာကိုပေး၍ အသက်မွေးခြင်းသည် ဖြစ်လတ္တံ့၊ ငါသည် သင့်အား ဖြစ်သောအမှုကိုပြုလျက် သင့်ကျောက်ရိပ်ဖြင့် အသက်မွေးအံ့၊ ဤသို့လျှင် နှစ်ယောက်ကုန်သော ငါတို့သည် လည်း ချမ်းသာသည် ဖြစ်ကုန်အံ့၊ ငါ၏စကားကို လိုက်နာလောဟုဆို၏၊ ထိုဘီမသေနသည် ကောင်းပြီဟု ဝန်ခံ၏။

ထိုအခါ ဘီမသေနကိုယူ၍ ဗာရာဏသီသို့ သွားပြီးလျှင် မိမိသည် အလုပ်အကျွေးငယ်ဖြစ်၍ ထိုဘီမသေနကို ရှေ့ကထားလျက် မင်းအိမ်တံခါး၌ ရပ်၍ မင်းအား ကြားစေ၏၊ ဝင်စေလောဟု ဆိုသည်ရှိသော် နှစ်ယောက်ကုန်သော သူတို့သည် မင်းကို ရှိခိုးလျက် နေ၏၊ အဘယ်အကြောင်းကြောင့် လာကုန်

သနည်းဟု မေးသည်ရှိသော် ဘိမသေနသည် အရှင်မင်းကြီး အကျွန်ုပ်သည် လေသွားတည်း၊ အလုံးစုံသော ဇမ္ဗူဒိပ်၌ အကျွန်ုပ်နှင့် တူသော လေးသွား သည် မရှိဟု လျှောက်၏၊ အဘယ်မျှသော ဥစ္စာကို ရသည်ရှိသော် ငါ့ကိုခစား လတ္တံ့နည်းဟုမေး၏၊အရှင်မင်းကြီး လခွဲ၌ အသပြာတထောင်ကို ရသည်ရှိသော် ခစားပါအံ့ဟု လျှောက်၏၊ ဤယောကျ်ားသည် သင်နှင့် အသို့တော်သနည်းဟု မင်းကြီး မေး၏၊ အရှင်မင်းကြီး အကျွန်ုပ်၏ အလုပ်အကျွေး ငယ်တည်းဟု လျှောက်၏၊ ကောင်းပြီ ခစားလော့ဟု မင်းကြီး ဆို၏၊ ထိုအခါမှစ၍ ဘိမသေ နသည် မင်းကို ခစား၏၊ထိုဘိမသေနအား ဖြစ်သော အမှုကိစ္စကို ဘုရားလောင်း သည်သာလျှင် ပြီးစေ၏။

ထိုအခါ ကာသိတိုင်းဝယ် တခုသောတော၌ များစွာကုန်သော လူတို့၏ သွားရာလမ်းခရီးကို ကျားသည် ပြတ်စေ၏၊များစွာသောလူတို့ကို ဖမ်း၍စား၏၊ ထိုအကြောင်းကို မင်းအား ကြားလျှောက်၏၊ မင်းကြီးသည် ဘိမသေနကို ခေါ်စေ၍ အမောင် ကျားကို ဖမ်းအံ့သော်ငှါ တတ်နိုင်လတ္တံ့လောဟု မိန့်ဆို၏၊ အရှင်မင်းကြီး ကျားကို ဖမ်းအံ့သော်ငှါ မတတ်နိုင်ပါအံ့ အဘယ်မှာ လေးသွား မည်အံ့နည်းဟု လျှောက်၏၊ မင်းကြီးသည် ဘိမသေနအား ရိက္ခာကိုပေး၍ လွှတ်လိုက်၏၊ထိုဘိမသေနသည် အိမ်သို့သွား၍ ဘုရားလောင်းအား ပြောဆို၏၊ ဘုရားလောင်းသည် အဆွေ ကောင်းပြီ သွားလေလောဟု ဆို၏၊ သင်သည်ကား မလိုက်လောဟု ဆို၏၊ ငါသည် မလိုက်အံ့၊ ဥပါယ်ကိုကား သင့်အားကြားအံ့ဟု ဆို၏၊ အဆွေ ကြားလောဟု ဆို၏၊ သင်သည် ကျားရှိရာအရပ်သို့ အဆော တလျှင် တယောက်တည်း သာလျှင် မသွားလေလင့်၊ ဇနပုဒ်သားတို့ကို စည်းဝေးစေပြီးလျှင် တထောင် နှစ်ထောင်သော လေးသွားတို့ကို ခေါ်စေ၍ ထိုကျားရှိရာ အရပ်သို့ သွားပြီးလျှင် ကျားထသောအဖြစ်ကို သိလျှင် ပြေး၍ တခုသောချုံသို့ ဝင်၍ ရင်ဖြင့် ဝပ်လေလော့၊ ဇနပုဒ်သားတို့သည် သာလျှင် ကျားကို ပုတ်ခတ်၍ဖမ်းလတ္တံ့၊လူတို့သည် ကျားကိုဖမ်းသည်ရှိသော် သွားတို့ဖြင့် တခုသောနွယ်ကို ဖြတ်၍ နွယ်စွန်း၌ကိုင်၍ ကျားသေ၏အထံသို့ သွားပြီးလျှင် အချင်းတို့ အဘယ်သူသည် ဤကျားကို သတ်သနည်း၊ ငါသည် ဤကျားကို နွားကဲ့သို့ နွယ်ဖြင့် ဖွဲ့၍ မင်းကြီးအထံသို့ ဆောင်အံ့ဟု နွယ်အလို့ငှါ ချုံသို့

ဝင်သည်ရှိသော် ငါယူအပ်သောနွယ်သည် မရောက်မီသာလျှင် အဘယ်သူသည် သတ်အပ်သနည်း၊ ဤသို့ ဆိုလေလေ၎။

ထိုအခါ ဇနပုဒ်သားတို့သည် ကြောက်လန့်ကုန်သည်ဖြစ်၍ အရှင် ဘီမသေန မင်းအား မကြားပါလင့်ဟု များစွာသော ဥစ္စာကို ပေးကုန်လတ္တံ့၊ သင်သည် သာလျှင် ကျားကို ဖမ်းအပ်သည် ဖြစ်လတ္တံ့၊ မင်း၏အထံမှလည်း များစွာသော ဥစ္စာကိုရလတ္တံ့ဟု ဘုရားလောင်းဆို၏၊ ထိုဘီမသေနသည် ကောင်းပြီဟု ဝန်ခံပြီးလျှင် သွား၍ ဘုရားလောင်းသည် ဆိုအပ်သော နည်းဖြင့်သာလျှင် ကျားကို ဖမ်း၍ တောကိုဘေးမရှိခြင်းကိုပြု၍ လူများခြံရံလျက် ဗာရာဏသီသို့လာလတ်၍ မင်းကို ဖူးမြင်လျက် အရှင်မင်းကြီး အကျွန်ုပ်သည် ကျားကိုဖမ်းအပ်၏၊တောကို ဘေးမရှိခြင်းကို ပြုအပ်ပြီဟု လျှောက်၏၊ မင်းသည် နှစ်သက်သည် ဖြစ်၍ များစွာသော ဥစ္စာကို ပေး၏၊ တနေ့သ၌ တခုသော လမ်းခရီးကို တခုသော ကျွဲသည် ပြတ်စေ၏ဟု ကြားလျှောက်၏၊ မင်းသည် ထိုရှေးအတူသာလျှင် ဘီမသေနကို စေ၏၊ ထိုဘီမသေနသည်လည်း ဘုရားလောင်း ပေးအပ်သော နည်းဖြင့် ကျားကိုကဲ့သို့ ထိုကျွဲကိုလည်း ဖမ်း၍ လာ၏၊ မင်းသည် တဖန် များစွာသော ဥစ္စာကို ပေး၏၊ ကြီးစွာသော စည်းစိမ်သည် ဖြစ်၏၊ထိုဘီမသေန သည် စည်းစိမ်ယစ်ခြင်းဖြင့် ယစ်သည်ဖြစ်၍ ဘုရားလောင်း၌ မထေမဲ့မြင်ပြု၍ ဘုရားလောင်းစကားကို မယူ၊ ငါသည် သင့်ကိုမှီ၍ အသက်မမွေး၊ သင်သည် သာလျှင် ယောကျ်ားလော၊ ဤသို့အစရှိသော ကြမ်းကြုတ်သော စကားကို ဆို၏။

ထိုအခါ နှစ်ရက် သုံးရက်လွန်သဖြင့် တယောက်သောပြည်နီးချင်းမင်းသည် လာလတ်၍ ဗာရာဏသီကို ဝန်းရံပြီးလျှင် ပြည်ကိုတည်း ပေးအံ့လော၊ စစ်တိုက်ခြင်းကိုတည်း ပြုအံ့လောဟု ဗာရာဏသီမင်းအား သတင်းစကားကို စေလိုက်၏၊ ဗာရာဏသီမင်းသည် စစ်ထိုးလောဟု ဘီမသေနကိုစေလိုက်၏၊ ထိုဘီမသေနသည် အလုံးစုံသော ချပ်တန်ဆာတို့ဖြင့် ဖွဲ့အပ်သည်ဖြစ်၍ မင်း၏အသွင်ကို ယူ၍ ကောင်းစွာ ဖွဲ့အပ်သော တန်ဆာရှိသော ဆင်ကျောက်ကုန်း၌ နေ၏၊ ဘုရားလောင်းသည် ထိုဘီမသေန၏ သေဘေးမှ ကြောက်သောကြောင့် အလုံးစုံသော ချပ်တန်ဆာတို့ဖြင့် ဖွဲ့လျက် ဘီမသေန၏ နောက်ဖြစ်သောနေရာ၌

နေ၏၊ ဆင်ကို များစွာသော လူများဖြင့် ခြံရံလျက် မြို့တံခါးမှ ထွက်စေ၍ စစ်မြေဦးသို့ ရောက်၏၊ ဘီမသေနသည် စစ်ထိုးသော စည်သံကို ကြား၍ တုန်လှုပ်ခြင်းငှါ အားထုတ်၏၊ ဘုရားလောင်းသည် ယခုအခါ၌ ဤဘီမသေန သည် ဆင်ကျောက်ကုန်းမှကျ၍ သေလတ္တံ့ဟု ဆင်ကျောက်ကုန်းမှ မကျစိမ့် သောငှါ ဘီမသေနကို ကြိုးဖြင့်ကိုင်၏၊ ဘီမသေနသည် စစ်ထိုးရာအရပ်ကိုမြင်၍ သေဘေးမှကြောက်သောကြောင့် ကျင်ကြီးကျင်ငယ်တို့ဖြင့် ဆင်ကျောက်ကုန်း ကို ဖျက်ဆီး၏၊ ဘုရားလောင်းလည်း ဘီမသေန သင်၏ ရှေးစကားနှင့် ယခု ဖြစ်သော အမူအရာသည် မညီသလျှင်ကတည်း၊ သင်သည် ရှေး၌ စစ်သူရဲကဲ့သို့ ဖြစ်၏၊ ယခုအခါ၌ကား ဆင်ကျောက်ကုန်းကိုဖျက်ဆီး၏ဟု ဆိုလို၍—

၇၀၊ ယံ တေ ပဝိကတ္ထိတံ ပုရေ၊ အထ တေ ပူတိသရာ သဇန္တိ ပစ္ဆာ။
ဥဘယံ န သမေတိ ဘီမသေန၊ ယုဒ္ဓကထာ စ ဣဒဉ္စ တေ ဝိဟညံ။

ဟူသော ဤဂါထာကို ဆို၏။

ဘီမသေန၊ ဘီမသေန။ ယံ-ယေန ကာရဏေန၊ အကြင်အကြောင်းကြောင့်။ ပုရေ၊ ရှေး၌။ တေ-တယာ၊ သင်သည်။ ပဝိကတ္ထိတံ၊ သူတပါးတို့အား ရွတ်ချ သော စကားကို ဆိုအပ်၏။ အထ၊ ထိုသို့ဆိုအပ်လျက်။ ပစ္ဆာ၊ နောက်ဖြစ်သော ယခုအခါ၌။ တေ၊ သင့်အား။ ပူတိသရာ၊ ကျင်ကြီး ကျင်ငယ်တို့သည်။ သဇန္တိ၊ ယိုစီးကုန်၏။ တေ၊ သင်၏။ ယုဒ္ဓကထာ စ၊ စစ်ထိုးခြင်း စကားသည်ရင်း။ ဝိဟညဉ္စ၊ ပင်ပန်းခြင်းသည်ရင်း။ ဣဒံ ဥဘယံ၊ ဤနှစ်ပါးစုံသည်။ န သမေ တိ၊ မညီ။

ဤသို့ ဘုရားလောင်းလည်း ထိုဘီမသေနကို ကဲ့ရဲ့၍ အဆွေ မကြောက်လင့်၊ အဘယ့်ကြောင့် ငါသည် ထင်ရှားရှိလျက် ပင်ပန်းဘိသနည်းဟု ဘီမသေနကို ဆင်ကျောက်ကုန်းမှ ချပြီးလျှင် ရေချိုး၍ အိမ်သို့သာလျှင် သွားလေလောဟု လွှတ်လိုက်၍ ယနေ့ ငါသည် ထင်ရှားသောသူ ဖြစ်ခြင်းငှါ သင့်၏ဟု ဆို၍ ထိုဘုရားလောင်းသည် စစ်မြေပြင်သို့ကပ်၍ ကြော်ငြာပြီးလျှင် ဗိုလ်ထုကိုဖျက်၍ ရန်သူမင်းကို အရှင်ဖမ်းခြင်းကို ဖမ်း၍ ဗာရာဏသီမင်း၏ အထံသို့ သွား၏၊ မင်းသည် နှစ်သက်သည်ဖြစ်၍ ဘုရားလောင်းအား ကြီးစွာသော စည်းစိမ်ကို

ပေး၏၊ ထိုအခါမှစ၍ စူဠဓနုဂ္ဂဟပဏ္ဍိတ ဟူ၍သာလျှင် အလုံးစုံသော ဇမ္ဗူဒိပ်၌ ထင်ရှားသည်ဖြစ်၏၊ ထိုဘုရားလောင်းသည် ဘီမသေနကို ရိက္ခာပေး၍ မိမိနေရာ အရပ်သို့သာလျှင် သွားစေ၍ ဒါန အစရှိသော ကောင်းမှုတို့ကို ပြု၍ ကံအား လျော်စွာ လား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ရဟန်းတို့ ဤရဟန်းသည် ယခု အခါ၌သာလျှင် သူတပါးတို့အား ရှုတ်ချသော စကားကို ဆိုတတ်သည် မဟုတ် သေး၊ ရှေး၌လည်း ဆိုဘူးသည်သာလျှင်တည်းဟု မိန့်တော်မူ၍ အနုသန္ဓေကို စပ်၍ ယခုအခါ ရှုတ်ချသော ရဟန်းသည် ထိုအခါ ဘီမသေန ဖြစ်ဘူးပြီ၊ ယခု အခါ ငါဘုရားသည်သာလျှင် ထိုအခါ စူဠဓနုဂ္ဂဟပဏ္ဍိတ ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[သူတပါးကို၊ ရှုတ်ချလို၊ ကိုယ့်ကိုယ် ကိုယ်ကြည့် ဆင်ခြင်တိ]

ဆယ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော ဘီမသေနဇာတ်သည် ပြီး၏။

---

## ၉-အပါယိမ္ဟဝဂ် ၇၁-သုရာပါနဇာတ်

### သုရာသောက်၍ မျောက်မဖြစ်ကြခြင်းသည် ကောင်းလှပြီဘုရားဟု ဆရာအား လျှောက်ဘူးကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့် တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "အပါယိမှ အနုစ္စိမှ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာ ဆင်အပ်သော ဤ သုရာပါန ဇာတ်ကို ကောသမ္ဗီပြည်ကို အမှီပြု၍ ဃောသိတာရုံ ကျောင်းတော်၌ သီတင်းသုံးနေတော်မူစဉ် "သာဂတမထေရ်"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုစကားကို ချဲ့ဦးအံ့၊ မြတ်စွာဘုရားသည် သာဝတ္ထိပြည်၌ ဝါဆိုတော်မူပြီးလျှင် ဒေသစာရီ ကြွချီတော်မူ၍ ဘဒ္ဒဝတီအမည် ရှိသော နိဂုံးသို့ ရောက်တော်မူသည်ရှိသော် နွားကျောင်းသားတို့သည်၎င်း ဆိတ်ကျောင်းသား တို့သည်၎င်း လယ်ထွန်ယောကျ်ား တို့သည်၎င်း ခရီးသွား သော သူတို့သည်၎င်း မြတ်စွာဘုရားကို မြင်လျှင် ရှိခိုးကုန်၍ ဘုန်းတော်ကြီး သော အရှင်ဘုရား အမ္ဗတိတ္ထသို့ ကြွတော်မမူပါလင့်၊ အမ္ဗတိတ္ထ ရသေ့ကျောင်း၌

အမ္ဗတိတ္ထမည်သော ကြမ်းသော အဆိပ်ရှိသော နဂါးသည် နေ၏၊ ထိုနဂါးသည် အရှင်ဘုရားကို ညှဉ်းဆဲရာ၏ဟု တားမြစ်ကုန်၏။

မြတ်စွာဘုရားသည် နွားကျောင်းသား အစရှိသည်တို့၏ စကားကို မကြားသကဲ့သို့ ထိုနွားကျောင်းသား အစရှိသော သူတို့သည် သုံးကြိမ်တိုင်အောင် တားမြစ်ကုန်သော်လည်း မြတ်စွာဘုရားသည် ဘဒ္ဒဝတီနိဂုံး၏ အနီးဖြစ်သော တခုသော ဒေတာအုပ်၌ နေတော်မူသည်ရှိသော် ထိုအခါ မြတ်စွာဘုရား၏အလုပ်အကျွေးတော်ဖြစ်သော သာဂတမည်သော မထေရ်သည် ပုထုဇဉ်တို့၏တန်ခိုးနှင့်ပြည့်စုံ၏၊ ထိုသာဂတမထေရ်ကို နဂါးမင်းအား ဆုံးမစိမ့်သောငှါ ခွင့်ပြုတော်မူ၏၊ သာဂတမထေရ်သည် ထိုရသေ့ကျောင်းသို့ ကပ်၍ ထိုနဂါးမင်း၏ နေရာအရပ်၌ မြက်အခင်းကို ခင်း၍ ထက်ဝယ်ဖွဲ့သဖြင့် နေ၏၊ နဂါးမင်းသည် ထိုသို့နေခြင်းကို သည်းမခံနိုင်သည်ဖြစ်၍ အခိုးလွှတ်၏၊ သာဂတမထေရ်သည်လည်း အခိုးလွှတ်၏၊ နဂါးမင်းသည် အလျှံကို လွှတ်၏၊ သာဂတ မထေရ်သည်လည်း အလျှံကို လွှတ်၏၊ နဂါးမင်း၏ တန်ခိုးသည် မထေရ်ကို မနှိပ်စက်နိုင်၊ မထေရ်၏ တန်ခိုးသည် နဂါးမင်းကို နှိပ်စက်၏၊ ဤသို့လျှင် သာဂတမထေရ်သည် တခဏခြင်းဖြင့် ထိုနဂါးကို ဆုံးမ၍ သရဏဂုံတို့၌ရင်း, သီလတို့၌ရင်း တည်စေပြီးလျှင် မြတ်စွာဘုရား အထံတော်သို့ သွား၍ မြတ်စွာဘုရားသည်လည်း ဘဒ္ဒဝတီနိဂုံး၌ မွေ့လျော်တော်မူသမျှ နေတော်မူပြီးလျှင် ကောသမ္ဗီပြည်သို့ ကြွတော်မူ၏။

သာဂတမထေရ်သည် နဂါးကို ဆုံးမသောအဖြစ်သည် အလုံးစုံသော ဇနပုဒ်တို့ကို ပြန့်နှံ့၏၊ ကောသမ္ဗီပြည်၌ နေကုန်သော သူတို့သည် မြတ်စွာဘုရားအား ခရီးဦး ကြိုဆိုကုန်၍ မြတ်စွာဘုရားကို ရှိခိုး၍ သာဂတမထေရ်၏ အထံသို့ သွား၍ ရှိခိုးကုန်၍ တင့်အပ် လျောက်ပတ်သော အရပ်၌ နေကုန်လျက် အရှင်ဘုရားတို့ အရှင်ဘုရားတို့အား အကြင်အကြင် ဝတ္ထုကို ရခဲ၏၊ထိုထိုဝတ္ထုကို ဆိုတော်မူကုန်လော၊ ထိုထိုရခဲသော ဝတ္ထုကိုသာလျှင် အကျွန်ုပ်တို့သည် စီရင်ပါကုန်အံ့၊ ဤသို့ လျှောက်ကုန်၏၊ သာဂတမထေရ်သည် ဆိတ်ဆိတ်နေ၏၊ ဆဗ္ဗဂ္ဂီရဟန်းတို့သည်ကား ဒါယကာတို့ ရဟန်းတို့အား ခိုခြေအဆင်းနှင့်တူသော သုရာကိုလည်း ရခဲ၏၊နှစ်လည်း နှစ်သက်၏၊သင်ဒါယကာတို့သည် အရှင်သာဂတမထေရ်အား အကယ်၍ ကြည်ညိုကုန်အံ့၊ ခိုခြေအဆင်းနှင့်တူသော သုရာကို

စီရင်ကုန်လောဟု ဆို၏၊ ကောသမ္ဗီမြို့သူတို့သည် ကောင်းပြီဟု ဝန်ခံ၍ မြတ်စွာဘုရားကို နက်ဖြန်အလို့ငှါ ဆွမ်းဘိတ်ပြီးလျှင် မြို့သို့ဝင်၍ မိမိတို့၏အိမ်၌ မထေရ်အား လှူကုန်အံ့ဟု ခိုးခြေအဆင်းနှင့်တူသော ကြည်လှစွာသော သုရာကို စီရင်ပြီးလျှင် မထေရ်ကို ဘိတ်၍ အိမ်တိုင်း အိမ်တိုင်း ကြည်လှစွာသောသုရာကိုလှူကုန်၏၊ သာဂတမထေရ်လည်း သောက်၍ သုရာယစ်ခြင်းဖြင့် ယစ်၍ မြို့မှထွက်သည်ရှိသော် တံခါးကြား၌လည်း၍ ယောင်ယမ်းလျက် အိပ်၏၊ မြတ်စွာဘုရားသည် ပွဲအပ်ပြီးသော ဆွမ်းစားခြင်းကိစ္စ ရှိသည်ဖြစ်၍ မြို့မှ ထွက်တော်မူသည်ရှိသော် တံခါးကြား၌ ထိုထိုသောအခြင်းအရာဖြင့်သာလျှင် အိပ်သော သာဂတမထေရ်ကို မြင်တော်မူ၍ ရဟန်းတို့ သာဂတမထေရ်ကို ယူခဲ့ကုန်လောဟု ယူခဲ့စေ၍ ကျောင်းတော်သို့ သွားတော်မူ၏၊ရဟန်းတို့သည် သာဂတမထေရ်၏ ဦးခေါင်းကို မြတ်စွာဘုရား၏ ခြေတော်ရင်း၌ထား၍ အိပ်စေကုန်၏၊ ထိုသာဂတမထေရ်သည် လည်၍ ခြေတို့ကို မြတ်စွာဘုရားသို့ ရှေးရှုပြု၍ အိပ်၏။

မြတ်စွာဘုရားသည် ရဟန်းတို့ ရှေး၌ သာဂတ မထေရ်အား ငါဘုရား၌ အကြင် ရိုသေခြင်းသည် ရှိ၏၊ ထိုရိုသေခြင်းသည် ယခုအခါ ရှိသလောဟု မေးတော်မူ၏၊ အရှင်ဘုရား မရှိပါဟု လျှောက်၏၊ ရဟန်းတို့ အမ္ဗတိတ္ထ မည်သော နဂါးမင်းကို အဘယ်သူ ဆုံးမသနည်းဟုမေးတော်မူ၏၊ အရှင်ဘုရား သာဂတမထေရ် ဆုံးမ၏ဟု လျှောက်ကုန်၏၊ ယခုအခါ သာဂတမထေရ်သည် ရေမြွေမျှကိုလည်း ဆုံးမခြင်းငှါ စွမ်းနိုင်အံ့လောဟု မေးတော်မူ၏၊ အရှင်ဘုရား စွမ်းနိုင်ခြင်းသည်မရှိဟု လျှောက်ကုန်၏၊ ရဟန်းတို့ အကြင်သုရာကိုသောက်လျှင် ဤသညာကင်းခြင်းသည် ဖြစ်၏၊ ဤသို့ သဘောရှိသော သုရာကိုသောက်ခြင်း ငှါ သင့်မည်လောဟု မေးတော်မူ၏၊ အရှင်ဘုရား မသင့်ဟု လျှောက်ကုန်၏၊ ထိုအခါ မြတ်စွာဘုရားသည် သာဂတ မထေရ်အား ကဲ့ရဲ့တော်မူပြီးလျှင် ရဟန်းတို့ကို ခေါ်တော်မူ၍ သုရာ မေရယကို သောက်ခြင်းကြောင့် ပါစိတ် အာပတ်သင့်၏ဟု သိက္ခာပုဒ်ကို ပညတ်တော်မူပြီးလျှင် နေရာမှထ၍ ဂန္ဓကုဋီသို့ ဝင်တော်မူ၏၊ တရားသဘင်၌ စည်းဝေးကုန်သော ရဟန်းတို့သည် ငါ့သျှင်တို့ အကြင် သုရာ သောက်ခြင်းမည်သည် ပညာတန်ခိုးနှင့် ပြည့်စုံသော သာဂတ မထေရ်ကို စင်လျက် မြတ်စွာဘုရား၏ ကျေးဇူးတော်မျှကိုလည်း မသိနိုင်အောင်

ပြုသေး၏၊ ထိုသုရာ သောက်ခြင်းမည်သည်လျှင် အပြစ်ကြီး၏ဟု သုရာသောက်ခြင်း၏ ကျေးဇူးမဲ့ကို ပြောဆိုကုန်၏၊ မြတ်စွာဘုရားသည် လာတော်မူလတ်၍ ရဟန်းတို့ ယခုအခါ အဘယ်စကားဖြင့် စည်းဝေးကုန်သနည်းဟု မေးတော်မူ၏၊ ဤမည်သော စကားဖြင့် စည်းဝေးပါကုန်၏ဟု နားတော်လျှောက်သည်ရှိသော် ရဟန်းတို့ ယခုအခါ၌သာလျှင် သုရာကို သောက်၍ ရဟန်းတို့သည် သညာ ကင်းကုန်သည် မဟုတ်သေး၊ ရှေး၌လည်း ကင်းဘူးသည်သာလျှင်တည်းဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည်မင်းပြုသည်ရှိသော် ဘုရားလောင်းသည်ကာသိတိုင်း၌ဉဒိစ္စပုဏ္ဏားမျိုး၌ ဖြစ်၍ အရွယ်သို့ ရောက်သည်ရှိသော် ရသေ့ရဟန်းပြု၍ အဘိညာဉ်တို့ကိုငင်း, သမာပတ်တို့ကိုငင်း ဖြစ်စေ၍ ဈာန်ကစားခြင်းကို ကစားလျက် ဟိမဝန္တာမှာရပ်၌ ငါးရာကုန်သော တပည့်ရသေ့အပေါင်း ခြံရံလျက်နေ၏၊ ထိုအခါ ဘုရားလောင်းရသေ့ကို မိုဃ်းကာလရောက်သည်ရှိသော် တပည့်တို့သည် ဆရာအကျွန်ုပ်တို့သည် လူ့ပြည်သို့ သွား၍ ချဉ်ဆားမှီဝဲ၍ လာကြကုန်အံ့ဟု လျှောက်ကုန်၏၊ ငါသျှင်တို့ ငါသည် ဟိမဝန္တာ၌ နေအံ့၊ သင်တို့သည်ကား သွား၍ ကိုယ်ကိုရောင့်ရဲစေ၍ မိုဃ်းလလွန်စေ၍လာခဲ့ကုန်လောဟုဆို၏၊ ထိုတပည့်ငါးရာတို့သည် ကောင်းပြီဟု ဆရာကို ရှိခိုး၍ ဗာရာဏသီသို့ သွားရောက်၍ မင်း၏ ဉယျာဉ်၌သာလျှင် နေကုန်၍ နက်ဖြန်ခနေ့၌ မြို့တံခါး၏ အပဖြစ်သော ရွာ၌သာလျှင် ဆွမ်းခံဝင်ကုန်သည်ဖြစ်၍ နက်ဖြန်နေ့၌ မြို့သို့ဝင်ကုန်၏၊ လူတို့သည် ချစ်မြတ်နိုးကုန်သည်ဖြစ်၍ ဆွမ်းကို လှူဒါန်းကုန်၏၊ နှစ်ရက် သုံးရက်လွန်သဖြင့်လည်း မင်းအား အရှင်မင်းကြီး ဟိမဝန္တာမှ ပြင်းထန်သော အကျင့်ရှိကုန်သော မြတ်သော အောင်အပ်သော ဣန္ဒြေရှိကုန်သော သီလရှိကုန်သော ငါးရာကုန်သော ရသေ့တို့သည် လာလတ်ကုန်၍ ဉယျာဉ်တော်၌ နေကုန်၏ဟု ကြားလျှောက်ကုန်၏၊ မင်းသည် ထိုရသေ့တို့၏ ကျေးဇူးကိုကြား၍ ဉယျာဉ်သို့ သွားပြီးလျှင် ရှိခိုးလျက် ပြုအပ်သော နှုတ်ခွန်းဆက်ခြင်း ရှိသည်ဖြစ်၍ မိုဃ်းလေးလ ပတ်လုံး ထိုဉယျာဉ်၌သာ နေခြင်းကို ပြုစေ၍ ပင့်ဘိတ်ကုန်၏၊ ထိုရသေ့တို့သည် ထိုအခါမှစ၍ မင်းအိမ်၌သာလျှင် ဆွမ်းစား၍ ဉယျာဉ်၌ နေကုန်၏။



၅၅၀-ပ၊ သုရာပါနဇာတ်
သူရာသောက်ပွဲ၌ ရသေ့များ သူရာမူးယစ်နေကြပုံ

ထိုအခါ တနေ့သ၌ မြို့၌ သုရာသောက်သော ပွဲသဘင်မည်သည် ဖြစ်၏၊ မင်းသည် ရဟန်းတို့အား သုရာကို ရခဲ၏ဟု များစွာသော သုရာကို လှူစေ၏၊ ရသေ့တို့သည် သုရာကို သောက်ကုန်ပြီးလျှင် ဥယျာဉ်သို့ သွား၍ သုရာယစ်ခြင်းဖြင့် ယစ်ကုန်သည်ဖြစ်၍ အချို့ကုန်သော ရသေ့တို့သည် ထ၍ က,ကုန်၏၊ အချို့ကုန်သော ရသေ့တို့သည် သီချင်း သီ,ကုန်၏၊ က,ကုန် သီ,ကုန်၍ ခဲဘွယ် အစရှိသည်တို့ကို ဘိ၍ အိပ်ကုန်၏၊ သုရာယစ်ခြင်း ပြေသည်ရှိသော် နိုးလတ်ကုန်၍ မိမိတို့၏ ထိုဖောက်ပြန်သော အခြင်းအရာကို မြင်ကုန်၍ ငါတို့သည် ရဟန်းတို့အားမလျော်ကပ်သည်ကိုပြုကုန်၏ဟု မျက်ရည်ထွက်သဖြင့် ငိုကုန်၍ ဟစ်ကြွေးသဖြင့် ငိုကုန်၍ ဆရာနှင့် ကင်းသည်၏ အဖြစ်ကြောင့် ဤသို့ သဘောရှိသော မကောင်းမှုကို ပြုမိကုန်၏ဟု ထိုခဏ၌သာလျှင် မင်း၏ဥယျာဉ်ကို စွန့်၍ ဟိမဝန္တာသို့ သွား၍ ပရိက္ခရာကို သိုမှီးပြီးလျှင် ဆရာကို ရှိခိုး၍ နေကုန်၏၊ ဆရာသည် အမောင်တို့ လူ့ပြည်၌ ဆွမ်းဖြင့် မပင်ပန်းကုန်သည်ဖြစ်၍ ချမ်းသာစွာ နေရပါကုန်၏လော၊ညီညွတ်သဖြင့်နေရခြင်းကိုလည်း နေရပါကုန်၏လော ဟု မေး၏၊ ဆရာ ချမ်းသာစွာ နေရပါကုန်၏၊ ထိုသို့ ချမ်းသာစွာ နေရကုန်သော်လည်း မသောက်အပ်သော သုရာကို သောက်မိသောကြောင့် သညာကင်းကုန်သည်ဖြစ်၍ သတိ ဖြစ်စိမ့်သောငှါ မတတ်နိုင်သည် ဖြစ်၍ သီ,လည်း သီခဲ့ကုန်ပြီ၊ က,လည်း က,ခဲ့ကုန်ပြီဟု ထိုအကြောင်းကို ကြားလျှောက်လိုရကား—

၈၁၊ အပါယိမှ အနစ္စိမှ၊ အဂါယိမှ ရုဒိမှ စ။
ဝိသညီကရဏိံ ပိတွာ၊ ဒိဋ္ဌာ နာဟုမှ ဝါနရာ။

ဟူသော ဤဂါထာကို ဖြစ်စေ၍ ကြားလျှောက်ကုန်၏။

အာစရိယ၊ဆရာ။ အပါယိမှ စ၊သောက်လည်း သောက်ကုန်ပြီ။ အနစ္စိမှ စ၊ က,လည်း က,ကုန်ပြီ။ အဂါယိမှ စ၊ သီ,လည်း သီ, ကုန်ပြီ။ ရုဒိမှ စ၊ ငိုလည်း ငိုကုန်ပြီ။ ဝိသညီကရဏိံ၊ သညာကင်းခြင်းကို ပြုတတ်သော သေကို။ ပိတွာ၊ သောက်ကုန်၍။ ဒိဋ္ဌာ၊ မျက်မှောက် ထင်ထင် မြင်အပ်ကုန်သော။ ဝါနရာ၊ မျောက်တို့သည်။ ယံ နာဟုမှ၊ အကြင် မဖြစ်ကုန်။ ဧတဒေဝ၊ ထိုမျက်မှောက် မျောက် မဖြစ်ခြင်းသည်သာလျှင်။ သာဓု၊ ကောင်းလှပါ၏ဘုရား။

ဘုရားလောင်းသည် ဆရာတို့နှင့် အတူတကွ နေရခြင်းမှ ကင်းခြင်း မည်သည်ကား ဤသို့သဘောရှိသည် သာလျှင်တည်းဟု ထိုရသေ့တို့ကို ကဲ့ရဲ့၏၊ တဖန် ဤသို့သဘောရှိသော မကောင်းမှုတို့ကို မပြုကြလင့်ဟု ထိုရသေ့တို့အား အဆုံးအမကိုပေး၍ မယုတ်သော ဈာန်ရှိသည်ဖြစ်၍ ဗြဟ္မာ့ပြည်သို့ လား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ဇာတ်ကို ပေါင်းတော်မူ၏။

> ထိုစကားသည် သင့်၏၊ ဤဇာတ်မှစ၍ အနုသန္ဓေကိုစပ်၍ ဟူသော ဤစကားမျှကိုလည်း မဆိုကုန်တော့အံ့။

အဘယ်သို့ ဇာတ်ကို ပေါင်းသနည်းဟူမူကား ယခုအခါ ငါဘုရား ဖရိသတ် တို့သည် ထိုအခါ၌ တပည့်ရသေ့အပေါင်း ဖြစ်ဘူးကုန်ပြီ၊ ယခုအခါ ငါဘုရား သည်လျှင် ထိုအခါ ရသေ့အပေါင်းတို့၏ ဆရာ ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[အရက်သေစာ၊ သောက်သူမှာ၊ သညာကင်းတိ ရှက်မရှိ]

ရှေးဦးစွာသော သုရာပါနဇာတ်သည် ပြီး၏။

---

## ၈၂—မိတ္တဝိန္ဒကဇာတ်

### ဆရာဆုံးမသည်ကို မနာယူသော မိတ္တဝိန္ဒက အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညုမြတ်စွာဘုရားသည် "အတိက္ကမ္မ ရမဏက" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာ ဆင်အပ်သော ဤ မိတ္တဝိန္ဒက ဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "တယောက်သော ဆိုနိုင် ခက်သော ရဟန်း" ကို အကြောင်းပြု၍ ဟောတော်မူ၏။

> ဤ မိတ္တဝိန္ဒက ဝတ္ထုသည် ကဿပ မြတ်စွာဘုရား၏ လက်ထက် တော်၌ ဖြစ်၏၊ ထိုဝတ္ထုသည် ဒသကနိပါတ် မဟာမိတ္တဝိန္ဒက ဇာတ်၌ ထင်စွာ ဖြစ်လတ္တံ့။

**အတိတ်ဝတ္ထု**....ထိုအခါ၌ကား ဘုရားလောင်းသည်—

၈၂။ အတိက္ကမ္မ ရမဏကံ၊ သဒါမတ္တဉ္စ ဒူဘကံ။
သွာသိ ပါသာဏမာသီနော၊ ယသ္မာ ဇီဝံ န မောက္ခသိ။

ဟူသော ဤဂါထာကို ဆို၏။

မိတ္တဝိန္ဒက၊ မိတ္တဝိန္ဒကာ။ သော တွံ၊ ထိုသင်သည်။ ရမဏကဉ္စ၊ ဖလ်ပြာသာဒ်ကိုရင်း။ သဒါမတ္တဉ္စ၊ ငွေပြာသာဒ်ကိုရင်း။ ဒူဘကဉ္စ၊ ပတ္တမြားပြာသာဒ်ကိုရင်း။ အတိက္ကမ္မ၊ လွန်ခဲ့၍။ ပါသာဏမာသီနော၊ သင်ဓုန်းစက်သို့ ရောက်၍တည်သည်။ အသိ၊ ဖြစ်၏။ ယသ္မာ၊ အကြင်ကြောင့်။ ယာဝ၊ အကြင်မျှလောက်။ တေ၊ သင်၏။ ပါပံ၊ မကောင်းမှုသည်။ န ခီယတိ၊ မကုန်သေး။ တာဝ၊ ထိုမျှလောက်။ ဇီဝံ၊ အသက်ရှင်လျက်။ ခုရစက္ကာ၊ သင်ဓုန်းစက်မှ။ န မောက္ခသိ၊ မလွတ်ရလတ္တံ့။

ဘုရားလောင်းသည် ဤဂါထာကို ဆို၍ မိမိနေရာ နတ်ရွာအရပ်သို့သာလျှင် သွား၏၊ မိတ္တဝိန္ဒကသည်လည်း သင်ဓုန်းစက်ကို ရွက်၍ ကြီးစွာသော ဆင်းရဲကို ခံလျက် မကောင်းမှု ကုန်သည်ရှိသော် ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ ဆိုနိုင်ခက်သော ရဟန်းသည် ထိုအခါ မိတ္တဝိန္ဒက ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ နတ်မင်း ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[ဆုံးမသည်ဘက်၊ မလိုက်ချက်၊ သေပျက်ရေ့ရဲမှာ]

နှစ်ခုတိုက်၏ပြည့်ကြောင်းဖြစ်သော မိတ္တဝိန္ဒကဇာတ်သည် ပြီး၏။

---

## ၈၃—ကာဠကဏ္ဏိဇာတ်

### ကောင်းသော အဆွေခင်ပွန်းရှိ၍ စည်းစိမ်ဥစ္စာ မပျက်စီးနိုင်သော အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော ထဗ္ဗည်ုမြတ်စွာဘုရားသည် "မိတ္တော ဟဝေ သတ္တပဒေန ဟောတိ" အစရှိသော

ဂါထာပုဒ်ဖြင့် တန်ဆာ ဆင်အပ်သော ဤကာဠကဏ္ဏိ ဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "အနာထပိဏ်သူဌေး၏ တယောက်သော အဆွေခင်ပွန်း"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုအဆွေခင်ပွန်းသည် အနာထပိဏ်သူဌေးနှင့် အတူတကွ မြေမှုန့်ကစားဘက် ဖြစ်၏၊ တယောက်သော ဆရာ၏အထံ၌ အတတ်သင်ဘက် ဖြစ်၏၊ အမည်အားဖြင့် ကာဠကဏ္ဏိမည်သတတ်၊ ထိုကာဠကဏ္ဏိသည် ရှည်မြင့်သော ကာလသို့ ရောက်လတ်သော် ဆင်းရဲသည်ဖြစ်၍ အသက်မွေးအံ့သောငှါ မတတ်နိုင်ရကား အနာထပိဏ်သူဌေး၏အထံသို့ လာ၏၊ ထို အနာထပိဏ်သူဌေးသည် ကာဠကဏ္ဏိကို နှစ်သိမ့်စေ၍ ရိက္ခာပေး၍ မိမိဥစ္စာကို စောင့်စေ၏၊ ထိုကာဠကဏ္ဏိသည် အနာထပိဏ်သူဌေးအား ကျေးဇူးပြုသည်ဖြစ်၍ အလုံးစုံသော ကိစ္စတို့ကိုပြု၏၊ထိုကာဠကဏ္ဏိကို အနာထပိဏ် သူဌေး၏အထံသို့ လာသောကာလ၌ ကာဠကဏ္ဏိ ရပ်လော၊ ကာဠကဏ္ဏိ ထိုင်လော၊ ကာဠကဏ္ဏိ စားလောဟု ဆိုကုန်၏။

ထိုအခါ တနေ့သ၌ အနာထပိဏ်သူဌေး၏ အဆွေခင်ပွန်းတို့သည် သူဌေးသို့ ကပ်ကုန်၍ သူဌေးကြီး ဤသူယုတ်ကို သင်၏အထံ၌ မနေစေလင့်၊ ကာဠကဏ္ဏိ ရပ်လော၊ ကာဠကဏ္ဏိ ထိုင်လော၊ ကာဠကဏ္ဏိ စားလော ဤသို့သော အသံကြောင့် ဘီလူးပင်သော်လည်း ပြေးရာ၏၊ ဤကာဠကဏ္ဏိသည် သင်နှင့်မတူ ဆင်းရဲ၏၊ မကောင်းခြင်းနှင့် ပြည့်စုံ၏၊ သင့်အား ဤကာဠကဏ္ဏိဖြင့် အဘယ်အကျိုးရှိအံ့နည်း၊ ဤသို့ ဆိုကုန်၏၊ အနာထပိဏ် သူဌေးသည် အမည်မှည့်သည်ကား ခေါ်ဝေါ်ရုံမျှသာတည်း၊ ထိုအမည်ကို ပညာရှိတို့သည် ပမာဏမပြုကုန်၊ သုတမင်္ဂလာကို အလိုရှိသောသူ မည်သည် မဖြစ်သင့်၊ ငါသည် အမည်မျှကိုမှီ၍ မြေမှုန့်ကစားဘက်ဖြစ်သော အဆွေခင်ပွန်းကို စွန့်ခြင်းငှါ မတတ်နိုင်ဟု ထိုအဆွေခင်ပွန်းတို့ စကားကို မယူမူ၍ တနေ့သ၌ မိမိစားသောရွာသို့ သွားသည်ရှိသော် ထိုကာဠကဏ္ဏိကို အိမ်၌ စောင့်စေ၍ သွား၏၊ ခိုးသူတို့သည် အနာထပိဏ် သူဌေးသည် မိမိစားသောရွာသို့ သွားသတတ်၊ ထိုသူဌေးကို လုယက်ကုန်အံ့ဟု အထူးထူးသော လက်နက်စွဲကုန်လျက် ညဉ့်အဘို့၌ လာ၍ အိမ်ကို ဝန်းရံကုန်၏။

ကာဠကဏ္ဍိသည်လည်း ခိုးသူတို့၏ လာခြင်းကို ရှုရှာသည်ဖြစ်၍ မအိပ်ဘဲ သာလျှင် နေ၏၊ ထိုကာဠကဏ္ဍိသည် ခိုးသူတို့၏လာသောအဖြစ်ကိုသိ၍ လူတို့ကို နှိုးစိမ့်သောငှါ သင်သည် ခရုသင်း မှုတ်လော၊ သင်သည် မုရိုးစည် တီးလောဟု ကြီးစွာသော သအင်ကို ပြုသကဲ့သို့ အလုံးစုံသော အိမ်ကို တစပ်တည်းသော အသံကို ပြုစေ၏၊ထိုခိုးသူတို့သည် အိမ်ဆိတ်ညံ၏ဟု ငါတို့သည် မကောင်းသဖြင့် ကြားအပ်၏၊ ဤအိမ်၌သာလျှင် သူဌေးကြီးရှိ၏ဟု ကျောက် ဆောက်ပုတ် အစ ရှိသည်တို့ကို ထိုအရပ်၌သာလျှင် စွန့်၍ ပြေးကုန်၏၊ နက်ဖြန်နေ့၌ လူတို့သည် ထိုထိုအရပ်၌ စွန့်အပ်သော ကျောက် ဆောက်ပုတ် အစရှိသည်တို့ကို မြင်၍ ထိတ်လန့်ခြင်းသို့ ရောက်သည်ဖြစ်၍ ယနေ့ ဤသို့သဘောရှိသောသတိပညာနှင့် ပြည့်စုံသော အိမ်၌ စီရင်တတ်သောသူသည် အိမ်၌ မရှိငြားအံ့၊ ခိုးသူတို့သည် အလိုရှိတိုင်း ဝင်၍ အလုံးစုံသောအိမ်ကို လုယက်သည် ဖြစ်ရာ၏၊ ဤမြဲမြံသော အဆွေခင်ပွန်းကိုမှီ၍ သူဌေးကြီးသည် အစီးအပွား ဖြစ်၏ဟု ထိုကာဠကဏ္ဍိကို ချီးမွမ်း၍ သူဌေးကြီးအား စားသော၍ာမှ လာသောကာလ၌ အလုံးစုံသော ထိုအကြောင်းကို ကြားကုန်၏။

ထိုအခါ ထိုအဆွေ အမျိုးတို့ကို သူဌေးကြီးသည် သင်တို့သည် ဤသို့ သဘောရှိသော ငါ၏အိမ်စောင့် အဆွေခင်ပွန်းကို နှင်ထုတ်စေကုန်၏၊ သင်တို့၏ စကားဖြင့် ငါသည် ဤ အဆွေခင်ပွန်းကို နှင်ထုတ်စေအပ်သည် အကယ်၍ ဖြစ်ငြားအံ့၊ ယနေ့ ငါ့အား တစုံတခုသော ဥစ္စာသည် မဖြစ်ရာ၊ အမည်သည် ကား ပမာဏမဟုတ်၊ အစီးအပွားကို အလိုရှိသော စိတ်သည်သာလျှင် ပမာဏ တည်းဟု ဆို၏၊ ဤသို့ ဆိုပြီး၍ ထိုကာဠကဏ္ဍိအား အတိုင်းထက်အလွန် ရိက္ခာ ပေးပြီးလျှင် ယခုအခါ ငါ့အား ဤစကားလက်ဆောင်သည် ရှိ၏ဟု မြတ်စွာ ဘုရားအထံတော်သို့ သွား၍ အစမှစ၍ ထိုအကြောင်းကို ကြားလျှောက်၏၊ မြတ် စွာဘုရားသည် သူကြွယ် ယခုအခါ၌သာလျှင် ကာဠကဏ္ဍိ အဆွေခင်ပွန်းသည် မိမိ၏ အဆွေခင်ပွန်းအိမ်၌ ဥစ္စာကို စောင့်ရှောက်သည်မဟုတ်သေး၊ ရှေး၌လည်း စောင့်ရှောက်ဘူးသည်သာလျှင်တည်းဟု မိန့်တော်မူ၍ ထိုအနာထပိဏ်သူဌေး သည် တောင်းပန်အပ်သည်ဖြစ်၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သော မင်းသည် မင်းပြုသည် ရှိသော် ဘုရားလောင်းသည် များသော စည်းစိမ်ရှိသော သူဌေးသည် ဖြစ်၏၊ထိုဘုရားလောင်း၏ အဆွေခင်ပွန်းသည် ကာဠကဏ္ဏိမည်၏၊ ဤသို့သဘောရှိသော အလုံးစုံသော စကားသည် ပစ္စုပ္ပန်ဝတ္ထုနှင့် တူသလျှင်ကတည်း၊ ဘုရားလောင်းသည် မိမိစားသောရွာမှ လာသည်ရှိသော် ထိုအကြောင်းကိုကြား၍ ငါသည် သင်တို့၏စကားဖြင့် ဤသို့ သဘောရှိသော အဆွေခင်ပွန်းကို နှင်ထုတ်အပ်သည် အကယ်၍ ဖြစ်ငြားအံ့၊ ယနေ့ ငါ့အား တစုံတခုသော ဥစ္စာသည် မဖြစ်ရာဟု ဆိုလို၍—

၈၃၊ မိတ္တော ဟဝေ သတ္တပဒေန ဟောတိ၊
သဟာယော ပန ဒွါဒသကေန ဟောတိ။
မာသဍ္ဍမာသေန စ ဉာတိ ဟောတိ၊
တတုတ္တရိံ အတ္တသမောပိ ဟောတိ။
သောဟံ ကထံ အတ္တသုခဿ ဟေတု၊
စိရသန္ထုတံ [၁] ကာဠကဏ္ဏိံ ဇဟေယျံ။

ဟူသော ဤဂါထာကို ဆို၏။

သတ္တပဒေန၊ အတူတကွ ခုနစ်ဘဝါးလှမ်း၍ သွားဘူးသဖြင့်။ ဟဝေ၊စင်စစ်။ မိတ္တော၊ အဆွေခင်ပွန်းသည်။ ဟောတိ၊ဖြစ်၏။ ဒွါဒသကေန၊အတူတကွတဆယ့်နှစ်ဘဝါးလှမ်း၍ သွားဘူးသဖြင့်။ သဟာယော၊ အပေါင်းအဖော်သည်။ ဟောတိ၊ ဖြစ်၏။ မာသဍ္ဍမာသေန စ၊ တလ,လခွဲ အတူတကွ ပေါင်းဘက် နေဘူးသဖြင့်လည်း။ ဉာတိ၊ ဆွေမျိုးနှင့်တူသည်။ ဟောတိ၊ ဖြစ်၏။ တတုတ္တရိံ၊ ထို့ထက်အလွန် ပေါင်းဘက် နေဘူးမှုကား။ အတ္တသမောပိ၊ ကိုယ်နှင့်တူသည်လည်း။ ဟောတိ၊ဖြစ်၏။ သော အဟံ၊ထိုငါသည်။ အတ္တသုခဿ၊မိမိစီးပွားချမ်းသာ၏။ ဟေတု၊အကြောင်းကြောင့်။ စိရသန္ထုတံ၊ ရှည်မြင့်စွာ ပေါင်းဘက်ဘူးသော။ ကာဠကဏ္ဏိံ၊ ကာဠကဏ္ဏိကို။ ကထံ ဇဟေယျံ၊ အသို့စွန့်ရအံ့နည်း။

ထိုအခါမှစ၍ တဖန် တစုံတယောက်သော သူသည် သူဌေး၏ အတွင်း၌ ဆိုဝံ့သောသူမည်သည် မရှိ။

---

၁၊ စိရသန္ထဝံ (က)၊ စိရသန္ထုနံ (ဇ)

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ အာနန္ဒာသည် ထိုအခါ ကာဠကဏ္ဏိ ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်သာလျှင် ထိုအခါ ဗာရာဏသီ သူဌေး ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[စကားဖောင်ဖောင်၊ နားမယောင်၊ တွဲနှောင်မပစ် ခင်ပွန်းချစ်]

သုံးခုတို့၏ပြည့်ကြောင်းဖြစ်သော ကာဠကဏ္ဏိဇာတ်သည် ပြီး၏။

---

## ၈၄—အတ္ထဿဒွါရဇာတ်

### အကျိုးစီးပွားနှင့် စပ်သော ပြဿနာအကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**...နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "အာရောဂျ မိစ္ဆေ ပရမဥ္စ လာဘံ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤ အတ္ထဿ ဒွါရဇာတ်ကို ဇေတဝန် ကျောင်းတော်၌ သီတင်းသုံးနေတော်မူစဉ် "တယောက်သော အကျိုးစီးပွား၌ လိမ်မာသော အမျိုးသား" ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုစကားကို ချဲ့ဦးအံ့၊ သာဝတ္ထိပြည်၌ တယောက်သော များသော စည်းစိမ်ရှိသော သူဌေး၏ သားသည် ဖွားသည်မှ ခုနစ်နှစ်ကာလကပင် ပညာရှိ၏၊ အကျိုးစီးပွား၌ လိမ်မာ၏၊ ထိုသူဌေးသားသည် တနေ့သ၌ အဘသို့ကပ်၍ အကျိုးစီးပွား၏ အကြောင်းဖြစ်သော ပြဿနာမည်သည်ကို မေး၏၊ ထိုသူဌေးသည် ပြဿနာကို မသိ၊ ထိုသူဌေးအား ဤပြဿနာသည် အလွန်သိမ်မွေ့၏၊ သဗ္ဗညုမြတ်စွာဘုရားကိုထား၍ တပါးသော အထက် ဘဝဂ် အောက် အဝီစိဖြင့် ပိုင်းခြားအပ်သော သတ္တဝါအပေါင်း၌ ထိုပြဿနာကို ဖြေခြင်းငှါ စွမ်းနိုင်သော သူမည်သည် မရှိ၊ ဤသို့သော အကြံသည် ဖြစ်၏။

ထိုသူဌေးသည် သားကိုယူ၍ များစွာသော ပန်း နံ့သာ နံ့သာပျောင်းတို့ကို ယူစေပြီးလျှင် ဇေတဝန်ကျောင်းတော်သို့သွား၍ မြတ်စွာဘုရားကို ပူဇော်ရှိခိုး၍ တင့်အပ်လျောက်ပတ်သော အရပ်၌မနေလျက် မြတ်စွာဘုရားကို အရှင်ဘုရား ဤသူငယ်သည် ပညာရှိ၏၊ အကျိုးစီးပွား၌လိမ်မာ၏၊အကျွန်ုပ်ကို အကျိုးစီးပွား

၏ အကြောင်းဖြစ်သော ပြဿနာကို မေး၏၊ အကျွန်ုပ်သည် ထိုပြဿနာကို မသိသည်ဖြစ်၍ အရှင်ဘုရားတို့၏ အထံတော်သို့ လာ၏၊ အရှင်ဘုရား တောင်းပန်ပါ၏၊ ဘုန်းတော်ကြီးသော အရှင်ဘုရားသည် ထိုပြဿနာကို အကျွန်ုပ်အား ဟောတော်မူပါလော"ဟု လျှောက်၏၊ မြတ်စွာဘုရားသည် ဒါယကာ ရှေး၌ ငါ့ကို ဤသူငယ်သည် ထိုပြဿနာကို မေးအပ်ပြီ၊ ငါသည်လည်း ထိုသူငယ်ကို ပြောအပ်ပြီ၊ ထိုအခါ ထိုပြဿနာကို ဤသူငယ်သည် သိ၏၊ ယခု အခါ၌ကား ဘဝဖုံးလွှမ်းအပ်သည်၏ အဖြစ်ကြောင့် မမှတ်နိုင်ဟုမိန့်တော်မူ၍ ထိုသူဌေးသည် တောင်းပန်အပ်သည်ဖြစ်၍ အတိတ်ကို ဆောင်တော်မူ၏။

အတိတ်ဝတ္ထု...လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် များစွာသော စည်းစိမ်ရှိသော သူဌေးသည် ဖြစ်၏၊ ထိုအခါ သူဌေး၏သားသည် ဖွားသည်မှ ခုနစ်နှစ်ကာလကပင်ပညာရှိ၏၊အကျိုးစီးပွား၌လိမ်မာ၏၊ထိုသူဌေးသားသည် တနေ့သ၌ အဘသို့ကပ်၍ ဘခင် အကျိုးစီးပွား၏အကြောင်းသည် အဘယ်နည်းဟု အကျိုးစီးပွား၏ အကြောင်းဖြစ်သော ပြဿနာကို မေး၏၊ ထိုအခါ သားအား အဘသည် ထိုပြဿနာကို ဖြေလိုရကား—

၈၄၊ အာရောဂျမိစ္ဆေ ပရမဉ္စ လာဘံ၊ သီလဉ္စ ဝုဒ္ဓါနုမတံ သုတဉ္စ။
ဓမ္မာနုဝတ္တီ စ အလီနတာ စ၊ အတ္ထဿ ဒွါရာ ပမုခါ ဆဠေတေ။

ဟူသော ဤဂါထာကို ဆို၏။

တာတ၊ အမောင်။ အရောဂျံ၊ အနာမရှိသည်ဟု ဆိုအပ်သော။ ပရမံ၊ မြတ်သော။ လာဘံ၊ လာဘ်ကို။ ဣစ္ဆေ၊ အလိုရှိရာ၏။ သီလဉ္စ၊ အကျင့်သီလကိုလည်း။ ဣစ္ဆေ၊ အလိုရှိရာ၏။ ဝုဒ္ဓါနုမတဉ္စ၊ ပညာရှိတို့၏ ဩဝါဒကိုလည်း။ ဣစ္ဆေ၊ အလိုရှိရာ၏။ သုတဉ္စ၊ အကြားအမြင်ကိုလည်း။ ဣစ္ဆေ၊ အလိုရှိရာ၏။ ဓမ္မာနုဝတ္တီ စ၊ သုစရိုက်တရားသုံးပါးကို အစဉ်ကျင့်ခြင်းကိုလည်း။ ဣစ္ဆေ၊ အလိုရှိရာ၏။ အလီနတာ စ၊ မပျင်းမရိသည်၏ အဖြစ်ကိုလည်း။ ဣစ္ဆေ၊အလိုရှိရာ၏။ ဧတေ ဆ၊ ဤခြောက်ပါးသော တရားတို့သည်။ အတ္ထဿ၊ အကျိုးစီးပွား၏။ ပမုခါ၊ မြတ်ကုန်သော။ ဒွါရာ၊ အကြောင်းတို့တည်း။

ဤသို့လျှင် ဘုရားလောင်းသည် သားအား အကျိုးစီး ၊း၏ အကြောင်း ဖြစ်သော ပြဿနာကို ဖြေ၏၊ ထိုသူဌေးသားသည် ထိုအခါ၊ ၁၍ ထိုခြောက်ပါး ကုန်သော တရားတို့၌ ကျင့်၏၊ ဘုရားလောင်းသည်လည်း ဒါန အစရှိသော ကောင်းမှုတို့ကိုပြု၍ ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ သူဌေးသားသည် ထိုအခါ သူဌေးသား ဖြစ်ဘူးပြီ၊ ယခုအခါ ငါ ဘုရားသည်လျှင် ထိုအခါ ဗာရာဏသီ သူဌေး ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[သီလ,သုတ၊ အာစရေဂုဏ်နှင့်၊ ဓမ္မာနုသွား၊ မပျင်းငြား၊ စီးပွားဖြစ်ကြောင်းသာ]

ထေးခုတို့၏ ပြည့်ကြောင်းဖြစ်သော အတ္ထဿဒွါရဇာတ်သည် ပြီး၏။

---

## ၈၅–ကိံပက္ကဇာတ်

### ကာမဂုဏ်တို့၏ အဆိပ်သီးနှင့်တူသော အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညုမြတ်စွာဘုရားသည် "အာယတိံ ဒေါသံ နာညာယ" အစရှိသော ဂါထာ ပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤ ကိံပက္ကဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "တယောက်သော သာသနာတော်၌ ငြီးငွေ့သော ရဟန်း"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ တယောက်သော အမျိုးသား သည် မြတ်စွာဘုရား သာသနာတော်၌ အသက်ကိုစွန့်၍ ရဟန်းပြု၍ တနေ့သ၌ သာဝတ္ထိမြို့သို့ ဆွမ်းခံသွားသည်ရှိသော် တယောက်သော တန်ဆာဆင်သော မိန်းမကိုမြင်၍ ငြီးငွေ့၏၊ ထိုအခါ ထိုရဟန်းကို ဆရာဥပဇ္ဈာယ်တို့သည် မြတ်စွာ ဘုရားအထံသို့ ဆောင်သတတ်၊ မြတ်စွာဘုရားသည် ရဟန်း သင်သည် သာသနာ တော်၌ ငြီးငွေ့သတတ်ဟူသည် မှန်သလောဟု မေးတော်မူ၏၊ အရှင်ဘုရား ငြီးငွေ့သည် မှန်ပေ၏ဟု နားတော် လျှောက်သည်ရှိသော် ရဟန်း ငါးပါး သော ကာမဂုဏ်တို့ မည်သည်ကား ခံစားသောကာလ၌ မွေ့လျော်ခြင်း ကို ဖြစ်စေတတ်ကုန်သော်လည်း ထိုငါးပါးသော ကာမဂုဏ်တို့ကို ခံစားခြင်း

သည် ငရဲအစရှိသည်တို့၌ ပဋိသန္ဓေကို ပေးတတ်၏၊ အဆိပ်သီးကို စားသည်နှင့် သာလျှင် တူသည်ဖြစ်၏၊ စားအပ်သော အဆင်းအနံ့ အရသာနှင့် ပြည့်စုံသော အဆိပ်သီးမည်သည်ကား အအူတို့ကိုဖြတ်၍ အသက်ကုန်ခြင်းသို့ ရောက်စေတတ် ၏၊ ရှေး၌ များစွာသော သူမိုက်တို့သည် အဆိပ်သီး၏အဖြစ်ကို မမြင်၍ အဆင်း အနံ့အရသာတို့၌ တပ်စွန်း၍ ထိုအဆိပ်သီးကိုစား၍ အသက်ကုန်ခြင်းသို့ ရောက် ဘူးကုန်ပြီဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည် သောမင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် လှည်းကုန်သည်မှူးဖြစ် ၍ ငါးရာကုန်သော လှည်းတို့ဖြင့် အရှေ့အရပ်မှ အနောက်အရပ်သို့ သွားသည် ရှိသော် တောအုပ်ဝသို့ရောက်၍ လူတို့ကို စည်းဝေးစေပြီးလျှင် ဤတောအုပ်၌ အဆိပ်ပင်တို့မည်သည် ရှိကုန်၏၊ ငါ့ကို မပန်မူ၍ ရှေး၌ မစားဘူးသော သစ်သီး ကြီးငယ်တို့ကို မစားကုန်လင့်ဟု ဆုံးမ၏၊ လူတို့သည် တောအုပ်ကိုလွန်၍ တောအုပ်ဝ၌ အသီးကို ဆောင်ခြင်းကြောင့် ညွတ်သော အကိုင်းအခက်ရှိသော တခုသော အဆိပ်ပင်ကို မြင်ကုန်၏၊ ထိုအဆိပ်ပင်၏ ပင်စည် အခက် အရွက် အသီးတို့သည် သဏ္ဌာန်အဆင်း အနံ့အရသာတို့ဖြင့် သရက်သီးနှင့် တူကုန်သလျှင် ကတည်း၊ ထိုကုန်သည် အပေါင်းတို့တွင် အချို့ကုန်သောသူတို့သည် အဆင်း အနံ့ အရသာတို့၌ တပ်စွန်း၍ သရက်သီးဟူသော အမှတ်ဖြင့် အဆိပ်သီးကို စား ကုန်၏၊ အချို့ကုန်သော သူတို့သည် လှည်းကုန်သည်မှူးကို မေး၍ စားကုန်အံ့ဟု ယူ၍ တည်ကုန်၏။

ဘုရားလောင်းသည် ထိုအရပ်သို့ရောက်၍ အဆိပ်သီးကိုကိုင်၍ တည်ကုန် သော သူတို့ကို အဆိပ်သီးတို့ကိုစွန့်စေ၍ အကြင်သူတို့သည် စားကုန်လျက် တည် ကုန်၏၊ ထိုသူတို့ကို အန်စေ၍ ထိုသူတို့အား ဆေးကိုပေး၏၊ ထိုသူတို့တွင် အချို့ ကုန်သော သူတို့သည် ရောဂါမရှိသည် ဖြစ်ကုန်၏၊အကြင်သူတို့သည် ရှေးဦးစွာ စား၍ တည်ကုန်၏၊ ထိုသူတို့သည် အသက်ကုန်ခြင်းသို့ ရောက်ကုန်၏၊ ဘုရား လောင်းသည် အလိုရှိရာအရပ်သို့ သွား၍ လာဘ်ကိုရလျှင် တဖန် မိမိနေရာအရပ် သို့ လာလတ်၍ ဒါနအစရှိသော ကောင်းမှုတို့ကိုပြု၍ ကံအားလျော်စွာ လား၏၊ မြတ်စွာဘုရားသည် ထိုဝတ္ထုကို ဟောတော်မူ၍ ဘုရားဖြစ်တော်မူ၍—

၇၅။ အာယတိံ ဒေါသံ နာညာယ၊ ယော ကာမေ ပဋိသေဝတိ။
ဝိပါကန္တေ ဟနန္တိ နံ၊ ကိံပက္ကမိဝ ဘက္ခိတံ။

ဟူသော ဤဂါထာကို ဟောတော်မူ၏။

ယော၊ အကြင်သူသည်။ အာယတိံ၊ နောင်အခါ၌။ ဒေါသံ၊ အပြစ်ကို။ နာညာယ၊ မသိဘဲလျက်။ ကာမေ၊ ငါးပါးသောကာမဂုဏ်တို့ကို။ ပဋိသေဝတိ၊ မှီဝဲ၏။ ဘက္ခိတံ၊ စားအပ်သော။ ကိံ ပက္ကမိဝ၊ အဆိပ်သီးကဲ့သို့။ နံ၊ ထိုသူကို။ တေ၊ ထိုငါးပါးကုန်သော ကာမဂုဏ်တို့သည်။ ဝိပါကန္တေ၊ အကျိုးဖြစ်သော ကာလဟူသော အဆုံး၌။ ဟနန္တိ၊ သတ်တတ်ကုန်၏။

မြတ်စွာဘုရားသည် ဤဒေသနာတော်ကို အနုသန္ဓေအားလျော်စွာ စပ်၍ သစ္စာတို့ကို ပြတော်မူ၏၊ သစ္စာတို့ကို ပြတော်မူသည်၏ အဆုံး၌ ငြီးငွေ့သော ရဟန်းသည် သောတာပတ္တိဖိုလ်သို့ရောက်၏၊ ကြွင်းသော ပရိသတ်တို့သည်လည်း အချို့သော ရဟန်းတို့သည် သကဒါဂါမ် ဖြစ်ကုန်၏၊ အချို့သော ရဟန်းတို့သည် အနာဂါမ် ဖြစ်ကုန်၏၊ အချို့သောရဟန်းတို့သည် ရဟန္တာဖြစ်ကုန်၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ ငါဘုရား ပရိသတ်တို့သည် ထိုအခါ လှည်းကုန်သည်မှူး ပရိသတ်တို့သည် ဖြစ်ဘူးကုန်ပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ လှည်းကုန်သည်မှူး ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[ကာမဂုဏ်မည်ဟီ၊ အဆိပ်သီး၊ ပုံမှီး ဥပမာ]

ငါးခုတို့၏ ပြည့်ကြောင်းဖြစ်သော ကိံပက္ကဇာတ်သည် ပြီး၏။

---

## ဂ၆—သီလဝိမံသကဇာတ်

### မိမိသီလကို မိမိစုံစမ်းသည့် အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "သီလံ ကိရေဝ ကလျာဏံ" အစရှိသော ဂါထာ ပုဒ်ဖြင့် တန်ဆာ ဆင်အပ်သော ဤ သီလဝိမံသက ဇာတ်ကို ဇေတဝန်

ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "သီလကို စုံစမ်းတတ်သော တယောက်သော ပုဏ္ဏား"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုပုဏ္ဏားသည် ကောသလမင်းကိုအမှီပြု၍ အသက်မွေးသတတ်၊ ရတနာသုံးပါးတို့ကို ကိုးကွယ်၏၊ မကျိုးမပျက်သော သီလရှိ၏၊ ဗေဒင် သုံးပုံတို့၏ ကမ်းတဘက်သို့ရောက်၏၊ မင်းကြီးသည် ပုဏ္ဏားသည်ကား သီလရှိ၏ဟု ပုဏ္ဏားအား အတိုင်းထက်အလွန် မြတ်နိုးခြင်းကို ပြု၏၊ ထိုပုဏ္ဏားသည် ဤမင်းကြီးသည် ငါ့အား တပါးသော ပုဏ္ဏားတို့ထက် အလွန်လျှင် မြတ်နိုးခြင်းကိုပြု၏ အလွန်လျှင် အလေးအမြတ်ပြု၍ ရှု၏၊ ဤမင်းသည် ငါ၏ အမျိုးစဉ်ဆက် အတတ်ပညာ၏ ပြည့်စုံခြင်းကို မှီ၍ ဤမြတ်နိုးခြင်းကို ပြုသလော၊ ထိုသို့ မဟုတ်မူကား သီလ၏ ပြည့်စုံခြင်းကို မှီ၍ မြတ်နိုးခြင်းကို ပြုသလော၊ ရှေးဦးစွာ စုံစမ်းအံ့ဟုကြံ၏ ကြံပြီး၍ ထိုပုဏ္ဏားသည် တနေ့သ၌ မင်းအား ခစားခြင်းကိုပြု၍ အိမ်သို့ ပြန်လာသည်ရှိသော် ရွှေပန်းထိမ်သည်၏ ပျဉ်မှ မပန်ကြားမူ၍ သာလျှင် တသပြာကို ယူ၍ သွားလေ၏၊ ရွှေပန်းထိမ်သည်သည် ပုဏ္ဏား၌ရိုသေသည်၏အဖြစ်ဖြင့် တစုံတခုသောစကားကိုမဆိုမူ၍နေ၏၊ နက်ဖြန်နေ့လည်း နှစ်သပြာတို့ကို ယူပြန်၏၊ ရွှေပန်းထိမ်သည်သည် ရှေးအတူသာလျှင် သည်းခံ၏၊သုံးရက်မြောက်သောနေ့၌ တဆုပ်သော အသပြာတို့ကို ယူ၏။

ထိုအခါ ထိုပုဏ္ဏားကိုရွှေပန်းထိမ်သည်သည် ယနေ့မင်း၏ဥစ္စာကိုသင်ယူသည် သုံးရက်ရှိပြီဟု ဆို၍ မင်း၏ဥစ္စာကို ခိုးသော ခိုးသူကို ငါသည် ဖမ်းအပ်၏ဟု သုံးကြိမ် ဟစ်ကြော်၏၊ ထိုအခါ လူတို့သည် ထိုမှဤမှ လာကုန်၍ သင်သည် ကြာမြင့်စွာ သီလရှိယောင်ဆောင်လျက် သွား၏ဟုဆို၍ နှစ်ချက်သုံးချက်သော ပုတ်ခတ်ခြင်းတို့ကို ပေးပြီးလျှင် နှောင်ဖွဲ့၍ မင်းအား ပြကုန်၏၊ မင်းသည် နှလုံး မသာယာသည် ဖြစ်၍ ပုဏ္ဏားအား အဘယ့်ကြောင့် ဤသို့ သဘောရှိသော သီလ မရှိသော သူတို့၏ အမှုကို ပြုသနည်းဟု ဆို၍ ထိုပုဏ္ဏားအား မင်း၏ အာဏာကို ပြုကုန်လောဟု ဆို၏၊ ပုဏ္ဏားသည် အရှင်မင်းကြီး အကျွန်ုပ်သည် ခိုးသူမဟုတ်ဟု ဆို၏၊ ခိုးသူမဟုတ်သည် ရှိသော် အဘယ့်ကြောင့် မင်း၏ဥစ္စာ အသပြာတို့ကို ပျဉ်မှ ယူသနည်းဟု ဆိုသော် အရှင်မင်းကြီးသည် အကျွန်ုပ်အား မြတ်နိုးခြင်းကို ပြုသည်ရှိသော် မင်းကြီးသည် ငါ့အား အမျိုး အစရှိသည်တို့ကို

မှီ၍ မြတ်နိုးခြင်းကိုပြုသလော၊ ထိုသို့မဟုတ်မူကား သီလကိုမှီ၍ မြတ်နိုးခြင်းကို ပြုသလောဟု စုံစမ်းအံ့သောငှါ အကျွန်ုပ်သည် ပြုအပ်၏၊ ယခုအခါကား အကျွန်ုပ်သည် စင်စစ်သဖြင့် သီလကိုသာလျှင်မှီ၍ အရှင်မင်းကြီးသည် အကျွန်ုပ်အား မြတ်နိုးခြင်းကို ပြုအပ်၏၊ အမျိုးအစရှိသည်တို့ကိုမှီ၍ မပြုအပ်၊ထိုကြောင့်ရကား အကျွန်ုပ်အား ယခုအခါ မင်း၏ အာဏာကို ပြုစေ၏၊ ဤသို့လျှင် အကြင် အကြောင်းကြောင့် သိအပ်၏၊ ထိုသို့ အကျွန်ုပ်သည် ဤအကြောင်းကြောင့် ဤလောက၌ သီလသည်သာလျှင် မြတ်၏၊ သီလသည်သာလျှင် အကြီးအမှူးဖြစ်၏ဟု ဆုံးဖြတ်ခြင်းသို့ရောက်၏၊ ငါသည် ဤသီလအား လျောက်ပတ်ခြင်းကို ပြုသည် ရှိသော် အိမ်၌ တည်လျက် ကိလေသာတို့ကို ခံစားလျက် ပြုခြင်းငှါ မတတ်နိုင်လတ္တံ့၊ ယနေ့ပင်လျှင် ဇေတဝန်ကျောင်းတော်သို့ သွား၍ မြတ်စွာဘုရားအထံတော်၌ ရဟန်းပြုအံ့၊ အရှင်မင်းကြီး အကျွန်ုပ်အား ရဟန်းပြုခွင့်ကို ပေးတော်မူပါလောဟု မင်းကြီးကို ခွင့်ပြုစေ၍ ဇေတဝန်ကျောင်းတော်သို့ ရှေးရှုသွား၏။

ထိုအခါ ထိုပုဏ္ဏားကို အဆွေအမျိုး ချစ်ကျွမ်းဝင်ကုန်သော အဆွေခင်ပွန်းတို့သည် စည်းဝေးကုန်၍ မြစ်အံ့သောငှါ မတတ်နိုင်ကုန်သည်ဖြစ်၏၊ ထိုပုဏ္ဏားသည် မြတ်စွာဘုရား အထံတော်သို့သွား၍ ရဟန်းအဖြစ်ကို တောင်းပန်လျှင် သာမဏေ အဖြစ်ကိုလည်း ပဉ္စင်းအဖြစ်ကိုလည်း ရ၍ မလွတ်သော ကမ္မဋ္ဌာန်းရှိသည်ဖြစ်၍ ဝိပဿနာကို ပွားစေ၍ အရဟတ္တဖိုလ်သို့ ရောက်လျှင် မြတ်စွာဘုရားသို့ ကပ်၍ အရှင်ဘုရား အကျွန်ုပ်အား ရဟန်းအဖြစ်သည် အပြီးသို့ ရောက်၏ဟု အရဟတ္တဖိုလ်ကို ကြား၏၊ ထိုရဟန်း၏ ထိုအရဟတ္တဖိုလ်ကို ကြားခြင်းသည် ရဟန်းသံဃာ၌ ထင်ရှား ဖြစ်၏၊ ထိုအခါ တနေ့သ၌ တရားသဘင်ဝယ် စည်းဝေးကုန်သော ရဟန်းတို့သည် ငါ့သျှင်တို့ ဤအမည်ရှိသော မင်း၏ အလုပ်အကျွေး ပုဏ္ဏားသည် မိမိသီလကို စုံစမ်း၍ မင်းကို ပန်ကြားပြီးလျှင် ရဟန်းပြု၍ အရဟတ္တဖိုလ်၌တည်၏ဟု ထိုရဟန်း၏ ကျေးဇူးစကားကို ပြောဆိုလျက် နေကြကုန်၏၊ မြတ်စွာဘုရားသည် - လာတော်မူလတ်၍ ရဟန်းတို့ ယခုအခါ အဘယ်စကားဖြင့် စည်းဝေးကြကုန်သနည်းဟု မေးတော်မူ၏၊ ဤမည်သော စကားဖြင့် စည်းဝေးပါကုန်၏ဟု နားတော်လျှောက်သည်ရှိသော် ရဟန်းတို့

ယခုအခါ၌ ဤပုဏ္ဏားသည်သာလျှင် မိမိ၏သီလကို စုံစမ်း၍ ရဟန်းပြု၍ မိမိ၏ ကိုးကွယ်ရာကို ပြုသည် မဟုတ်သေး၊ ရှေး၌လည်း ပညာရှိတို့သည် မိမိ၏သီလကို စုံစမ်း၍ ရဟန်းပြု၍ မိမိ၏ ကိုးကွယ်ရာကို ပြုဘူးကုန်ပြီဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် ထိုဗြဟ္မဒတ်မင်း၏ ပုရောဟိတ်ပုဏ္ဏားဖြစ်၏၊ အလှူ အခံစရှိသည်တို့၌ ညွတ်သောစိတ်ရှိ၏၊ သီလကို အလိုရှိ၏၊ မကျိုးမပျက်သော ပဉ္စသီလရှိ၏၊ မင်းသည် ကြွင်းသော ပုဏ္ဏားတို့ထက် အလွန်လျှင် ထိုပုဏ္ဏားအား မြတ်နိုးခြင်းကို ပြု၏။

ဤသို့ အစရှိသော အလုံးစုံသော စကားသည် ရှေးစကားနှင့် တူသလျှင်ကတည်း။

ဘုရားလောင်းကိုကား နှောင်ဖွဲ့၍ မင်း၏အထံသို့ ဆောင်သည် ရှိသော် အလမ္မာယ်သမားတို့သည် ခရီးအလယ်၌ မြွေကစားကုန်သည်ရှိသော် မြီးထူး၌ ကိုင်ကုန်၏၊ လည်၌ ကိုင်ကုန်၏၊ လည်၌လည်း ရစ်ကုန်၏၊ ဘုရားလောင်းသည် ထိုအလမ္မာယ်သမားတို့ကို မြင်၍ အမောင်တို့ ဤမြွေကို မြီးထူး၌ မကိုင်ကြကုန်လင့်၊ လည်၌ မရစ်ကြကုန်လင့်၊ ထိုစကားသည် မှန်၏၊ ဤမြွေသည် သင်တို့ကို ကိုက်၍ အသက်သေခြင်းသို့ ရောက်ကုန်ရာ၏ဟု ဆို၏၊ အလမ္မာယ်သမားတို့သည် ပုဏ္ဏား ဤမြွေသည် သီလရှိ၏၊ အကျင့်နှင့် ပြည့်စုံ၏၊ သင်ကဲ့သို့ သီလမရှိသည် မဟုတ်၊ သင့်ကိုကား မိမိ၏ သီလမရှိသည်၏ အဖြစ်ကြောင့် ယုတ်မာသောအကျင့်ဖြင့် မင်း၏ဥစ္စာကို ခိုးသောခိုးသူဟု နှောင်ဖွဲ့၍ ဆောင်အပ်၏ဟု ဆိုကုန်၏၊ ဘုရားလောင်းသည် မကိုက်သည်ရှိသော် မညှဉ်းဆဲသည်ရှိသော် မြွေစင်လျက်လည်း သီလရှိ၏ဟူသော အမည်ကို ရသေး၏၊ လူဖြစ်သောသူသည် အဘယ်ဆိုဘွယ်ရာရှိအံ့နည်း၊ ဤလောက၌ သီလသည်သာလျှင် မြတ်၏၊ ထို သီလထက် လွန်မြတ်သောတရား မရှိဟု ကြံ၏။

ထိုအခါ ပုဏ္ဏားကိုဆောင်၍ မင်းအား ပြကုန်၏၊ မင်းသည် အမောင်တို့ ဤအမှုသည် အသို့နည်းဟု မေး၏၊ အရှင်မင်းကြီး မင်းဥစ္စာကို ခိုးသောသူ တည်းဟု လျှောက်ကုန်၏၊ ထိုသို့တပြီးကား ထိုပုဏ္ဏားအား မင်း၏ အာဏာကို

ပြုကုန်လော့ဟုဆို၏၊ ပုဏ္ဏားသည် အရှင်မင်းကြီး အကျွန်ုပ်သည် ခိုးသူမဟုတ်ဟု ဆို၏၊ ထိုသို့ ခိုးသူမဟုတ်သည်ရှိသော် အဘယ့်ကြောင့် အသပြာတို့ကို ယူသနည်းဟု ဆို၏၊ ရွေးနည်းဖြင့်သာလျှင် အလုံးစုံသော စကားကို ကြားလျှောက်ပါတို့သည် ဤအကြောင်းကြောင့် ဤလောက၌ သီလသည်သာလျှင် မြတ်၏၊ သီလသည်သာလျှင် အကြီးအမှူး ဖြစ်၏ဟု ဆုံးဖြတ်ခြင်းသို့ ရောက်၏၊ ဤသို့ ဆို၍ လူဖြစ်သောသူကို ထားဘိဦး၊ မကိုက်သည်ရှိသော် မညှဉ်းဆဲသည်ရှိသော် လျှင်သော အဆိပ်ရှိသော မြွေသည်လည်း သီလရှိ၏ဟု ဆိုအပ်သောအဖြစ်ကို ရသေး၏၊ ဤအကြောင်းကြောင့် သီလသည်သာလျှင် အထူးသဖြင့် မြတ်၏ဟု သီလကို ချီးမွမ်းလိုရကား—

၈၆၊ သီလံ ကိရေဝ ကလျာဏံ၊ သီလံ လောကေ အနုတ္တရံ။
ပဿ ဃောရဝိသော နာဂေါ၊ သီလဝါတိ န ဟညတိ။

ဟူသော ဤဂါထာကို ဆို၏။

မဟာရာဇ၊ မြတ်သောမင်းကြီး၊ ကိရ၊ ကြားရသည်ကား၊ လောကေ၊ လောက၌။ သီလံဝေ၊ သီလသည်သာလျှင်၊ ကလျာဏံ၊ ကောင်း၏။ သီလံ၊ သီလသည်သာလျှင်။ အနုတ္တရံ၊ အတုမရှိမြတ်၏။ ပဿ၊ ရှုပါလော။ ဃောရဝိသော၊ ကြမ်းသော အဆိပ်ရှိသော။ နာဂေါ၊ မြွေစင်လျက်။ အဝှံသန အဝိဟေဌန မတ္တကေန၊ မကိုက်ခြင်း မညှဉ်းဆဲခြင်းမျှဖြင့်။ သီလဝါ၊ သီလရှိ၏။ န ဟညတိ၊ မညှဉ်းဆဲတတ်။ ဣတိ ပသံသံ၊ ဤသို့သော ချီးမွမ်းခြင်းကို။ လဘတိ၊ ရသေး၏။

ဤသို့လျှင် ဘုရားလောင်းသည် ဤဂါထာဖြင့် မင်းအား တရားဟော ပြီးလျှင် ကာမတို့ကို စွန့်၍ ရသေ့ရဟန်း ပြုပြီးလျှင် ဟိမဝန္တာသို့ဝင်၍ ငါးပါးသော အဘိညာဉ်တို့ကိုရင်း ရှစ်ပါးသော သမာပတ်တို့ကိုရင်း ဖြစ်စေ၍ ဗြဟ္မာ့ပြည်သို့ လား၏။

**ဇာတ်ပေါင်း**….မြတ်စွာဘုရားသည်လည်း ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ အာနန္ဒာသည် ထိုအခါ ဗာရာဏသီပြည်၌ မင်းဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားပရိသတ်တို့သည် ထိုအခါ မင်းပရိသတ်သည် ဖြစ်ဘူးပြီ၊

ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ပုရောဟိတ်ပုဏ္ဏား ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[မိမိသီလ၊ စုံစမ်းက၊ ဒိဋ္ဌမြင်ကာ ကိုယ်ကျိုးရှာ]

ခြောက်ခုတို့၏ပြည့်ကြောင်းဖြစ်သော သီလဝီမံသကဇာတ်သည် ပြီး၏။

---

## ၈၇—မင်္ဂလဇာတ်

### လောကီမင်္ဂလာ၌သာ ယုံကြည်သော ပုဏ္ဏား၏ အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့် တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "ယဿ မင်္ဂလာ သမူဟတာ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာ ဆင်အပ်သော ဤ မင်္ဂလဇာတ်ကို ဝေဠုဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "တယောက်သော အဝတ်လက္ခဏာ ဘတ်တတ်သော ပုဏ္ဏား"ကိုအကြောင်းပြု၍ ဟောတော်မူ၏၊ ရာဇဂြိုဟ်ပြည်၌ နေသော တယောက်သော ပုဏ္ဏားသည် မြင်တိုင်း ကြားတိုင်း တွေ့တိုင်းသော မင်္ဂလာကို ယုံကြည်သတတ်၊ ရတနာသုံးပါးတို့၌ မကြည်ညို၊ မိစ္ဆာအယူရှိ၏၊ ကြွယ်ဝ၏၊ များသော ဥစ္စာရှိ၏၊ များသော အသုံးအဆောင်ရှိ၏၊ ထိုပုဏ္ဏား၏ ပူတာ၌ ဝါ-သေတ္တာ၌ထားအပ်သော ပုဆိုးစုံကို ကြွက်သည်ကိုက်၏၊ ထိုအခါ ပုဏ္ဏား၏ ဦးခေါင်းလျှော်ပြီး၍ ပုဆိုးတို့ကို ယူခဲ့ကုန်လောဟု ဆိုသောကာလ၌ ကြွက်သည် ကိုက်သောအဖြစ်ကို ကြားကုန်၏၊ ထိုပုဏ္ဏားသည် ကြွက်ကိုက်သော ဤပုဆိုးစုံသည် ဤအိမ်၌ အကယ်၍ ရှိအံ့၊ ကြီးစွာသော ပျက်စီးခြင်းသည် ဖြစ်လတ္တံ့၊ ထိုစကားသည်မှန်၏၊ ဤပုဆိုးစုံသည် မင်္ဂလာမရှိ၊ သူယုတ်မာနှင့် တူ၏၊ သားသမီး အစရှိသော သူအားရင်း ကျွန်အမှုလုပ် အစရှိသည်တို့အားရင်း ပေးအံ့သော်ငါ မတတ်ကောင်း၊ ထိုစကားသည် မှန်၏၊ အကြင်သူသည် ဤကြွက်ခဲသော ပုဆိုးစုံကို ယူအံ့၊ ထိုသူအား အလုံးစုံသော ကြီးစွာသောပျက်စီးခြင်းသည် ဖြစ်လတ္တံ့၊ အစိမ်းပစ်ရာ သုသာန်၌ ထိုပုဆိုးစုံကို ပစ်စေအံ့။

ကျွန်အစရှိသောသူတို့အား ပစ်စေခြင်းငှါ မတတ်ကောင်း သလျှင်ကတည်း၊ ထိုစကားသည်မှန်၏၊ ထိုကျွန်အစရှိသည်တို့သည် ဤပုဆိုးစုံကို လောဘကိုဖြစ်စေ၍ ဤပုဆိုးစုံကိုယူ၍ပျက်စီးခြင်းသို့ ရောက်ကုန်ရာ၏။

သားအား ထိုပုဆိုးစုံကို ပစ်စေအံ့ဟု ကြံပြီး၍ ထိုပုဏ္ဏားသည် သားကို ခေါ်စေ၍ ထိုအကြောင်းကို ကြားပြီးလျှင် အမောင် သင်သည်လည်း ထိုပုဆိုးစုံကို လက်ဖြင့် မထိစေမူ၍ လှံကန်ဖြင့်ယူ၍ အစိမ်းပစ်ရာ သုသာန်၌ စွန့်ပြီးလျှင် ဦးခေါင်း လျှော်၍ လာလောဟု စေ၏၊ မြတ်စွာဘုရား သည်လည်း ထိုနေ့ မိုးသောက်ထအခါ၌ သစ္စာတရားကို သိခြင်းငှါ ထိုက်ကုန်သော သတ္တဝါတို့ကို ကြည့်တော်မူသည်ရှိသော် ဤသားအဘတို့၏ သောတာပတ္တိဖိုလ်၏ ဥပနိဿယကို မြင်တော်မူ၍ သမင်လမ်းကို မှတ်ယူပြီးလျှင် သမင်မုဆိုး သွားသကဲ့သို့ သွားတော်မူ၍ အစိမ်းပစ်ရာ သုသာန်တံခါး၌ ခြောက်သွယ်ကုန်သော ဘုရားရောင်ခြည်တော်တို့ကို လွှတ်လျက် နေတော်မူ၏၊ ပုဏ္ဏားလုလင်သည် အဘပုဏ္ဏား၏စကားကိုဝန်ခံ၍ အိမ်မြွေ ကျိုင်းကောင်ကဲ့သို့ ထိုပုဆိုးစုံကို တောင်ဝှေးစွန်းဖြင့် ယူ၍ သုသာန်တံခါးသို့ ရောက်၏။

ထိုအခါ ထိုလုလင်ကို မြတ်စွာဘုရားသည် အဘယ်ကိုပြုသနည်းဟု မိန့်တော်မူ၏၊ အရှင်ဂေါတမ ဤပုဆိုးစုံကို ကြွက်သည် ကိုက်အပ်၏၊ ယူယုတ်မာနှင့်တူ၏၊ လတ်တလော သေစေတတ်သော အဆိပ်နှင့်တူ၏၊ ငါ၏အဘသည်ကား တပါးသောသူ ဖြစ်မူကား ဤပုဆိုးစုံကို စွန့်သည်ရှိသော် လောဘကို ဖြစ်စေ၍ ယူရာ၏ဟု ကြောက်သောကြောင့် ငါ့ကို စေလိုက်၏၊ အရှင်ဂေါတမ ငါသည် ဤပုဆိုးစုံကို စွန့်၍ ဦးခေါင်းလျှော်အံ့ဟု လာသည်ဖြစ်၏ဟု ဆို၏၊ လုလင် ထိုသို့တပြီးကား စွန့်လောဟု မိန့်တော်မူ၏၊ လုလင်သည်လည်း စွန့်၏၊ မြတ်စွာ ဘုရားသည်လည်း ယခုအခါ ငါတို့အား အပ်၏ဟုမိန့်တော်မူ၍ ထိုလုလင်၏ မျက်မှောက်၌သာလျှင် ယူတော်မူ၏၊ အို ရှင်ဂေါတမ ဤပုဆိုးစုံသည် မင်္ဂလာမရှိ၊ သူယုတ်မာနှင့် တူ၏၊ မယူကုန်လင့်ဟု ထိုလုလင်သည် တားမြစ်စဉ်သာလျှင် ယူ၍ ဝေဠုဝန် ကျောင်းတော်သို့ သာလျှင် ရှေးရှု ကြွတော်မူ၏၊ လုလင်သည် လျင်မြန်သဖြင့် သာလျှင် သွား၍ ဘခင် အကျွန်ုပ်သည် အစိမ်းပစ်ရာ သုသာန်၌ စွန့်အပ်သော ပုဆိုးစုံကို ရဟန်းဂေါတမသည် ငါ့အား အပ်၏ဟုဆို၍ အကျွန်ုပ်သည် တားမြစ်သော်လည်း ယူ၍ ဝေဠုဝန်ကျောင်းတော်သို့ သွား၏ဟု အဘပုဏ္ဏားအား ကြား၏။

ထိုပုဏ္ဏားသည် ထိုပုဆိုးစုံသည်ကား မင်္ဂလာ မရှိ၊ သူယုတ်မာနှင့် တူ၏၊ ထိုမှုဆိုးစုံကို သုံးဆောင်သော ရဟန်းဂေါတမကား ပျက်စီးလတ္တံ့၊ ထိုကြောင့် ငါတို့အား ရှဲ့ရှဲခြင်းသည် ဖြစ်လတ္တံ့၊ ရဟန်း ဂေါတမအား တပေါးသော များစွာသော ပုဆိုးတို့ကို ပေး၍ ထိုကြွက်ကိုက်သော ပုဆိုးကို စွန့်စေအံ့ဟု ကြံ၍ ထိုပုဏ္ဏားသည် များစွာသော ပုဆိုးတို့ကို ယူခဲ့စေ၍ သားနှင့် တကွ ဝေဠုဝန်ကျောင်းတော်သို့ သွား၍ မြတ်စွာဘုရားကို မြင်လျှင် တင့်အပ်သော အရပ်၌ ရပ်လျက် အို ရှင်ဂေါတမ အစိမ်းပစ်ရာသုသာန်၌ ပုဆိုးစုံကို ယူသတတ် ဟူသည် မှန်သလောဟု မေး၏၊ ပုဏ္ဏား ယူသည် မှန်၏ဟု မိန့်တော်မူ၏၊ အို ရှင်ဂေါတမ ထိုပုဆိုးစုံသည်ကား မင်္ဂလာ မရှိ၊ သင်တို့သည် သုံးဆောင်ကုန်သည်ရှိသော် ပျက်စီးကုန်လတ္တံ့၊ အလုံးစုံသော ကျောင်းသည်လည်း ပျက်စီးလတ္တံ့၊ သင်တို့အား သင်းပိုင်သည်ငှင်း ကိုယ်ရုံသည်ငှင်း အကယ်၍ မလောက်သည် ဖြစ်အံ့၊ ဤပုဆိုးတို့ကို ယူ၍ ထိုကြွက်ကိုက်သော ပုဆိုးတို့ကို စွန့်ကုန်လောဟုဆို၏၊ ထိုအခါ ပုဏ္ဏားကို မြတ်စွာဘုရားသည် ပုဏ္ဏား ငါတို့သည် ရဟန်းမည်ကုန်၏၊ ငါတို့အား အစိမ်းပစ်သောသုသာန်၌ငှင်း ခရီးလမ်းအကြား ၌ငှင်း တံမြက်ချေး စွန့်ရာ အရပ်၌ငှင်း ရေချိုးဆိပ်၌ငှင်း ခရီးမ၌ငှင်း ဤသို့ သဘောရှိသော အရပ်တို့၌ စွန့်အပ်သည်လည်း ဖြစ်သော ကျသည်လည်း ဖြစ်သော ပုဆိုးနွမ်းသည် အပ်၏၊ သင်သည်ကား ယခုအခါ၌သာလျှင် ဤသို့ အယူရှိသည် မဟုတ်သေး၊ ရှေး၌လည်း ဤသို့ အယူရှိသည် သာလျှင်တည်းဟု မိန့်တော်မူ၍ ထိုပုဏ္ဏားသည် တောင်းပန်အပ်သည် ဖြစ်၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**...လွန်လေပြီးသော အခါ မဂဓတိုင်း ရာဇဂြိုဟ်ပြည်၌ ဓမ္မိကမည်သောမင်းသည် မင်းပြု၏၊ ထိုအခါ ဘုရားလောင်းသည် ဥဒိစ္စပုဏ္ဏား မျိုး၌ဖြစ်၍လိမ္မာသောအဖြစ်သို့ရောက်လျှင် ရသေ့ရဟန်းပြု၍ အဘိညာဉ်တို့ကို ငှင်း သမာပတ်တို့ကိုငှင်း ဖြစ်စေ၍ ဟိမဝန္တာအရပ်၌နေလျက် တရံသောအခါ ဟိမဝန္တာမှထွက်ခဲ့၍ ရာဇဂြိုဟ်ပြည်၌ မင်း၏ဥယျာဉ်သို့ ရောက်၍ ထိုဥယျာဉ်၌ နေ၍ နှစ်ရက် မြောက်သော နေ့၌ ဆွမ်းခံအံ့သောငှါ ရာဇဂြိုဟ်မြို့သို့ ဝင်၏၊ မင်းသည် ထိုရသေ့ကို မြင်လျှင် ခေါ်စေ၍ ပြာသာဒ်၌ နေစေပြီးလျှင် ဆွမ်း

ကျေး၍ ဥယျာဉ်၌ နေစိမ့်သော်၄ါ ဝန်ခံခြင်းကို ယူ၏၊ ဘုရားလောင်းသည် မင်း၏နန်းတော်၌ ဆွမ်းစား၍ ဥယျာဉ်၌နေ၏၊ ထိုအခါ ရာဇဂြိုဟ်မြို့၌ အဝတ် လက္ခဏာ ဘတ်တတ်သော ပုဏ္ဏားသည် ရှိသည်ဖြစ်၍ ထိုပုဏ္ဏား၏ ပုတာ၌၊ ဝါ-သေတ္တာ၌ထားအပ်သော ပုဆိုးစုံကို ရွေးအတူ ကြွက်သည် ကိုက်၏။

ဤသို့ အစရှိသော အလုံးစုံသော စကားသည် ရှေးစကားနှင့် ညီ သလျှင်ကတည်း။

လုလင်သည်ကား သုသာန်သို့ သွားသည်ရှိသော် ဘုရားလောင်းသည် ရှေး ဦးစွာ သွားနှင့်၍ သုသာန်တံခါး၌နေ၍ ထိုလုလင်သည် စွန့်အပ်သော ပုဆိုးကို ယူ၍ ဥယျာဉ်သို့ လာ၏၊ လုလင်သည် သွား၍ အဘအား ကြား၏၊ အဘသည် မင်းဆရာဖြစ်သော ရသေ့သည် ပျက်စီးရာ၏ဟု ဘုရားလောင်းအထံသို့ သွား၍ ရသေ့ သင်သည် ယူအပ်သော ပုဆိုးတို့ကို စွန့်လော၊ မပျက်စီးစေလင့်ဟု ဆို၏၊ ရသေ့သည် ငါတို့အား သုသာန်၌ စွန့်အပ်သော ပုဆိုးနွမ်းသည် အပ်၏၊ ငါတို့ သည် မြင်တိုင်း, ကြားတိုင်း,တွေ့တိုင်းသော မင်္ဂလာကို မယုံကြည်ကုန်၊မြင်တိုင်း ကြားတိုင်း, တွေ့တိုင်းသော မင်္ဂလာမည်သည်ကို ဘုရား ပစ္စေက ဗုဒ္ဓါ ဘုရား လောင်းတို့သည် မချီးမွမ်းအပ်၊ ထို့ကြောင့် ပညာရှိမည်သည်ကား မြင်တိုင်း, ကြားတိုင်း, တွေ့တိုင်းသော မင်္ဂလာကို ယုံကြည်သည် မဖြစ်ရာဟု ပုဏ္ဏားအား တရားဟော၏၊ ပုဏ္ဏားသည် တရားကို နာရလျှင် မိစ္ဆာအယူကိုဖျက်၍ ဘုရား လောင်းကို ကိုးကွယ်ခြင်းသို့ ရောက်၏၊ ဘုရားလောင်းသည်လည်း မယုတ်သော ဈာန်ရှိသည်ဖြစ်၍ ဗြဟ္မာ့ပြည်သို့ လား၏၊ မြတ်စွာဘုရားသည် အတိတ်ကို ဆောင်တော်မူ၍ ဘုရားဖြစ်တော်မူပြီး၍ ပုဏ္ဏားအား တရားဟောလိုရကား—

၈၇၊ ယဿ မင်္ဂလာ သမူဟတာ၊
ဥပ္ပါတာ သုပိနာ စ လက္ခဏာ စ။
သော ၁ မင်္ဂလဒေါသဝီတိဝတ္တော၊
ယုဂယောဂါဓိဂတော န ဇာတုမေတိ။

ဟူသော ဤဂါထာကို ဟောတော်မူ၏။

၁၊ သ (သီ၊ ဋ္ဌ၊ က)

ဗြာဟ္မဏ၊ ပုဏ္ဏား။ ယဿ၊ အကြင် ရဟန္တာပုဂ္ဂိုလ်အား။ မင်္ဂလာ၊ ကောတုမဟာမင်္ဂလာတို့ကိုရင်း။ ဥပ္ပါတာ စ၊ နေကြတ်ခြင်း လကြတ်ခြင်း နက္ခတ်ကြတ်ခြင်း ဥက္ကာကျခြင်း အရပ်ကို မီးလောင်ခြင်း ဥပါတ်တို့ကိုရင်း။ သုပိနာစ၊ အထူးထူး အပြားပြားသော အိပ်မက်တို့ကိုရင်း။ လက္ခဏာ စ၊ လက္ခဏာတို့ကိုရင်း။ သမူဟတာ၊ ဖြတ်အပ်ကုန်ပြီ။ သော၊ ထိုရဟန္တာပုဂ္ဂိုလ်သည်။ မင်္ဂလဒေါသဝီတိဝတ္တော၊ ကောတုဟာလ မင်္ဂလာ၏ အပြစ်ကို လွန်၏။ ယုဂယောဂါဓိဂတော၊ ကောဓ ဥပနာဟ အစရှိသော အစုံပြု၍ ဟောအပ်သော ကိလေသာ လေးပါးဟူသော ယောဂတို့ကို လွန်၏။ ဇာတု-ကေန္တေန၊ စင်စစ်အားဖြင့်။ ဣမံ လောကံ၊ ဤလောကကို။ ပဋိသန္ဓိဝသေန၊ ပဋိသန္ဓေ၏ အစွမ်းအားဖြင့်။ န ဧတိ၊ တဖန်မလာ။

ဤသို့လျှင် မြတ်စွာဘုရားသည် ဤဂါထာဖြင့် ပုဏ္ဏားအား တရားဟောတော်မူ၍ သစ္စာတို့ကို ပြတော်မူ၏၊ သစ္စာတို့ကို ပြတော်မူသည်၏အဆုံး၌ ပုဏ္ဏားသည် သားနှင့်တကွ သောတာပတ္တိဖိုလ်၌ တည်၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ သားအဘတို့သည် ထိုအခါ သားအဘတို့သာလျှင် ဖြစ်ဘူးကုန်ပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ရသေ့ ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[မြင်တိုင်း ကြားတိုင်း၊ တွေ့တိုင်းရာရာ၊ မင်္ဂလာ၊ စိတ်ဖြာ ခွဲဝေချင့်]

ခုနစ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော မင်္ဂလဇာတ်သည် ပြီး၏။

---

### ၈၈—သာရမ္ဘဇာတ်

### သာယာစွာသော စကား ပြောဆိုအပ်သော အကြောင်း

**ပစ္စုပ္ပန်ဝတ္ထုနှင့် အတိတ်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညုမြတ်စွာဘုရားသည် "ကလျာဏိမေဝ မုဉ္စေယျ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤ သာရမ္ဘဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "ဩမသဝါဒသိက္ခာပုဒ်" ကို အကြောင်းပြု၍ ဟောတော်မူ၏။

နှစ်ပါးကုန်သော ပစ္စုပ္ပန်ဝတ္ထု အတိတ်ဝတ္ထုတို့သည်လည်း အောက်၌ဖြစ်သော နန္ဒိဝိသာလဇာတ်၌ ဆိုအပ်ပြီးသည်နှင့် တူသလျှင်ကတည်း။

အထူးကား ဤသာရမ္ဘဇာတ်၌ ဘုရားလောင်းသည် ဂန္ဓာရတိုင်း တက္ကသိုလ်ပြည်၌ တယောက်သော ပုဏ္ဏား၏ သာရမ္ဘမည်သော နွားသည်ဖြစ်၏၊ မြတ်စွာဘုရားသည် ဤအတိတ်ဝတ္ထုကို ဟောတော်မူ၍ ဘုရားဖြစ်တော်မူ၍—

၈၈၊ ကလျာဏိမေဝ မုဉ္စေယျ၊ န ဟိ မုဉ္စေယျ ပါပိကံ။
မောက္ခော ကလျာဏိယာ သာဓု၊ မုတွာ တပ္ပတိ [၁] ပါပိကံ။

ဟူသော ဤဂါထာကို ဟောတော်မူ၏။

ဘိက္ခဝေ၊ ရဟန်းတို့။ ကလျာဏိမေဝ၊ ကောင်းသော စကားကိုသာလျှင်။ မုဉ္စေယျ၊ ဆိုရာ၏။ ဟိ-သစ္စံ၊ ထိုစကားသည် မှန်၏။ ပါပိကံ၊ ယုတ်မာသော စကားကို။ န မုဉ္စေယျ၊ မဆိုရာ။ ကလျာဏိယာ၊ ကောင်းသောစကားကို။ မောက္ခော၊ ဆိုခြင်းသည်။ သာဓု၊ ကောင်း၏။ ပါပိကံ၊ ယုတ်မာသော စကားကို။ မုတွာ၊ ဆိုပြီး၍။ တပ္ပတိ၊ ပူပန်စိုးရိမ်တတ်၏။

**ဇာတ်ပေါင်း**....ဤသို့လျှင် မြတ်စွာဘုရားသည် ဤ ဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ အာနန္ဒာသည် ထိုအခါ တယောက်သော ပုဏ္ဏားဖြစ်ဘူးပြီ၊ ယခုအခါ ဥပ္ပလဝဏ်သည် ထိုအခါ ပုဏ္ဏေးမ ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ သာရမ္ဘမည်သောနွား ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[အတိုက်အဖျက်၊ ပြောဆိုချက်၊ တသက် ရှောင်ရှားရာ]

ရှစ်ခုတို့၏ပြည့်ကြောင်းဖြစ်သော သာရမ္ဘဇာတ်သည် ပြီး၏။

---

## ၇၉—ကုဟကဇာတ်

### အံ့ဘွယ်သရဲကို ဖြစ်စေသော ရသေ့၏ အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "ဝါစာဝ ကိရ တေ အာသိ" အစရှိသော ဂါထာ

---

၁၊ တပတိ (သီ၊ သျာ၊ ဣ၊ က)

ပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤ ကုဟကဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "တယောက်သော အုံ့ဘွယ်သရဲကို ဖြစ်စေတတ်သော ရဟန်း"ကို အကြောင်းပြု၍ ဟောတော်မူ၏။

အုံ့ဘွယ်သရဲကို ဖြစ်စေတတ်သော ရဟန်း၏ ပစ္စုပ္ပန်ဝတ္ထုသည် ဥဒ္ဒါလကဇာတ်၌ ထင်စွာ ဖြစ်လတ္တံ့။

**အတိတ်ဝတ္ထု**...လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုသည်ရှိသော် တခုသော ရွာငယ်ကို အမှီပြု၍ တယောက်သော ကောက်ကျစ်သော အကျင့်ရှိလျက် ဆံကျစ်ထုံးသော အုံ့ဘွယ်သရဲကို ဖြစ်စေတတ်သောရသေ့သည် နေ၏၊ တယောက်သော သူကြွယ်သည် တောကျောင်းကို ဆောက်စေ၍ ထိုကျောင်း၌ ရသေ့ကို နေစေလျက် မိမိအိမ်၌ မြတ်သော အာဟာရဖြင့် လုပ်ကျွေး၏၊ ထိုသူကြွယ်သည် ထိုကောက်ကျစ်သော ရသေ့ကို ဤရသေ့သည် သီလရှိ၏ဟု ယုံကြည်၏၊ ခိုးသူဘေးမှ ကြောက်ခြင်းကြောင့် ရွှေစင် နိက္ခတရာကို ထိုရသေ့၏ကျောင်းသို့ ဆောင်၍ မြေ၌ မြှုပ်ထားပြီးလျှင် အရှင်ဘုရား အရှင်ဘုရားသည် ဤရွှေကို ကြည့်တော်မူပါလောဟု ဆို၏။ (နိက္ခတရာ * သည်ကား ရွှေလေးသိန်း ရှိ၏။)

ထိုအခါ သူကြွယ်အား ရသေ့သည် ဒါယကာ ရဟန်းတို့အား ဤသို့သဘော ရှိသောစကားကို ဆိုခြင်းသည် မအပ်၊ ငါတို့အား သူတပါးဥစ္စာ၌ လောဘ မည်သည်မရှိဟု ဆို၏၊ ထိုသူကြွယ်သည် ကောင်းပြီဟု ထိုစကားကို ယုံကြည်၍ ဖဲခဲ့၏၊ ရသေ့ယုတ်သည် ဤမျှသောဥစ္စာဖြင့် အသက်မွေးခြင်းငှါ တတ်ကောင်း၏ဟု နှစ်ရက် သုံးရက် လွန်စေ၍ ထိုရွှေကို ယူပြီးလျှင် ခရီးအကြား၌ ထား၍ ကျောင်း၌သာလျှင် နေ၍ နက်ဖြန်နေ့၌ ထိုသူကြွယ်၏ အိမ်၌သာလျှင် ဆွမ်းစားခြင်းကိစ္စကို ပြုပြီး၍ ဒါယကာ ငါတို့သည် သင်တို့ကိုမှီ၍နေသည် ကြာမြင့်ပြီ ထိုစကားသည် မှန်၏၊ အလွန်ကြာမြင့်စွာ တခုသော အရပ်၌ နေကုန်သော ရသေ့ ရဟန်းတို့အား လူတို့နှင့် ရောနှောခြင်းသည် ဖြစ်၏၊ ရောနှောခြင်းမည်သည် ရဟန်းတို့အား အညစ်အကြေးဖြစ်၏၊ ထို့ကြောင့် ငါသည် သွားအံ့ဟု

---

* တနိက္ခသည် ရွှေတထောင်ရှိ၏၊ နိက္ခတရာမှာ ရွှေတသိန်းသာ ရှိသည်၊ ၎င်း နိက္ခနှင့်စပ်၍ အဘိဓာန်နိသျှသစ် ဂါထာ ဂဂဂ-တွင် အကျယ်ဆိုထားသည်။

ဆို၏၊ ထိုသူကြွယ်သည် အဖန်တလဲလဲ တောင်းပန်သော်လည်း ပြန်အံ့သော့ငှါ အလိုမရှိ။

ထိုအခါ ရသေ့ကို သူကြွယ်သည် အရှင်ဘုရား ဤသို့ ဖြစ်သည်ရှိသော် အရှင်ဘုရားတို့သည် သွားတော် မူကုန်လော့ဟု ဆို၍ ရွာတံခါး တိုင်အောင် ပို့လိုက်ပြီးလျှင် ပြန်ခဲ့၏၊ ရသေ့သည်လည်း အတန်ငယ်သွား၍ ဤသူကြွယ်ကို လှည့်စား အံ့သော့ငှါ သင့်၏ဟု ကြံ၍ ဆံကျစ်ကြား၌ မြက်ကို ထား၍ တဖန် ပြန်လာ၏၊ သူကြွယ်သည် အရှင်ဘုရား အရှင်ဘုရားတို့သည် အဘယ့်ကြောင့် ပြန်ခဲ့ကုန်သနည်းဟု မေး၏၊ ဒါယကာ သင်တို့၏ အိမ်မိုးမှ တပင်သောမြက်သည် ငါ၏ ဆံကျစ်ကြားတို့၌ ငြိ၍ပါခဲ့၏၊ အဒိန္နာဒါန်မည်သည်ကား ရဟန်းတို့အား မအပ်၊ ထို့ကြောင့် မြက်ကို ယူ၍ လာသည် ဖြစ်၏ဟု ဆို၏၊ သူကြွယ်သည် အရှင်ဘုရား အရှင်ဘုရားတို့သည် စွန့်၍သွားကုန်လောဟု ဆို၍ ငါ၏အရှင်သည် မြက်ဝါးခြမ်းစိတ်မျှသော သူတပါးဥစ္စာကို မယူ၊ ကြော် ကုက္ကုစ္စ ရှိခလစ္စဟု ကြည်ညို၍ ရှိခိုး၍ လွှတ်လိုက်၏။

ထိုအခါကား ဥစ္စာအလို့ငှါ ပစ္စန္တရစ်သို့ သွားသော ဘုရားလောင်းသည် ထိုသူကြွယ်အိမ်၌ တည်းခိုသည်ဖြစ်၍ ထိုဘုရားလောင်းသည် ရသေ့၏စကားကို ကြား၍သာလျှင် စင်စစ် ဤရသေ့ပျက်သည် ဤသူကြွယ်၏ တစုံတခုသော ဥစ္စာကို ခိုးယူသည်ဖြစ်လတ္တံ့ဟု သူကြွယ်ကို အဆွေ ထိုရသေ့ထံ၌ ထားအပ်သော သင့်အား တစုံတခုသော ဥစ္စာသည် ရှိသလောဟု မေး၏၊ အဆွေ ရွှေစင်နိက္ခ တရာရှိ၏ဟု ဆို၏၊ ထိုသို့တပြီးကား သွားချေ၊ ထိုရွှေကို စုံစမ်းချေလောဟု ဆို၏၊ ထိုသူကြွယ်သည် ကျောင်းသို့ သွား၍ ထိုရွှေကို မမြင်လျှင် လျှင်မြန်စွာ လာသဖြင့် အဆွေ မရှိပြီဟု ဆို၏၊ သင်၏ ရွှေကို တပါးသော သူသည် မယူ၊ ထိုရသေ့ကောက်သည်သာလျှင် ယူအပ်၏၊ လာလော၊ ထိုရသေ့ကို လိုက်၍ ဖမ်းကုန်အံ့ဟု ဆို၍ လျှင်မြန်သဖြင့် သွားပြီးလျှင် ရသေ့ကောက်ကို ဖမ်းကုန်အံ့ဟု ဆို၍ လက်တို့ဖြင့်၎င်း၊ ခြေတို့ဖြင့်၎င်း ပုတ်ခတ်၍ ရွှေကို ဆောင်စေ၍ ယူကုန်၍ ဘုရားလောင်းသည် ရွှေကိုမြင်၍ မြက်တပင်မျှ တပ်စွန်း ကပ်ငြိစိတ် မရှိသည်မှန်ပါမူ အဘယ်သူသည်လျှင် ရွှေစင် နိက္ခတရာကို အဘယ်မှာ ခိုးယူနိုင်ပါအံ့နည်းဟု ဆို၍ ထိုရသေ့ကို ကဲ့ရဲ့လိုရကား—

၇၉၊ ဝါစာဝ ကိရ တေ အာသိ၊ သဏှာ သခိလဘာဏိနော။
တိဏှမတ္တော အသင့်ိတ္တော၊ နော စ နိက္ခသတံ ဟရံ။

ဟူသော ဤဂါထာကို ဆို၏။

ဘော ဇင္ဂိလ၊ အို ရသေ့။ သခိလဘာဏိနော၊ သိမ်မွေ့နူးညံ့သောစကားကို ဆိုသော။ တေ၊သင်၏။ ဝါစာဝ၊စကားသည်သာလျှင်။ သဏှာ၊ သိမ်မွေ့နူးညံ့သည်။ အာသိ ကိရ၊ ဖြစ်သတတ်။ တိဏှမတ္တော၊ မြက်တပင်မျှဉ္စ။ အသင့်ိတ္တော၊ စွန့်ငြိသော စိတ်မရှိသည်ဖြစ်၍။ နိက္ခသတံ၊ရွှေစင်နိက္ခတရာကို။ ဟရံ-ဟရန္တော၊ ခိုးယူသော သင်သည်။ အသင့်ိတ္တော၊ စွန့်ငြိသော စိတ်မရှိသည်၊ နော စ အာသိ၊ မဖြစ်လေ။

ဤသို့လျှင် ဘုရားလောင်းသည် ထိုရသေ့ကို ကဲ့ရဲ့၍ ကောက်ကျစ်သော ရသေ့ တဖန် ဤသို့ သဘောရှိသော အမှုကို မပြုလင့်ဟု အဆုံးအမကို ပေး၍ ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ရဟန်းတို့ ယခုအခါ၌သာလျှင် ထိုရဟန်းသည် အံ့ဘွယ်သရဲကို ဖြစ်စေတတ်သည် မဟုတ်သေး၊ ရှေး၌လည်း အံ့ဘွယ်သရဲကို ဖြစ်စေတတ်သည် သာလျှင်တည်းဟု မိန့်တော်မူ၍ ယခုအခါ အံ့ဘွယ်သရဲကို ဖြစ်စေတတ်သော ရဟန်းသည် ထိုအခါ ကောက်ကျစ်သော ရသေ့ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ပညာရှိသော ယောကျ်ား ဖြစ်ဘူးပြီဟု ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[မနောမပါ၊ အပြောသာ၊ လွန်စွာ ကြောက်ဘွယ်ကောင်း]

ကိုးခုတို၏ ပြည့်ကြောင်းဖြစ်သော ကုဟကဇာတ်သည် ပြီး၏။

---

## ၉၀-အကတညုဇာတ်

### သူတပါးတို့အား ကျေးဇူးတုံ့ကို မပြုတတ်သော သူဌေး၏အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော ထဗ္ဗညူ မြတ်စွာဘုရားသည် "ယော ပုဗ္ဗေ ကတကလျာဏော" အစရှိသော

ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤအကတညု ဇာတ်ကို ဇေတဝန် ကျောင်းတော်၌သီတင်းသုံးနေတော်မူစဉ် "အနာထပိဏ်သူဌေး"ကို အကြောင်း ပြု၍ ဟောတော်မူ၏၊ ထိုအနာထပိဏ်သူဌေးအား တယောက်သော ပစ္စန္တရစ်၌ နေသော မမြင်ဘူးသော အဆွေခင်ပွန်းဖြစ်သော သူဌေးသည် ဖြစ်သတတ်၊ ထိုပစ္စန္တရစ်သူဌေးသည် တရံသောအခါ ပစ္စန္တရစ်၌ ဖြစ်သော ဘဏ္ဍာဖြင့် လှည်းငါးရာတို့ကို ပြည့်စေ၍ အမှုလုပ်တို့ကို အချင်းတို့ သွားကြကုန်၊ဤဥစ္စာကို သာဝတ္ထိမြို့သို့ ဆောင်၍ ငါတို့၏ အဆွေခင်ပွန်း ဖြစ်သော အနာထပိဏ် သူဌေးကြီး၏ မျက်မှောက်ဖြင့် ရောင်း၍ တဖန် ရသော ဥစ္စာတို့ကို ဆောင်ခဲ့ ကုန်လောဟု ဆို၏၊ ထိုအမှုလုပ်သောသူတို့သည် ကောင်းပြီဟု ထိုပစ္စန္တရစ်နေ သူဌေး၏ စကားကိုဝန်ခံ၍ သာဝတ္ထိမြို့သို့ သွားကုန်၍ အနာထပိဏ်သူဌေးကြီးကို ဖူးမြင်၍ လက်ဆောင်ကို ဆက်ပြီးလျှင် ထိုအကြောင်းကို ကြားလျှောက်ကုန်၏၊ အနာထပိဏ် သူဌေးကြီးသည် ပစ္စန္တရစ် သူဌေး၏ လူတို့ကိုမြင်လျှင် သင်တို့၏ လာခြင်းကား ကောင်းသော လာခြင်းတည်းဟု ဆို၍ ထိုပစ္စန္တရစ်သားတို့အား နေရာကိုရင်း ရိက္ခာကိုရင်း ပေးစေ၍ အဆွေခင်ပွန်းဖြစ်သော ပစ္စန္တရစ်သူဌေး၏ ဆင်းရဲ ချမ်းသာကို မေးပြီးလျှင် ဥစ္စာကို ရောင်း၍ တဖန်ရသော ဥစ္စာကို ပေးစေ၏၊ ထိုပစ္စန္တရစ်သားတို့သည် ပစ္စန္တရစ်သို့သွားကုန်၍ ထိုအကြောင်းကို မိမိတို့၏ သူဌေးအား ကြားလျှောက်ကုန်၏။

နောက်အဘို့၌ အနာထပိဏ်သူဌေးသည်လည်း ထိုအတူ လှည်းငါးရာတို့ကို ပစ္စန္တရစ်သို့ စေ၏၊ အနာထပိဏ်သူဌေး၏လူတို့သည် ထိုပစ္စန္တရစ်သို့ သွားကုန်၍ လက်ဆောင်ကိုယူ၍ ပစ္စန္တရစ်သူဌေးကို ဖူးမြင်ကုန်၏၊ထိုပစ္စန္တရစ်နေသူဌေးသည် သင်တို့သည် အဘယ်အရပ်မှ လာကြကုန်သနည်းဟု မေး၍ သာဝတ္ထိပြည်မှ သင်တို့၏ အဆွေခင်ပွန်းဖြစ်သော အနာထပိဏ်သူဌေး၏ အထံမှ လာခဲ့ကုန်၏ဟု လျှောက်သည်ရှိသော် အနာထပိဏ်သူဌေးဟူသောအမည်သည်တယောက်သော ယောကျ်ား၏ အမည်သည် ဖြစ်လတ္တံ့ဟု ပြက်ရယ်ပြုပြီးလျှင် လက်ဆောင်တို့ကို ယူစေ၍ သင်တို့သည် သွားကုန်လောဟု ဆို၍ လွှတ်လိုက်၏၊ ထိုအနာထပိဏ် သူဌေး၏ လူတို့အား နေရာကိုရင်း, ရိက္ခာကိုရင်း မပေးစေသလျှင်ကတည်း၊ ထိုအနာထပိဏ်သူဌေး၏ လူတို့သည် မိမိတို့၏ အလိုလိုသာလျှင် ဘဏ္ဍာကို

ရောင်း၍ တဖန်ရသောဥစ္စာကို ယူ၍ သာဝတ္ထိသို့ ပြန်လာခဲ့ကုန်၍ အနာထပိဏ် သူဌေးအား ထိုအကြောင်းကို ကြားလျှောက်ကုန်၏။

ထိုအခါပစ္စန္တရစ်သူဌေးသည် တဖန်တကြိမ်ရှေးအတူသာလျှင် လှည်းငါးရာ တို့ကို သာဝတ္ထိသို့စေ၏၊ ပစ္စန္တရစ်နေ သူဌေး၏လူတို့သည် လက်ဆောင်ကို ယူ၍ အနာထပိဏ် သူဌေးကြီးကို ဖူးမြင်ကုန်၏၊ ထိုပစ္စန္တရစ်နေ သူဌေး၏လူတို့ကို မြင်ကုန်၍ အနာထပိဏ်သူဌေး၏ လူတို့သည် အရှင် အကျွန်ုပ်တို့သည် ထိုလူ တို့အား နေရာကိုရင်း, ရိက္ခာကိုရင်း သိပါကုန်အံ့ဟု ဆို၍ ထိုပစ္စန္တရစ်သားတို့၏ လှည်းတို့ကို မြို့အပ၌ ထိုအမှုအား လျော်သောအရပ်၌ ချွတ်စေ၍ သင်တို့သည် ဤအရပ်၌သာလျှင်နေကုန်လော့၊ သင်တို့ကို ငါတို့၏အိမ်၌ ယာဂုထမင်းကိုရင်း, ရိက္ခာကိုရင်း ဖြစ်စေလတ္တံ့ဟု ဆိုပြီးလျှင် ကျွန်အမှုလုပ်တို့ကို စည်းဝေးစေ၍ သန်းခေါင်ယာမ်၏အခြားမဲ့၌ လှည်းငါးရာတို့ကိုလုယက်ကုန်၍ ထိုပစ္စန္တရစ်သား တို့၏ အဝတ်အရုံတို့ကိုလည်းလုယက်ကုန်၍ နွားတို့ကိုပြေးစေပြီးလျှင် လှည်းဘီး တို့ကို ချွတ်၍ လှည်းတို့ကို မြေ၌ထား၍ လှည်းဘီးတို့ကို ယူ၍ သွားကုန်၏၊ ပစ္စန္တရစ်သားတို့ကို ခါးတော်မျှ၏လည်း အစိုးမရသည်တို့ကို ပြု၍ လွှတ်လိုက် ကုန်၏၊ ထိုပစ္စန္တရစ် သူဌေး၏ လူတို့သည် ကြောက်ခြင်းဖြင့် လျင်မြန်သဖြင့် ပြေးကုန်၍ ပစ္စန္တရစ်သို့သာလျှင် သွားကုန်၏၊အနာထပိဏ်သူဌေး၏ လူတို့သည် ထိုအကြောင်းကို အနာထပိဏ် သူဌေးကြီးအား ကြားလျှောက် ကုန်၏၊ ထိုအနာထပိဏ်သူဌေးသည်လည်း ယခု ငါ့အား ဤစကား လက်ဆောင်သည် ရှိ၏ဟု မြတ်စွာဘုရား အထံတော်သို့ သွားပြီးလျှင် အစမှစ၍ အလုံးစုံသော ထိုအကြောင်းကို ကြားလျှောက်၏၊မြတ်စွာဘုရားသည် သူကြွယ် ထိုပစ္စန္တရစ်နေ သူဌေးသည် ယခုအခါ၌သာလျှင် ဤသို့သော အလေ့ရှိသည် မဟုတ်သေး၊ရှေး၌ လည်း ဤသို့သောအလေ့ရှိသည်သာလျှင်ဖြစ်၏ဟု မိန့်တော်မူ၍ ထိုအနာထပိဏ် သူဌေးသည် တောင်းပန်အပ်သည်ဖြစ်၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**...လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည် သောမင်းသည်မင်းပြုသည် ရှိသော် ဘုရားလောင်းသည် ဗာရာဏသီမြို့၌များစွာ သော စည်းစိမ်ရှိသော သူဌေးသည်ဖြစ်၏၊ထိုဗာရာဏသီသူဌေးအား တယောက် သော ပစ္စန္တရစ်၌နေသော မမြင်ဘူးသောအဆွေခင်ပွန်းဖြစ်သော သူဌေးသည် ဖြစ်၏။

ဤသို့ အစရှိသော အလုံးစုံသော အတိတ်ဝတ္ထုသည် ပစ္စုပ္ပန်ဝတ္ထုနှင့် တူသလျှင်ကတည်း။

အထူးကား ဘုရားလောင်းသည် မိမိ၏ လူတို့သည် ယနေ့ အကျွန်ုပ်တို့သည် ဤမည်သောအမှုကိုပြုအပ်၏ဟု ကြားလျှောက်သည်ရှိသော် ရှေးဦးစွာ မိမိအား ပြုအပ်သော ကျေးဇူးကို မသိကုန်သော သူတို့သည် နောက်၌ ဤသို့ သဘောရှိသော ဆင်းရဲကို ရကုန်မြဲသာလျှင်တည်းဟုဆို၍ ရောက်လာကုန်သော ပရိသတ်တို့အား တရားဟောလိုရကား—

၉၀၊ ယော ပုဗ္ဗေ ကတကလျာဏော၊ ကတတ္ထော နာဝ ဗုဇ္ဈတိ။
ပစ္ဆာ ကိစ္စေ သမုပ္ပန္နေ၊ ကတ္တာရံ နာဓိဂစ္ဆတိ။

ဟူသော ဤဂါထာကို ဆို၏။

ဘောန္တော၊ အချင်းတို့။ ယော၊ အကြင်သူသည်။ ပုဗ္ဗေ၊ ရှေး၌။ ကတကလျာဏော၊ မိမိအား သူတပါးတို့သည် ကျေးဇူးပြုအပ်လျက်။ ပရေန၊ သူတပါးသည်။ ကတတ္ထော၊ ပြုအပ်သော အကျိုးကျေးဇူးရှိလျက်။ နာဝဗုဇ္ဈတိ၊ မသိ။ သော၊ ထိုသူသည်။ ပစ္ဆာ၊ နောက်၌။ ကိစ္စေ၊ ကိစ္စသည်။ သမုပ္ပန္နေ၊ ဖြစ်လတ်သော်။ တံ၊ ထိုကိစ္စကို။ ကတ္တာရံ၊ ပြုတတ်သောသူကို။ နာဓိဂစ္ဆတိ၊ မရ။

ဤသို့လျှင် ဘုရားလောင်းသည် ဤဂါထာဖြင့် တရားဟော၍ ဒါန အစရှိသော ကောင်းမှုတို့ကိုပြု၍ ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ ပစ္စန္တရစ်သူဌေးသည်လျှင် ထိုအခါ ပစ္စန္တရစ်သူဌေး ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ဗာရာဏသီသူဌေး ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[တပါးပြုဘူး၊ သူ့ကျေးဇူး၊ ထွေထူးမသိ ဆင်းရဲဘိ]

ဆယ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော အကတညုဇာတ်သည် ပြီး၏။

## ၁၀—လိတ္တဝဂ် ၉၁—လိတ္တဇာတ်

### ပစ္စည်းလေးပါးတို့ကို ပစ္စဝေက္ခနာ မဆင်ခြင်ဘဲ သုံးဆောင်၍ ဆင်းရဲကြီးစွာ ခံရသော ရဟန်းတို့အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "လိတ္တံ ပရမေန တေဇသာ" အစရှိသော ဂါထာ ပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤ လိတ္တဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "ပစ္စဝေက္ခနာ မဆင်ခြင်မူ၍ ပစ္စည်းလေးပါးကို သုံးဆောင်ခြင်း"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုကာလ၌ ရဟန်းတို့သည် သကာန်း အစရှိသည်တို့ကို ရကုန်၍ များသော အားဖြင့်ကား ပစ္စဝေက္ခနာမဆင်ခြင်မူ၍ သုံးဆောင်ကြကုန်၏၊ ထိုပစ္စည်းလေးပါးတို့ကို ပစ္စဝေက္ခနာ မဆင်ခြင်မူ၍ သုံးဆောင်ကုန်သော ရဟန်းတို့သည် များသောအားဖြင့် ငရဲ တိရစ္ဆာန် အမျိုးမှ မလွတ်ကုန်၊ မြတ်စွာဘုရားသည် ထိုအကြောင်းကို သိတော်မူ၍ ရဟန်းတို့အား များစွာသော အကြောင်းဖြင့် တရားစကားကို ဟောတော်မူ၍ ပစ္စဝေက္ခနာ မဆင်ခြင်မူ၍ သုံးဆောင်ခြင်း၌ အပြစ်ကို ဟောတော်မူ၍ ရဟန်းတို့ ရဟန်းမည်သည် ပစ္စည်းလေးပါးကိုရ၍ ပစ္စဝေက္ခနာ မဆင်ခြင်မူ၍ သုံးဆောင်ခြင်းငှါ မအပ်၊ ထိုကြောင့် ဤနေ့မှစ၍ ပစ္စဝေက္ခနာ ဆင်ခြင်၍ သုံးဆောင်ကုန်လော့ဟု မိန့်တော်မူ၍ ပစ္စဝေက္ခနာ အစီအရင်ကို ပြတော်မူလိုရကား "ဣဓ ပန ဘိက္ခဝေ ဘိက္ခု ပဋိသင်္ခါ ယောနိသော စီဝရံ ပဋိသေဝတိ သီတဿ ပဋိဃာတာယ" ဤသို့ အစရှိသောနည်းဖြင့် ပါဠိကို ထားတော်မူ၍ ရဟန်းတို့ ပစ္စည်းလေးပါးတို့ကို ဤသို့ ပစ္စဝေက္ခနာဆင်ခြင်၍ သုံးဆောင်ခြင်းသည် အပ်၏၊မဆင်ခြင်မူ၍ သုံးဆောင်သည်ကား လတ်တလော သေစေတတ်သော အဆိပ်ကို သုံးဆောင်သည်နှင့် တူ၏၊ ရှေးသူဟောင်းတို့သည် မဆင်ခြင်မူ၍ အပြစ်ကိုမသိမူ၍ အဆိပ်ကို သုံးဆောင်၍ အကျိုးပေးသော ကာလဟူသော အဆုံး၌ ကြီးစွာသော ဆင်းရဲကို ခံရဘူးကုန်ပြီဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် တဦးသော များစွာ

သော စည်းစိမ်ရှိသောအမျိုး၌ ဖြစ်၏၊ အရွယ်သို့ရောက်သည်ရှိသော် ကြွေအန်ကြူးသည်ဖြစ်၏၊ ထိုအခါ တယောက်သော ကောက်ကျစ်သော ကြွေအန်ကြူးသောသူသည် ဘုရားလောင်းနှင့်တကွ ကြွေအန်ကစားသည်ရှိသော် မိမိနိုင်သည်ရှိသော် ကစားပွဲကို မဖျက်၊ ရှုံးသော ကာလ၌ကား ကြွေအန်ကို ခံတွင်း၌ ငုံ၍ ကြွေအန်ပျောက်ပြီဟု ကစားပွဲကို ဖျက်၍ သွား၏၊ ဘုရားလောင်းသည် ထိုအကြောင်းကိုသိ၍ ထိုသို့ဖြစ်စေ၊ ဤအရာ၌ လျောက်ပတ်သော အကြောင်းကို ငါသည် သိအံ့ဟု ကြွေအန်တို့ကိုယူ၍ မိမိအိမ်၌ လတ်တလော သေစေတတ်သော အဆိပ်ဖြင့် လိမ်းကျံ၍ အဖန်တလဲလဲ ခြောက်စေပြီးလျှင် ထိုကြွေအန်တို့ကို ယူ၍ ထိုကောက်ကျစ်သော ကြွေအန်ကြူး၏ အထံသို့ သွား၍ အဆွေ လာလော ကြွေအန် ကစားကုန်အံ့ဟု ဆို၏၊ ထိုကောက်ကျစ်သော ကြွေအန်ကြူးသောသူသည် အဆွေ ကောင်းပြီဟု ကစားပွဲကို စီရင်၍ ဘုရားလောင်းနှင့်တကွ ကစားသည်ရှိသော် မိမိရှုံးသော ကာလ၌ ထိုကြွေအန်ကို ခံတွင်းဖြင့် ငုံ၏၊ ထိုအခါ ကောက်ကျစ်သော ကြွေအန်ကြူးကို ဘုရားလောင်းသည် ထိုသို့ငုံသည်ကိုမြင်၍ ငုံလေဦး၊ နောက်မှ ဤကြွေအန်ကို ငုံခြင်းသည် ဤသို့ ဖြစ်၏ဟု သိရလတ္တံ့၊ ဤသို့ စောဒနာလိုရကား—

၉၁၊ လိတ္တံ ပရမေန တေဇသာ၊ ဂိလမက္ခံ ပုရိသော န ဗုဇ္ဈတိ။
ဂိလ ရေ ဂိလ ပါပဓုတ္တက၊ ပစ္ဆာ တေ ကဋုကံ ဘဝိဿတိ။

ဟူသော ဤဂါထာကို ဆို၏။

ပရမေန၊ ထက်စွာသော။ တေဇသာ၊ အဆိပ်နှင့်။ လိတ္တံ၊ လိမ်းကျံအပ်သော။ အက္ခံ၊ ကြွေအန်ကို။ ဂိလံ-ဂိလန္တော၊ ငုံသော။ ပုရိသော၊ ကြွေအန်ကြူးသော ယောကျာ်းသည်။ န ဗုဇ္ဈတိ၊ ဤကြွေအန်ကို ဤသို့ပြု၏ဟု မသိ။ ရေ ပါပဓုတ္တက၊ ဟယ် ယုတ်မာသော ကြွေအန်ကြူး။ ဂိလ၊ ငုံလေဦး။ ရေ ပါပဓုတ္တက၊ ဟယ် ယုတ်မာသော ကြွေအန်ကြူး။ ဂိလ၊ ငုံလေဦး။ ပစ္ဆာ၊ နောက်မှ။ တေ၊ သင်အား။ ဝိသံ၊ အဆိပ်သည်။ ကဋုကံ၊ ထက်သည်။ ဘဝိဿတိ၊ ဖြစ်လတ္တံ့။

ဤသို့ ဘုရားလောင်း ဆိုစဉ်ပင်လျှင် အဆိပ်၏အဟုန်ဖြင့် မိန်းမော၍ မျက်စိတို့သည် လည်ကုန်လျက် လည်ကုပ်ညွတ်လျက် လည်း၏၊ ဘုရားလောင်း

သည် ယခုအခါ ယုတ်မာသော ကြွေအန်ကြူးအား အသက်အလှူကို ပေးခြင်း ငှါ သင့်၏ဟု နှလုံးပိုက်ပြီးလျှင် ကောင်းစွာ စီရင်အပ်သော အော့အန်စေစေတတ် သော ဆေးကိုပေး၍ အန်စေပြီးလျှင် ထောပတ်,တင်လဲ, ပျား, သကာ အစရှိ သည်တို့ကို စားစေ၍ အနာကင်းသည်တို့ကို ပြုပြီးလျှင် တဖန် ဤသို့ သဘောရှိ သောအမှုကို မပြုလင့်ဟု ဆုံးမ၍ ဒါန အစရှိသော ကောင်းမှုတို့ကို ပြု၍ ကံ အားလျော်စွာ လား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ ပြီးလျှင် ရဟန်းတို့ ပစ္စဝေက္ခနာ မဆင်ခြင်မူ၍ ပစ္စည်းလေးပါးတို့ကို သုံးဆောင် ခြင်း မည်သည်ကား မဆင်ခြင်မူ၍ ပြုအပ်သော အဆိပ်ကို သုံးဆောင်သည်နှင့် တူသည်ဖြစ်၏ဟု မိန့်တော်မူ၍ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ပညာရှိ ကြွေအန်ကြူး ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

> ဤလိတ္တဇာတ်၌ ကောက်ကျစ်သော ကြွေအန်ကြူးကိုကား ဇာတ် မပေါင်းအပ်၊ ဤ လိတ္တဇာတ်၌ကဲ့သို့ ထိုအတူ အလုံးစုံသောဇာတ် ၌ အကြင်သူသည် ဤဇာတ်ကို ဟောတော်မူသော ကာလ၌မထင်၊ ထိုသူကို ဇာတ်မပေါင်းအပ်သလျှင် ကဘည်း၊ ဤသို့ သိအပ်၏။

[ပစ္စဝေက္ခနာ၊ မဆင်ခြင်ပါ၊ လေးဖြာပစ္စည်း အဆိပ်တည်း]

ရှေးဦးစွာသော လိတ္တဇာတ်သည် ပြီး၏။

---

## ၉၂—မဟာသာရဇာတ်

### ပျောက်သောဥစ္စာကို ဥပါယ်ဖြင့်ရအောင် ကြံစည်သော အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညုမြတ်စွာဘုရားသည် "ဥက္ကဋ္ဌေ သူရမိစ္ဆန္တိ" အစရှိသော ဂါထာပုဒ်ဖြင့် ထန်ဆာဆင်အပ်သော ဤ မဟာသာရဇာတ်ကို ဇေတဝန် ကျောင်းတော်၌ သီတင်းသုံးနေတော်မူစဉ် "အရှင် အာနန္ဒာမထေရ်"ကို အကြောင်းပြု၍ ဟော

တော်မူ၏၊ ထိုစကားကို ချဉ်းအံ့၊ အခါတပါး၌ ပသေနဒီ ကောသလမင်းကြီး၏ မင်းမိန်းမတို့သည် ဘုရားပွင့်တော်မူသော ကာလမည်သည်ကို ရခဲ၏၊ ထိုအတူ လူ၏အဖြစ်ကိုလည်း ရခဲ၏၊ ပြည့်စုံသော နား, မျက်စိ အစရှိသော ဣန္ဒြေရှိသည်၏အဖြစ်ကိုလည်းရခဲ၏၊ ငါတို့သည်ရခဲသော ဗုဒ္ဓုပ္ပါဒခဏ အကြောင်း၏ ညီညွတ်ခြင်းကို ရကုန်၍လည်း မိမိတို့၏အလိုအားလျော်စွာ ကျောင်းသို့သွား၍ တရားတော်ကို နာအံ့သောငှါရင်း, ပူဇော်ခြင်းကို ပြုအံ့သောငှါရင်း မရကုန်၊ ပူတာ တံတင်း၌ ထားအပ် ကုန်သကဲ့သို့ နေကြရကုန်၏၊ အရှင်မင်းကြီးအား လျှောက်ကြား ပြီးလျှင် ငါတို့အား တရားကို ဟောပြောအံ့ သောငှါ လျောက်ပတ်သော ရဟန်းတပါးကို ပင့်စေ၍ ထိုရဟန်းအထံ၌ တရားတော်ကို နာကုန်အံ့၊ ထိုရဟန်းအထံမှအကျင့်တရားကိုသင်ကြားကုန်အံ့၊ ဒါနအစရှိသော ကောင်းမှုတို့ကို ပြုကုန်အံ့၊ ဤသို့ ပြုသည်ရှိသော် ငါတို့အား ဤဗုဒ္ဓုပ္ပါဒခဏကို ရခြင်းသည် အကျိုးရှိသည် ဖြစ်လတ္တံ့ဟု ကြံကြကုန်၏၊ ကြံကုန်ပြီးလျှင် မင်းကြီးသို့ ကပ်ကုန်၍ မိမိတို့၏ ကြံသောအကြောင်းကို လျှောက်ကုန်၏၊ မင်းကြီးသည် ကောင်းပြီဟုဝန်ခံ၍ တနေ့သ၌ ဥယျာဉ်ကစားခြင်းကို ကစားလိုသော ပသေနဒီကောသလမင်းကြီးသည် ဥယျာဉ်စောင့်ကို စေ၍ ဥယျာဉ်ကို သုတ်သင်လောဟု ဆို၏၊ ဥယျာဉ်စောင့်သည် ဥယျာဉ်ကို သုတ်သင်သည်ရှိသော် တခုသော သစ်ပင်ရင်း၌ နေတော်မူသော မြတ်စွာဘုရားကို မြင်၍ မင်းကြီးအထံသို့ သွားပြီးလျှင် အရှင်မင်းကြီး ဥယျာဉ်တော်ကို သုတ်သင်အပ်ပြီ၊ စင်စစ်သော်ကား ဤဥယျာဉ်တော်ဝယ် တခုသော သစ်ပင်ရင်း၌ မြတ်စွာဘုရားသည် နေတော်မူ၏ဟု လျှောက်၏၊ မင်းကြီးသည် အချင်း ဥယျာဉ်စောင့် ကောင်းပြီ၊ မြတ်စွာဘုရား အထံတော်၌ တရားတော်ကို နာကုန်အံ့ဟု ဆို၍ တန်ဆာဆင်အပ်သော ရထားကိုစီး၍ ဥယျာဉ်သို့ သွားပြီးလျှင် မြတ်စွာဘုရားအထံသို့ ဆည်းကပ်၏။

ထိုအခါ၌လည်း ဆတ္တပါဏိမည်သော တယောက်သောအနာဂါမ်ဖြစ်သော သီတင်းသည်သည် မြတ်စွာဘုရားအထံတော်၌ တရားတော်ကို နာလျက်နေသည် ဖြစ်၏၊ ကောသလမင်းကြီးသည် ထိုသီတင်းသည်ကိုမြင်လျှင် ရွံရှာသည်ဖြစ်၍ အတန်ငယ်ရပ်လျက် ဤယောကျ်ားသည် အကယ်၍ သူယုတ်မာ ဖြစ်ငြားအံ့ မြတ်စွာဘုရား အထံတော်၌ နေ၍ တရားတော်ကို မနာရာ၊ ဤယောကျ်ားသည်

မယုတ်မာသည် ဖြစ်ရာ၏ဟု ကြံပြီးလျှင် မြတ်စွာဘုရား၏ အထံတော်သို့ ဆည်းကပ်၍ ရှိခိုးလျက် လျှောက်ပတ်စွာ နေ၏၊ သီတင်းသည်သည် မြတ်စွာဘုရား၌ ရှိသေသဖြင့် မင်းကြီးအား ခရီးဦးကြိုဆိုခြင်းကိုရင်း, ရှိခိုးခြင်းကိုရင်း မပြု၊ ထို့ကြောင့် သီတင်းသည်အား မင်းကြီးသည် နှလုံးမသာခြင်းသည် ဖြစ်၏၊ မြတ်စွာဘုရားသည် ကောသလမင်းကြီး၏ နှလုံးမသာသော အဖြစ်ကို သိတော်မူ၍ မြတ်သောမင်းကြီး ဤသီတင်းသည်သည် များသော အကြားအမြင် ရှိ၏၊ အနာဂါမ်ဖြစ်၏၊ပိဋကတ်သုံးပုံကို ဆောင်၏၊ ကာမတို့၌ တပ်စွန်းခြင်းကင်း၏ဟု သီတင်းသည်၏ ကျေးဇူးကို ဟောတော်မူ၏၊ ကောသလမင်းကြီးသည် အကြင် သီတင်းသည်၏ ကျေးဇူးကို မြတ်စွာဘုရားသည် ချီးမွမ်းတော်မူ၏၊ ဤသီတင်း သည်သည် ဂုဏ်ငယ်သည် မဖြစ်ရာဟု ကြံ၍ သီတင်းသည် အကြင်ဝတ္ထုဖြင့် သင့်အား အလိုရှိအံ့၊ ထိုဝတ္ထုကို ငါ့အားကြားလောဟုသီတင်းသည်ကို ဘိတ်၏၊ သီတင်းသည်သည် မြတ်သော မင်းကြီး ကောင်းပြီဟု ဝန်ခံ၏၊ ကောသလ မင်းကြီးသည် မြတ်စွာဘုရားအထံတော်၌ တရားတော်ကို နာပြီးလျှင် မြတ်စွာ ဘုရားကို လက်ျာရစ်လှည့်၍ သွား၏။

ဟိုကောသလ မင်းကြီးသည် တနေ့သောအခါ ပြာသာဒ်ထက်၌ လေသွန် တံခါးကို ဖွင့်၍ ရပ်လျက် နံနက်စာ စားပြီးလျှင် ထီးကို ယူ၍ ဇေတဝန် ကျောင်းတော်သို့ သွားသော သီတင်းသည်ကိုမြင်လျှင် ခေါ်စေ၍ သီတင်းသည် သင်သည် များသော အကြားအမြင်ရှိသတတ်၊ ငါတို့၏မင်းမိန်းမတို့သည်လည်း တရားတော်ကို နာလည်း နာလိုကုန်၏၊ သင်လည်း သင်လိုကုန်၏၊ စင်စစ်လျှင် ထိုမိန်းမတို့အား တရားတော်ကို အကယ်၍ သင်သည် သင်ပြေးအံ့၊ကောင်းသည် ဖြစ်ရာ၏၊ ဤသို့ ဆို၏၊ မြတ်သော မင်းကြီး နန်းတော်တွင်း၌ အကယ်၍ တရားတော်ကို ဟောအံ့သောငှါလည်း, သင်အံ့သောငှါလည်း လူဖြစ်သော သူတို့ အားကား မလျှောက်ပတ်၊ ရဟန်းဖြစ်သော အရှင်မြတ်တို့အား သာလျှင် လျှောက်ပတ်၏ဟု လျှောက်၏၊ မင်းကြီးသည် ဤသီတင်းသည်သည် မှန်သော စကားကို ဆို၏ဟုဆို၍ ထိုသီတင်းသည်ကို လွှတ်လိုက်ပြီးလျှင် မင်းမိန်းမတို့ကို ခေါ်စေ၍ ရှင်မတို့ ငါသည် သင်တို့အား တရားကို ဟောစိမ့်သောငှါလည်း, တရားကို သင်စိမ့်သောငှါလည်း မြတ်စွာဘုရား၏ အထံတော်သို့ သွား၍ ရဟန်း

တပါးကို တောင်းအံ့၊ ရှစ်ကျိပ်ကုန်သော မဟာသာဝကတို့တွင် အဘယ်မည်သောမထေရ်ကို တောင်းရအံ့နည်းဟု မေး၏၊ ထိုအလုံးစုံကုန်သော မိန်းမတို့သည် တိုင်ပင်ကုန်၍ တရားဘဏ္ဍာစိုးဖြစ်သော အရှင်အာနန္ဒာ မထေရ်ကိုသာလျှင် ကြားလျှောက်ကုန်၏။

ကောသလမင်းကြီးသည် မြတ်စွာဘုရား အထံတော်သို့ သွားပြီးလျှင် ရှိခိုး၍ လျှောက်ပတ်စွာနေလျက် အရှင်ဘုရား အကျွန်ုပ်တို့၏ နန်းတော်၌ မင်းမိန်းမတို့သည် အရှင်အာနန္ဒာမထေရ်၏ အထံ၌ တရားတော်ကို နာအံ့သောငှါလည်း, သင်အံ့သောငှါလည်း အလိုရှိကုန်၏၊ အရှင်အာနန္ဒာ မထေရ်သည် အကျွန်ုပ်၏ နန်းတော်၌ တရားကို အကယ်၍ ဟောငြားအံ့၊ အကယ်၍ သင်ချေငြားအံ့၊ စင်စစ်လျှင် ကောင်းသည် ဖြစ်ရာ၏ဟု လျှောက်၏၊ မြတ်စွာဘုရားသည် မြတ်သောမင်းကြီး ကောင်းပြီဟု ဝန်ခံ၍ အရှင်အာနန္ဒာမထေရ်ကို စေတော်မူ၏၊ ထိုအခါမှစ၍ ကောသလမင်းကြီး၏ မင်းမိန်းမတို့သည် အရှင်အာနန္ဒာမထေရ်၏ အထံ၌ တရားတော်ကို နာလည်းနာကုန်၏၊ သင်လည်း သင်ကုန်၏၊ထိုအခါ တနေ့သ၌ ကောသလမင်းကြီး၏ ပတ္တမြား ဥသျှောင်ကျင်သည် ပျောက်၏၊ မင်းကြီးသည် ထိုပျောက်သော အဖြစ်ကိုကြား၍ အမတ်တို့ကို အလုံးစုံသော နန်းတော်တွင်း၌ သုံးဆောင်သောသူတို့ကို ခေါ်စေ၍ ပတ္တမြား ဥသျှောင်ကျင်ကို ဆောင်စေကုန်လောဟု စေ၏၊ အမတ်တို့သည် မိန်းမတို့ကို အစပြု၍ မေးသည်ရှိသော် မသိ မမြင်၍ လူများကို ပင်ပန်းစေကုန်၏၊ ထိုနေ့၌ အရှင်အာနန္ဒာမထေရ်သည် နန်းတော်သို့ ဝင်သည်ရှိသော် ထိုမိန်းမတို့သည် ရှေး၌ အရှင်အာနန္ဒာမထေရ်ကိုမြင်လျှင် နှစ်သက်ရွှင်လန်းစွာ တရားတော်ကို နာကုန်သကဲ့သို့ရင်း သင်ကုန်သကဲ့သို့ရင်း ထိုရှေးအတူမပြုကုန်မူ၍ အလုံးစုံသော မင်းမိန်းမတို့သည် နှလုံးမသာခြင်းသို့ ရောက်ကုန်သည်သာလျှင် ဖြစ်ကုန်၏။

ထိုအခါ အရှင်အာနန္ဒာမထေရ်သည် အဘယ့်ကြောင့် သင်တို့သည် ဤသို့ သဘောရှိသည် ဖြစ်ကုန်သနည်းဟု မေးတော်မူ၏၊ ထိုမင်းမိန်းမတို့သည် အရှင်ဘုရား မင်း၏ ပတ္တမြားဥသျှောင်ကျင်ကို ရှာကုန်အံ့ဟု အမတ်တို့သည် မိန်းမတို့ကို အစပြု၍ နန်းတော်တွင်း၌ သုံးဆောင်သောသူတို့ကို ပင်ပန်းစေကုန်၏၊ တစုံတယောက်သောသူအား အသို့ ဖြစ်လတ္တံ့ဟု မသိကုန်၊ ထိုကြောင့် နှလုံး

မသာယာခြင်းသို့ ရောက်ကုန်၏ဟု လျှောက်ကုန်၏၊ အရှင်အာနန္ဒာမထေရ်သည် သင်တို့သည် မကြောက်ကြကုန်လင့်ဟု ထိုမင်းမိန်းမတို့ကို နှစ်သိမ့်စေပြီးလျှင် မင်းကြီးအထံသို့သွား၍ ခင်းအပ်သောနေရာ၌နေလျက် မြတ်သောမင်းကြီး သင် မင်းကြီး၏ ပတ္တမြားဥသျှောင်ကျင်သည် ပျောက်သလောဟု မေးတော်မူ၏၊ အရှင်ဘုရား ပျောက်သည်မှန်၏ဟု လျှောက်၏၊ မြတ်သောမင်းကြီး ထိုပတ္တမြား ဥသျှောင်ကျင်ကို ဆောင်ခဲ့စိမ့်သောငှါ မတတ်နိုင်သလောဟု မေးတော်မူ၏၊ အရှင်ဘုရား အလုံးစုံသော အတွင်းသားအပေါင်းကို ခေါ်စေ၍ ပင်ပန်းစေ သော်လည်း ဆောင်ခဲ့စိမ့်သောငှါ မတတ်နိုင်ဟု လျှောက်၏၊ မြတ်သောမင်းကြီး လူများကို မပင်ပန်းစေမူ၍သာလျှင် ဆောင်ခဲ့စိမ့်သောငှါ အကြောင်းသည် ရှိ၏ဟု မိန့်တော်မူ၏၊ အရှင်ဘုရား အဘယ်အကြောင်းနည်းဟု လျှောက်၏၊ မြတ်သောမင်းကြီး အဆုပ်ပေးခြင်းတည်းဟုမိန့်တော်မူ၏၊ အရှင်ဘုရား အဘယ် အဆုပ်ပေးခြင်းနည်းဟု မေးလျှောက်၏။

မြတ်သောမင်းကြီး အကြင်မျှလောက်သော သူတို့၌ ယုံမှားခြင်းသည်ရှိ၏၊ ထိုမျှလောက်သော သူတို့ကို ခေါ်၍ တယောက် တယောက်သောသူအား တခု တခုစီသော ဖွဲဆုပ်ကိုဂုဏ်း မြေဆုပ်ကိုဂုဏ်း ပေး၍ ဤအဆုပ်ကို မိုးသောက်သော ကာလ၌ ဆောင်ခဲ့ကုန်၍ ဤမည်သောအရပ်၌ ချကုန်လောဟု ဆိုအပ်၏၊အကြင် သူသည် ယူသည်ဖြစ်လတ္တံ့၊ ထိုယူသောသူသည် ထိုအဆုပ်၌ထည့်၍ ဆောင်ခဲ့ လတ္တံ့၊ ရှေးဦးစွာသော နေ့၌လျှင် အကယ်၍ ချကုန်အံ့၊ ထိုသို့ ချခြင်းသည် ကောင်း၏၊ အကယ်၍ မချကုန်အံ့၊ နှစ်ရက်မြောက်သော နေ့၌ဂုဏ်း, သုံးရက် မြောက်သောနေ့၌ဂုဏ်း ထို့အတူသာလျှင် ပြုအပ်၏၊ ဤသို့ ပြုသည်ရှိသော် လူများသည်လည်း မပင်ပန်းလတ္တံ့၊ ပတ္တမြားဥသျှောင်ကျင်ကိုလည်း ရလတ္တံ့၊ ဤသို့ မိန့်တော်မူ၍ အရှင်အာနန္ဒာမထေရ်သည် ကြွတော်မူ၏၊ ကောသလမင်း ကြီးသည် အရှင်အာနန္ဒာမထေရ် မိန့်တော်မူသောနည်းဖြင့်သာလျှင် သုံးရက်တို့ ပတ်လုံး ပေးစေသော်လည်း ပတ္တမြားဥသျှောင်ကျင်ကို မဆောင်ခဲ့ကုန်၊ အရှင် အာနန္ဒာမထေရ်သည် သုံးရက်မြောက်သောနေ့၌ ကြွတော်မူလာ၍ မြတ်သော မင်းကြီး ပတ္တမြားဥသျှောင်ကျင်ကို ချ၏လောဟု မိန့်တော်မူ၍ အရှင်ဘုရား မချကုန်ဟု လျှောက်၏။

မြတ်သောမင်းကြီး ထိုသို့တပြီးကား ကျယ်သောမင်းယင်ပြင်ဝယ်ဖုံးကွယ်ရာ အရပ်၌ အိုးစရည်းကြီးကို ထား၍ ရေဖြင့် ပြည့်စေပြီးလျှင် တင်းတိမ်ကို ရံစေ၍ အလုံးစုံသော နန်းတွင်း၌ သုံးဆောင်သော ယောကျာ်းတို့သည်၎င်း၊ မိန်းမတို့သည်၎င်း အပေါ်ရုံကို ရုံ၍ တယောက် တယောက်စီ တင်းတိမ် တွင်းသို့ ဝင်ပြီးလျှင် လက်ကို ဖြန့်၍ လာခဲ့ ကုန်လောဟု ဆိုတော်မူလော၊ ဤသို့ မိန့်တော်မူပြီးလျှင် အရှင် အာနန္ဒာမထေရ်သည် ဤအကြောင်းကို ကြား၍ ကြွတော်မူ၏၊ ကောသလ မင်းကြီးသည် အရှင်အာနန္ဒာ မထေရ် ဆိုတိုင်း ပြုစေ၏၊ ပတ္တမြားဥသျှောင်ကျင်ကို ခိုးသောသူသည် တရားဘဏ္ဍာစိုးဖြစ်တော်မူသော အရှင် အာနန္ဒာ မထေရ်သည် ဤ အဓိကရုဏ်းကို ယူ၍ ပတ္တမြား ဥသျှောင်ကျင်ကို မမြင်လျှင် မလွှတ်လတ္တံ့၊ စင်စစ်လျှင် ဤပတ္တမြား ဥသျှောင်ကျင်ကို ယခုအခါ၌ ချခြင်းငှါ သင့်၏ဟု ကြံ၏၊ ကြံပြီး၍ ပတ္တမြား ဥသျှောင်ကျင်ကို ဖုံးလွှမ်း၍ယူခဲ့ပြီးလျှင် တင်းတိမ်တွင်းသို့ဝင်၍ အိုးစရည်း၌ချ၍ ထွက်ခဲ့၏၊ အလုံးစုံသော သူတို့၏ ထွက်သော ကာလ၌ ရေကိုစွန့်၍ ပတ္တမြား ဥသျှောင်ကျင်ကို မြင်ကုန်၏၊ ကောသလမင်းကြီးသည် အရှင်အာနန္ဒာမထေရ်ကို မှီ၍ များစွာသောလူအပေါင်းကို မပင်ပန်းစေမူ၍သာလျှင်ငါသည်ပတ္တမြားဥသျှောင်ကျင်ကို ရအပ်၏ဟု နှစ်သက်၏၊နန်းတော်တွင်း၌ မင်းသုံးသော သူတို့သည်လည်း ငါတို့သည် အရှင်အာနန္ဒာကိုမှီ၍ ကြီးစွာသောဆင်းရဲမှ လွတ်သည်ဖြစ်ကုန်၏ဟု နှစ်သက်ကုန်၏၊ အရှင်အာနန္ဒာမထေရ်၏ အာနုဘော်ကြောင့် မင်း၏ ပတ္တမြား ဥသျှောင်ကျင်ကို ရအပ်၏၊ ဤသို့လျှင် အရှင်အာနန္ဒာ မထေရ်၏ အာနုဘော်သည် အလုံးစုံသော မြို့၌၎င်း၊ ရဟန်း သံဃာ၌၎င်း ထင်ရှားသည် ဖြစ်၏။

ရဟန်းတို့သည် တရားသဘင်၌ စည်းဝေးကုန်လျက် ငါ့သျှင်တို့ အာနန္ဒာ မထေရ်သည် မိမိ၏ များသော အကြားအမြင်ရှိသည်၏ အဖြစ်ကြောင့် ပညာရှိသည်၏ အဖြစ်ကြောင့် ဥပါယ်၌ လိမ္မာသည်၏ အဖြစ်ကြောင့် များစွာသော လူအပေါင်းကို မပင်ပန်းစေမူ၍ ဥပါယ်ဖြင့်သာလျှင် ကောသလမင်းကြီး၏ ပတ္တမြား ဥသျှောင်ကျင်ကို ပြ၏ဟု အရှင်အာနန္ဒာ မထေရ်၏ ဂုဏ်ကျေးဇူးကို ချီးမွမ်းကုန်၏၊မြတ်စွာဘုရားသည်လာတော်မူလတ်၍ရဟန်းတို့ယခုအခါအဘယ် စကားဖြင့် စည်းဝေးကုန်သနည်းဟု မေးတော်မူ၍ ဤမည်သော စကားဖြင့်

စည်းဝေးပါကုန်၏ဟု နားတော်လျှောက်သည်ရှိသော် ရဟန်းတို့ ယခုအခါ အာနန္ဒာသည်သာလျှင် သူတပါးလက်သို့ ရောက်ပြီးသော ဘဏ္ဍာကို ရအပ်သည် မဟုတ်သေး၊ ရှေး၌လည်း ပညာရှိတို့သည် များစွာသော လူအပေါင်းကို မပင်ပန်းစေမူ၍ ဥပါယ်ဖြင့်သာလျှင် တိရစ္ဆာန်လက်သို့ရောက်ပြီးသောဘဏ္ဍာကို ရဘူးကုန်ပြီဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ဗြဟ္မဒတ်မည်သော မင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် အလုံးစုံသော အတတ်တို့၏ အပြီးသို့ရောက်သော ထိုဗာရာဏသီမင်း၏သာလျှင် အမတ် ဖြစ်၏၊ ထိုအခါ တနေ့သ၌ ဗာရာဏသီမင်းသည် များစွာသော အခြံအရံဖြင့် ဉယျာဉ်တွင်း၌ လှည့်လည်သည်ရှိသော် ရေကစားခြင်းကို ကစားလိုသည် ဖြစ်၍ မင်္ဂလာ ရေကန်သို့ သက်၍ မင်းမောင်းမ အပေါင်းကို ခေါ်စေ၏၊ မင်းမောင်းမတို့သည် မိမိတို့၏ ဦးခေါင်းတန်ဆာ လည်တန်ဆာ အစရှိကုန်သောတန်ဆာတို့ကိုချွတ်၍ စုလျား၌ ထည့်၍ ပုတာအပြင်၌ ထားပြီးလျှင် ကျွန်မတို့ကို စောင့်စေ၍ ရေသို့ သက်၏၊ ထိုအခါ တခုသော ဉယျာဉ်၌ နေသော မျောက်မသည် သစ်ခက်ကြား၌နေလျက် မိဖုယားသည် တန်ဆာတို့ကိုချွတ်၍ စုလျား၌ထည့်၍ ပုတာအပြင်၌ ထားသည်ကို မြင်၍ ထိုမိဖုယား၏ ပုလဲသွယ်ကို ဆင်လိုသည်ဖြစ်၍ ကျွန်မ၏ မေ့လျော့ခြင်းကို ကြည့်လျက်နေ၏၊ ကျွန်မသည်လည်း စောင့်ရှောက် လျက် ထိုထိုအရပ်ကို ကြည့်၍ နေစဉ်ပင်လျှင် အိပ်အံ့သောငှါ အားထုတ်၏၊ မျောက်မသည် ထိုကျွန်မ မေ့လျော့သော အဖြစ်ကို သိလျှင် လေကဲ့သို့သော လျှင်ခြင်းဖြင့် သစ်ပင်မှ သက်လတ်၍ လေကဲ့သို့သော လျှင်ခြင်းဖြင့် ခုန်၍ သက်ခက်ကြား၌ နေလျက် တပါးကုန်သော မျောက်မတို့၏ မြင်ခြင်းမှ ကြောက်သောကြောင့် တခုသော သစ်ခေါင်း၌ ထားပြီးလျှင် အလွန် ငြိမ်သက်သကဲ့သို့ ဖြစ်၍ ထိုပုလဲသွယ်ကို စောင့်လျက် နေ၏။

ထိုကျွန်မသည်လည်း နိုးလတ်၍ ပုလဲသွယ်ကို မမြင်သည်ရှိသော် တုန်လှုပ်လျက် တပါးသော အကြောင်းကို မမြင်၍ ယောကျာ်း ခိုးသူသည် မိဖုယား၏ ပုလဲသွယ်ကို ယူ၍ ပြေး၏ဟု သည်းစွာသော ဟစ်ကြွေးခြင်းကို ဟစ်ကြွေး၏၊ အစောင့်အရှောက်တို့သည် ထိုထို အရပ်မှ စည်းဝေးကုန်၍

ထိုကျွန်မ၏ စကားကိုကြား၍ မင်းအား လျှောက်ကုန်၏၊ မင်းသည် ခိုးသူကို ဖမ်းကုန်လောဟု ဆို၏၊ မင်းချင်း ယောကျ်ားတို့သည် ဥယျာဉ်မှ ထွက်ကုန်၍ "ခိုးသူကို ဖမ်းကြ,ခိုးသူကိုဖမ်းကြ"ဟုဆို၍ ထိုမှဤမှ ကြည့်ကုန်၏၊ထိုအခါ ဇနပုဒ်၌နေသော အိမ်ရှင်ယောကျ်ားသည် ထိုအသံကိုကြား၍ တုန်လှုပ်လျက် ပြေး၏၊ ထိုယောကျ်ားကိုမြင်၍ မင်းချင်း ယောကျ်ားတို့သည် ဤသူသည် ခိုးသူ ဖြစ်လတ္တံ့ဟု လိုက်၍ ထိုသူကို ဖမ်းကုန်၍ ပုတ်ခတ်ပြီးလျှင် ဟယ် သူခိုးပျက် ဤသို့သော မဟာသာရမည်သော တန်ဆာတော်ကို ခိုးဘိ၏ဟု ဆို၍ ဆဲရေးကုန်၏၊ ထိုယောကျ်ားသည် ငါသည် မခိုးဟု အကယ်၍ဆိုအံ့၊ ယနေ့ ငါ့အား အသက်မရှိရာပြီ၊ ပုတ်ခတ်၍သာလျှင် သတ်ကုန်လတ္တံ့၊ ထိုခိုးခြင်းကို ဝန်ခံအံ့ဟု ကြံ၏၊ ကြံပြီး၍ အရှင်တို့ အကျွန်ုပ်သည် ခိုးသူမှန်၏ဟု ဆို၏။

ထိုအခါ ထိုယောကျ်ားကို နှောင်ဖွဲ့၍ မင်း၏အထံသို့ ဆောင်ကုန်၏၊ မင်းသည်လည်း ထိုယောကျ်ားကို သင်သည် မဟာသာရမည်သော တန်ဆာကို ခိုးသလောဟု မေး၏၊ အရှင်မင်းကြီး ခိုးသည် မှန်၏ဟု လျှောက်၏၊ ယခု တန်ဆာသည် အဘယ်မှာနည်းဟု မေး၏၊ အရှင်မင်းကြီး အကျွန်ုပ်သည် မဟာသာရမည်သော ညောင်စောင်း အင်းပျဉ်ကိုလည်း မမြင်စဘူး သူဌေးသည်ကား အကျွန်ုပ်ကို မဟာသာရမည်သော တန်ဆာကို ယူစေ၏ ထိုအကျွန်ုပ်သည် ထိုတန်ဆာကိုယူ၍ ထိုသူဌေးကြီးအား ပေး၏၊ ထိုသူဌေးကြီးသည် ထို တန်ဆာကို ယူ၏ဟု လျှောက်၏၊ မင်းသည် သူဌေးကို ခေါ်စေ၍ သင်သည် ဤ ယောကျ်ား၏ လက်မှ မဟာသာရမည်သော တန်ဆာကို ယူသလောဟု မေး၏၊ အရှင်မင်းကြီး ယူပေ၏ဟု လျှောက်၏၊ ထိုတန်ဆာသည် အဘယ်မှာနည်းဟု မေး၏၊ အရှင်မင်းကြီး ပုရောဟိတ်အား ပေး၏ဟု ဆို၏၊ ထိုပုရောဟိတ်ကိုလည်း ခေါ်စေ၍ ထိုရှေးအတူသာလျှင် မေး၏၊ ထိုပုရောဟိတ်သည် ဝန်ခံ၍ စောင်းသွားအား ပေးအပ်၏ဟု လျှောက်၏၊ ထိုစောင်းသွားကိုလည်း ခေါ်စေ၍ သင်သည် ပုရောဟိတ်လက်မှ မဟာသာရဟူသော တန်ဆာကို ယူသလောဟု မေး၏၊ အရှင်မင်းကြီး ယူပေ၏ဟု လျှောက်၏၊ ထိုတန်ဆာသည် အဘယ်မှာနည်းဟု မေး၏။

အရှင်မင်းကြီး အကျွန်ုပ်သည် ကိလေသာ၏ အစွမ်းအားဖြင့် ပြည့်တန်ဆာမအား ပေးအပ်၏ဟု လျှောက်၏၊ ထိုပြည့်တန်ဆာမကိုလည်း ခေါ်စေ၍မေး၏၊ ထိုပြည့်တန်ဆာမသည် အရှင်မင်းကြီး အကျွန်ုပ် မယူဟု လျှောက်၏၊ ထိုငါးယောက်ကုန်သော သူတို့ကို မေးကုန်စဉ်လျှင် နေသည်ဝင်၏၊ မင်းကြီးသည် ယခုအခါ၌ အချိန်မဟုတ်သည် ဖြစ်၏၊နက်ဖြန်မှ သိရအံ့ဟု ထိုငါးယောက်သော သူတို့ကို အမတ်တို့အား အပ်၍ မြို့သို့ဝင်၏၊ ဘုရားလောင်းသည် မဟာသာရ မည်သော တန်ဆာတော်သည် အတွင်းသားတို့၏ လက်၌ ပျောက်၏၊ ဤသူကြွယ်သည်လည်း အပသားဖြစ်၏၊ တံခါး၌လည်း အားကြီးသော အစောင့်အရှောက်ရှိ၏၊ ထို့ကြောင့် အတွင်းသားတို့သည်လည်း ထိုတန်ဆာကို ယူ၍ ပြေးခြင်းငှါ မတတ်နိုင်၊ ဤသို့လျှင် အပသားတို့၏ ယူခြင်း၏ အကြောင်းသည် မထင်သလျှင်ကတည်း၊ ဥယျာဉ်တော်တွင်း၌ မင်းသုံးသော လူတို့၏ ယူခြင်း အကြောင်းသည်လည်း မထင်၊ ငါသည် သူဌေးအား ပေး၏ဟု ဆိုသော ဤသူဆင်းရဲသည် မိမိ၏ လွတ်ခြင်းအကျိုးငှါ ဆိုသည် ဖြစ်လတ္တံ့၊ ငါသည် ပုရောဟိတ်အား ပေး၏ဟု ဆိုသော သူဌေးသည်လည်း ထိုပုရောဟိတ်နှင့် တပေါင်းတည်းဖြစ်၍ အမှုကို ထုတ်ကုန်အံ့ဟု ကြံ၍ဆိုသည် ဖြစ်လတ္တံ့၊ ငါသည် စောင်းသမားအား ပေး၏ဟု ဆိုသော ပုရောဟိတ်သည်လည်း နှောင်အိမ်မှာ စောင်းသမားကိုမှီ၍ ချမ်းသာသဖြင့် နေအံ့ဟု ကြံ၍ဆိုသည် ဖြစ်လတ္တံ့၊ ငါသည် ပြည့်တန်ဆာမအား ပေး၏ဟု ဆိုသော စောင်းသမားသည်လည်း မငြီးငွေ့ဘဲ နေရသည် ဖြစ်ကုန်အံ့ဟု ကြံ၍ဆိုသည် ဖြစ်လတ္တံ့၊ ဤသို့လျှင် ငါးယောက်ကုန်သော သူတို့သည် ခိုးသူ မဟုတ်သည် ဖြစ်ရာ၏။

ဥယျာဉ်၌ မျောက်တို့သည် များကုန်၏၊ မဟာသာရတန်ဆာသည် တခုသော မျောက်မ၏ လက်သို့ ရောက်သည် ဖြစ်ရာ၏ဟု ကြံပြီး၍ ထိုဘုရားလောင်းသည် မင်းသို့ ကပ်ပြီးလျှင် မင်းမြတ် ခိုးသူတို့ကို အကျွန်ုပ်တို့အား အပ်တော်မူကုန်လော၊ အကျွန်ုပ်တို့သည် ထိုအမှုကို သုတ်သင် ပါကုန်အံ့ဟု လျှောက်၏၊ မင်းသည် ပညာရှိ ကောင်းပြီ သုတ်သင်လောဟုဆို၍ ဘုရားလောင်းအား ပေးအပ်၏၊ ဘုရားလောင်းသည် မိမိ၏ ကျွန်ယောကျ်ားတို့ကို

ခေါ်စေပြီးလျှင် ထိုငါးယောက်သောသူတို့ကို တခုသော အရပ်၌ သာလျှင် နေစေ၍ ထက်ဝန်းကျင်မှ အစေစောင့် အရှောက်ကို ပြု၍ နားအပ်လျက် ထိုငါးယောက်ကုန်သော သူတို့သည် အကြင်စကားကို အချင်းချင်း ဆိုကုန်၏၊ ထိုစကားကို ငါ့အား ကြားကုန်လော့ဟု ဆို၍ ဖဲခဲ့၏၊ ထိုကျွန်ယောက်ျား တို့သည် ဘုရားလောင်းဆိုတိုင်း ပြုကုန်၏၊ ထိုနောင်မှ ထိုလူတို့ စည်းဝေးသော အခါ၌ သူဌေးကြီးသည် ဇနပုဒ်သား အိမ်ရှင်ယောက်ျားကို ဟယ်ဇနပုဒ်သား အိမ်ရှင်ယောက်ျားပျက် အဘယ်အခါ၌သင်သည်ငါ့ကိုမြင်ဘူးသနည်း ငါသည် သင့်ကို အဘယ်အခါ၌ မြင်ဘူးသနည်း၊ အဘယ်အခါ သင်သည် ငါ့အား မဟာ သာရတန်ဆာကို ပေးသနည်းဟု ဆို၏၊ အရှင် သူဌေးကြီး အကျွန်ုပ်သည် မဟာသာရ မည်သော သစ်သား အခြေတပ်သော ညောင်စောင်း အင်းပျဉ် ကိုလည်း မသိ၊အရှင်သူဌေးကြီးကိုကား မှီ၍ လွတ်ခြင်းကို ရပါအံ့ဟုကြံ၍ ဤသို့ ဆိုပေ၏၊ အရှင်သူဌေးကြီးသည် အကျွန်ုပ်အား အမျက်မထွက်ပါလင့်ဟု ဆို၏။

ပုရောဟိတ်သည်လည်း သူဌေးကြီးကို သူဌေး သင်သည် မိမိအား ဤဇနပုဒ် သား အိမ်ရှင်ယောက်ျားသည် မပေးအပ်သော မဟာသာရ တန်ဆာကိုလျှင် ငါ့အား အသို့ပေးသနည်းဟု မေး၏၊ ငါတို့နှစ်ယောက်တို့သည် ဥစ္စာရှင်ချည်း ဖြစ်ကြကုန်၏၊ ငါတို့၏ တပေါင်းတည်းဖြစ်၍ တည်သောကာလ၌ အမှုသည် လျင်စွာ ပြီးလတ္တံ့ဟု ကြံ၍ဆိုပေ၏ဟု ဆို၏၊စောင်းသွားသည်လည်း ပုရောဟိတ် ပုဏ္ဏား အဘယ်အခါ၌ သင်သည် ငါ့အားမဟာသာရတန်ဆာကိုပေးသနည်းဟု ဆို၏၊ ငါသည် သင့်ကိုမှီ၍ နေရာအရပ်၌ ချမ်းသာစွာ နေရပါအံ့ဟု ကြံ၍ ဆိုပေ၏ဟု ဆို၏၊ ပြည့်တန်ဆာမသည်လည်း စောင်းသွားကို ဟယ် စောင်းသွား ပျက် ငါသည် အဘယ်အခါ၌ သင့်အထံသို့ ရောက်ဘူးသနည်း၊ သင်သည်လည်း အဘယ်အခါ၌ ငါ့အထံသို့ လာဘူးသနည်း၊ အဘယ်အခါ၌ သင်သည် ငါ့အား မဟာသာရ တန်ဆာကို ပေးသနည်းဟု ဆို၏၊ နှမ အဘယ့်ကြောင့် အမျက် ထွက်သနည်း၊ ငါတို့ ငါးယောက်သည် တပေါင်းတည်း နေကုန်သည်ရှိသော် အိမ်၌နေရသကဲ့သို့ ဖြစ်လတ္တံ့၊ မငြီးငွေ့ကုန်သည်ဖြစ်၍ ချမ်းသာစွာ နေရကုန် လတ္တံ့ဟု ကြံ၍ ဆိုပေ၏ဟု ဆို၏။

ဘုရားလောင်းသည် စေအပ်သောကျွန်ယောကျ်ားတို့၏အထံမှ ထိုစကားကို ကြား၍ ထိုသူငါးယောက်တို့၏ အဟုတ်အမှန်အားဖြင့် ခိုးသူမဟုတ်သော အဖြစ်ကိုသိ၍ မျောက်မသည် ယူအပ်သော မဟာသာရ တန်ဆာကို ဥပါယ်ဖြင့် သာလျှင် ချစေအံ့ဟု ကြံ၍ ချည်ထုံးဖြင့် ပြီးသော များစွာသော တန်ဆာ တို့ကို ပြုစေပြီးလျှင် ဥယျာဉ်တော်၌ မျောက်မတို့ကို ဖမ်းယူစေ၍ လက်, ခြေ, လည်တို့၌ ချည်ထုံးဖြင့်ပြီးသော တန်ဆာကိုဆင်၍ လွှတ်လိုက်၏၊ မဟာသာရ တန်ဆာကို ခိုးသော မျောက်မသည် တန်ဆာကို စောင့်လျက် ဥယျာဉ်တော်၌ သာလျှင် နေ၏၊ ဘုရားလောင်းသည် လူတို့ကို သင်တို့သည် သွားကြကုန်၊ ဥယျာဉ်တော်၌ အလုံးစုံသော မျောက်မတို့ကို စုံစမ်းကြကုန်လော၊ အကြင် မျောက်မ၌ ထိုမဟာသာရတန်ဆာကိုမြင်ကုန်၏၊ ထိုမျောက်မကို ခြိမ်းချောက်၍ မဟာသာရ တန်ဆာကို ယူခဲ့ကုန်လောဟု စေလိုက်၏၊ ထိုမျောက်မတို့သည် လည်း ငါတို့သည် တန်ဆာကို ရအပ်ကုန်ပြီဟု နှစ်သက် ရွှင်လန်းစွာ ဥယျာဉ်၌ သွားကုန်သည်ရှိသော် ထိုမဟာသာရတန်ဆာကို ခိုးသော မျောက်မ၏ အထံသို့ ရောက်၍ ငါတို့၏ တန်ဆာကိုကြည့်လောဟုဆိုကုန်၏၊ ထိုမဟာသာရတန်ဆာကို ခိုးသော မျောက်မသည် ကျေးဇူးချေခြင်းကို သည်းမခံနိုင်သည် ဖြစ်၍ ဤချည်ထုံးဖြင့် ပြီးသော တန်ဆာဖြင့် အဘယ်ပြုအံ့နည်းဟု ဆို၍ မဟာသာရ ပုလဲသွယ်ကို ဆင်ဝတ်လျက် ထွက်လာ၏။

ထိုအခါ မျောက်မကို လူတို့သည် မြင်ကုန်၍ မဟာသာရ တန်ဆာကို စွန့်စေ၍ ဆောင်ခဲ့ပြီးလျှင် ဘုရားလောင်းအား ပေးကုန်၏၊ ဘုရားလောင်းသည် ထိုတန်ဆာကို ယူ၍ မင်းအားပြ၍ အရှင်မင်းကြီး ဤတန်ဆာသည် အရှင် မင်းကြီး၏ တန်ဆာတည်း၊ ထိုငါးယောက်ကုန်သော သူတို့သည် ခိုးသူမဟုတ် ကုန်၊ ဤတန်ဆာကို ဥယျာဉ်တော်၌ မျောက်မသည် ယူအပ်၏ဟု လျှောက်၏၊ ပညာရှိ သင်သည် အသို့လျှင် ဤမျောက်မလက်သို့ ရောက်သော အဖြစ်ကို သိသနည်းဟု မေး၏၊ ဘုရားလောင်းသည် အလုံးစုံသော အကြောင်းကို ကြားလျှောက်၏၊ မင်းသည် နှစ်သက်သောစိတ်ရှိသည်ဖြစ်၍ စစ်ခမြဦး အစရှိ သည်တို့၌ ရဲရင့်သောသူ အစရှိသည်တို့ကို အလိုရှိအပ်သည် ဖြစ်ရာ၏ဟု ဆို၍ ဘုရားလောင်းအား ကောင်းချီးကိုပြုလိုရကား—

၉၂၊ ဥက္ကဋ္ဌေ သူရမိစ္ဆန္တိ၊ မန္တီသု အကုတူဟလံ။
ပိယဉ္စ အန္နပါနမှိ၊ အတ္ထေ ဇာတေ စ ပဏ္ဍိတံ။

ဟူသော ဤဂါထာကို ဆို၏။

ဥက္ကဋ္ဌေ၊ နှစ်ဘက်မှတက်သော စစ်ထိုးခြင်းဖြစ်လတ်သော်။ သူရံ၊ ရဲရင့်သော သူကို။ ဣစ္ဆန္တိ၊ အလိုရှိကုန်၏။ မန္တီသု၊ တိုင်ပင်ကုန်လတ်သော်။ အကုတူဟလံ၊ နှုတ်စောင့်သောသူကို။ ဣစ္ဆန္တိ၊ အလိုရှိကုန်၏။ အန္နပါနမှိ စ၊ ထမင်းအဖျော် ဖြစ်လတ်သော်လည်း။ ပိယံ၊ ချစ်သောသူကို။ ဣစ္ဆန္တိ၊ အလိုရှိကုန်၏။ အတ္ထေ၊ နက်နဲသော ပြဿနာသည်။ ဇာတေ စ၊ ဖြစ်လတ်သော်လည်း။ ပဏ္ဍိတံ၊ ပညာရှိကို။ ဣစ္ဆန္တိ၊ အလိုရှိကုန်၏။

ဤသို့လျှင် မင်းသည် ဘုရားလောင်းအား ချီးမွမ်း၍ တခဲနက်သောမိုးကို ရွာစေသော မိုးကြီးကဲ့သို့ ရတနာခုနစ်ပါးဖြင့် ပူဇော်၍ ဘုရားလောင်း၏ အဆုံးအမ၌သာ တည်၍ ဒါန အစရှိသော ကောင်းမှုတို့ကိုပြု၍ ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း။** ....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ အရှင်အာနန္ဒာမထေရ်၏ ကျေးဇူးကို ဟောတော်မူ၍ ယခုအခါ အာနန္ဒာသည် ထိုအခါ ဗာရာဏသီမင်း ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ပညာရှိအမတ် ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[တပါးသူထံ၊ ရောက်သည်မှန်၊ ရပြန်ဘဏ္ဍာ ရှေးပညာ]

နှစ်ခုတို့၏ပြည့်ကြောင်းဖြစ်သော မဟာသာရဇာတ်သည် ပြီး၏။

---

## ၉၃—ဝိဿာသဘောဇနဇာတ်

### ပစ္စဝေက္ခဏာကင်းသော ရဟန်းသည် အကျွမ်းဝင်သောသူ ပေးသောအဆိပ်ကို စားသည်နှင့်တူကြောင်း

**ပစ္စုပ္ပန်ဝတ္ထု။** ...နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော ထဗ္ဗညု မြတ်စွာဘုရားသည် "န ဝိဿသေ အဝိဿတ္ထေ" အစရှိသော ဂါထာပုဒ် ဖြင့် တန်ဆာဆင်အပ်သော ဤ ဝိဿာသဘောဇနဇာတ်ကို ဇေတဝန်ကျောင်း

တော်၌ သီတင်းသုံးနေတော်မူစဉ် "အကျွမ်းဝင်သော သူတို့သည် ပေးအပ်သော ဘောဇဉ်ကို သုံးဆောင်ခြင်း"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုစကားကို ချဲ့ဦးအံ့၊ ထိုအခါ များသောအားဖြင့် ရဟန်းတို့သည် ငါတို့အား အမိသည် ပေးအပ်၏၊ အဘသည် ပေးအပ်၏၊ အစ်ကိုသည် ပေးအပ်၏၊ နှမသည် ပေးအပ်၏၊ မိထွေးသည် ပေးအပ်၏၊ ဘထွေးသည် ပေးအပ်၏၊ ဦးရီးသည် ပေးအပ်၏၊ အရီးသည် ပေးအပ်၏၊ ငါတို့အား လူဖြစ်သောကာလ၌ရင်း, ရဟန်းဖြစ်သောကာလ၌ရင်း ထိုအမိ အစရှိသောသူတို့သည် ပေးခြင်းငှါ လျောက်ပတ်သော သဘောရှိကုန်၏ဟု ဆွေမျိုးတို့သည် ပေးအပ်ကုန်သော ပစ္စည်းလေးပါးတို့ကို ရှုရှာခြင်း မရှိကုန်သည်ဖြစ်၍ ပစ္စဝေက္ခနာ မဆင်ခြင်မူ၍ သာလျှင် သုံးဆောင်ကုန်၏။

မြတ်စွာဘုရားသည် ထိုအကြောင်းကို သိတော်မူ၍ ရဟန်းတို့အား တရားဟောခြင်းငှါ သင့်၏ဟု ရဟန်းတို့ကို စည်းဝေးစေပြီးလျှင် ရဟန်းတို့ ရဟန်းမည်သည်ကား ဆွေမျိုးတို့သည်ရင်း, ဆွေမျိုးမဟုတ်ကုန်သော သူတို့သည်ရင်း ပေးအပ်ကုန်သော ပစ္စည်းလေးပါးတို့ကို ပစ္စဝေက္ခနာ ဆင်ခြင်၍ သာလျှင် သုံးဆောင်ခြင်းကို ပြုအပ်၏၊ ထိုစကားသည် မှန်၏၊ ပစ္စဝေက္ခနာ မဆင်ခြင်မူ၍ သုံးဆောင်ခြင်းကို ပြု၍ သေသည်ရှိသော် ရဟန်းတို့သည် ဘီလူး ပြိတ္တာအဖြစ်မှ မလွတ်ကုန်၊ ပစ္စဝေက္ခနာ မဆင်ခြင်မူ၍ သုံးဆောင်ခြင်းမည်သည်ကား အဆိပ်ကို သုံးဆောင်သည်နှင့် တူ၏၊ ထိုစကားသည် မှန်၏၊ အကျွမ်းဝင်သောသူသည် ပေးအပ်သည်လည်း ဖြစ်သော အကျွမ်းမဝင်သောသူသည် ပေးအပ်သည်လည်း ဖြစ်သော အဆိပ်သည် သေစေတတ်သည်သာလျှင်တည်း၊ ရှေး၌ အကျွမ်းဝင်သောသူသည် ပေးအပ်သော အဆိပ်ကို သုံးဆောင်၍ အသက်ကုန်ခြင်းသို့ရောက်ဘူးပြီဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် များစွာသော စည်းစိမ်ရှိသော သူဌေးသည်ဖြစ်၏၊ ထိုသူဌေး၏ တယောက်သောနွားကျောင်းသားသည် ကောက်တို့ဖြင့် ကျဉ်းမြောင်းသောအခါ၌ နွားတို့ကိုယူ၍ တောသို့သွားပြီးလျှင် ထိုတော၌ နွားခြံကိုပြု၍ စောင့်ရှောက်လျက်နေ၏၊ သူဌေးအားလည်း ရံခါရံခါ

နွားမှဖြစ်သော အရသာကို ပို့လာ၏၊ ထိုအခါ နွားကျောင်းသား၏ နွားခြံအနီး၌ ခြင်္သေ့သည် နေ၏၊ ခြင်္သေ့မှ ကြောက်ခြင်းကြောင့် ညှိုးကုန်သော နွားမတို့၏ နို့ရည်သည် နည်းသည် ဖြစ်၏၊ ထိုအခါ တနေ့သ၌ ထောပတ်ကို ယူလာသော နွားကျောင်းသားကို သူဌေးသည် အချင်း နွားကျောင်းသား ထောပတ်သည် အဘယ့်ကြောင့် နည်းသနည်းဟု မေး၏၊ ထိုနွားကျောင်းသားသည် ထိုအကြောင်းကို ကြား၍ အချင်း နွားကျောင်းသား ထိုခြင်္သေ့အား တစုံတခုသော သတ္တဝါ၌ တပ်စွန်းခြင်းရှိသလောဟု မေး၏၊ အရှင် တခုသော ပြောင်မနှင့်တကွ ပေါင်းဘက်ခြင်းသည် ရှိ၏ဟု ဆို၏၊ ထိုပြောင်မကို အရှင် ဖမ်းယူခြင်းငှါ တတ်နိုင်အံ့လောဟု ဆို၏၊ အရှင် တတ်နိုင်ပါ၏ဟု ဆို၏၊ ထိုသို့ တပြီးကား ထိုပြောင်မကို ဖမ်း၍ ထိုပြောင်မ၏ နဖူးမှစ၍ ကိုယ်၌ အမွေးတို့ကို အဆိပ်ဖြင့် အဖန်တလဲလဲ လိမ်းကျံ၍ ခြောက်စေပြီးလျှင် နှစ်ရက် သုံးရက်တို့ကို လွန်စေ၍ထိုပြောင်မကိုလွှတ်လော၊ထိုခြင်္သေ့သည် ထိုပြောင်မ၌ချစ်ခြင်းကြောင့် ကိုယ်ကိုလျက်၍ အသက်ကုန်ခြင်းသို့ ရောက်လတ္တံ့။

ထိုအခါ ထိုခြင်္သေ့၏ အရေ ခြေသည်း လက်သည်း အစွယ်တို့ကိုရင်း, အဆီကိုရင်း, အသားကိုရင်း ယူ၍ လာခဲ့လောဟု ဆို၍ လတ်တလော သေစေတတ်သော အဆိပ်ကို ပေး၍ လွှတ်လိုက်၏၊ နွားကျောင်းသားသည် ကွန်ပစ်၍ ဥပါယ်ဖြင့်သာလျှင် ထိုပြောင်မကို ဖမ်းယူ၍ ဘုရားလောင်းဆိုတိုင်း ပြု၏၊ ခြင်္သေ့သည် ထိုပြောင်မကို မြင်၍လျှင် အားကြီးစွာသော ချစ်ခြင်းကြောင့် ထိုပြောင်မ၏ကိုယ်ကို လျက်၍ အသက်ကုန်ခြင်းသို့ရောက်၏၊ နွားကျောင်းသား သည်လည်း အရေ အစရှိသည်တို့ကို ယူ၍ ဘုရားလောင်း အထံသို့ သွား၏၊ ဘုရားလောင်းသည် ထိုအကြောင်းကို သိ၍ သူတပါးတို့၌ ချစ်ခြင်းမည်သည်ကို မပြုအပ်၊ ဤသို့လျှင် ခွန်အားနှင့်ပြည့်စုံသော သားတကာတို့၏ မင်းဖြစ်သော ခြင်္သေ့စင်လျက်လည်း ကိလေသာ၏အစွမ်းဖြင့် ပေါင်းဘက်ခြင်းကိုမှီ၍ ပြောင်မ ကိုယ်ကို လျက်၍ အဆိပ်ကို သုံးဆောင်ခြင်းကို ပြု၍ အသက်ကုန်ခြင်းသို့ ရောက်၏ဟု ဆို၍ ရောက်လာသော ပရိသတ်တို့အား တရားဟောလိုရကား—

၉၃၊ န ဝိဿသေ အဝိဿတ္ထေ၊ ဝိဿတ္ထေပိ န ဝိဿသေ။
ဝိဿာသာ ဘယမန္ဝေတိ၊ သီဟံဝ မိဂမာတုကာ။

ဟူသော ဤဂါထာကို ဆို၏။

ဘောန္တော၊ အချင်းတို့။ အဝိဿတ္ထေ၊ ရှိရှာခြင်း မကင်းသော သူ၌လည်း။ န ဝိဿသေ၊ အကျွမ်းမဝင်ရာ။ ဝိဿတ္ထေပိ၊ ရှိရှာခြင်းကင်းသော သူ၌လည်း။ န ဝိဿသေ၊ အကျွမ်းမဝင်ရာ။ မိဂမာတုကာ၊ ပြောင်မမှ။ ဘယံ၊ ဘေးသည်။ သီဟံ၊ ခြင်္သေ့ကို။ အန္ဝေတိ ဣဝ၊ အစဉ်ရောက်သကဲ့သို့။ ဝံ-တထာ၊ ထို့အတူ။ ဝိဿာသာ၊ အကျွမ်းတဝင် ပြုအပ်သော သူမှ။ ဘယံ၊ ဘေးသည်။ အန္ဝေတိ၊ အစဉ်ရောက်၏။

ဤသို့လျှင် ဘုရားလောင်းသည် ရောက်လာသော ပရိသတ်တို့အား တရားဟော၍ ဒါန အစရှိသော ကောင်းမှုတို့ကိုပြု၍ ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ဗာရာဏသီမင်းဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကိုပေါင်းတော်မူ၏။

[ဆင်ခြင်မလေ့၊ သုံးဆောင်မွေ့၊ ခြင်္သေ့သေရှာ ဆိပ်ပမာ]

သုံးခုတို့၏ပြည့်ကြောင်းဖြစ်သော ဝိဿာသဘောဇနဇာတ်သည် ပြီး၏။

---

## ၉၄—လောမဟံသဇာတ်

### ဘုရားလောင်းသည် မိစ္ဆာအယူ၌ မှား၍ကျင့်ဘူးကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "သောတတ္တော သောသိန္နော စေဝ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာ ဆင်အပ်သော ဤ လောမဟံသဇာတ်ကို ဝေသာလီ ပြည်ကို အမှီပြု၍ ပဋိက အမည်ရှိသော သိတင်းသည်သည် ဆောက်အပ်သော ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "သုနက္ခတ်"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုစကားကိုချဲ့ဦးအံ့၊ အခါတပါး၌သုနက္ခတ်သည် မြတ်စွာဘုရား

အလုပ်အကျွေးဖြစ်၍ သပိတ် သက်န်းကိုယူ၍ လှည့်လည်သည်ရှိသော် ကောရ ခတ္တိယ၏ တရားကို နှစ်သက်၍ မြတ်စွာဘုရားအား သပိတ်သင်္ကန်းကို ပေးအပ် ၍ ကောရခတ္တိယကိုမှီ၍ နေ၏၊ထိုကောရခတ္တိယ၏ ကာဠကဉ္စိက အသုရာမျိုး၌ ဖြစ်သော ကာလ၌ လူထွက်၍ ရဟန်းဂေါတမအား အရိယာ၏အဖြစ်ကို ပြု စွမ်းနိုင်သော မဂ်ဉာဏ်တရား အထူးဖြစ်သော ဥတ္တရိမနုဿဓမ္မသည် မရှိ၊ ရဟန်း ဂေါတမသည် ကြံဆ၍ မိမိပညာဖြင့် စုံစမ်းအပ်သော မိမိဉာဏ်အား ထင်သော တရားကို ဟော၏၊ အကြင်သူ၏ အကျိုးငှါလည်း ထိုရဟန်းဂေါတမသည် ဟောအပ်၏၊ ထိုတရားသည် မိမိကိုကျင့်သောသူအား ကောင်းစွာ ဆင်းရဲကုန် ခြင်းငှါ မဖြစ်ဟု ဝေသာလီမြို့၏ တံတိုင်းသုံးထပ်တို့၏ အကြား၌ လှည့်လည် လျက် မြတ်စွာဘုရား၏ ကျေးဇူးမဲ့ ကဲ့ရဲ့သောစကားကိုသာ ဆို၏။

ထိုအခါ အရှင်သာရိပုတ္တရာ မထေရ်သည် ဆွမ်းအလို့ငှါ သွားသည်ရှိသော် ဤသို့ မြတ်စွာဘုရားအား ကျေးဇူးမဲ့ကို ဆိုသော သုနက္ခတ်၏ စကားကို ကြား ၍ ဆွမ်းခံရာမှ ဖဲခဲ့သည်ရှိသော် ထိုအကြောင်းကို မြတ်စွာဘုရားအား ကြား လျှောက်၏၊ မြတ်စွာဘုရားသည် သာရိပုတ္တရာ မင်္ဂဖိုလ်မှ အချည်းနှီးဖြစ်သော သုနက္ခတ်သည် ငါဘုရား၌ အမျက်ထွက်၏၊ အမျက်၏ အစွမ်းအားဖြင့်လျှင် ထိုရဟန်းဂေါတမတရားသည် မိမိကိုကျင့်သောသူအား ကောင်းစွာ ဆင်းရဲ ကုန်ခြင်းငှါ မဖြစ်ဟု ဆို၏၊ မသိ၍လည်း ငါဘုရား၏ ကျေးဇူးမဲ့ကိုသာလျှင် ဆို၏၊ ထိုမင်္ဂဖိုလ်မှ အချည်းနှီးဖြစ်သော သုနက္ခတ်သည် ငါဘုရား၏ ကျေးဇူး တော်ကို မသိသလျှင်ကတည်း၊ သာရိပုတ္တရာ ထိုစကားသည် မှန်၏၊ ငါ ဘုရားအား ခြောက်ပါးသော အဘိညာဉ်တို့သည် ရှိကုန်၏၊ ဤအဘိညာဉ် ခြောက်ပါးသည်လည်း ငါဘုရား၏ ဥတ္တရိမနုဿဓမ္မလျှင်တည်း၊ ဒသဗလဉာဏ် တော်တို့သည် ရှိကုန်၏၊ လေးပါးသော ဝေသာရဇ္ဇ ဉာဏ်တော်သည်ရှိ၏၊ လေး ပါးသောအမျိုးကို ပိုင်းခြားတတ်သော ဉာဏ်တော်သည် ရှိ၏၊ ဤဉာဏ်သည် လည်း ငါဘုရား၏ ဥတ္တရိမနုဿဓမ္မလျှင်တည်း၊ ဤသို့ ဥတ္တရိမနုဿဓမ္မနှင့် ပြည့် စုံသော ငါဘုရားကို အကြင်ပုဂ္ဂိုလ်သည် ရဟန်းဂေါတမအား ဥတ္တရိမနုဿဓမ္မ မရှိ ဆိုငြားအံ့၊ ထိုပုဂ္ဂိုလ်သည် ထိုစကားကိုမစွန့်မူ၍ ထိုစိတ်ကိုမစွန့်မူ၍ ထိုအယူ ကို မစွန့်မူ၍ လက်ဖြင့်ဆောင်ယူ၍ထားသကဲ့သို့ ထိုအတူ ငရဲ၌ဖြစ်လတ္တံ့၊ ဤသို့

လျှင် ကိုယ်တော်၌ ထင်ရှားရှိသော ဥတ္တရိမနုဿဓမ္မကျေးဇူးကို ဟောတော်မူ ပြီးလျှင်—

သာရိပုတ္တရာ သုနက္ခတ်သည် ကောရခတ္တိယ၏ ပြုပြင်သဖြင့် ကျင့်အပ်သော မိစ္ဆာအကျင့်၌ ကြည်ညို၏၊မိစ္ဆာအကျင့်၌ ကြည်ညိုသောသူမည်သည် ငါဘုရား၌ ကြည်ညိုခြင်းငှါ သင့်၏၊ ထိုစကားသည် မှန်၏၊ငါဘုရားသည် ဤဘဒ္ဒကပ်ကမ္ဘာမှ ကိုးဆယ့်တကမ္ဘာထက်၌ ဤမိစ္ဆာအယူ၌ အနှစ်သာရရှိသလောဟု သာသနာ တော်မှ အပဖြစ်သော မိစ္ဆာအယူကို စုံစမ်းသည်ရှိသော် ခြိုးခြံသော အကျင့် ရှိသည်ဖြစ်အံ့၊ အလွန်ခြိုးခြံသော အကျင့်ရှိသည်ဖြစ်၍ ကိလေသာခေါင်းပါး သည်ဖြစ်အံ့၊ အလွန် ခေါင်းပါးသော ကိလေသာရှိသည်ဖြစ်၍ မကောင်းမှုကို စက်ဆုပ်သည်ဖြစ်အံ့၊ အလွန် မကောင်းမှုကို စက်ဆုပ်သည်ဖြစ်၍ မကောင်းမှုမှ ကင်းသည် ဖြစ်အံ့ဟု နှလုံးသွင်း၍ လေးပါးသော အင်္ဂါနှင့် ပြည့်စုံသော ဗြဟ္မစရိ ယကို ကျင့်၍ နေခြင်းဖြင့် နေ၏ဟု မိန့်တော်မူ၍ အရှင်သာရိပုတ္တရာ မထေရ် သည် တောင်းပန်အပ်သည်ဖြစ်၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဘဒ္ဒကပ်ကမ္ဘာမှ ကိုးဆယ့်တကမ္ဘာ ထက်၌ ဘုရားလောင်းသည် ငါသည် သာသနာတော်မှ အပဖြစ်သော မိစ္ဆာ အကျင့်ကို စုံစမ်းအံ့ဟု အာဇီဝကရဟန်းအဖြစ်ဖြင့်ရဟန်းပြု၍ အဝတ်မဝတ်သော ရဟန်းသည် ဖြစ်၏၊ မြူအညစ်အကြေး ကပ်လိမ်းသော ကိုယ်ရှိ၏၊ ဆိတ်ငြိမ်ရာ အရပ်သို့ ကပ်သည် ဖြစ်၏၊ တယောက်တည်းသာ နေသည် ဖြစ်၏၊ လူတို့ကို မြင်လျှင် သမင်ကဲ့သို့ ပြေး၏၊ ကြီးသော ဖောက်ပြန်သော အစာကို စားသည် ဖြစ်၏၊ နွားငယ်ချေး အစရှိသည်တို့ကို စား၏၊မမေ့မလျော့နေခြင်းငှါ တခုသော ကြောက်မက်ဘွယ်ရှိသောတော၌နေ၏၊ထိုတောအုပ်၌ နေသည်ရှိသော် ဆီးနှင်း ကျသောကာလ တပို့တွဲလ တပေါင်းလတို့၏ ရှစ်ရက်အကြား၌ ညဉ့်အခါတော မှထွက်၍ လွင်တီးခေါင်၌နေ၍ နေထွက်သောအခါ၌ တောအုပ်သို့ ဝင်၏၊ ထို ဘုရားလောင်းသည် ညဉ့်အခါ လွင်တီးခေါင်၌ ဆီးနှင်းရေဖြင့် စွတ်သကဲ့သို့ ထိုအတူ နေ့အခါ တောအုပ်မှ ယိုစီးကုန်သော ရေပေါက်ဖြင့် စွတ်၏၊ဤသို့လျှင် နေ့ညဉ့်ပတ်လုံး အဆင်းရဲကို ခံစား၏၊နွေလတို့၏ အဆုံးဖြစ်သော ကာလ၌ကား

ထိုအခါ ဗာရာဏသီပြည်၌ ဟင်းရွက်ရောင်း၍ အသက်မွေးသော သီတင်းသည် တယောက်သည် ရှိသည်ဖြစ်၏၊ ဤသို့ အစရှိသော ဝတ္ထုသည် ပစ္စုပ္ပန်ဝတ္ထုနှင့် တူသချင်ကတည်း၊ သီတင်းသည်သည် သွီးငယ်အား စုံစမ်းအံ့သောငှါ လက်၌ ဆွဲ၏၊ သွီးသည် ငိုလျက်—

၁၀၂။ ယော ဒုက္ခဖုဋ္ဌာယ ဘဝေယျ တာဏံ၊
သော မေ ပိတာ ဒုဗ္ဘိ ဝနေ ကရောတိ။

သာ ကဿ ကန္ဒာမိ ဝနဿ မဇ္ဈေ၊
ယော တာယိတာ သော သဟသံ ကရောတိ။

ဟူသော ဤဂါထာကို ဆို၏။

ယော ပိတာ၊ အကြင်အဘသည်။ ဒုက္ခဖုဋ္ဌာယ၊ ဆင်းရဲတွေ့သည် ရှိသော်။ တာဏံ၊ ကိုးကွယ်ရာသည်။ ဘဝေယျ၊ ဖြစ်ရာ၏။ မေ၊ ငါ၏။ သော ပိတာ၊ ထိုအဘသည်။ ဝနေ၊ တော၌။ ဒုဗ္ဘိ၊ ပြစ်မှားခြင်းကို။ ကရောတိ၊ ပြု၏။ ယောပိတာ၊ အကြင် အဘသည်။ တာယိဘာ၊ ကိုးကွယ်ရာဖြစ်၏။ သောပိဘာ၊ ထိုအဘသည်။ သဟသံ၊ နိုင်ထက်မှုခြင်းကို။ ကရောတိ၊ ပြု၏။ သာ အဟံ၊ ထိုငါသည်။ ဝနဿ၊ တော၏။ မဇ္ဈေ၊ အလယ်၌။ ကဿ၊ အဘယ်သူ၏ အထံ၌။ ကန္ဒာမိ၊ ငိုရအံ့နည်း။

ထိုအခါ ထိုသတို့သွီးကိုအဘသည် နှစ်သိမ့်စေ၍ ချစ်သွီး စောင့်ရှောက်သော ကိုယ် ရှိ၏လောဟု မေး၏၊ ဘခင် စောင့်ရှောက်သောကိုယ် ရှိ၏ဟု ဆို၏၊ သီတင်းသည်သည် အိမ်သို့ ဆောင်၍ မင်္ဂလာကိုပြု၍ လင့်အိမ်သို့ပို့၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ သစ္စာတို့ကိုပြ၍ ဇာတ်ကို ပေါင်းတော်မူ၏၊ သစ္စာကို ပြသည်၏အဆုံး၌ သီတင်းသည်သည် သောတာပတ္တိဖိုလ်၌တည်၏၊ အဘယ်သို့ ဇာတ်ကို ပေါင်းတော်မူသနည်း ဟူမူကား ယခုအခါ အဘသည်သာလျှင် ထိုအခါ အဘ ဖြစ်ဘူးပြီ၊ ယခုအခါ သွီးသည်သာလျှင် ထိုအခါ သွီးဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်

လျှင် ထိုအခါ အကြောင်းကို မျက်မှောက်အားဖြင့်မြင်သော ရုက္ခစိုဝ်းနတ် ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[သီလအာဝစာရ၊ ၇-မရ၊ အဘစမ်းသပ် သို့မြတ်]

နှစ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော ပဏ္ဏကဇာတ်သည် ပြီး၏။

---

## ၁၀၃—ဝေရီဇာတ်

### ပညာရှိတို့သည် ခိုးသူဘေးမှ လွတ်အောင် ရှောင်သော အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**...နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညူ မြတ်စွာဘုရားသည် "ယတ္ထ ဝေရီ နိဝသတိ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာ ဆင်အပ်သော ဤ ဝေရီဇာတ်ကို ဇေတဝန်ကျောင်းတော်၌ နေတော် မူစဉ် "အနာထပိဏ် သူဌေး"ကိုအကြောင်းပြု၍ ဟောတော်မူ၏၊ အနာထပိဏ် သူဌေးသည် စားသောရွာသို့သွား၍ ပြန်သည်ရှိသော် ခရီးအကြား၌ ခိုးသူတို့ကို မြင်၍ ခရီးအကြား၌ နေအံ့သောငှါ မသင့်၊ သာဝတ္ထိပြည်သို့သာလျှင် သွားအံ့ ဟု လျင်စွာ နွားတို့ကို နှင်စေ၍ မိမိအိမ်သို့သာလျှင် လာလတ်၍ နက်ဖြန်နေ့၌ ကျောင်းတော်သို့သွား၍ မြတ်စွာဘုရားအား ထိုအကြောင်းကို လျှောက်၏၊ မြတ်စွာဘုရားသည် သူကြွယ် ရှေး၌လည်း ပညာရှိတို့သည် ခိုးသူတို့ကို မြင်၍ ခရီးအကြား၌ ထိုခိုးသူတို့သည် မလုယက်ကုန်ဘဲ မိမိ၏နေရာ အရပ်သို့ သာလျှင် ပြန်ကုန်၏ဟု မိန့်တော်မူ၍ အနာထပိဏ် သူဌေးသည် တောင်းပန်အပ်သည် ဖြစ်၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**...လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည်မင်းပြုသည်ရှိသော် ဘုရားလောင်းသည် စည်းစိမ်ရှိသော သူဌေး ဖြစ်၏၊ [illegible] ကို [illegible] သွား၍ ပြန်သည်ရှိသော် ခရီးအကြား၌ ထိုခိုးသူတို့ကိုမြင်၍ ခရီးအကြား၌ မနေမူ၍ [illegible]

ဆန၍ ခိုးသူတို့၏ လက်မှလွတ်၍ ဘေးမရှိရာ အရပ်၌ဖြစ်သော မိမိအိမ်သို့ လာ၏ဟု ဝမ်းမြောက်သည်၏ အစွမ်းဖြင့်—

၁၀၃၊ ယတ္ထ ဝေရီ နိဝသတိ၊ န ဝသေ တတ္ထ ပဏ္ဍိတော။
ဧကရတ္တံ ဒွိရတ္တံ ဝါ၊ ဒုက္ခံ ဝသတိ ဝေရိသု။

ဟူသော ဤဂါထာကို ဆို၏။

ဝေရိသု၊ ရန်သူဘောင်တို့၌။ ဧကရတ္တံ ဝါ၊ တရက်ငင်း။ ဒွိရတ္တံ ဝါ၊ နှစ်ရက်ငင်း။ ဒုက္ခံ၊ ဆင်းရဲစွာ။ ဝသတိ၊ နေရ၏။ ယတ္ထ၊ အကြင်အရပ်၌။ ဝေရီ၊ ရန်သူသည်။ နိဝသတိ၊ နေ၏။ တတ္ထ၊ ထိုအရပ်၌။ ပဏ္ဍိတော၊ ပညာရှိသည်။ န ဝသေ၊ မနေရာ။

ဤသို့ ဘုရားလောင်းသည် ဝမ်းမြောက်သော စကားကို ကျူးရင့်၍ အလှူ အစရှိသော ကောင်းမှုတို့ကို ပြု၍ ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ဗာရာဏသီ သူဌေး ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[ရန်သူရှိလတ်၊ ထိုအရပ်၊ မရပ် မတည်ရာ]

သုံးခုတို့၏ပြည့်ကြောင်းဖြစ်သော ဝေရိဇာတ်သည် ပြီး၏။

## ၁၀၄—မိတ္တဝိန္ဒကဇာတ်

### သင်ခန်းစာ ငဲ့ကို ရှက်၍ ခံရသော မိတ္တဝိန္ဒက၏ အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့် တကွသော လောကကို ဆုံးမတော်မူတတ်သော သမ္မာသမ္ဗုဒ္ဓ မြတ်စွာဘုရားသည် စတုဒ္ဒွီ-အဋ္ဌဟေ္မာ အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာ ဆင်အပ်သော ဤ မိတ္တဝိန္ဒကဇာတ်ကို ဇေတဝန် ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် ဆိုနိုင်ခက်သော တယောက်သော ရဟန်း ကို အကြောင်းပြု၍ ဟောတော်မူ၏။

**အတိတ်ဝတ္ထု**....ဝတ္ထုကို အောက် မိတ္တဝိန္ဒကဇာတ်၌ ဆိုအပ်ပြီးသောနည်း ဖြင့်ချဲ့အပ်၏၊ ဤမိတ္တဝိန္ဒကဇာတ်သည်ကား ကဿပ မြတ်စွာဘုရား လက်ထက်၌

ဖြစ်၏၊ ထိုစကားကို ချဲ့ဦးအံ့၊ ထိုအခါ သင်ဓုန်းစက်ကို ရွက်၍ ငရဲခံရသော တယောက်သော ငရဲသူသတ္တဝါသည် အရှင် အကျွန်ုပ်သည် အဘယ် မကောင်းမှုကို ပြုခဲ့ဘူးသနည်းဟု ဘုရားလောင်းကို မေး၏၊ ဘုရားလောင်းသည် ဤမည်သော မကောင်းမှုကို ပြု၏ဟု ဆိုလို၍—

၁၀၄၊ စတုဗ္ဘိ အဋ္ဌဇ္ဈဂမာ၊ အဋ္ဌာဟိပိ စ သောဠသ။
သောဠသာဟိ စ ဗာတ္တိံသ၊ အတြိစ္ဆံ စက္ကမာသဒေါ။
ဣစ္ဆာဟတဿ ပေါသဿ၊ စက္ကံ ဘမတိ မတ္ထကေ။

ဟူသော ဤဂါထာကို ဆို၏။

စတုဗ္ဘိ၊ လေးယောက်ကုန်သော ဗိမာန်နေ ပြိတ္တာမတို့မှ။ အပရာ၊ တပါးကုန်သော။ အဋ္ဌ၊ ရှစ်ယောက်ကုန်သော ဗိမာန်နေ ပြိတ္တာမတို့ကို။ အဇ္ဈဂမာ၊ သင်သည်ရ၏။ အဋ္ဌာဟိပိ စ၊ ရှစ်ယောက်ကုန်သော ဗိမာန်နေ ပြိတ္တာမတို့မှ လည်း။အပရာ၊တပါးကုန်သော။ သောဠသ၊တကျိပ် ခြောက်ယောက်ကုန်သော ဗိမာန်နေ ပြိတ္တာမတို့ကို။ အဇ္ဈဂမာ၊ သင်သည် ရ၏။ သောဠသာဟိ စ၊ တကျိပ် ခြောက်ယောက်ကုန်သော ဗိမာန်နေ ပြိတ္တာမတို့မှလည်း။ အပရာ၊ တပါးကုန် သော။ ဗာတ္တိံသ၊ သုံးကျိပ်နှစ်ယောက်ကုန်သော ဗိမာန်နေ ပြိတ္တာမတို့ကို။ အဇ္ဈဂမာ၊ သင်သည် ရ၏။ အတြိစ္ဆံ-အတြိစ္ဆန္တော၊ အလွန် အလိုကြီးသော သင်သည်။ စက္ကံ၊ သင်ဓုန်းစက်ကို။ အာသဒေါ၊ ရောက်၏။ ဣစ္ဆာဟတဿ၊ အလိုနှိပ်စက်သော။ ပေါသဿ၊ သင် ယောကျ်ား၏။ မတ္ထကေ၊ ထိပ်၌။ စက္ကံ၊ သင်ဓုန်းစက်သည်။ ဘမတိ၊ လည်၏။

ဤသို့ ဘုရားလောင်းသည် ဆိုပြီး၍ မိမိနတ်ပြည်သို့သာလျှင် သွား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ ဆိုနိုင်ခက်သော ရဟန်းသည် ထိုအခါ မိတ္တဝိန္ဒက ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ နတ်သား ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[အလိုငမ်းလျက်၊ သင်ဓုန်းစက်၊ ရွက်လျက် ခံရသည်]

**လေးခုတို့၏ ပြည့်ကြောင်းဖြစ်သော မိတ္တဝိန္ဒကဇာတ်သည် ပြီး၏။**

## ၁၀၅—ဒုဗ္ဗလကဋ္ဌဇာတ်

### လွန်စွာထိတ်လန့်တတ်သော ရဟန်း၏ အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**။....နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "ဗဟုမ္ပေတံ ဝနေ ကဋ္ဌံ"အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤဒုဗ္ဗလကဋ္ဌဇာတ်ကို ဇေတဝန် ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "တယောက်သော ထိတ်လန့်တတ်သော ရဟန်း"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုရဟန်းသည် သာဝတ္ထိပြည်၌ နေသော တယောက်သော အမျိုးသားသည် ဖြစ်သတတ်၊ ထိုအမျိုးသားသည် မြတ်စွာဘုရား၏ ဓမ္မဒေသနာကို နာရ၍ ရဟန်းပြု၍ သေဘေးမှ ကြောက်သည်ဖြစ်၍ ညဉ့်သန့်ရာ နေ့သန့်ရာအရပ်တို့၌ သစ်ခက် သစ်ရွက်တို့ကို ချိုးတတ်သော လေ၏ ၎င်း၊ ကျသော ခြောက်သော သစ်ခက်၏၎င်း၊ အတောင်ရှိသော ငှက်, အခြေလေးချောင်းရှိသော သားတို့၏၎င်း အသံကိုကြား၍ သေဘေးမှကြောက်သည် ဖြစ်၍ ကျယ်စွာသော အသံကို ဟစ်ကြွေးလျက် ပြေး၏၊ ထိုစကားသည်မှန်၏၊ ထိုရဟန်းအား ငါသည် သေအပ်၏ဟု သတိမျှသည်လည်း မရှိ၊ ထိုစကားသည် မှန်၏၊ ထိုရဟန်းသည် ငါသေရလတ္တံ့ဟု အကယ်၍ သိငြားအံ့၊ သေခြင်းကို မကြောက်ရာ၊ ထိုရဟန်းသည် မရဏဿတိ ကမ္မဋ္ဌာန်းကို မပွားစေ အပ်သည်၏ အဖြစ်ကြောင့် သာလျှင် ထိုရဟန်း၏ သေခြင်းမှ ကြောက်သော အဖြစ်သည် ရဟန်းသံဃာ၌ ထင်ရှား၏။

ထိုအခါ တနေ့သ၌ တရားသဘင်၌ ရဟန်းတို့သည် ငါ့သျှင်တို့ ဤမည်သော ရဟန်းသည် သေခြင်းမှကြောက်၏၊ သေခြင်းကို လန့်တတ်၏၊ ရဟန်းမည်သည် မချွတ် ငါသည်သေအပ်၏ဟု မရဏဿတိ ကမ္မဋ္ဌာန်းကို ပွားစေခြင်းငှါသင့်၏ဟု စကားကို ဖြစ်စေကုန်၏၊ မြတ်စွာဘုရားသည် လာတော်မူလတ်၍ ရဟန်းတို့ ယခုအခါ အဘယ်မည်သောစကားဖြင့် စည်းဝေးကြကုန်သနည်းဟု မေးတော်မူလတ်၍ ဤမည်သော စကားဖြင့် စည်းဝေးပါကုန်၏ဟု နားတော် လျှောက်သည်ရှိသော် ရဟန်းတို့ ဤရဟန်းအား နှလုံးမသာယာခြင်းသည် မဖြစ်ကုန်လင့်၊ ဤရဟန်းသည် ယခုအခါ၌သာလျှင် သေဘေးမှ ကြောက်သည် မဟုတ်သေး၊

ရှေး၌လည်း ကြောက်ဘူးသည် သာလျှင်တည်းဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာသီပြည်၌ဗြဟ္မဒတ်မည်သော မင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် ဟိမဝန္တာတော၌ရုက္ခဇိုဝ်းနတ် ဖြစ်၏၊ ထိုအခါ ဗာရာဏသီမင်းသည် မင်္ဂလာဆင်ကို စစ်မြေပြင်၌ တုန်လှုပ်ခြင်း မရှိသော အကြောင်းကို သိစိမ့်သောငှါ ဆင်ဆရာတို့အား ပေး၏၊ ထိုဆင်ကို ဆင်ချည်တိုင်၌ချည်၍ ချွန်းလက်စွဲကုန်သော သူတို့ကို ခြံရံစေကုန်၍ စစ်မြေ၌ တုန်လှုပ်ခြင်းမရှိသော အကြောင်းကို ပြုကုန်၏၊ ထိုဆင်သည် ထိုအမှုကို ပြုသည် ရှိသော် ဝေဒနာကို သည်းခံအံ့သောငှါ မတတ်နိုင်သည်ဖြစ်၍ ဆင်ချည်တိုင်ကို ချိုး၍ လူတို့ကို ပြေးစေ၍ ဟိမဝန္တာသို့ ဝင်၏၊ လူတို့သည် ထိုဆင်ကို ဖမ်းအံ့ သောငှါ မတတ်နိုင်ကုန်သည် ဖြစ်၍ ပြန်ကြကုန်၏၊ ဆင်သည် သေဘေးမှ ကြောက်သည်ဖြစ်၍ နှာမောင်းတို့ကို လှုပ်လျက် လျင်မြန်သဖြင့် ပြေး၏၊ ဆင် ချည်တိုင်၌ချည်၍ စစ်မြေ၌ မတုန်မလှုပ်မည့်အကြောင်းကို ပြုသောကာလကဲ့သို့ ဖြစ်၏၊ကိုယ်၏ ချမ်းသာခြင်းကိုငှင်း၊ စိတ်၏ ချမ်းသာခြင်းကိုငှင်း မရသည်ဖြစ်၍ တုန်လှုပ်လျက် သွား၏၊ ရုက္ခဇိုဝ်းနတ်သည် ထိုဆင်ကိုမြင်၍ သစ်ခွ၌ ရပ်လျက်—

၁၀၅၊ ဗဟုမ္ပေတံ ဝနေ ကဋ္ဌံ၊ ဝါတော ဘဉ္ဇတိ ဒုဗ္ဗလံ။
တဿ စေ ဘာယသိ နာဂ၊ ကိသော နူန ဘဝိဿသိ။

ဟူသော ဤဂါထာကို ဆို၏။

နာဂ၊ ဆင်ပြောင်ကြီး။ ဝနေ၊ တော၌။ ဒုဗ္ဗလံ၊ အားနည်းသော။ ဗဟုမ္ပိ၊ များသည်လည်းဖြစ်သော။ ဧတံ ကဋ္ဌံ၊ ထိုသစ်ခက်ခြောက်ကို။ ဝါတော၊ လေသည်။ ဘဉ္ဇတိ၊ ချိုး၏။ တဿ၊ ထိုအသံမှ။ တွံ၊ သင်သည်။ စေ ဘာယသိ၊ အကယ်၍ ကြောက်အံ့။ ကိသော နူန၊ ကြုံလှီသည် သာလျှင်။ ဘဝိဿသိ၊ ဖြစ်လတ္တံ့။

ဤသို့တော့်ကား သင်အား ဘေးမရှိ၊ ထိုကြောင့် မကြောက်လင့်ဟု ရုက္ခဇိုဝ်း နတ်သည် ဆင်အားအဆုံးအမကိုပေး၏၊ ဆင်သည်လည်း ထိုနေ့မှစ၍ ကြောက် ခြင်းမရှိသည် ဖြစ်၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ သစ္စာတို့ကို ပြတော်မူ၏၊ သစ္စာတို့ကို ပြပြီးသည်၏အဆုံး၌ ရဟန်းသည် သောတာပတ္တိဖိုလ်၌ တည်၏၊ အဘယ်သို့ ဇာတ်ကို ပေါင်းသနည်း ဟူမူကား ယခုအခါ ရဟန်းသည် ထိုအခါ ဆင်ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ရုက္ခဇိုဝ်းနတ် ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[ခုသာမက၊ ရှေးဘ၀၊ မုချ သေဘေးကြောင်း]

ငါးခုတို့၏ပြည့်ကြောင်းဖြစ်သော ဒုဗ္ဗလကဋ္ဌဇာတ်သည် ပြီး၏။

---

## ၁၀၆—ဥဒ္ဒုနိဇာတ်

### အပျိုကြီးဖျက်ဆီး၍ သီလပျက်သော ရသေ့၏ အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "သုခံ ဝတ မံ ဇီဝန္တံ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤ ဥဒ္ဒုနိဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "အပျိုကြီး ဖြားယောင်းသော ရဟန်း"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ဝတ္ထုသည် တေရသကနိပါတ် စူဠနာရဒ ကဿပဇာတ်၌ ထင်စွာ ဖြစ်လတ္တံ့၊ အထူးကား ရဟန်း သင်သည် ငြီးငွေ့သတတ်ဟူသည် မှန်သလောဟု မေးတော်မူ၏၊ အရှင်ဘုရား မှန်ပေ၏ဟု နားတော် လျှောက်သည် ရှိသော် သင်၏စိတ်သည် အဘယ်သူ၌ တပ်စွန်းသနည်းဟု မေးတော်မူ၏၊ ရဟန်းသည် တယောက်သော အပျိုကြီး၌ တပ်စွန်း၏ဟု လျှောက်၏၊ ထိုရဟန်းကို မြတ်စွာဘုရားသည် ရဟန်း ယခုအခါ၌သာလျှင် ဤအပျိုကြီးသည် သင်၏ အကျိုးမရှိသည်ကို ပြုသည်မဟုတ်သေး၊ ရှေး၌လည်း ပြုဘူးသည်သာလျှင်တည်း သင်သည် ထိုမိန်းမကို မှီ၍ သီလ ပျက်စီးခြင်းသို့ ရောက်၍ တုန်တုန် လှုပ်လှုပ် သွားလျက် ပညာရှိတို့ကိုမှီ၍ ချမ်းသာရ ရဘူးသလျှင်ကတည်းဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သော မင်းသည် မင်းပြုသည်ရှိသော် ဤသို့ အစရှိသော အတိတ်ဝတ္ထုကို ချဲ့လည်း

စူဠနာရဒ ကဿပဇာတ်၌လျှင် ထင်စွာ ဖြစ်လတ္တံ့၊ အထူးကား ထိုအခါ ဘုရားလောင်းသည် ညအခါ၌ သစ်သီးကြီးငယ်တို့ကို ယူပြီးသော် လာ၍ ကျောင်းတံခါးကို ဖွင့်၍ ဝင်ပြီးလျှင် သားဖြစ်သော ရသေ့ငယ်ကို ချစ်သား သင်သည် တပါးကုန်သော နေ့တို့၌ ထင်းတို့ကို ဆောင်၏၊ သောက်ရေ သုံးဆောင်ရေတို့ကို ဆောင်၏၊ မီးကိုပြု၏၊ ယနေ့မူကား တခုသောအမှုကိုလည်း မပြုမူ၍ အဘယ့်ကြောင့် မျက်နှာမသာသည်ဖြစ်၍ ဝင်လျက် အိပ်သနည်းဟု မေး၏၊ ဘခင် သင်တို့သည် သစ်သီးကြီးငယ်အကျိုးငှါ သွားလတ်သော် တယောက်သောမိန်းမသည် လာလတ်၍ အကျွန်ုပ်ကို ဖြားယောင်း၍ ခေါ် သွားအံ့သောငှါ အားထုတ်၏၊ အကျွန်ုပ်သည်ကား သင်တို့လွှတ်မှ သွားအံ့ဟု မလိုက်သေး၊ ဤမည်သော အရပ်၌ကား ထိုမိန်းမကို နေနှင့်စေ၍ လာခဲ့၏၊ ဘခင် အကျွန်ုပ်သည် ယခု သွားအံ့ဟု ဆို၏။

ဘုရားလောင်းသည် ဤမှသေ့ငယ်ကို ပြန်စိမ့်သောငှါ မတတ်နိုင်ဟု သိ၍ ချစ်သား ထိုသို့တပြီးကား သွားလော့၊ မိန်းမသည်ကား သင့်ကို ဆောင်၍ အကြင်အခါ၌ ငါး အမဲ အစရှိသည်တို့ကိုလည်း စားလိုသည် ဖြစ်လတ္တံ့၊ ထောပတ်, ဆီ, ဆန် အစရှိသည်တို့ကိုလည်း ထိုမိန်းမသည် အလိုရှိသည် ဖြစ်လတ္တံ့၊ ထိုအခါ ဤမည်သောဝတ္ထုကို ဆောင်ချေလောဟု သင့်ကို ပင်ပန်းစေလတ္တံ့၊ ထိုအခါ ငါ၏ကျေးဇူးကို အောက်မေ့သဖြင့် ပြေးလာ၍ ဤအရပ်သို့သာလျှင် လာလောဟု ဆို၍ လွှတ်လိုက်၏၊ ရသေ့ငယ်သည် ထိုမိန်းမနှင့်တကွ လူ့ပြည်သို့သွား၏၊ ထိုအခါ ထိုရသေ့ငယ်ကို ထိုမိန်းမသည် မိမိအလိုသို့ လိုက်စေ၍ အမဲကို ဆောင်ချေလော၊ ငါးကို ဆောင်ချေလော၊ အကြင်ဝတ္ထုဖြင့် အလိုရှိ၏၊ ထိုဝတ္ထုကို ဆောင်ချေလောဟု ဆို၏၊ ထိုအခါ ရသေ့ငယ်သည် ဤမိန်းမသည် ငါ့ကို ကျွန်ကဲ့သို့ရင်း၊ အမှုလုပ်သော သူကဲ့သို့ရင်း ပြု၍ နှိပ်စက်၏ဟုပြေး၍ အဘထံသို့ သွား၍ အဘကို ရှိခိုး၍ ရပ်လျက်သာလျှင်—

၁၀၆၊ သုခံ ဝတ မံ ဇီဝန္တံ၊ ပစမာနာ ဥဒုက္ခနီ။
စောရီ ဇာယပ္ပဝါဒေန၊ တေလံ လောဏဉ္စ ယာစတိ။

ဟူသော ဤဂါထာကို ဆို၏။



၅၅၀-ပ၊ ဥဒ္ဒာလနီဇာတ်

ရသေ့ငယ်အား ထိုမိန်းမသည် ကျွန်ကဲ့သို့ အလုပ်များကို ပြုလုပ်ရန်စေခိုင်းနေပုံ

တာတ၊ ဘခင်။ တုမှာကံ၊ သင်တို့၏။ သန္တိကေ၊ အထံ၌။ ဝတ၊စင်စစ်။ သုခံ၊ ချမ်းသာစွာ။ ဇီဝန္တံ၊ အသက်မွေးသော။ မံ၊ ငါ့ကို။ ပစမာနာ၊ ပူပန်စေတတ်သော။ ဥဒဋ္ဌနီ၊ ရေလှောင်အိုးနှင့် တူသော။ စောရီ၊ ခိုးသူမသည်။ ဇာယပ္ပဝါဒေန၊ သာယာစွာသော စကားဖြင့်။ ဥပလောဘေတွာ၊ဖြားယောင်း၍။ တေလဥ္စ၊ ဆီကိုရင်း။ လောဏဉ္စ၊ ဆားကိုရင်း။ ယာစတိ၊ တောင်း၏။

ထိုအခါ ရသေ့ငယ်ကို ဘုရားလောင်းသည် နှစ်သိမ့်စေ၍ ချစ်သား ထိုသို့ ဖြစ်စေ၊ လာလော၊ သင်သည် မေတ္တာကို ပွားစေလော၊ကရုဏာကိုပွားစေလော၊ မုဒိတာကို ပွားစေလော၊ ဥပေက္ခာကို ပွားစေလော၊ ဤသို့ လေးပါးကုန်သော ဗြဟ္မဝိဟာရ တရားတို့ကိုရင်း, ကသိုဏ်း ပရိကံတို့ကိုရင်း ကြား၏၊ ထိုရသေ့ငယ်သည် မကြာမြင့်မီလျှင် အဘိညာဉ်တို့ကိုရင်း, ရှစ်ပါးသော သမာပတ်တို့ကိုရင်း ဖြစ်စေ၍ ဗြဟ္မဝိဟာရ တရားတို့ကို ပွားစေ၍ အဘနှင့်တကွ ဗြဟ္မာ့ပြည်၌ ဖြစ်၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤမေ့မ္မဒေသနာကို ဆောင်တော်မူ၍ သစ္စာတို့ကို ပြတော်မူ၍ ဇာတ်ကို ပေါင်းတော်မူ၏၊ သစ္စာတို့ကို ပြတော်မူသည်၏အဆုံး၌ ထိုရဟန်းသည် သောတာပတ္တိဖိုလ်၌ တည်၏၊ အဘယ်သို့ ဇာတ်ကို ပေါင်းတော်မူသနည်းဟူမူကား ယခုအခါ အပျိုကြီးသည် ထိုအခါ အပျိုကြီး ဖြစ်ဘူးပြီ၊ ယခုအခါ ငြီးငွေ့သောရဟန်းသည် ထိုအခါ ရသေ့ငယ် ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ အဘဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[မိန်းမကိုတပ်၊ ဆင်းရဲလတ်၊ ဘမြတ်ထံမှီ ချမ်းသာစည်]

**ခြောက်ခုတို၏ ပြည့်ကြောင်းဖြစ်သော ဥဒဋ္ဌနီဇာတ်သည် ပြီး၏။**

---

## ၁၀၇—သာလိတ္တကဇာတ်

### ကျောက်စရစ် ပစ်တတ်သော ရဟန်း၏အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညုမြတ်စွာဘုရားသည် "သာဓု ခေါ သိပ္ပကံ နာမ" အစရှိသော ဂါထာ့ဒ်

ဖြင့် တန်ဆာဆင်အပ်သော ဤ သာလိတ္တကဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "တယောက်သော ကျောက်စရစ် ပစ်တတ်သော ရဟန်း"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုရဟန်းသည် သာဝတ္ထိပြည်၌ နေသော တယောက်သော အမျိုးသားသည် ဖြစ်သတတ်၊ ထိုအမျိုးသားသည် ကျောက်စရစ်ပစ်သော အတတ်၌ အပြီးသို့ရောက်၏၊ တနေ့သ၌ ထိုအမျိုးသား သည် တရားတော်ကို နာရ၍ သာသနာတော်၌ ရင်ကိုပေး၍ ရဟန်းပြု၍ ပဥ္စင်း အဖြစ်ကို ရ၏၊ သိက္ခာပုဒ်ကို အလိုမရှိ အကျင့်ကို မကျင့်သည်ဖြစ်၏၊ ထိုရဟန်း သည် တနေ့သ၌ တယောက်သော ပဥ္စင်းငယ်ကိုခေါ်၍ အစိရဝတီ မြစ်နားသို့ သွား၍ ရေချိုး၍ မြစ်နား၌ ရပ်၏။

ထိုအခါ နှစ်ခုကုန်သော ဖြူကုန်သော ဟသ်ာတို့သည် ကောင်းကင်ခရီးဖြင့် သွားကုန်၏၊ ထိုကျောက်စရစ် ပစ်တတ်သော ရဟန်းသည် ပဥ္စင်းငယ်ကို နောက် ဟသ်ာကို ကျောက်စရစ်ဖြင့် မျက်စိတို့ကိုပစ်၍ မြေရင်း၌ ကျစေအံ့ဟု ဆို၏၊ ပဥ္စင်းငယ်သည် အဘယ်သို့ ကျစေလတ္တံ့နည်း၊ ပစ်အံ့သောငှါ မတတ်နိုင်လတ္တံ့ ဟု ဆို၏၊ ကျောက်စရစ်ပစ်တတ်သော ရဟန်းသည် ဟသ်ာ၏ ဤမှာဘက်မျက် စိကိုထားဘိဦး ထိုမှာဘက်မျက်စိသို့ ထွင်း၍သွားအောင် ပစ်အံ့ဟု ဆို၏၊ ယခု မဟုတ်မမှန်သည်ကိုဆို၏ဟု ဆို၏၊ထိုသို့တပြီးကား ကြည့်လောဟုဆို၍ တခုသော ထက်စွာသော ကျောက်စရစ်ကိုကိုင်၍ လက်ချောင်း၌ ထား၍ ထိုဟသ်ာ၏ နောက်သို့ ပစ်၏၊ ထိုကျောက်စရစ်သည် ရှန်းဟူသော အသံကိုပြု၏၊ ဟသ်ာ သည်ကား ရန်လာသည် ဖြစ်ရာ၏ဟု ပြန်၍ အသံကို နားထောင်အံ့သောငှါ အားထုတ်၏၊ ကျောက်စရစ်ပစ်တတ်သော ရဟန်းသည် ထိုခဏ၌ တခုသော လုံးသော ကျောက်စရစ်ကို ကိုင်ပြန်၍ ကြည့်သော ထိုဟသ်ာ၏ ထိုမှာဘက် မျက်စိ၌ ပစ်၏၊ ဤမှာဘက် မျက်စိကို ထွင်း၍ သွား၏၊ ဟသ်ာသည်လည်း သည်းစွာသောအသံကို မြည်လျက် မြေရင်း၌ကျ၏၊ ထိုထိုအရပ်မှ ရဟန်းတို့သည် လာကုန်၍ ကဲ့ရဲ့ကုန်၍ သင်သည် မလျောက်ပတ်သော အမှုကို ပြု၏ဟု မြတ်စွာ ဘုရားအထံသို့ ဆောင်၍ အရှင်ဘုရား ဤရဟန်းသည် ဤမည်သော အမှုကို ပြု၏ဟု ထိုအကြောင်းကို ကြားလျှောက် ကုန်၏၊ မြတ်စွာဘုရားသည် ထို ရဟန်းကို ကဲ့ရဲ့တော်မူ၍ ရဟန်းတို့ ဤရဟန်းသည် ယခုအခါ၌ သာလျှင်

ထိုအတတ်၌ လိမ်မာသည် မဟုတ်သေး၊ ရှေး၌လည်း လိမ်မာဘူးသည်သာတည်းဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**... လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် ထိုဗြဟ္မဒတ်မင်း၏ အမတ်ဖြစ်၏၊ ပုရောဟိတ်သည် အလွန်စကားများ၏၊ များစွာဆိုတတ်၏၊ပုဏ္ဏားပြောသည်ရှိသော် တပါးကုန်သော သူတို့သည် ပြောခွင့်ကို မရကုန်၊ မင်းသည် အဘယ်အခါ၌လျှင် ပုဏ္ဏား၏ စကားကို ဖြတ်တတ်သော တစုံတခုသော အတတ်ကို ရပါအံ့နည်းဟု ကြံ၏၊ မင်းသည် ထိုနေ့မှစ၍ ထိုသို့သဘောရှိသော တခုသော အတတ်ကို စုံစမ်းလျက် သွား၏၊ ထိုအခါ ဗာရာဏသီ ပြည်၌ တယောက်သော သူဆွံ့သည် ကျောက်စရစ်ပစ် အတတ်၌ အပြီးသို့ရောက်၏၊ ရွာသူသားငယ်တို့သည် ထိုသူဆွံ့ကို ရထားသို့တင်၍ ငင်ကုန်လျက် ဗာရာဏသီမြို့တံခါးရင်း၌ တခုသော အခွနှင့် ပြည့်စုံသော ပညောင်ပင်ကြီးသည် ရှိ၏၊ ထိုညောင်ပင်သို့ ဆောင်၍ ခြံရံ၍ ရွှေအစရှိသည်တို့ကို ပေး၍ ဆင်ရုပ်ကို ပြုလော, မြင်းရုပ်ကိုပြုလောဟု ဆိုကုန်၏၊ ထိုသူဆွံ့သည် ကျောက်စရစ်ကိုပစ်၍ ပညောင်ရွက်တို့၌ အထူးထူးသော အရုပ်တို့ကို ပြု၏၊ ခပ်သိမ်းသော အရွက်တို့သည် အပေါက်ကြီး အပေါက်ငယ် ရှိကုန်သည်သာလျှင် ဖြစ်ကုန်၏။

ထိုအခါ မင်းသည် ဥယျာဉ်သို့ သွားသည်ရှိသော် ထိုအရပ်သို့ ရောက်၏၊ သေအံ့သည်မှ ကြောက်သောကြောင့် ခပ်သိမ်းကုန်သော သူငယ်တို့သည် ပြေးကုန်၏၊ သူဆွံ့သည် ထိုအရပ်၌ အိပ်၏၊ မင်းသည် ပညောင်ပင်ရင်းသို့ ရောက်၍ ရထား၌နေလျက် ပညောင်ပင်ရွက်တို့၏ ပေါက်သည်၏ အဖြစ်ကြောင့် ပြောက်ကျားသော အရိပ်ကို မြင်၍ မော်၍ ကြည့်သည်ရှိသော် ခပ်သိမ်းကုန်သော ပညောင်ရွက်တို့၏ ပေါက်သည်၏ အဖြစ်ကိုမြင်၍ အဘယ်သူသည် ဤသို့ပြုအပ်သနည်းဟု မေး၏၊ အရှင်မင်းကြီး သူဆွံ့သည် ပြု၏ဟု လျှောက်သည်ရှိသော် မင်းသည် ဤသူဆွံ့ကိုမှီ၍ ပုဏ္ဏားအား စကားပြတ်ခြင်းကိုပြုအံ့သောငှါ တတ်နိုင်သည်ဖြစ်လတ္တံ့ဟု ကြံ၍ ဆွံ့သည် အဘယ်မှာနည်းဟု ဆို၏၊ ရှာသည်ရှိသော် ပညောင်မြစ်ကြား၌ အိပ်သည်ကို မြင်၍ အရှင်မင်းကြီး ဤသူတည်းဟု

လျှောက်ကုန်၏၊ ထိုသူဆွံ့ကိုခေါ် စေ၍ ပရိသတ်ကိုပယ်ရှားစေ၍ ငါတို့၏အထံ၌ တယောက်သော စကားများသော ပုဏ္ဏားသည် ရှိ၏၊ ထိုပုဏ္ဏား၏ အသံ မရှိသည်ကို ပြုအံ့သောငှါ တတ်နိုင်လတ္တံ့လောဟု မေး၍ အရှင်မင်းကြီး တကွမ်းစား အတိုင်းအရှည်ရှိကုန်သော ဆိတ်ချေးတို့ကို ရကုန်သည်ရှိသော် တတ်နိုင်လတ္တံ့ဟု ဆို၏၊ မင်းသည် သူဆွံ့ကို နန်းတော်သို့ဆောင်၍ တင်းတိမ် တွင်း၌ နေစေ၍ တင်းတိမ်မှ အပေါက်ဖောက်၍ ပုဏ္ဏား၏နေရာကို အပေါက်သို့ ရှေ့ရှုခင်းစေ၍ တကွမ်းစား အတိုင်းအရှည် ရှိကုန်သော ခြောက်ကုန်သော ဆိတ်ချေးတို့ကို သူဆွံ့အထံ၌ ထားစေ၍ ခစားအံ့သော ကာလ၌ လာသော ပုဏ္ဏားကို နေရာ၌ နေစေ၍ ပုဏ္ဏားသည် တပါးကုန်သော သူတို့အား အခွင့် မပေးမူ၍ မင်းနှင့်တကွ စကားဆိုအံ့သောငှါ အားထုတ်၏။

ထိုအခါ သူဆွံ့သည် တင်းတိမ်ပေါက်ဖြင့် ဟလုံးတလုံးသော ဆိတ်ချေးကို တောင်း၌ သွင်းသကဲ့သို့ ပုဏ္ဏား၏ အာစောက်၌လျှင် ချ၏၊ ပုဏ္ဏားသည် လာတိုင်း လာတိုင်းသော ဆိတ်ချေးကို ကျည်တောက်၌ ဆီကို သွင်းသကဲ့သို့ မျို၏၊ ခပ်သိမ်းကုန်သော ဆိတ်ချေးတို့သည် ကုန်ကုန်၏၊ တကွမ်းစား အတိုင်း အရှည် ရှိကုန်သော ဆိတ်ချေးတို့သည် ထိုပုဏ္ဏား၏ဝမ်းသို့ ဝင်ကုန်လတ်သော် ပြည်ဝက် အတိုင်းအရှည် ရှိကုန်၏၊ မင်းသည် ဆိတ်ချေးကုန်သည်၏ အဖြစ်ကို သိ၍ ဆရာ သင်တို့သည် အလွန်စကားများသည်၏ အဖြစ်ကြောင့် တကွမ်းစား အတိုင်းအရှည်ရှိကုန်သော ဆိတ်ချေးတို့ကို မျိုကုန်လျက် တစုံတခုမျှ မသိကုန်၊ ယခု ဤထက် အလွန်ကို ကျေစိမ့်သောငှါ မတတ်နိုင်လတ္တံ့၊ သွားလေလော ငရေကို သောက်၍ ဝမ်းကျစေ၍ ကိုယ်ကို ရောဂါမရှိသည်ကို ပြုလေလောဟု ဆို၏၊ ပုဏ္ဏားသည် ထိုနေ့မှစ၍ ပိတ်သောခံတွင်း ရှိသကဲ့သို့ဖြစ်၏၊ စကား ပြောသော သူနှင့်လည်း စကားမပြောသော အလေ့ရှိသည် ဖြစ်၏၊ မင်းလည်း ဤသူဆွံ့သည် ငါ၏နားချမ်းသာခြင်းကို ပြုပေ၏ဟု သူဆွံ့အား အခွန်တသိန်း ထွက်ကုန်သော အရပ်လေးမျက်နှာတို့၌ ရွာလေးရွာတို့ကို ပေး၏၊ ဘုရားလောင်း သည် မင်းသို့ကပ်၍ အရှင်မင်းကြီး အတတ်မည်သည်ကို ဖလာက၌ ပညာ တို့သည် သင်အပ်၏၊ သူဆွံ့သည် ကျောက်စရစ် ပစ်သော အတတ်ဖြင့်လည်း ဤစည်းစိမ်ကို ရ၏ဟု ဆိုလို၍—

၁၀၇၊ သာခု ခေါ သိပ္ပကံ နာမ၊ အပိ ယာဒိသ ကီဒိသံ။
ပဿ ခဉ္ဇပ္ပဟာရေန၊ လဒ္ဓါ ဂါမာ စတုဒ္ဒိသာ။

ဟူသော ဤဂါထာကို ဆို၏။

မဟာရာဇ၊ မြတ်သောမင်းကြီး။ ယာဒိသ ကီဒိသံ၊ အမှတ်မဲ့ ရှုအပ်သော သဘောရှိသော။ သိပ္ပကံ နာမ အပိ၊ အတတ်မည်သည်လည်း။ သာခု ခေါ ယေဝ၊ ကောင်းသည် သာလျှင်တည်း။ ပဿ၊ ရှုပါလော။ ပီဌသပ္ပိနာ၊ သူဆွံ့သည်။ ခဉ္ဇပ္ပဟာရေန၊ ဆိတ်ချေးပစ်သဖြင့်။ စတုဒ္ဒိသာ၊ အရပ်လေးမျက်နှာတို့၌ ရှိကုန်သော။ ဂါမာ၊ ရွာတို့ကို။ လဒ္ဓါ၊ ရအပ်ကုန်၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ ဤရဟန်းသည် ထိုအခါ သူဆွံ့ဖြစ်ဘူးပြီ၊ ယခုအခါ အာနန္ဒာသည် ထိုအခါ မင်းဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ပညာရှိအမတ်ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[အတတ်ဟူသမျှ၊ လူ့လောက၊ သင်ရမည်သာ ပညာဝါ]

**ခုနစ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော သာလိတ္တကဇာတ်သည် ပြီး၏။**

---

## ၁၀၈—ဗာဟိယဇာတ်

### အဆင်းမလှသဖြင့် ဆူဝသောမိန်းမသည် အဆင်းလှသောမင်း၏ မိဖုယား ဖြစ်ရသော အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညုမြတ်စွာဘုရားသည် "သိက္ခေယျ သိက္ခိတဗ္ဗာနိ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤ ဗာဟိယဇာတ်ကို ဝေသာလီပြည်ကိုမှီ၍ မဟာဝုန်၌ စုလစ်မွန်းချွန် တပ်သော ကျောင်းတော်၌ နေတော်မူစဉ် "တယောက်သောလိစ္ဆဝီမင်း"ကိုကြောင်းပြု၍ ဟောတော်မူ၏၊ထိုလိစ္ဆဝီမင်းသည် သဒ္ဓါခြင်းရှိ၏၊ဘုရားအမှုးရှိသော သံဃာကိုဘိတ်၍ မိမိအိမ်၌ ကြီးစွာသော အလှူကိုလှူ၏၊ ထိုမင်း၏ မယားသည်ကား ဆူသော အင်္ဂါကြီးငယ်ရှိ၏၊ ဖူးဖူးယောင်သော

သူသေကောင်နှင့် တူ၏၊ အသွင်အပြင်နှင့် မပြည့်စုံ၊ မြတ်စွာဘုရားသည် ဆွမ်းဘုဉ်းပေးသော ကိစ္စ အဆုံး၌ တရားဟောတော် မူပြီးသော် ကျောင်းတော်သို့ ကြွတော်မူ၍ ရဟန်းတို့အား အဆုံးအမကို ပေး၍ ဂန္ဓကုဋိသို့ ဝင်တော်မူ၏။

ရဟန်းတို့သည် တရားသဘင်၌ ငါ့သျှင်တို့ အလွန် အဆင်းလှသော ထိုသို့ သဘောရှိသော လိစ္ဆဝိမင်းအားစင်လျက် ဆူသောအင်္ဂါရှိသော အသွင်အပြင်နှင့် မပြည့်စုံသော ထိုသို့သဘောရှိသော မိန်းမသည် ဖြစ်၏၊ ထိုမင်းသည် ထိုမိန်းမနှင့်တကွ အသို့လျှင်မွေ့လျော်လေသနည်းဟု စကားကိုဖြစ်စေကုန်၏၊ မြတ်စွာဘုရားသည် ကြွလာတော်မူလတ်၍ ရဟန်းတို့ ယခုအခါ အဘယ်စကားဖြင့် စည်းဝေးကြကုန်သနည်းဟု မေးတော်မူလတ်၍ ဤမည်သော စကားဖြင့် စည်းဝေးပါကုန်၏ဟု နားတော်လျှောက်သည်ရှိသော် ရဟန်းတို့ ဤလိစ္ဆဝိမင်းသည် ယခုအခါ၌သာလျှင် ဆူသော ကိုယ်ရှိသော မိန်းမနှင့်တကွ မွေ့လျော်သည် မဟုတ်သေး၊ ရှေး၌လည်း ဆူသောကိုယ်ရှိသည်သာလျှင်ဖြစ်သော မိန်းမနှင့်တကွ မွေ့လျော်ဘူး၏ဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် ထိုမင်း၏ အမတ်သည် ဖြစ်၏၊ ထိုအခါ တယောက်သော ဇနပုဒ်သူမိန်းမသည် ဆူသောကိုယ်ရှိ၏၊ အသွင်အပြင်နှင့် မပြည့်စုံ၊ အခစားအမှုကိုပြုလျက် မင်းယင်ပြင်၏အနီးဖြင့် သွားသည်ရှိသော် ကျင်ကြီး နှိပ်စက်သည်ဖြစ်၍ ဝတ်သောအဝတ်ဖြင့် ကိုယ်ကိုဖုံးလွှမ်း၍ထိုင်လျက် ကိုယ်လက် အညစ်အကြေးကို သုတ်သင်၍ လျင်စွာသာလျှင် ထ၏၊ ထိုအခါ ဗာရာဏသီမင်းသည် လေသွန်ပြူတင်းဖြင့် မင်းယင်ပြင်ကို ကြည့်သည်ရှိသော် ထိုမိန်းမကို မြင်၍ ဤမိန်းမသည် ဤသို့ သဘောရှိသောလွင်ပြင်၌ ကိုယ်လက်အညစ်အကြေးကိုသုတ်သင်လျက် အရှက်အကြောက်ကိုမစွန့်မူ၍ ဝတ်သောအဝတ်ဖြင့်သာလျှင် ဖုံးလွှမ်း၍ ကိုယ်လက် အညစ်အကြေးတို့ကို သုတ်သင်၍ လျင်စွာထ၏၊ ဤမိန်းမသည် ရောဂါမရှိသည် ဖြစ်ရာ၏၊ ဤသို့ သဘောရှိသော မိန်းမ၏သားအိမ်သည် သန့်ရှင်းသည် ဖြစ်လတ္တံ့၊ သန့်ရှင်းသော သားအိမ်၌ ရှိသော တယောက်သော သားသည် သန့်ရှင်းသည် ဘုန်းရှိသည် ဖြစ်လတ္တံ့၊ ဤမိန်းမကို ငါသည် မိဖုယားကြီး ပြုခြင်းငှါ သင့်၏ဟု ကြံ၏၊ မင်းသည်

ထိုမိန်းမအား လင်မရှိသည်၏ အဖြစ်ကို သိ၍ ခေါ်စေပြီးလျှင် မိဖုယားကြီး အရာကို ပေး၏၊ မင်းသည် ထိုမိန်းမကို ချစ်မြတ်နိုး၏၊ မကြာမြင့်မီ ပင်လျှင် တယောက်သော သားကိုဖွား၏၊ ထိုမိန်းမ၏ သားသည် စကြဝတေးမင်း ဖြစ်၏၊ ဘုရားလောင်းသည် ထိုမိန်းမ၏ စည်းစိမ် ပြည့်စုံခြင်းကို မြင်၍ ထိုသို့သဘော ရှိသော စကားအခွင့်ကိုရ၍ အရှင်မင်းကြီး သင်အပ်သည်နှင့်ယှဉ်သော အတတ် မည်သည်ကို အဘယ့်ကြောင့် မသင်ရာသနည်း၊ ဘုန်းရှိသော ဤမိန်းမသည် အရှက်အကြောက်ကို မစွန့်မူ၍ ဖုံးလွှမ်းသော အခြင်းအရာဖြင့် ကိုယ်လက် သုတ်သင်ခြင်းကို ပြုလျက် သင်မင်းကြီးတို့ကို နှစ်သက်စေ၍ ဤသို့သဘော ရှိသော စည်းစိမ်ကို ရ၏ဟု ဆို၍ သင်အပ်သည်နှင့် ယှဉ်သော အတတ်၏ ကျေးဇူးကို ချီးမွမ်းလိုရကား—

၁၀၈၊ သိက္ခေယျ သိက္ခိတဗ္ဗာနိ၊ သန္တိ သစ္ဆန္ဒိနော ဇနာ၊
ဗာဟိယာ ဟိ သုဟန္နေန၊ ရာဇာန မဘိရာဓယိ။

ဟူသော ဤဂါထာကို ဆို၏။

သိက္ခိတဗ္ဗာနိ၊ သင်အပ်ကုန်သော အတတ်တို့ကို။ သိက္ခေယျ၊ သင်ရာ၏။ သစ္ဆန္ဒိနော၊ ထိုအတတ်၌ ဆန္ဒရှိကုန်သော၊ ဇနာ၊ လူတို့သည်။ သန္တိ၊ ရှိကုန်၏။ ဟိ-သစ္စံ၊ မှန်၏။ ဗာဟိယာ၊ မြို့ပ၌ဖြစ်သော ဇနပုဒ်သူသည်၊ သုဟန္နေန၊ ဖုံးလွှမ်း၍ ကိုယ်လက် သုတ်သင်သဖြင့်။ ရာဇာနံ၊ မင်းကို။ အဘိရာဓယိ၊ နှစ်သက်စေ၏။

ဤသို့ ဘုရားလောင်းသည် သင်အပ်သည်မည်သောအတတ်တို့၏ကျေးဇူးကို ဆို၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ လင်မယားတို့သည် ထိုအခါ လင်မယားတို့သည် ဖြစ်ဘူးကုန်ပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ပညာရှိအမတ် ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[အရှက်အကြောက်၊ မစွန့်မြောက်၊ ထိုးရောက်နန်းညာ သိက္ခိတာ]

ရှစ်ခုတို၏ ပြည့်ကြောင်းဖြစ်သော ဗာဟိယဇာတ်သည် ပြီး၏။

---

## ၁၀၉–ကုဏ္ဍကပူဝဇာတ်

### ကြက်ဆူပင်စောင့် ရုက္ခဇိုဝ်၊အား ဆန်ကွဲမုံ့ဖြင့် ပသလုပ်ကျွေး သောကြောင့် သူဌေးဖြစ်သော သူဆင်းရဲအကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "ယထန္နော ပုရိသော ဟောတိ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာ ဆင်အပ်သော ဤကုဏ္ဍကပူဝဇာတ်ကို သာဝတ္ထိပြည် ဇေတဝန် ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "မဟာဒုဂ္ဂတ" ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုစကားကို ချဲ့ဦးအံ့၊ သာဝတ္ထိပြည်၌ ရံခါ တဦးသော အမျိုးသည်သာလျှင် ဘုရားအမှူးရှိသောရဟန်းသံဃာအား အလှူကို လှူဒါန်း၏၊ ရံခါ နှစ်ဦး သုံးဦးကုန်သော အမျိုးတို့သည် တပေါင်းတည်းပေါင်း၍ လှူဒါန်းကုန်၏၊ ရံခါ အပေါင်းဖွဲ့သဖြင့် လှူဒါန်း၏၊ ရံခါ ခရီးသဘောတူ အားဖြင့်လှူဒါန်း၏၊ ရံခါ အလုံးစုံသော မြို့သူအပေါင်းသည် ဆန္ဒတူစု၍ လှူ ဒါန်း၏၊ထိုအခါ လမ်းခရီးတူအားဖြင့် လှူအပ်သော ဆွမ်းသည် ဖြစ်၏၊ ထိုအခါ လူတို့သည် ဘုရားအမှူးရှိသောရဟန်းသံဃာအား လှူခြင်းငှါ ယာဂုကို ဆောင်ခဲ့ ကုန်လော့ ခဲဘွယ်ကို ဆောင်ခဲ့ကုန်လော့ဟု ဆို၏။

ထိုအခါ တယောက်သော သူတပါးတို့၏ အခစား အမှုလုပ်သော သူဆင်းရဲ သည် ထိုအလှူပေးသော လမ်းခရီး၌ နေလျက် ငါသည် ယာဂုကို လှူအံ့သောငှါ မတတ်နိုင်၊ ခဲဘွယ်ကိုကား လှူအံ့ဟုကြံ၏၊ ကြံပြီး၍ သိမ်မွေ့စွာသော ဆန်ကွဲကို ထောင်း၍ ရေဖြင့်ဆွတ်၍ မရိုးရွက်ဖြင့်ထုပ်၍ ပြာပူ၌ဖုတ်၍ ဤမုံ့ကို ဘုရားအား လှူအံ့ဟု ထိုမုံ့ကို ယူလျက် သွား၍ ဘုရားအထံတော်၌ ရပ်၏၊ ခဲသွယ် ယူခဲ့ ကြကုန်လော့ဟု တခွန်းတည်းသော စကားကိုဆိုကာမျှ၌ ခပ်သိမ်းသောသူတို့၏ ရှေးဦးစွာသွား၍ ထိုမုံ့ကို ဘုရားရှင် သပိတ်တော်၌ တည်စေ၍ နေ၏၊ သဗ္ဗညု မြတ်စွာဘုရားသည် တပါးသောသူတို့သည် လှူအပ်သော ခဲဘွယ်ကို မယူမူ၍ ထိုမုံ့ခဲဘွယ်ကိုသာလျှင် ဘုဉ်းပေးတော်မူ၏၊ ထိုခဏ၌လျှင် သဗ္ဗညုမြတ်စွာဘုရား သည် မဟာဒုဂ္ဂတ၏ ဆန်ကွဲမုံ့ ခဲဘွယ်ကို စက်ဆုပ်တော်မမူဘဲ အမြိုက်သုဓာဘုတ် ကဲ့သို့ ဘုဉ်းပေးတော်မူ၏ဟု မြို့အလုံးသည် တပြိုင်နက် အုတ်အုတ်ကျက်ကျက် ဖြစ်၏၊ မင်း၏အမတ် အစရှိကုန်သော အယုတ်သဖြင့်တံခါးစောင့်တို့ကို အစပြု၍

အလုံးစုံသော သူတို့သည်လျှင် စည်းဝေးကုန်လျက် မြတ်စွာဘုရားကို ရှိခိုးကုန်၍ မဟာဒုဂ္ဂတသို့ ချဉ်းကပ်ကုန်လျက် အချင်း မဟာဒုဂ္ဂတ တရာယူ၍ နှစ်ရာယူ၍ ငါတို့အား အဘိုကို ဝေလော့ဟု ဆိုကြကုန်၏၊ မဟာဒုဂ္ဂတသည် ဘုရားရှင်ကို မေးလျှောက်၍ သိအံ့ဟု ဘုရားအထံတော်သို့ လာ၍ ထိုအကြောင်းကို လျှောက်၏။

သဗ္ဗညု မြတ်စွာဘုရားသည် သီတင်းသည် ဥစ္စာကို ယူ၍ငဲ၊ မယူ၍ငဲ ခပ်သိမ်းသော သူတို့အား အဘိုကို ဝေလော့ဟု မိန့်တော်မူ၍ မဟာဒုဂ္ဂတသည် ဥစ္စာကို ယူအံ့သောငှါ အားထုတ်၏၊ လူတို့သည် နှစ်ဆ လေးဆအစရှိသည်တို့၏ အစွမ်းအားဖြင့် ပေးကုန်လျက် ရွှေကိုးကုဋေတို့ကို ပေးကြကုန်၏၊ သဗ္ဗညု မြတ်စွာဘုရားသည် အနုမောဒနာ ပြုပြီးသော် ကျောင်းတော်သို့ သွား၍ ရဟန်းတို့သည် ဝတ်ပြုပြီးသော် ဘုရားတို့၏ အဆုံးအမကိုပေးတော်မူ၍ ဂန္ဓကုဋိသို့ ဝင်တော်မူ၏၊ မင်းသည် ညချမ်းသောအခါ၌ မဟာဒုဂ္ဂတကိုခေါ်၍ သူဌေး အရာဖြင့် ပူဇော်၏၊ ရဟန်းတို့သည် တရားသဘင်၌ ငါ့သျှင်တို့ သဗ္ဗညုမြတ်စွာ ဘုရားသည် မဟာဒုဂ္ဂတသည် လှူအပ်သော မုံ့ခဲဘွယ်ကို မစက်မဆုပ် အမြိုက် သုဓာဘုတ်ကဲ့သို့ ဘုဉ်းပေးတော်မူ၏၊ မဟာဒုဂ္ဂတသည်လည်း များစွာသော ဥစ္စာကိုငဲ သူဌေးအရာကိုငဲ ရ၍ ကြီးစွာသော စည်းစိမ်သို့ ရောက်လေ၏ဟု စကားကို ဖြစ်စေကုန်၏၊ သဗ္ဗညု မြတ်စွာဘုရားသည် ကြွလာတော်မူလတ်၍ ရဟန်းတို့ ယခုအခါ အဘယ်စကားဖြင့် စည်းဝေးကြကုန်သနည်းဟု မေးတော် မူလတ်၍ ဤမည်သော စကားဖြင့် စည်းဝေးပါကုန်၏ဟု နားတော် လျှောက် သည်ရှိသော် ရဟန်းတို့ ယခုအခါ၌သာလျှင် ငါသည် မဟာဒုဂ္ဂတ၏ ဆန်ကွဲမုံ့ ကို မစက်ဆုပ်သဖြင့် ဘုဉ်းပေးတော်မူသည် မဟုတ်သေး၊ ရှေး၌လည်း ရုက္ခစိုဝ်း နတ်ဖြစ်၍ သုံးဆောင်ဘူး သလျှင်ကတည်း၊ ထိုအခါ၌လည်း မဟာဒုဂ္ဂတသည် ငါ့ကိုမှီ၍ သူဌေးအရာကို ရဘူးသလျှင်ကတည်းဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည် သောမင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် တခုသောအရပ်ဝယ် ကြက်ဆူပင်စောင့် ရုက္ခစိုဝ်းနတ် ဖြစ်၏၊ ထိုအခါ ရွာ၌ လူတို့သည် နတ်တို့ကို

ကိုးကွယ်ကုန်၏၊ ထိုအခါ တခုသော ပွဲသဘင်သည် ရောက်လတ်သည် ရှိသော် လူတို့သည် မိမိတို့၏ ရုက္ခဇိုဝ်းနတ်တို့အား ပူဇော်ခြင်းကို ပြုကုန်၏၊ ထိုအခါ ဆင်းရဲစွာသော လူတယောက်သည် ရုက္ခဇိုဝ်းနတ်တို့အားပူဇော်ကုန်သော လူတို့ ကိုမြင်၍ တခုသော ကြက်ဆူပင်ကို သုတ်သင်၍ ပူဇော်၏၊ လူတို့သည် မိမိ,မိမိတို့ ၏ နတ်တို့အား အထူးထူး အပြားပြား ရှိကုန်သော ပန်း, နံ့သာ, နံ့သာပျောင်း တို့ကိုရင်း၊ ခဲဘွယ်, ဘောဇဉ်တို့ကိုရင်း ယူ၍ သွားကုန်၏၊ ထိုသူဆင်းရဲသည်ကား ဆန်ကွဲမှုံ့ကိုရင်း, ရေမှုတ်ဖြင့် ရေကိုရင်း ယူလျက်သွား၍ ကြက်ဆူပင်၏ အနီး၌ ရပ်၍ နတ်တို့မည်သည်ကား နတ်ခဲဘွယ်ကိုသာ စားကုန်၏၊ ငါ၏ နတ်သည် ဆန်ကွဲမှုံ့ကို မစားလတ္တံ့၊ ဤဆန်ကွဲမှုံ့ဖြင့် အဘယ်ပြုအံ့နည်း၊ နတ်မင်းအား ငါမပေးပြီ၊ ငါသည်ပင် ဆန်ကွဲမှုံ့ကို စားအံ့ဟု ကြံ၏၊ ကြံပြီး၍ ထိုအရပ်မှလျှင် ပြန်လည်၏၊ ဘုရားလောင်းသည် ကြက်ဆူပင်ခွ၌ရပ်၍ အိုယောကျ်ား သင်သည် အကယ်၍ သူဌေးစိမ်ရှင်ဖြစ်ငြားအံ့၊ ငါ့အား ကောင်းသော ခဲဘွယ်ကို ပေးရာ၏၊ သင်သည်ကား ဆင်းရဲ၏၊ ငါသည် မှုံ့ကို မစားမူ၍ တပါးသော ခဲဘွယ်ကို အဘယ့်ကြောင့် စားအံ့နည်း၊ ငါ၏အဘို့ကို မပျက်စီးစေလင့်ဟု ဆိုလို၍—

၁၀၉၊ ယထန္နော ပုရိသော ဟောတိ၊ တထန္နာ တဿ ဒေဝတာ။
အာဟရေတံ ကုဏ္ဍပူဝံ[၁]၊ မာ မေ ဘာဂံ ဝိနာသယ။

ဟူသော ဤဂါထာကို ဆို၏။

ဘော ပုရိသ၊ အိုယောကျ်ား။ ပုရိသော၊ နတ်တို့ကို ကိုးကွယ်သော ယောကျ်ားသည်။ ယထန္နော၊ အကြင်သို့ သဘောရှိသော အာဟာရကို စား သည်။ ဟောတိ၊ ဖြစ်၏။ တဿ၊ ထိုယောကျ်ား၏။ ဒေဝတာ၊ နတ်သည်။ တထန္နာ၊ ထိုသို့သဘောရှိသော ဘောဇဉ်ကို စားသည်။ ဟောတိ၊ ဖြစ်၏။ တွံ၊ သည်။ ဧတံ ကုဏ္ဍပူဝံ၊ ထိုဆန်ကွဲမှုံ့ကို။ အာဟရ၊ ဆောင်ခဲ့လော။ မေ၊ ငါ၏။ ဘာဂံ၊ အဘို့ကို။ မာ ဝိနာသယ၊ မပျက်စီးစေလင့်။

ထိုဆင်းရဲစွာသော ယောကျ်ားသည် ပြန်လျက် ဘုရားလောင်းကိုကြည့်၍ ပူဇော်ခြင်းကိုပြု၏၊ ဘုရားလောင်းသည် ဆန်ကွဲမှုံ့မှ သြဇာကိုစား၍ အိုယောကျ်ား အဘယ်အကျိုးငှါ ငါ့ကို လုပ်ကျွေးသနည်းဟု မေး၏၊ အရှင် အကျွန်ုပ်သည်

၁၊ ကဏ္ဏ ပူဝံ (သီ၊ ဋ္ဌ)

ဆင်းရဲ၏၊ အရှင်နတ်မင်းကို မှီ၍ ဆင်းရဲသော အဖြစ်မှ လွတ်လို၏၊ ထိုကြောင့် ရှင်နတ်မင်းကို လုပ်ကျွေး၏ဟု ဆို၏၊ အိုယောကျ်ား သင်မစိုးရိမ်လင့်၊သင်သည် ကျေးဇူးကို သိတတ်သော ကျေးဇူးကို ဆပ်တတ်သော ငါ့အား ပူဇော်ခြင်းကို ပြုအပ်၏၊ ဤကြက်ဆူပင်ကိုရံ၍ ရွှေအိုးတို့သည် လည်ချင်းထိ၍ တည်ကုန်၏၊ သင်သည် မင်းအား ကြားလျှောက်၍ လှည်းတို့ဖြင့် ဥစ္စာကို ဆောင်စေ၍ မင်းယင်ပြင်၌ စုပုံလော၊ မင်းသည် သင့်အား နှစ်သက်၍ သူဌေး အရာကို ပေးလတ္တံ့ဟု ဆို၍ ဘုရားလောင်းသည် ကွယ်၏၊ ထိုသူဆင်းရဲသည် ဘုရားလောင်းဆိုတိုင်း ပြု၏၊ မင်းသည်လည်း သူဆင်းရဲအား သူဌေးအရာကို ပေး၏၊ ဤသို့ သူဆင်းရဲသည် ဘုရားလောင်းကို မှီ၍ ကြီးစွာသော စည်းစိမ်သို့ရောက်၍ ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း**...သဗ္ဗညုမြတ်စွာဘုရားသည်ဤဓမ္မဒေသနာကိုဆောင်တော်မူ၍ ယခုအခါ သူဆင်းရဲသည်လျှင် ထိုအခါ သူဆင်းရဲ ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ကြက်ဆူပင်စောင့်နတ် ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[ဆန်ကွဲမုံ့လျှ၊ ဆင်းရဲသူ၊ ရှေးတူ ခုဘဝ စည်းစိမ်ရ]

ကိုးခုတို၏ ပြည့်ကြောင်းဖြစ်သော ကုဏ္ဍကပူဝဇာတ်သည် ပြီး၏။

---

### ၁၁၀-သဗ္ဗသံဟာရကပဥ္စဇာတ်

### ပညာပါရမီကို ဟောတော်မူသောအကြောင်း

**ပစ္စုပ္ပန် နှင့် အတိတ်ဝတ္ထု**... ''သဗ္ဗသံဟာရကော နတ္ထိ'' အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤ သဗ္ဗသံဟာရကပဥ္စဇာတ်သည် ခပ်သိမ်းသောအခြင်းအရာအားဖြင့်''ဥမင်္ဂဇာတ်''၌ထင်စွာဖြစ်လတ္တံ့၊ဂါထာကား—

၁၁၀၊ သဗ္ဗသံဟာရကော နတ္ထိ၊ သုဒ္ဓံ ကင်္ဂု ပဝါယတိ။
အလိကံ ဘာသတိယံ ဓုတ္တိ၊ သစ္စမာဟ မဟလ္လိကာ။

ဟူသည်တည်း။

ပဏ္ဍိတ၊ ပညာရှိသုခမိန်။ သဗ္ဗသံဟာရကော၊ သဗ္ဗသံဟာရက မည်သော နံ့သာသည်။ နတ္ထိ၊ မရှိ။ သုဒ္ဓံ၊ သက်သက်။ ကဂုံ၊ ဆေးမျိုး အဝင်အပါ ဥပါ သကာ နံ့သာသည် သာ၍လျှင်။ ပဝါယတိ၊ လှိုင်၏။ အယံ ဓုတ္တိ၊ ဤ ခိုးစား တတ်သော မိန်းမငယ်သည်။ အလိကံ၊ မမှန်သော စကားကို။ ဘာသတိ၊ ဆို၏။ အယံ မဟာလ္လိကာ၊ ဤမိန်းမကြီးသည်။ သစ္စံ၊မှန်သောစကားကို။ အာဟ၊ဆို၏။

အလုံးစုံသော နံ့သာတို့ကို ပေါင်းစု၍ ပြုအပ်သော နံ့သာကို သဗ္ဗ သံဟာရကနံ့သာ ခေါ်သည်ဟူ၍မှတ်။

[နံ့သာပေါင်းစုံ၊ မွှေးကြိုင်ထုံ၊ ခေါ်ကုန်သဗ္ဗ သံဟာရက]

ဆယ်ခုတို့၏ပြည့်ကြောင်းဖြစ်သော သဗ္ဗသံဟာရကပဥ္စဇာတ်သည် ပြီး၏။

---

## ၁၂–ဟံစိဝဂ် ၁၁၁–ဂဒြဘပဥှဇာတ်

## မြည်း ပြဿနာ၏ အကြောင်း

**ပစ္စုပ္ပန်နှင့်အတိတ်ဝတ္ထု**....''ဟံစိ တုဝံ ဧဝမညာသိ'' ဤသို့အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤ ဂဒြဘပဥှဇာတ်သည် မဟာဥမင် ဇာတ် * ၌ ထင်စွာဖြစ်လတ္တံ့၊ ဂါထာကား—

၁၁၁၊ ဟံစိ တုဝံ ဧဝ မညာသိ သေယျော၊ ပုတ္တေန ပိတာတိ ရာဇသေဋ္ဌ။
ဟန္ဒဿတရဿ တေ အယံ၊ အဿတရဿ ဟိ ဂဒြဘော ပိတာ။

ဟူသည်တည်း။

ရာဇသေဋ္ဌ၊မင်းမြတ်။ ဟံစိ၊ အကယ်၍။ တုဝံ၊ သင်မင်းမြတ်သည်။ပုတ္တေန၊ သားထက်။ ပိတာ၊ အဘသည်။ သေယျော၊ မြတ်၏။ ဣတိ ဧဝံ၊ ဤသို့။ မညာသိ၊ အောက်မေ့မှတ်ထင်တော်မူ၏။ ဟန္ဒ၊ယခု။ တေ၊ သင်မင်းမြတ်အား။ အဿတရဿ၊ အဿတိုရ် မြင်းထက်။ အယံ၊ ဤမြည်းသည်။ သေယျော၊ မြတ်သည်။ ဟောတု၊ ဖြစ်စေလော။ ဟိ-ကသ္မာ၊ အဘယ်ကြောင့်နည်း ဟူမူကား။ ဂဒြဘော၊ မြည်းသည်။ အဿတရဿ၊ အဿတိုရ်မြင်း၏။ ပိတာ၊

---

* မဟာနိပါတ်မှာ ပါသည်။



၅၅၀-ပ၊ သဗ္ဗသံဟာရကပဉှာဇာတ်
မဟော်သဓာ လည်ရှဲတရား စီရင်နေပုံ

အဘာသည်။ ဟောတိ၊ ဖြစ်၏။ တသ္မာ၊ ထို့ကြောင့်။ သေယျော၊မြတ်သည်။ ဟောတု၊ ဖြစ်စေလော။

ဤဂါထာ၏ ပဌမပါဒ၏ အစ၌ ဟံစိ-ဟု တာလုဇ ပဌမက္ခရာနှင့် ရှိရမည်၊ ထို့ကြောင့် အဋ္ဌကထာ၌ ဟံစိ-ကို ယဒိ-ဟုဖွင့်ပြ၏၊ဟံစိ နှင့် ယဒိကား အနက်တူ၏။

[ပုတ္တပိတာ၊ မြတ်သည့်ရာ၊ မဟာဥမင်ဇာတ်]

ရှေးဦးစွာသော ဂဒြဘပဥှာဇာတ်သည် ပြီး၏။

---

## ၁၁၂—အမရာဒေဝီပဥှာဇာတ်

### အမရာဒေဝီနှင့် မဟောသဓာ ပညာစမ်းကြသော အကြောင်း

ပစ္စုပ္ပန်နှင့်အတိတ်ဝတ္ထု... "ယေန သတ္တု ဗိဠင်္ဂါ စ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာ ဆင်အပ်သော ဤ အမရာဒေဝီပဥှာ ဇာတ်သည်လည်း ထို "မဟာဥမင်ဇာတ်"၌ ထင်စွာ ဖြစ်လတ္တံ့၊ ဂါထာကား—

၁၁၂၊ ယေန သတ္တု ဗိဠင်္ဂါ စ၊ ဒိဂုဏပလာသော စ ပုပ္ဖိတော။
ယေန ဒဒါမိ တေန ဝဒါမိ၊ ယေန န ဒဒါမိ တေန န ဝဒါမိ။
ဧသ မဂ္ဂေါ ယဝမဇ္ဈကဿ၊ ဧတံ ဆန္နပထံ ဝိဇာနာဟိ။

ဟူသည်တည်း။

သာမိ၊ အရှင်။ ယေန၊ အကြင်အရပ်၌။ သတ္တုဗိဠင်္ဂါစ၊ မုံ့လုံးဈေး,ပအုန်းရည်ဈေးတို့သည်ရှိ၏။ ပုပ္ဖိတော၊ ပွင့်သော။ ဒိဂုဏပလာသော စ၊ အရွက်နှစ်ဆင့်ရှိသော ပင်လယ်ကသစ်ပင်ရှိ၏။ အတ္ထိ၊ ရှိ၏။ တေန၊ ထိုအရပ်သို့။ ဂန္တွာ၊ သွား၍။ ယေန၊အကြင်လက်ဖြင့်။ ဒဒါမိ၊ ပေး၏။ တေန၊ထိုလက်ဖြင့်။ ဝဒါမိ၊ ဆို၏။ ယေန၊ အကြင်လက်ဖြင့်။ န ဒဒါမိ၊ မပေး။ တေန၊ထိုလက်ဖြင့်။ န ဝဒါမိ၊မဆို။ ဧသ-ဧသော၊ဤခရီးသည်လျှင်။ ယဝမဇ္ဈကဿ၊ ယဝမဇ္ဈကရွာ၌

တည်သော ငါတို့အိမ်၏။ မင္ဂေါ၊ ခရီးတည်း။ တော် ဆန္ဒပထံ၊ ဤဖုံးကွယ်သော ခရီးကို။ ဝိဇာနာဟိ၊ သိလော။

[မဟော အမရာ၊ စမ်းပညာ၊ မဟာဥမင်ဇာတ်]

နှစ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော အမရာဒေဝီပဥှာဇာတ်သည် ပြီး၏။

---

## ၁၁၃—သိင်္ဂါလဇာတ်

### ပုဏ္ဏားကို မြေခွေးလှည့်စားသော အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် ''သဒ္ဒဟာသိ သိင်္ဂါလဿ'' အစရှိသော ဂါထာပုဒ် ဖြင့် တန်ဆာဆင်အပ်သော ဤ သိင်္ဂါလဇာတ်ကို ဝေဠုဝန် ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် ''ဒေဝဒတ်''ကို အကြောင်းပြု၍ ဟောတော်မူ၏။ထို အခါ ရဟန်းတို့သည် တရားသဘင်၌ စည်းဝေးကုန်၍ ငါ့သျှင်တို့ ဒေဝဒတ် သည် ငါးရာကုန်သော ရဟန်းတို့ကိုယူ၍ ဂယာသီသသို့သွား၍ အကြင်အကျင့်ကို ရဟန်းဂေါတမသည် ကျင့်၏ ထိုအကျင့်သည် တရားမဟုတ်၊ အကြင်အကျင့်ကို ငါသည် ကျင့်၏၊ ထိုအကျင့်သည်သာလျှင် တရားဟုတ်၏ဟု ထိုငါးရာကုန် သော ရဟန်းတို့ကို မိမိအယူကို ယူစေ၍ ထိုဒေဝဒတ်သည် အကြောင်းအား လျော်သော မုသားကိုဆို၍ တသိမ်တည်း၌ နှစ်ခုကုန်သော ဥပုသ်တို့ကို ပြုကုန် ၏ဟု ဒေဝဒတ်၏ ကျေးဇူးမဲ့ဖြစ်သော စကားကို ဆိုကုန်လျက် နေကုန်၏၊ မြတ် စွာဘုရားသည် လာတော်မူလတ်၍ ရဟန်းတို့ ယခုအခါ အဘယ်စကားဖြင့်စည်း ဝေးကြကုန်သနည်းဟု မေးတော်မူလတ်၍ ဤမည်သော စကားဖြင့်စည်းဝေးပါ ကုန်၏ဟု နားတော်လျှောက်သည်ရှိသော် ရဟန်းတို့ ဒေဝဒတ်သည် ယခုအခါ၌ သာလျှင် မုသားဆိုလေ့ရှိသည် မဟုတ်သေး၊ ရှေး၌လည်း မုသားဆိုလေ့ရှိသည် သာလျှင်တည်းဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည် သောမင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် သုသာန်တော၌ ရက္ခ ဇိုဝ်းနတ်၏အဖြစ်ဖြင့် ဖြစ်၏၊ ထိုအခါ ဗာရာဏသီပြည်၌ နက္ခတ်ပွဲသဘင်ကို

ကြွေးကြော်အပ်၏၊ လူတို့သည် နက္ခတ်တို့အား ပူဇော်သောအမှုကို ပြုကုန်အံ့ဟု ထိုဆိုခရီးလေးဆုံ ခရီးလမ်းမ အစရှိသည်တို့၌ ငါး အမဲ အစရှိသည်တို့ကို ဖရိုဖရဲ ကြဲကုန်လျက် အိုးကင်းငယ်တို့၌ များစွာသော သေကို ထားကုန်၏၊ ထိုအခါ တခုသော မြေခွေးသည် သန်းခေါင်ယာမ် အခါ၌ ပြွန်ပေါက်ဖြင့် မြို့သို့ဝင်၍ ငါးအမဲကိုစား၍ သေကို သောက်၍ တဖန် ချုံကြားသို့ဝင်၍ အရုဏ်တက်သည် တိုင်အောင်အိပ်ပျော်ခြင်းသို့ ရောက်၏၊ ထိုမြေခွေးသည်နိုး၍အလင်းကိုမြင်လျှင် ယခုထွက်အံ့သောငှါ မတတ်ကောင်းဟု ခရီးအနီးသို့ သွား၍ မထင်ရှားသော ကိုယ်ရှိသည် ဖြစ်၍ ဝပ်လျက် တပါးသော သူကိုမြင်၍ ဘာစုံတခုသောစကားကို မဆိုမူ၍ တယောက်သော မျက်နှာသစ်အံ့သောငှါ လာသော ပုဏ္ဏားကို မြင်၍ ပုဏ္ဏား မည်သည်ကား ဥစ္စာ၌ တပ်မက်မောကုန်၏၊ ဤပုဏ္ဏားကို ဥစ္စာဖြင့် ဖြားယောင်း၍ အကြင်အခြင်းဖြင့် ငါ့ကို လက်ကတီးကြား၌ ထား၍ မြို့မှ ထုတ်၏၊ ထိုအခြင်းဖြင့် ပြုအံ့ဟု ကြံ၏၊ ကြံပြီး၍—

မြေခွေးသည် လူ၏ ဘာသာဖြင့် ပုဏ္ဏားဟု ခေါ်၏၊ ပုဏ္ဏားသည် ပြန်၍ ငါ့ကို အဘယ်သူသည် ခေါ်သနည်းဟု မေး၏ ပုဏ္ဏား ငါခေါ်သည်ဟု ဆို၏၊ အဘယ့်ကြောင့် ခေါ်သနည်းဟု မေး၏၊ ပုဏ္ဏား ငါ့အား နှစ်ရာကုန်သောငွေ အသပြာတို့သည် ရှိကုန်၏၊ ငါ့ကို လက်ကတီးကြား၌ထား၍ ကိုယ်ရုံပုဆိုးဖြင့် ဖုံးလွှမ်း၍ အကြင်အခြင်းဖြင့် တစုံတယောက်သော သူသည် မမြင်၊ ထိုအခြင်း ဖြင့် မြို့မှထုတ်အံ့သောငှါ အကယ်၍ တတ်နိုင်အံ့၊ သင့်အား ထိုနှစ်ရာကုန်သော ငွေအသပြာတို့ကို ပေးအံ့ဟု ဆို၏၊ ထိုပုဏ္ဏားသည် ဥစ္စာ၌ တပ်မက်မော်ခြင်း ကြောင့် ကောင်းပြီဟု ဝန်ခံ၍ ထိုမြေခွေးဆိုတိုင်း ပြု၍ ယူပြီးသော် မြို့မှထွက်၍ အတန်ငယ် သွား၏၊ ထိုအခါ ပုဏ္ဏားကို မြေခွေးသည် ပုဏ္ဏား အဘယ် အရပ် နည်းဟု မေးလေ၏၊ ဤမည်သော အရပ်တည်းဟု ပုဏ္ဏား ဆိုသည်ရှိသော် တပါးသော အရပ်သို့ အတန်ငယ် သွားဦးလောဟု ဆို၏၊ ဤသို့ အဖန်တလဲလဲ ဆိုလျက် သုသာန်သို့ရောက်၍ ဤသုသာန်မှ၌ ငါ့ကိုချလောဟုဆို၏၊သုသာန်မှ၌ မြေခွေးကို ချ၏၊ မြေခွေးသည် ပုဏ္ဏား ကိုယ်ရုံပုဆိုးဖြူကို ဖြန့်လောဟု ဆို၏၊ ပုဏ္ဏားသည် ဥစ္စာ၌ တပ်မက်မောသဖြင့် ဖြန့်၏၊ ထိုအခါ ပုဏ္ဏားကို ဤသစ်ပင် ရင်း၌ တူးလေလောဟု မြေကို တူးခြင်း၌ ယှဉ်စေ၍ ပုဏ္ဏား၏ ကိုယ်ရုံပုဆိုးသို့

တက်၍ လေးထောင့်၌ရင်း,အလယ်၌ရင်း ဤငါးဌာနတို့၌ ကျင်ကြီး ကျင်ငယ် တို့ကို စွန့်၍ လိမ်းကျံစေ၍ရင်း, စွတ်စေ၍ရင်း သုသာန်တောသို့ ဝင်၏၊ ဘုရားလောင်းသည် သစ်ပင်ခွ၌ရပ်၍—

၁၁၃၊ သဒ္ဒဟာသိ သိဂါလဿ၊ သုရာပီတဿ ဗြာဟ္မဏ။
သိပ္ပိကာနံ သတံ နတ္ထိ၊ ကုတော ကံသသတာ ဒုဝေ။

ဟူသော ဤဂါထာကို ဆို၏။

ဗြာဟ္မဏ၊ ပုဏ္ဏား။ သုရာပီတဿ၊ သေသောက်သော။ သိဂါလဿ၊ မြေခွေး၏။ ဝစနံ၊ စကားကို။ တွံ၊ သင်သည်။ သဒ္ဒဟာသိ ယုံကြည်သလော။ တဿ၊ ထိုမြေခွေးအား။ သိပ္ပိကာနံ၊ ယောက်သွားတို့၏။ သတံ၊ တရာ သည် လည်း။ နတ္ထိ၊ မရှိ။ အဿ၊ ထိုမြေခွေးအား။ ဒုဝေ ကံသသတာ၊ ငွေအသပြာ နှစ်ရာတို့သည်ကား။ ကုတော အတ္ထိ၊ အဘယ်မှာ ရှိအံ့နည်း။

ဘုရားလောင်းသည် ဤဂါထာဖြင့် ဆို၍ ပုဏ္ဏား သွားလေ၊ သင်၏ ပုဆိုးကို လျှော်၍ ရေချိုး၍ မိမိအမှုကို ပြုလေလောဟု ဆို၍ ကွယ်၏၊ ပုဏ္ဏားသည် ရှက္ခဇိုဝ်းနတ်ဆိုတိုင်းပြု၍ ငါ့ကို လှည့်စားသည် ဖြစ်ပြီဟု နှလုံးမသာယာခြင်းသို့ ရောက်သည်ဖြစ်၍ ဖဲ၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ ဒေဝဒတ်သည် ထိုအခါ မြေခွေးဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည် လျှင် ထိုအခါ ရှက္ခဇိုဝ်းနတ် ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[သေရည်သောက်သူ၊ နှုတ်ဆိုမူ၊ ချင့်ယူ လိမ်တာများ]

သုံးခုတို့၏ ပြည့်ကြောင်းဖြစ်သော သိဂါလဇာတ်သည် ပြီး၏။

---

## ၁၁၄—မိတ္တစိန္တိဇာတ်

### ပျင်းရိသော ငါးတို့၏ အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့် တကွသော လောကကို ဆုံးမတော်မူတတ်သော ထဗ္ဗည့် မြတ်စွာဘုရားသည် "ဗဟုစိန္တီ အပ္ပစိန္တီ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာ ဆင်အပ်သော ဤ မိတစိန္တိဇာတ်ကို ဇေတဝန် ကျောင်းတော်၌

သီတင်းသုံးနေတော်မူစဉ် "နှစ်ယောက်ကုန်သော အသက်ကြီးကုန်သောရဟန်း တို့ကို" အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုနှစ်ယောက်ကုန်သော ရဟန်းကြီး တို့သည် ဇနပုဒ်၌ တခုသော တောကျောင်း၌ ဝါဆိုကုန်ပြီး၍ မြတ်စွာဘုရား အား ဖူးမြင်အံ့သောငှါ သွားအံ့ဟု ရိက္ခာကို စီရင်ကုန်၍ ယနေ့ သွားကုန်အံ့၊ နက်ဖြန်သွားကုန်အံ့ဟု တလကို လွန်စေ၍ တဖန် ရိက္ခာကို စီရင်ကုန်၍ ထိုအတူ လျှင် တလကို လွန်စေကုန်၏၊ ဤသို့လျှင် မိမိတို့၏ ပျင်းရိသည်၏အဖြစ်ကြောင့် ၎င်း, နေရာအရပ်၌ တပ်စွန်းသည်၏အဖြစ်ကြောင့်၎င်း သုံးလတို့ကို လွန်၍ ထို ဇနပုဒ်မှထွက်၍ ဇေတဝန်ကျောင်းတော်သို့ သွား၍ အကျွမ်းဝင်ရာ၌ သပိတ် သင်္ကန်းကို သိုမှီး၍ မြတ်စွာဘုရားကို ဖူးမြင်ကုန်၏။

ထိုအခါ ထိုရဟန်းတို့ကို ရဟန်းတို့သည် ငါ့သျှင်တို့ မြတ်စွာဘုရားကို ခစား ခြင်းကို မပြုကုန်သော သင်တို့သည် ကြာမြင့်စွာ၏၊ အဘယ့်ကြောင့် ဤသို့ ကြာမြင့်ကြကုန်သနည်းဟု မေးကြကုန်၏၊ ထိုရဟန်းတို့သည် ထိုအကြောင်းကို ကြားကုန်၏၊ ထိုအခါ ထိုရဟန်းတို့၏ ပျင်းရိသည်၏အဖြစ်သည် ရဟန်းသံဃာ ၌ ထင်ရှားသည် ဖြစ်၏၊ တရားသဘင်၌လည်း ထိုရဟန်းကြီးတို့၏ ပျင်းရိသည် ၏အဖြစ်ကိုလျှင်မှီ၍ စကားကို ဖြစ်စေကုန်၏၊ မြတ်စွာဘုရားသည် လာတော်မူ လတ်၍ ယခုအခါ အဘယ်စကားဖြင့် စည်းဝေးကြကုန်သနည်းဟု မေးတော်မူ လတ်၍ ဤမည်သော စကားဖြင့် စည်းဝေးပါကုန်၏ဟု နားတော်လျှောက် သည်ရှိသော် ထိုရဟန်းတို့ကို ခေါ်စေ၍ ရဟန်းတို့ သင်တို့သည် ပျင်းရိကုန် သတတ်ဟူသည် မှန်ကုန်သလောဟု မေးတော်မူလတ်၍ အရှင်ဘုရား မှန်ပေ၏ဟု နားတော် လျှောက်သည်ရှိသော် ရဟန်းတို့ ယခုအခါ၌သာလျှင် ထိုရဟန်းတို့ သည် ပျင်းရိသည် မဟုတ်သေး၊ ရှေး၌လည်း ပျင်းရိကုန်၏၊ နေရာ၌လည်း တပ် စွန်းကုန်၏ဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည် သောမင်းသည် မင်းပြုသည်ရှိသော် ဗာရာဏသီမြစ်နား၌ ငါးသုံးခုတို့သည်ရှိကုန် ၏၊ ထိုငါးသုံးခုတို့တွင် တခုကား မိတစိန္တိမည်၏၊တခုကား ဗဟုစိန္တိမည်၏၊ တခု ကား အပ္ပစိန္တိမည်၏၊ ထိုငါးသုံးခုတို့သည် တောမှ လူ့ပြည်သို့လာကုန်၏၊ ထို ငါးသုံးခုတို့တွင် မိတစိန္တိငါးသည် တပါးကုန်သော နှစ်ခုကုန်သော ဗဟုစိန္တိ,

အပ္ပစိန္တိငါးတို့ကို ဤလူ့ပြည် မည်သည်ကား ရွံရှာဘွယ်ရှိ၏၊ ဘေးဘျမ်းရှိ၏၊ တံငါတို့သည် ကွန်, မြုံး အစရှိသည်တို့ကိုပစ်၍ ငါးတို့ကို ဖမ်းကုန်၏၊ ငါတို့သည် တောသို့သာလျှင် နေကုန်အံ့ဟု ဆိုပေ၏၊ ဤမှတပါးကုန်သော ငါးနှစ်ခု တို့သည် ပျင်းရိသည်၏ အဖြစ်ကြောင့်ရင်း, အာမိသ၌ တပ်စွန်းခြင်းကြောင့်ရင်း ယနေ့ သွားကုန်အံ့၊ နက်ဖြန် သွားကုန်အံ့ဟု ဆို၍ သုံးလတို့ကို လွန်စေကုန်၏။

ထိုအခါ တံငါတို့သည် မြစ်၌ ကွန်တို့ကို ပစ်ကုန်၏၊ ဗဟုစိန္တိ, အပ္ပစိန္တိ ငါး တို့သည် အစာကို ယူကုန်လျက် ရှေ့မှ သွားကုန်၏၊ ထိုငါးတို့သည် မိမိတို့၏ အလွန်မိုက်သည်၏ အဖြစ်ကြောင့် ကွန်နံ့ကို မမှတ်ကုန်မူ၍ ကွန်ဝမ်းသို့ဝင်ကုန်၏၊ မိတစိန္တိငါးသည် နောက်မှ သွားသည်ရှိသော် ကွန်နံ့ကိုသိ၍ ထိုငါးတို့၏ ကွန် ဝမ်းသို့ ဝင်သည်၏ အဖြစ်ကိုသိ၍ ပျင်းရိကုန်သော ငါးတို့အား အသက်ကို ပေးအံ့ဟု ကြံ၍ ကွန်၏ အပဖြစ်သော နံပါးအနီးဖြင့် ကွန်ဝမ်းတည်ရာ အရပ်သို့ သွား၍ ကွန်ဝမ်းကိုခွဲ၍ ထွက်သည်နှင့်တူစွာ ရေကို နှောက်နယ်၍ ကွန်၏ရှေ့မှ ကျ၍ တဖန် ကွန်ဝမ်းသို့ ဝင်၍ နောက်အဘို့ဖြင့် ခွဲ၍ထွက်သည်နှင့်တူစွာ ရေကို နှောက်နယ်၍ နောက်အဘို့၌ ကျ၏၊ တံငါတို့သည် ငါးတို့သည် ကွန်ကိုခွဲ၍သွား ကုန်ပြီဟု ထင်မှတ်၍ ကွန်စွန်း၌ကိုင်၍ ချီကုန်၏၊ ထိုဗဟုစိန္တိ, အပ္ပစိန္တိ ငါးနှစ်ခု တို့သည်လည်း ကွန်မှလွတ်ကုန်၍ ရေ၌ ကျကုန်၏၊ ထိုငါးနှစ်ခုတို့သည် မိတစိန္တိ ငါးကိုမှီ၍ အသက်ကိုရကုန်၏၊ မြတ်စွာဘုရားသည် ဤအတိတ်ကို ဆောင်တော် မူ၍ ဘုရား ဖြစ်တော်မူသောအခါ—

၁၁၄၊ ဗဟုစိန္တီ အပ္ပစိန္တီ၊ ဥဘော ဇာလေ အဗဇ္ဈရေ။
မိတစိန္တီ ပမောစေသိ၊ ဥဘော တတ္ထ သမာဂတာ။

ဟူသော ဤဂါထာကို ဟောတော်မူ၏။

ဘိက္ခဝေ၊ ရဟန်းတို့။ ဗဟုစိန္တီ၊ ဗဟုစိန္တိ ငါးသည်ရင်း။ အပ္ပစိန္တီ၊ အပ္ပစိန္တိ ငါးသည်ရင်း။ ဥဘော၊ နှစ်ခုကုန်သော ငါးတို့သည်။ ဇာလေ၊ ကွန်၌။ အဗဇ္ဈရေ၊ မိကုန်၏။ မိတစိန္တီ၊ မိတစိန္တိငါးသည်။ ပမောစေသိ၊ လွတ်စေ၏။ ဥဘော၊ နှစ်ခုကုန်သော ငါးတို့သည်။ တတ္ထ၊ ထိုရေ၌။ သမာဂတာ၊ မိတစိန္တိ ငါးနှင့် ပေါင်းမိပြန်ကုန်၏။

**ဇာတ်ပေါင်း**....ဤသို့ မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ သစ္စာတို့ကို ပြတော်မူ၍ ဇာတ်ကို ပေါင်းတော်မူ၏၊ သစ္စာကို ပြသည်၏အဆုံး၌ အသက်ကြီးကုန်သောရဟန်းတို့သည် သောတာပတ္တိဖိုလ်၌ တည်ကုန်၏၊ အဘယ်သို့ ဇာတ်ကို ပေါင်းတော်မူသနည်းဟူမူကား ယခုအခါ ရဟန်းကြီး နှစ်ယောက်တို့သည် ထိုအခါ ဗဟုစိန္တိငါး,အပ္ပစိန္တိငါး တို့သည် ဖြစ်ဘူးကုန်ပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ မိတစိန္တိငါး ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[အပျင်းမေ့ပြေး၊ လူအများ၊ မှတ်သားကြစေရာ]

လေးခုတို့၏ပြည့်ကြောင်းဖြစ်သော မိထစိန္တိဇာတ်သည် ပြီး၏၊

---

## ၁၁၅—အနုသာသိကဇာတ်

### သူတပါးတို့ကိုသာ ဆုံးမ၍ မိမိကား မကျင့်သော အကြောင်း

**ပ၁၉၉၁၀၉၁၂**....နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "ယာယညေ မနုသာသတိ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာ ဆင်အပ်သော ဤ အနုသာသိက ဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ်အခါ "တယော သာ ဆုံးမတတ်သော ရဟန်းမိန်းမ" ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုရဟန်းမိန်းမသည် သာဝတ္ထိပြည်၌ နေသော တယောက်သော အမျိုးသမီးသည် ဖြစ်သတတ်၊ ထိုအမျိုးသမီးသည် ရဟန်းပြု၍ ပဥ္စင်းဖြစ်သော ကာလမှစ၍ ရဟန်းတရားတို့၌ လုံ့လမပြု၊အာမိသ၌ တပ်မက်မောသည်ဖြစ်၍ အကြင်အရပ်၌ တပါးသော ရဟန်းမိန်းမတို့သည် မသွားကုန်၊ ထိုသို့ သဘောရှိသော မြို့၏ တခုသော အရပ်၌ ဆွမ်းအလို့ငှါ သွား၏၊ ထိုအခါ ထိုရဟန်းမိန်းမအား လူတို့သည် မြတ်သောဆွမ်းကို လှူကုန်၏၊ ထိုရဟန်းမိန်းမသည် ရသတဏှာဖြင့် ဖွဲ့အပ်ကုန်သည်ဖြစ်၍ ဤအရပ်၌ တပါးကုန်သော ရဟန်း မိန်းမ တို့သည် ဆွမ်းအလို့ငှါ အကယ်၍ သွားကုန်လတ္တံ့၊ ငါ့အား လာဘ်ယုတ်သည် ဖြစ်လတ္တံ့၊ အကြင်အခြင်းဖြင့် ထိုအရပ်သို့ တပါးကုန်သော ရဟန်းမိန်းမတို့သည် မသွားကုန်၊ ထိုအခြင်းဖြင့် ငါသည်ပြုခြင်းငှါ သင့်၏ဟုကြံ၍ ရဟန်းမိန်းမတို့၏

ကျောင်းသို့သွား၍ ရှင်မတို့ ဤမည်သော အရပ်၌ ကြမ်းသော ဆင်သည်ရှင်း, ကြမ်းသောမြင်းသည်ရှင်း,ကြမ်းသောဆိတ်သည်ရှင်း, ကြမ်းသော ခွေးသည်ရှင်း သွား၏၊ ဘေးဘျမ်းရှိသော အရပ်တည်း၊ ထိုအရပ်သို့ ဆွမ်းအလို့ငှါ မသွားကြကုန်လင့်ဟု ရဟန်းမိန်းမတို့ကို ဆုံးမ၏၊ ထိုရဟန်းမိန်းမ၏ စကားကို ကြား၍ တယောက်သောရဟန်းမိန်းမမျှလည်း ထိုအရပ်ကိုလည်ကိုပြန်၍မျှ မကြည့်။

တနေ့သ၌ ဆွမ်းအလို့ငှါ သွားသည်ရှိသော် လျင်မြန်စွာ အိမ်သို့ဝင်သော ထိုရဟန်းမိန်းမ၏ ပေါင်ရိုးတို့ကို ကြမ်းသောဆိတ်သည် ခတ်၍ ကျိုးစေ၏၊ လူတို့သည် လျင်စွာ ပြေးလာ၍ နှစ်ပိုင်းပြတ်သော ပေါင်ရိုးတို့ကို တစပ်တည်း ဖွဲ့၍ ထိုရဟန်းမိန်းမကို ညောင်စောင်းဖြင့်ယူ၍ ရဟန်းမိန်းမတို့၏ ကျောင်းသို့ ဆောင်ကုန်၏၊ ရဟန်းမိန်းမတို့သည် ဤ ရဟန်းမိန်းမသည် တပါးကုန်သော ရဟန်းမိန်းမတို့ကို ဆုံးမ၍ မိမိသည် ထိုအရပ်သို့ သွားလျက် ပေါင်ရိုးတို့ကို ချိုး၍လာ၏ဟု ပြက်ရယ်ပြုကုန်၏၊ ထိုရဟန်းမိန်းမ၏ ထိုသို့ ပြုသောအကြောင်း သည် မကြာမြင့်မီလျှင် ရဟန်းသံဃာ၌ ထင်ရှားသည်ဖြစ်၏၊ ထိုအခါ တနေ့သ၌ တရားသဘင်၌ ရဟန်းတို့သည် ငါ့သျှင်တို့ ဆုံးမတတ်သော ရဟန်းမိန်းမ သည်လည်း တပါးကုန်သော ရဟန်းမိန်းမတို့ကို ဆုံးမ၍ မိမိသည် ထိုအရပ်၌ သွားသည်ရှိသော် ကြမ်းသောဆိတ်သည် ပေါင်ရိုးကို ကျိုးစေ၏ဟု ထိုရဟန်း မိန်းမ၏ ကျေးဇူးမဲ့ဖြစ်သော စကားကို ဆိုကုန်၏၊ မြတ်စွာဘုရားသည် ကြွလာတော်မူလတ်၍ ရဟန်းတို့ ယခုအခါ အဘယ်စကားဖြင့် စည်းဝေးကြကုန် သနည်းဟု မေးတော်မူလတ်၍ ဤမည်သော စကားဖြင့် စည်းဝေးပါကုန်၏ဟု နားတော် လျှောက်သည်ရှိသော် ရဟန်းတို့ ယခုအခါ၌သာလျှင် ဤရဟန်း မိန်းမသည် တပါးကုန်သော သူတို့ကို ဆုံးမသည် မဟုတ်သေး၊ ရှေး၌လည်း ဆုံးမဘူးသည်သာလျှင်တည်း၊ မိမိသည်ကား မကျင့်၊ အခါခပ်သိမ်း ဆင်းရဲကို သာလျှင် ခံစားရ၏ဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**...လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည် သောမင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် တော၌ ငှက်အမျိုး၌ ဖြစ်၍ အရွယ်သို့ရောက်သည်ရှိသော် ငှက်မင်းဖြစ်၍ အထောင်မကသော ငှက်တို့ ခြံရံလျက် ဟိမဝန္တာသို့ဝင်၏၊ ထိုဘုရားလောင်း ဟိမဝန္တာ၌ နေသော ကာလ

တခုသော ကြမ်းသော ငှက်မသည် ခရီးမသို့ သွား၍ အစာကို ယူ၏၊ ထိုငှက်မ သည် ထိုခရီးတို့၌ လှည်းတို့မှကျသော စပါးစေ့, ပဲစေ့ အစရှိသည်တို့ကို ရ၍ အကြင်အခြင်းဖြင့် ယခု ခရီးမသို့ တပါးသော ငှက်တို့သည် မသွားကုန်၊ ထိုအခြင်းဖြင့် ပြုအံ့ဟု ကြံ၍ ငှက်အပေါင်းအား ခရီးလမ်းမ မည်သည် ဘေးတျမ်းရှိ၏၊ ဆင်, မြင်း အစရှိသည်တို့သည်၎င်း, ကြမ်းသော နွားဖြင့် က,အပ်သော ယာဉ်တို့သည်၎င်း သွားကုန်၏၊ အဆောတလျင် ပျံအံ့သော ငှါလည်း မတတ်ကောင်းသည်ဖြစ်၍ ထိုအရပ်သို့ မသွားအပ်ဟု အဆုံးအမကို ပေး၏၊ ငှက်အပေါင်းသည် ထိုငှက်မအား "အနုသာသိကာ" ဟူသော အမည် ကို မှည့်၏။

ထိုငှက်မသည် တနေ့သ၌ ခရီးလမ်းမ၌ ကျက်စားသည်ရှိသော် လျင်မြန် သောအဟုန်ဖြင့်လာသော ယာဉ်၏အသံကိုကြား၍ ကြည့်သည်ရှိသော် ဝေး သေးသလျှင်ကတည်းဟု ကျက်စားသလျှင်ကတည်း၊ ထိုအခါ ထိုအရပ်သို့ ယာဉ် သည် လေကဲ့သို့သော အဟုန်ဖြင့် လျင်မြန်စွာ ရောက်၏၊ ထိုငှက်မသည် ထအံ့ သောငှါ မတတ်နိုင်၊ လှည်းဘီးသည် နှစ်ဖြာဖြတ်၍ သေ၏၊ ငှက်မင်းသည် ငှက် တို့ကို စည်းဝေးစေသည်ရှိသော် ထိုငှက်မကို မမြင်၍ အနုသာသိကာမည်သော ငှက်မသည် မထင်၊ ထိုငှက်မကို စုံစမ်းကြကုန်လော့ဟု ဆို၏၊ ငှက်တို့သည် စုံစမ်းသည်ရှိသော် ထိုငှက်မကို ခရီးလမ်းမ၌ နှစ်ပိုင်း ပြတ်သည်ကိုမြင်၍ ငှက် မင်းအား ပြောကြားကုန်၏၊ ငှက်မင်းသည် ထိုငှက်မသည် တပါးကုန်သော ငှက်တို့ကို ဆုံးမ၍ မိမိသည် ထိုအရပ်သို့သွားလျက် နှစ်ပိုင်းပြတ်သည်ကို ပြု၏ ဟု ဆိုလို၍—

၁၁၅၊ ယာယညေ မနုသာသတိ [၁]၊ သယံ လောလုပ္ပစာရိနီ။
သာယံ ဝိပက္ခိကာ [၂] သေတိ၊ ဟတာ စက္ကေန သာသိကာ။

ဟူသော ဤဂါထာကို ဆို၏။

ဘောန္တော သကုဏာ၊ အို ငှက်အပေါင်းတို့။ ယာ သာသိကာ၊ အကြင် ဆုံးမတတ်သော ငှက်မသည်။ သယံ၊ မိမိသည်။ လောလုပ္ပစာရိနီ၊ လျပ်ပေါ် သော အကျင့်ရှိလျက်။ အညေ၊ တပါးကုန်သော ငှက်မတို့ကို။ အနုသာသတိ၊

---

၁၊ ယာယည မနုသာသတိ (သီ၊ သျာ၊ ဣ)   ၂၊ သာဝဠိကာ (သီ၊ သျာ၊ ဣ)

ဆုံးမ၏။ သာ သော သာသိကာ၊ ထိုဆုံးမတတ်သော ငှက်မသည်။ စက္ကေန၊ လှည်းဘီးသည်။ ဟတာ၊ နင်း၏။ ဝိပက္ခိကာ၊ ပြတ်သော အတောင်ရှိသည် ဖြစ်၍။ သေတိ၊ အိပ်ရ၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ ဤဆုံးမတတ်သော ရဟန်းမိန်းမသည် ထိုအခါ ဆုံးမတတ်သော ငှက်မ ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ငှက်မင်း ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[ထိုထိုသူအား၊ ဆုံးမငြား၊ ကိုယ်ကားမကျင့် သေဘေးသင့်]

**ငါးခုတို့၏ ပြည့်ကြောင်းဖြစ်သော အနုသာသိကဇာတ်သည် ပြီး၏။**

---

## ၁၁၆—ဒုဗ္ဗစဇာတ်

### ပညာရှိတို့စကားကို နားမထောင်သောကြောင့် လှံချက်ဖြင့် အသက်ဆုံးရကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "အတိကရမကရာစရိယ" အစရှိသောဂါထာပုဒ် ဖြင့် တန်ဆာဆင်အပ်သော ဤ ဒုဗ္ဗစဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီ တင်းသုံး နေတော်မူစဉ် "တယောက်သော ဆိုနိုင်ခက်သော ရဟန်း" ကို အကြောင်းပြု၍ ဟောတော်မူ၏၊

> ထို ဆိုနိုင်ခက်သော ရဟန်း၏ ဝတ္ထုသည် နဝကနိပါတ် ဂိဇ္ဈဇာတ် ၌ ထင်စွာ ဖြစ်လတ္တံ့၊

မြတ်စွာဘုရားသည်ကား ရဟန်း သင်သည် ယခုအခါ၌သာ ဆိုနိုင်ခက်သည် မဟုတ်သေး၊ ရှေး၌လည်း ဆိုနိုင်ခက်သည်သာလျှင်တည်း၊ ပညာရှိတို့၏ အဆုံး အမကို နာယူခြင်း မပြုမူ၍ လှံထိုးမိသဖြင့် အသက်ကုန်ခြင်းသို့ ရောက်၏ဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည် သောမင်းသည်မင်းပြုသည်ရှိသော် ဘုရားလောင်းသည် လှံကိုခုန်သောအတတ်



၅၅၀-ပ၊ ဒုဗ္ဗစဇာတ်

ငါးစင်းမြောက်သောလှံကို ခုန်မိ၍ လှံဆရာအား လှံစူးဝင်နေပုံ

ကို သင်၍ ဆရာနှင့်တကွ အတတ်ကိုပြလျက်သွား၏၊ထိုဘုရားလောင်း၏ ဆရာသည် လေးစင်းသော လှံတို့ကိုသာလျှင် ခုန်သော အတတ်ကို တတ်၏၊ ငါးစင်းသော လှံတို့ကို ခုန်သောအတတ်ကို မတတ်၊ ထိုဆရာသည် တနေ့သ၌ တခုသော ရွာငယ်၌ အတတ် ပြသည်ရှိသော် သုရာယစ်သည်ဖြစ်၍ ငါးစင်းသော လှံတို့ကို ခုန်အံ့ဟုကြံ၍အစဉ်သဖြင့်ထား၏၊ ထိုအခါ ထိုဆရာကို ဘုရားလောင်းသည် ငါးစင်းသော လှံတို့ကို ခုန်သော အတတ်ကိုမတတ် တစင်းကိုပယ်လော့၊ အကယ်၍ ခုန်အံ့၊ ငါးစင်းမြောက်သော လှံသည် စူး၍ သေလတ္တံ့ဟု ဆို၏၊ ထိုဆရာသည် အလွန်ယစ်သည်၏ အဖြစ်ကြောင့် သင်သည် ငါ၏ပမာဏကို မသိဟု ထိုဘုရားလောင်း၏ စကားကို မယူမူ၍ လေးစင်းသောလှံတို့ကို ခုန်၍ သီတံဖြင့် သစ်မည်စည်ပွင့်ကို သီဘိသကဲ့သို့ ငါးစင်းမြောက်သော လှံ၌ သီအပ်သည်ဖြစ်၍ မြည်တမ်းလျက် အိပ်၏၊ ထိုအခါ ဆရာကို ဘုရားလောင်းသည် ပညာရှိတို့၏ စကားကို မလိုက်နာမူ၍ ပျက်စီးခြင်းသို့ ရောက်၏ဟု ဆိုလို၍—

၁၁၆၊ အတိကရ မကရာစရိယ၊ မယှမေ့တံ န ရုစ္စတိ။
စတုတ္ထေ လဃ်ယိတွာန၊ ပဥ္စမာယသိ အာဝုတော။

ဟူသော ဤဂါထာကို ဆို၏။

အာစရိယ၊ ဆရာ။ တွံ၊ သင်သည်။ အဇ္ဇ၊ ယနေ့။ အတိကရံ၊လွန်၍ပြုခြင်းကို။ အကရ၊ ပြု၏။ တေ၊ ထိုအမှုကို။ မယှမ္ပိ၊ ငါသည်လည်း။ န ရုစ္စတိ၊ မနှစ်သက်။ စတုတ္ထေ၊ လေးခုမြောက်သော လှံ၌။ လဃ်ယိတွာန၊ ခုန်၍။ ပဥ္စမာယ၊ ငါးခုမြောက်သော လှံသည်။ အာဝုတော၊ သီအပ်သည်။ အသိ၊ ဖြစ်၏။

ဘုရားလောင်းသည် ဤစကားကိုဆို၍ ဆရာကို လှံမှ ပယ်၍ ပြုအပ်သည်နှင့် ယှဉ်သော သင်္ဂြိုဟ်ခြင်းအမှုကို ပြု၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ ဤဆိုနိုင်ခက်သော ရဟန်းသည် ထိုအခါ ဆရာဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ တပည့် ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[ဆိုဆုံးမခက်၊ အသက်ထွက်၊ လှံချက် ထိသည်သာ]

ခြောက်ခုတို့၏ ပြည့်ကြောင်းဖြစ်သော ဒုဗ္ဗစဇာတ်သည် ပြီး၏၊

## ၁၁၇–တိတ္တိရဇာတ်

### မိမိစကားကိုမှီ၍ မိမိပင် ပျက်စီးသော အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညုမြတ်စွာဘုရားသည် "အစ္စုဂ္ဂတာ ဗလတာ" အစရှိသော ဂါထာပုဒ်ဖြင့် စာန်ဆာဆင်အပ်သော ဤ တိတ္တိရ ဇာတ်ကို ဇေတဝန် ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "ကောကာလိက"ကို ကြောင်းပြု၍ ဟောတော်မူ၏၊ (ထိုကောကာလိက ဝတ္ထုကား တေရသကနိပါတ်"တက္ကာရိယဇာတ်"၌ ထင်စွာ ပြလတ္တံ့.) အထူးကား သဗ္ဗညု မြတ်စွာဘုရားသည် ရဟန်းတို့ ကောကာလိက သည် ယခုအခါ၌သာလျှင် မိမိစကားကို မှီ၍ ပျက်စီးသည် မဟုတ်သေး၊ ရှေး၌လည်း ပျက်စီးဘူးသလျှင် ကတည်းဟု မိန့်တော်မူ၍ အတိတ်ကို ဆောင် တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည် သောမင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် ဥဒိစ္စပုဏ္ဏား အမျိုး၌ ဖြစ်၍ အရွယ်သို့ ရောက်လတ်သော် တက္ကသိုလ်ပြည်၌ ခပ်သိမ်းသော အတတ် တို့ကိုသင်၍ ကာမတို့ကို ပယ်၍ ရသေ့ရဟန်းပြု၍ အဘိညာဉ် ငါးပါး,သမာပတ် ရှစ်ပါးတို့ကို ဖြစ်စေ၍ ဟိမဝန္တာ၌ ခပ်သိမ်းသော ရသေ့ အပေါင်းသည် စည်းဝေး၍ ဘုရားလောင်းကို ဆုံးမတတ်သော ဆရာပြု၍ ခြံရံ၏၊ ဘုရားလောင်း သည် ရသေ့ငါးရာတို့၏ ဩဝါဒဆရာဖြစ်၍ ဈာန်ကစားခြင်းကို ကစားလျက် ဟိမဝန္တာ၌ နေ၏၊ ထိုအခါ ဖြော့တော့သော ရောဂါစွဲသော တယောက်သော ရသေ့သည် ပုဆိန်ကိုယူ၍ ထင်းကို ခွဲ၏။

ထိုအခါ နှုတ်ကြမ်းသော တယောက်သောရသေ့သည် ထင်းခွဲသောရသေ့၏ အထံ၌နေ၍ဤ၌ပေါက်လော၊ဤ၌ပေါက်လောဟုဆိုသည်ရှိသော် ထင်းခွဲသော ရသေ့သည် အမျက်ထွက်၍ ယခု သင်သည် ငါ၏ ထင်းပေါက်ခြင်းကို သင်တတ်သော ဆရာတည်းဟု ထက်စွာသော ပုဆိန်ကို မိုး၍ ထိုရသေ့ကို တချက်တည်းဖြင့် အသက်ကုန်ခြင်းသို့ ရောက်စေ၏၊ ဘုရားလောင်းသည် ထိုရသေ့၏ အလောင်းကို သင်္ဂြိုဟ်စေ၏၊ ထိုအခါ ရသေ့တို့၏ ကျောင်းမှ အနီး

ဖြစ်သော တောင်ပို့ခြေရင်း၌ တခုသော ခါသည် နေ၏၊ ထိုအခါ နံနက်တိုင်း တောင်ပို့ထိပ်၌ ရပ်၍ ကျယ်စွာသော အသံဖြင့် တွန်၏၊ ထိုအသံကိုကြား၍ တယောက်သောမုဆိုးသည် ခါဖြစ်ရာ၏ဟု ကြံ၍ အသံအမှတ်ဖြင့် ထိုအရပ်သို့ သွား၍ ထိုခါကိုသတ်၍ ဆောင်ယူ၍ သွား၏၊ ဘုရားလောင်းသည် ထိုခါ၏ အသံကို မကြားလတ်သော် ဤမည်သောအရပ်၌ ခါသည် နေ၏၊ ထိုခါ၏ အသံကို ယခု အဘယ့်ကြောင့် မကြားသနည်းဟု ရသေ့တို့ကို မေး၏၊ ရသေ့တို့ သည်လည်း ဘုရားလောင်းအား ထိုအကြောင်းကို ကြားလျှောက်၏၊ ဘုရား လောင်းသည် နှစ်ပါးကုန်သော ထိုအကြောင်းတို့ကိုလည်း နှိုင်းနှော၍ ရသေ့ အပေါင်း၏ အလယ်၌—

> ၁၁၇၊ အစ္စုဂ္ဂတာ တိဗလတာ၊ အတိဝေလံ ပဘာသိတာ။
> ဝါစာ ဟနတိ ဒုမ္မေဓံ၊ တိတ္တိရံ ဝါတိဝဿိတံ။

ဟူသော ဤဂါထာကို ဆို၏။

ဘောဓေန္တော တာပသာ၊ အို ရသေ့တို့။ တိတ္တိရံ၊ ခါကို။ အတိဝဿိတံ၊လွန်၍ တွန်ခြင်းသည်။ ဟနတိ ဣဝ၊ သတ်သကဲ့သို့။ ဧဝံ-တထာ၊ ထိုအတူ။ ဒုမ္မေဓံ၊ ပညာမရှိသောသူကို။ အစ္စုဂ္ဂတာ၊ အလွန်တက်၍ ဆိုအပ်သော။ အတိဗလတာ၊ အဖန်ဖန်လျှင် အလွန်ဆိုအပ်သော သဘောရှိသော။ အတိဝေလံ၊ အခါပမာဏထက် လွန်စွာ။ ပဘာသိတာ၊ ဆိုအပ်သော။ ဝါစာ၊ စကားသည်။ ဟနတိ၊ သတ်၏။

ဤသို့ ဘုရားလောင်းသည် ရသေ့အပေါင်းအား အဆုံးအမကို ပေး၍ ဗြဟ္မဝိဟာရ တရားလေးပါးကို ပွားစေ၍ ဗြဟ္မာ့ပြည်သို့ လား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ရဟန်းတို့ ကောကာလိကသည် ယခု အခါ၌သာလျှင် မိမိစကားကိုမှီ၍ ပျက်စီးသည် မဟုတ်သေး၊ ရှေး၌လည်း ပျက် စီးဘူးသလျှင် ကတည်းဟု မိန့်တော်မူ၍ ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ ကောကာလိကသည် ထိုအခါ ဆိုနိုင်ခက်သော ရသေ့ဖြစ်ဘူးပြီ၊ ယခု

အခါ ငါဘုရား ပရိသတ်တို့သည် ထိုအခါ ရသေ့အပေါင်း ဖြစ်ဘူးကုန်ပြီ၊ ယခု အခါ ငါဘုရားသည်လျှင် ထိုအခါ ရသေ့အပေါင်းတို့၏ဆရာ ဖြစ်ဘူးပြီဟု ဇာတ်ကိုပေါင်းတော်မူ၏။

[အလွန်ပြောငြား၊ ကိုယ့်နှုတ်ဖျား၊ စကားကိုယ့်ကိုသတ်]

ခုနစ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော တိတ္တိရဇာတ်သည် ပြီး၏။

---

၁၁၈—ဝဋ္ဋဇာတ်

ဘေးရောက်သောအခါ မြတ်သောအကြံကို ကြံ၍ ဘေးမှလွတ်သော အကြောင်း

ပဋိပြုပ္ပန်ဝတ္ထု...နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော လဗ္ဗညုမြတ်စွာဘုရားသည် "နာစိန္တယန္တော ပုရိသော" အစရှိသော ဂါထာပုဒ် ဖြင့် တန်ဆာဆင်အပ်သော ဤ ဝဋ္ဋဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်း သုံး နေတော်မူစဉ် "ဥတ္တရသူဌေးသား"ကို အကြောင်းပြု၍ ဟောတော်မူ ၏၊ သာဝတ္ထိပြည်၌ များသော စည်းစိမ်ဥစ္စာရှိသော ဥတ္တရမည်သော သူဌေး သည် ဖြစ်သတတ်၊ ထိုသူဌေး၏ မယား၌ တယောက်သော ပညာရှိသော သတ္တ ဝါသည် ဖြစ်လာပြည်မှ စုတေ၍ ပဋိသန္ဓေကိုယူ၍ အရွယ် ရောက်လတ်သော် အဆင်းလှ၏၊ ကြည်ညိုဘွယ်ရှိ၏၊ဖြဟ္မာနှင့်တူသော အဆင်းရှိ၏၊ ထိုအခါ တနေ့ သ၌ သာဝတ္ထိပြည်ဝယ် တန်ဆောင်မုန်းလ နက္ခတ်ပွဲသဘင် ကြွေးကြော်လတ် သော် အလုံးစုံသောလူသည် နက္ခတ်သဘင်ကိုမှီသည်ဖြစ်၏၊သူဌေးသား၏အဆွေ ခင်ပွန်းဖြစ်ကုန်သော တပါးကုန်သော သူဌေးသားတို့သည် မယားနှင့်တကွ ဖြစ် ကုန်၏၊ ဥတ္တရသူဌေးသား၏ကား ကာလရှည်စွာ ဗြဟ္မာပြည်၌ နေသည်၏အဖြစ် ကြောင့် ကိလေသာတို့၌ စိတ်သည် မငြိ။

ထိုအခါ ဥတ္တရသူဌေးသား၏ အဆွေခင်ပွန်းတို့သည် ဥတ္တရသူဌေးသားဘို လည်း တယောက်သောမိန်းမကို ဆောင်ယူကုန်၍ နက္ခတ်ပွဲသဘင်ကို ကစားအံ့ ဟု ဆိုကြကုန်၏၊ ငါ့အား မိန်းမဖြင့် အလိုမရှိဟု ဆိုသော်လည်း အဖန်တလဲလဲ ဆိုကုန်လျက် ဝန်ခံစေ၍ တယောက်သော ပြည့်တန်ဆာမိန်းမကို ခပ်သိမ်းသော တန်ဆာတို့ဖြင့် တန်ဆာဆင်၍ သင်သည် ဥတ္တရသူဌေးသားအထံသို့ သွားပါ လေလော့ဟု အိပ်ရာအိမ်သို့ စေ၍ ထွက်ကုန်၏၊ ထိုပြည့်တန်ဆာမကို အိပ်ရာသို့

ဝင်သော်လည်း ထိုအခါ ဥတ္တရသူဌေးသားသည် ကြည့်လည်း မကြည့် စကား လည်းမပြော ဤပြည့်တန်ဆာမသည် ဤသူဌေးသားကား သို့စဉ်တင့်တယ်ခြင်း အစုသို့ ရောက်သော မြတ်သော စံပယ်ခြင်းနှင့် ပြည့်စုံသော ငါ့ကို ကြည့်လည်း မကြည့် စကားလည်းမပြော၊ ယခု သူဌေးသားကို ငါ၏မိန်းမအမူအရာ မိန်းမ၏ စံပယ်ခြင်းဖြင့် ကြည့်စေအံ့ဟု ကြံ၏၊ ကြံပြီး၍ မိန်းမ၏ စံပယ်ခြင်းကို ပြလျက် ရှင်သော အခြင်းအရာဖြင့် သွားဖျားတို့ကို ဖော်၍ ရယ်၏။

ဥတ္တရသူဌေးသားသည် ကြည့်၍ သွားရိုး၌ နိမိတ်ကိုယူ၍ အဋ္ဌိက သညာ သည် ဖြစ်၏၊ အလုံးစုံသော ပြည့်တန်ဆာ မိန်းမ၏ ကိုယ်သည် အရိုးစု ကဲ့သို့ ထင်၏၊ ဥတ္တရသူဌေးသားသည် ထိုပြည့်တန်ဆာ မိန်းမအား ရိက္ခာကို ပေး၍ သွားလေလောဟု လွှတ်လိုက်၏၊ ဥတ္တရ သူဌေးသား၏ အိမ်မှ ဆင်းသွားသော ထိုပြည့်တန်ဆာမကို အစိုးရသော တယောက်သော သူသည် ခရီးအကြား၌ မြင်လတ်၍ ရိက္ခာပေး၍ မိမိအိမ်သို့ ဆောင်၏၊ ခုနစ်ရက် လွန်လတ်သော် နက္ခတ် သဘင်ပွဲသည် ပြီး၏၊ ပြည့်တန်ဆာမ၏ မိဘ တို့သည် သမီးကိုမမြင်လတ်၍ သူဌေးသားတို့၏အထံသို့ သွားကုန်၍ ထို ပြည့် တန်ဆာမသည် အဘယ်မှာနည်းဟု မေးကုန်၏၊ ထိုသူဌေးသားတို့သည် ဥတ္တရ သူဌေးသားအိမ်သို့ သွားကြကုန်၍ ထိုပြည့်တန်ဆာမသည် အဘယ်မှာနည်းဟု မေးကုန်၏၊ ကျွန်ုပ်သည် ထိုခဏ၌ပင်လျှင် ထိုပြည့်တန်ဆာမအား ရိက္ခာပေး၍ လွှတ်လိုက်၏ဟု ဆို၏၊ ထိုအခါ ပြည့်တန်ဆာမ၏ အမိသည် ငိုလျက် ငါ့သမီးကို မမြင် ငါ့သမီးကို ပေးလော့ဟု ဥတ္တရသူဌေးသားကိုခေါ်၍ မင်း၏အထံသို့သွား၏၊ မင်းသည် တရားကို စီရင်လတ်သော် ဤသူဌေးသားတို့သည် ပြည့်တန်ဆာမကို ဆောင်၍ သင့်အား ပေးကုန်သလောဟုမေး၏၊အရှင်မင်းကြီး ပေးကြကုန်၏ဟု ဆို၏၊ ယခု ထိုပြည့်တန်ဆာမသည် အဘယ်မှာနည်းဟု မေး၏၊ အရှင်မင်းကြီး အကျွန်ုပ် မသိ ထိုခဏ၌ပင်လျှင် ပြည့်တန်ဆာမကိုလွှတ်လိုက်ပြီဟု ဆို၏၊ ယခု ထိုပြည့်တန်ဆာမကို ဆောင်အံ့သောငှါ တတ်နိုင်၏လောဟုမေး၏၊ ရှင်မင်းကြီး မတတ်နိုင်ဟု ဆို၏၊ မင်းသည် ပြည့်တန်ဆာမကို ဆောင်အံ့သောငှါ အကယ် မတတ်နိုင်အံ့၊ ဥတ္တရသူဌေးသားအား အာဏာကို ပြုကြကုန်လောဟု ခ

ထိုအခါ ဥတ္တရသူဌေးသားကို လက်ပြန်ချည်၍ မင်းအာဏာကို ပြုကုန်အံ့ဟု ယူ၍ သွားကြလေကုန်၏၊ ပြည့်တန်ဆာမကို ဆောင်၍ ပေးအံ့သောငှါ မတတ်နိုင်သော သူဌေးသားကို မင်းအာဏာ ပြုစေ၏ဟု မြို့အလုံးသည် အုတ်အုတ်ကျက်ကျက် ဖြစ်၏၊ များစွာကုန်သော လူတို့သည် ရင်၌ လက်တို့ကို ထားကုန်၍ အရှင် ဤအမူကား အဘယ်မည်သော အမူနည်း၊ အရှင်သည် ကိုယ့်အား မလျောက်ပတ်သော အမှုကို ရ၏ဟု ငိုကြကုန်၏၊ သူဌေးသည်လည်း သား၏နောက်မှ နောက်မှ ငိုလျက် လိုက်၏၊ သူဌေးသားသည် ငါ့အား ဤသို့ သဘောရှိသော ဆင်းရဲသည် အိမ်၌ နေသည်၏ အဖြစ်ကြောင့် ဖြစ်၏၊ ဤဆင်းရဲမှ ငါသည် အကယ်၍ လွတ်ငြားအံ့ ဂေါတမဘုရား၏ အထံတော်၌ ရဟန်းပြုအံ့ဟု ကြံ၏၊ ထိုပြည့်တန်ဆာမသည်လည်း ထိုအုတ်အုတ် ကျက်ကျက်သော အသံကို ကြား၍ ဤအသံကား အဘယ်မည်သော အသံနည်းဟု မေး၍ ထိုအကြောင်းကို ကြား၍ လျင်မြန်သဖြင့် ဆင်းသက်၍ အရှင် သင်တို့သည် ဖဲကြကုန်လော့ ဖဲကြကုန်လော့၊ ကျွန်ုပ်ကို မင်းချင်း ယောကျ်ားတို့အား မြင်ခြင်းကို ပေးကုန်လော့ဟု ကိုယ်ကိုပြ၏၊ မင်းချင်းယောကျ်ားတို့သည် ပြည့်တန်ဆာမကို မြင်၍ အမိအား အပ်နှင်း၍ သူဌေးသားကို လွှတ်၍ ဖဲကုန်၏။

သူဌေးသားသည် အဆွေခင်ပွန်းတို့ဖြင့် ခြံရံလျက် မြစ်သို့သွား၍ ဦးခေါင်း လျှော်ပြီးလျှင် အိမ်သို့သွား၍ နံနက်စာ စားပြီးသော် မိဘတို့ကို ရှိခိုး၍ ရဟန်းအဖြစ်ကို ခွင့်တောင်း၍ သင်္ကန်းလျာ ပုဆိုးတို့ကို ယူလျက် များစွာသော အခြံအရံဖြင့် မြတ်စွာဘုရား အထံတော်သို့သွား၍ ရှိခိုးလျက် ရဟန်းအဖြစ်ကို တောင်းပန်၍ သာမဏေအဖြစ် ပဥ္စင်းအဖြစ်ကို ရလတ်သော် မလွတ်သော ကမ္မဋ္ဌာန်းရှိလျက် ဝိပဿနာကို ပွားစေ၍ မကြာမြင့်မီ အရဟတ္တဖိုလ်၌ တည်၏။

ထိုအခါ တနေ့သ၌ရဟန်းတို့သည် တရားသဘင်၌စည်းဝေးကုန်၍ ငါ့ချင်တို့ ဥတ္တရ သူဌေးသားသည် မိမိအား ဘေးဖြစ်လတ်သော် သာသနာတော်၏ ကျေးဇူးကို သိ၍ ဤဆင်းရဲမှ လွတ်ပါမူကား ရဟန်းပြုအံ့ဟုကြံ၍ ထိုကောင်းသော အကြံဖြင့် သေဘေးမှ လွတ်၏၊ ရဟန်းပြု၍ အရဟတ္တဖိုလ်၌လည်း တည်၏ဟု ဥတ္တရ သူဌေးသား၏ ကျေးဇူးစကားကို ပြောဆိုကုန်၏၊ မြတ်စွာဘုရားသည် လာတော်မူလတ်၍ ယခုအခါ အဘယ်စကားဖြင့် စည်းဝေးကြကုန်သနည်းဟု

မေးတော်မူ၍ ဤမည်သောစကားဖြင့် စည်းဝေးကြပါကုန်၏ဟု နားတော် လျှောက်သည်ရှိသော် ရဟန်းတို့ ဥတ္တရသူဌေးသားသည်သာလျှင် မိမိအား ဘေးဖြစ်လတ်သော် ဤဥပါယ်ဖြင့် ဤဆင်းရဲမှ လွတ်စေအံ့ဟုကြံ၍ သေဘေးမှ လွတ်သည် မဟုတ်သေး၊ လွန်လေပြီးသောအခါ ပညာရှိတို့သည်လည်း မိမိအား ဘေးဖြစ်လတ်သော် ဤဥပါယ်ဖြင့် ဤဆင်းရဲမှ လွတ်အံ့ဟုကြံ၍ သေဘေးမှ လွတ်ဘူးကုန်သလျှင် ကတည်းဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုလတ်သည်ရှိသော် ဘုရားလောင်းသည် စုတိ ပဋိသန္ဓေ၏ အစွမ်းအားဖြင့် အမျိုးပြောင်းလျက် ငုံးမျိုး၌ ဖြစ်၏၊ထိုအခါ တယောက်သော ငုံးမုဆိုးသည် တောမှ များစွာကုန်သော ငုံးတို့ကို ဆောင်ယူ၍ အိမ်၌ထားလျက် အစာပေး၍ အဘိုးကိုယူ၍ လာကုန်သော သူတို့၏လက်၌ ငုံးတို့ကိုရောင်းလျက် အသက်မွေး၏၊ ထိုငုံးမုဆိုးသည် တနေ့သ၌ များစွာကုန်သော ငုံးတို့နှင့်ဟက္က ဘုရားလောင်းကိုလည်း ဖမ်းယူ၍ ဆောင်၏၊ ဘုရားလောင်းသည်လည်း ဤ မုဆိုးသည် ပေးအပ်သော အစာကိုရှင်း မရေကိုရှင်း အကယ်၍ သုံးဆောင်ငြား အံ့၊ ဤမုဆိုးသည် အဘိုးကိုယူ၍ လာကုန်သောသူတို့အား ပေးလတ္တံ့၊ ငါသည် အကယ်၍ မသုံးဆောင်ငြားအံ့ ငါသည် ညှိုးလတ္တံ့၊ ထိုအခါ ညှိုးသောငါ့ကိုမြင် ၍ လူတို့သည် မယူကုန်လတ္တံ့၊ ဤသို့ မယူကုန်သည်ရှိသော် ငါ့အား ချမ်းသာ သည် ဖြစ်လတ္တံ့၊ ဤဥပါယ်ကိုပြုအံ့ဟု ကြံ၏၊ ကြံပြီး၍ ဘုရားလောင်းသည် ကြံတိုင်းပြုလျက် ညှိုး၍ အရိုး အရေမျှသာ ရှိကုန်သည်ဖြစ်၏။

လူတို့သည် ထိုဘုရားလောင်းကိုမြင်၍ မယူကုန်၊ မုဆိုးသည် ဘုရားလောင်း ကိုထား၍ ကြွင်းကုန်သောငုံးတို့သည် ကုန်လတ်သော် တောင်းကိုထုတ်၍ တံခါး၌ ထားပြီးလျှင် ဘုရားလောင်းကို လက်ဝါးပြင်၌ တင်၍ ဤငုံးကား အသို ဖြစ်သနည်းဟု ကြံ၍ ကြည့်အံ့သောငှါ အားထုတ်၏၊ ထိုအခါ မုဆိုး၏မေ့လျော့ သောအဖြစ်ကို သိ၍ ဘုရားလောင်းသည် အတောင်ကိုဖြန့်၍ ပျံသဖြင့် တောသို့ သာလျှင် သွား၏၊ တပါးသော ငုံးတို့သည် ဘုရားလောင်းကိုမြင်၍ အရှင် သင့်အား အဘယ့်ကြောင့် မထင်သနည်း၊ အဘယ်သို့ သွားချေသနည်းဟု မေး

လတ်၍ မူဆိုးသည် ဖမ်းအပ်၏ဟု ပြောဆိုသည်ရှိသော် အဘယ်သို့ပြု၍ လွတ်ခဲ့သနည်းဟု မေးကုန်၏၊ ဘုရားလောင်းသည် ငါကား ထိုမူဆိုး ပေးအပ်သော အစာအာဟာရကို မယူဘဲ ဥပါယ်ဖြင့် လွတ်၏ဟု ဆိုလို၍—

၁၁၈၊ နာစိန္တယန္တော ပုရိသော၊ ဝိသေသ မဓိဂစ္ဆတိ။
စိန္တိတဿ ဖလံ ပဿ၊ မုတ္တောသ္မိ ဝဓဗန္ဓနာ။

ဟူသော ဤဂါထာကို ဆို၏။

ဘောန္တော ငှက်ကာ၊ အို ငုံးများတို့။ အစိန္တယန္တော၊ မကြံစည်သော။ ပုရိသော၊ ယောကျ်ားသည်။ ဝိသေသံ၊ ဆင်းရဲမှ လွတ်ခြင်း ဟူသောအကျိုးဝိသေသကို။ န အဓိဂစ္ဆတိ၊ မရ။ စိန္တိတဿ၊ ငါကြံအပ်သော အမှု၏။ ဖလံ၊ အကျိုးကို။ ပဿ ရှုလော့။ တေနေဝ ဥပါယေန၊ ထိုသို့ ကြံစည်အပ်သော ဥပါယ်ဖြင့်လျှင်။ အဟံ၊ ငါသည်။ ဝဓဗန္ဓနာ၊ သတ်ခြင်း နှောင်ဖွဲ့ခြင်းမှ။ မုတ္တော၊ လွတ်သည်။ အသ္မိ၊ ဖြစ်၏။

ဤသို့ ဘုရားလောင်းသည် မိမိပြုအပ်သော အကြောင်းကို ကြား၏။

**ဇာတ်ပေါင်း**....သဗ္ဗညုမြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ သေဘေးလွတ်သော ငုံးဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[ဘေးရန်တွေ့က၊ တွေးကြံဆ၊ မုချ လွတ်အောင်ဖန်]

ရှစ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော ဝဋ္ဋကဇာတ်သည် ပြီး၏၊

---

## ၁၁၉—အကာလရာဝိဇာတ်

### အခါမဟုတ်သည်၌ အသံကိုပြုမိသည် အတွက်ကြောင့် အသက်ကုန်ခြင်းသို့ ရောက်ဘူးသော အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**—နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "အမာ္တာပိတရသံဝဒ္ဓေါ" အစရှိသော ဂါထာ ပုဒ်ဖြင့် တန်ဆာ ဆင်အပ်သော ဤ အကာလရာဝိ ဇာတ်ကို ဇေတဝန် ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "တယောက်သော အချိန်မဟုတ်

သည်၌ အသံပြုတတ်သော ရဟန်း”ကို အကြောင်းပြု၍ ဟောတော် မူ၏၊ ထိုရဟန်းသည် သာဝတ္ထိပြည်၌ နေသော အမျိုးသား ဖြစ်သတတ်၊ ထိုအမျိုးသားသည် သာသနာတော်၌ ရဟန်းပြု၍ ဝတ်ကိုရင်း တရားကျမ်းဂန် သင်ခြင်းကိုရင်း မမှတ်၊ ထိုရဟန်းသည် ဤကာလ၌ ငါသည်ဝတ်ကိုပြုအပ်၏၊ဤကာလ၌ ငါသည် စားအပ်၏၊ ဤကာလ၌ တရားကျမ်းဂန် သင်ခြင်းကို ပြုအပ်၏၊ ဤကာလ၌ ငါသည် သရဇ္ဈာယ်အပ်၏ဟု မသိ၊ ပဌမယာမ်၌ရင်း မဇ္ဈိမယာမ်၌ရင်း ပစ္ဆိမယာမ်၌ရင်း နိုးတိုင်းနိုးတိုင်းသောခဏ၌သာလျှင် ကျယ်စွာသော အသံကို ပြု၏၊ ရဟန်းတို့သည် အိပ်ခြင်းကို မရကုန်။

တရားသဘင်၌ ရဟန်းတို့သည် ငါ့သျှင်တို့ ဤအမည်ရှိသော ရဟန်းသည် ဤသို့သဘောရှိသော ရတနာဖြစ်သောသာသနာတော်၌ရဟန်းပြု၍ ဝတ်ကိုရင်း တရားကျမ်းဂန် သင်ယူခြင်းကိုရင်း အခါမဟုတ်သည်ကိုရင်း မသိဟု ထိုရဟန်း၏ ကျေးဇူးမဲ့ဖြစ်သော စကားကို ဆိုကုန်၏၊ မြတ်စွာဘုရားသည် လာတော်မူလတ်၍ ရဟန်းတို့ ယခုအခါ အဘယ်မည်သောစကားဖြင့် စည်းဝေးကြကုန်သနည်းဟု မေးတော်မူလတ်၍ ဤမည်သော စကားဖြင့် စည်းဝေးပါကုန်၏ဟု နားတော်လျှောက်သည်ရှိသော် ရဟန်းတို့ ယခုအခါ၌သာလျှင် ထိုရဟန်းသည် အခါမဟုတ်သည်၌ အသံပြုတတ်သည် မဟုတ်သေး၊ ရှေး၌လည်း အခါမဟုတ်သည်၌ အသံပြုတတ်သည် သာလျှင်တည်း၊ အခါဟုတ်သည် အခါမဟုတ်သည်ကို မသိသည်၏ အဖြစ်ကြောင့် လည်ကိုလိမ်၍ အသက်ကုန်ခြင်းသို့ ရောက်ဘူးပြီဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ပြဟ္မဒတ်မည်သောမင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် ဥဒိစ္စပုဏ္ဏားမျိုး၌ဖြစ်၍ ခပ်သိမ်းသောအတတ်တို့၌ ကမ်းတဘက်သို့ ရောက်၍ ဗာရာဏသီပြည်၌ ဒိသာပါမောက္ခဆရာဖြစ်၍ ငါးရာကုန်သော လုလင်တို့ကို အတတ်သင်စေ၏၊ထိုလုလင်တို့အား တခုသောအချိန်၌ တွန်တတ်သော ကြက်တခုသည် ရှိ၏၊လုလင်တို့သည် ကြက်တွန်သော အသံဖြင့် ထ၍ အတတ်ကို သရဇ္ဈာယ်ကြကုန်၏၊ ထိုကြက်သည် သေ၏၊ လုလင်တို့သည် တပါးသော ကြက်ကို ရှာလျက် သွားကုန်၏၊ ထိုအခါ တယောက်သော လုလင်ယ်သည် သုသာန်တော၌ ထင်းခွေလတ်သော် တခု

သော ကြက်ကိုမြင်၍ ဆောင်ခဲ့ပြီးလျှင် ချိုင့်၌ထား၍ မွေး၏၊ ကြက်သည် သုသာန်၌ ကြီးသည်၏အဖြစ်ကြောင့် ဤမည်သော အခါ၌ တွန်အပ်သည်ဟု မသိသည်၏အဖြစ်ကြောင့် ရံခါ အလွန်စောစော တွန်၏၊ ရံခါ အရုဏ်တက်မှ တွန်၏။

လုလင်တို့သည် အလွန်စောစော တွန်သော ကာလ၌ အတတ်ကို သရဇ္ဈာယ် ကုန်လတ်သော် အရုဏ်တက်သည်တိုင်အောင် အတတ်ကို သရဇ္ဈာယ်အံ့သော်ငှါ မတတ်နိုင်ကုန်၊ အိပ်ချင်ကုန်၍ ယူအပ်သော အတတ်ကိုလည်း မမြင်ကုန်၊ အလွန် လင်းမှ တွန်သော ကာလ၌ သရဇ္ဈာယ်ခြင်း၏ အခွင့်ကိုလျှင် မရကုန်၊ လုလင် တို့သည် ဤကြက်သည် အလွန်စောစောလည်း တွန်၏၊ အလွန်လင်းမှလည်း တွန်၏၊ ဤကြက်ကို မှီ၍ ငါတို့အား အတတ်သည် အပြီးသို့ မရောက်လတ္တံ့ဟု ထိုကြက်ကိုဖမ်း၍ လည်ကိုလိမ်၍ အသက်ကုန်ခြင်းသို့ ရောက်စေ၍ အခါမဟုတ် သည်၌ တွန်တတ်သော ကြက်ကို အကျွန်ုပ်တို့သည် သတ်အပ်ပြီဟု ဆရာအား ပြောဆိုကုန်၏၊ ဆရာသည် အဆုံးအမကို မယူမူ၍ ကြီးသည်၏အဖြစ်ကြောင့် သေခြင်းသို့ ရောက်၏ဟု ဆိုလို၍—

၁၁၉၊ အမာတာပိတရသံဝဍ္ဍော[၁]၊ အနာစေရကုလေ[၂]ဝသံ။
နာယံ ကာလံ အကာလံ ဝါ၊ အဘိဇာနာတိ ကုက္ကုဋော။

ဟူသော ဤဂါထာကို ဆို၏။

ဘောန္တော မာဏဝါ၊ အို လုလင်တို့။ အမာတာပိတရသံဝဍ္ဍော၊ မိဘကို မှီလျက် မိဘအဆုံးအမကို မယူမူ၍ ကြီးသော။ အနာစေရကုလေဝသံ၊ ဆရာ့ အထံ၌ မနေသော။ အယံ ကုက္ကုဋော၊ ဤကြက်သည်။ ကာလံ ဝါ၊ အခါ ဟုတ်သည်ကိုလည်း။ န အဘိဇာနာတိ၊ မသိ။ အကာလံ ဝါ၊ အခါမဟုတ်သည် ကိုလည်း။ န အဘိဇာနာတိ၊ မသိ။

ဘုရားလောင်းသည် ဤအကြောင်းကို ပြ၍ အသက်ထက်ဆုံး တည်၍ ကံအားလျော်စွာ လား၏။

---

၁၊ အမာတာပိတရိ သံဝဍ္ဎော (သံ၊ ဋ) အမာတာပိတု သံဝဍ္ဎော (သျာ)
၂၊ အနာစရိယကုလေ (သီ၊ သျာ၊ ဋ)

**ဇာတ်ပေါင်း**... မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ ဤရဟန်းသည် ထိုအခါ အချိန်မဟုတ်သည်၌ တွန်တတ်သော ကြက် ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားရေို ^တ်ိသည် ထိုအခါ တပည့် ဖြစ်ဘူးကုန်ပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထို ါ ဆရာ ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်း တော်မူ၏။

[ အချိန်ကာလ၊ မသိက၊ မုချသေရာ ကြက်ပမာ ]

ကိုးခုတို့၏ ပြည့်ကြောင်းဖြစ်သော အကာလရာဝိဇာတ်သည် ပြီး၏။

---

## ၁၂၀—ဗန္ဓနမောက္ခဇာတ်

### စိဉ္စမာဏဝိကာသည် ရှေးအခါ၌လည်း ဘုရားလောင်းအား စွပ်စွဲဘူးသော အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နက်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညုမြတ်စွာဘုရားသည် "အဗဒ္ဓါ တတ္ထ ဗဇ္ဈန္တိ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤ ဗန္ဓနမောက္ခ ဇာတ်ကို ဇေတဝန် ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "စိဉ္စမာဏဝိကာ"ကို ကြောင်းပြု၍ ဟောတော်မူ၏။

> စိဉ္စမာဏဝိကာ၏ ဝတ္ထုသည် ဒွါဒသကနိပါတ် မဟာပဒုမဇာတ်၌ ထင်စွာ ဖြစ်လတ္တံ့။

အထူးကား ထိုအခါ သဗ္ဗညုမြတ်စွာဘုရားသည် ရဟန်းတို့ စိဉ္စမာဏဝိကာ သည် ယခုသာလျှင် ငါ့ကို မဟုတ်မမှန်သဖြင့် စွပ်စွဲသည် မဟုတ်သေး၊ ရှေး၌ လည်း စွပ်စွဲဘူးသလျှင်ကတည်းဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည် သောမင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် ပုရောဟိတ်အိမ်၌ဖြစ်၍ အရွယ်သို့ရောက်လျှင် အဘလွန်သဖြင့် ဗြဟ္မဒတ်မင်း၏ ပုရောဟိတ် ဖြစ်သလျှင် ကတည်း၊ ဗြဟ္မဒတ်မင်းသည် မိဖုယားကြီးအား အရှင် မိဖုယား အကြင်ဝတ္ထုကို သင်သည် အလိုရှိ၏၊ ထိုဝတ္ထုကို ဆိုလောဟု ဆုပေး၏၊ မိဖုယားကြီးသည်

မြတ်သောမင်းကြီး အကျွန်ုပ်အား ရခဲသော တပါးသော ဆုမည်သည် မရှိ၊ ယနေ့မှစ၍ အကျွန်ုပ်မှ တပါးသော မိန်းမကို ကိလေသာ၏ အစွမ်းအားဖြင့် မကြည့်အပ်၊ ဤဆုကို ပေးပါလောဟု ဆို၏၊ထိုဗြဟ္မဒတ်မင်းသည် ပယ်၍ အဖန်တလဲလဲ နှိပ်စက်အပ်သည်ဖြစ်၍ ထိုမိဖုယားကြီး၏ စကားကို လွန်အံ့သောငှါ မတတ်နိုင်ရကား ဝန်ခံ၍ ယနေ့မှစ၍ တသောင်းခြောက်ထောင်ကုန်သောကချေသည် မိန်းမတို့တွင် တယောက်သော မိန်းမကိုလည်း ကိလေသာ၏အစွမ်းအားဖြင့် မကြည့်။

ထိုအခါ ဗြဟ္မဒတ်မင်း၏ ပစ္စန္တရစ်ကို ခိုးသူဖျက်ဆီး၏၊ ပစ္စန္တရစ်၌ တည်ကုန်သော သူရဲတို့သည် ခိုးသူတို့နှင့် နှစ်ကြိမ် သုံးကြိမ် စစ်ထိုးကုန်၍ ဤထက်အလွန် အကျွန်ုပ်တို့ မတတ်နိုင်ဟု မင်းအား စာဆက်ကုန်၏၊မင်းသည် ပစ္စန္တရစ်သို့ သွားလိုရကား ဗိုလ်ပါကိုစု၍ မိဖုယားကြီးကို ခေါ်စေ၍ ရှင်မိဖုယား ငါသည် ပစ္စန္တရစ်သို့ ခိုးသူတို့ကို ငြိမ်းစိမ့်သောငှါ သွားအံ့၊ ထိုပစ္စန္တရစ်၌ အထူးထူး အပြားပြား ရှိကုန်သော စစ်ထိုးခြင်းတို့သည် ဖြစ်ကုန်၏၊ အောင်ခြင်း ရှုံးခြင်း မည်သည်လည်း အမြဲမရှိ၊ ထိုသို့ သဘောရှိကုန်သော အရပ်၌ မိန်းမမည်သည်ကို ဆောင်ခြင်းငှါ ခက်၏၊ သင်သည် ဤ၌သာလျှင် နေရစ်ဟု ဆို၏၊အရှင်မင်းကြီး အကျွန်ုပ် နေရစ်ခြင်းငှါ မတတ်နိုင်ဟု မိဖုယားကြီးသည် လျှောက်၏၊ အဖန်တလဲလဲ မင်းသည် ပယ်၏၊ ထိုသို့တပြီးကား တယူဇနာ တယူဇနာသို့ ရောက်လျှင် အကျွန်ုပ်၏ ချမ်းသာ ဆင်းရဲကို သိခြင်း အကျိုးငှါ တယောက်တယောက်သောလူကို စေတော်မူလောဟု မိဖုယားက ဆို၏၊ မင်းသည် ကောင်းပြီဟု ဝန်ခံ၍ ဘုရားလောင်းကို မြို့၌ထားခဲ့၍ များစွာသော ဗိုလ်ပါနှင့် ထွက်၍ သွားသည်ရှိသော် တယူဇနာ တယူဇနာ၌ တယောက် တယောက်သော ယောကျ်ားကို ငါ၌ ရောက်ကြောင်းကို မိဖုယားအား လျှောက်၍ မိဖုယား၏ ချမ်းသာဆင်းရဲကို သိ၍ လာလောဟု စေ၏။

လာတိုင်း လာတိုင်းသော ယောကျ်ားကို မင်းသည် အဘယ်အကျိုးငှါ သင့်ကို စေသနည်းဟု မေး၏၊ ရှင်မိဖုယားတို့၏ ချမ်းသာ ဆင်းရဲကို သိခြင်းအကျိုးငှါ စေ၏ဟု လျှောက်သည်ရှိသော် ထိုသို့တပြီးကား လာလောဟုခေါ်၍ ထိုယောကျ်ားနှင့် တကွ မသူတော်၏ အကျင့်ကို မှီဝဲ၏၊ မင်းသည် သုံးဆယ့်

နှစ်ယူဇနာ ခရီးသို့ ရောက်လတ်သော် သုံးကျိပ်နှစ်ယောက်ကုန်သော သူတို့ကို စေ၏၊ ထိုမိဖုယားသည် ခပ်သိမ်းကုန်သော သူတို့နှင့်လည်း ထိုအတူ သာလျှင် ကျင့်၏၊ မင်းသည် ပစ္စန္တရစ်ကို ငြိမ်းစေ၍ ဇနပုဒ်ကို ချမ်းသာစေ၍ တဖန် ပြန်လာသော်လည်း ထိုအတူလျှင် သုံးကျိပ်နှစ်ယောက်ကုန်သော သူတို့ကိုစေ၏၊ မိဖုယားသည် ထိုသူတို့နှင့်လည်း မသူတော် အကျင့်ကို မှီဝဲသလျှင်ကတည်း၊ မင်းသည်လာ၍ အောင်တပ်၌ နေ၍ မြို့ကို သုတ်သင်စေလောဟု ဘုရားလောင်း အား စာပို့စေ၏၊ ဘုရားလောင်းသည် အလုံးစုံသော မြို့ကို သုတ်သင်၍ နန်းတော်ကိုသုတ်သင်လတ်သော် မိဖုယား၏နေရာအရပ်သို့ရောက်၍ ထိုမိဖုယား သည် ဘုရားလောင်း၏ တင့်တယ် စံပယ်ခြင်းကို မြင်၍ သည်းခံအံ့သောငှါ မတတ်နိုင်ရကား ပုဏ္ဏား လာလော့ အိပ်ရာသို့တက်လော့ဟု ဆို၏။

ဘုရားလောင်းသည် ရှင်မိဖုယား ဤသို့ မဆိုလင့်၊ မင်းကိုလည်း အကျွန်ုပ် ရိုသေလေးမြတ်၏၊ အကုသိုလ်ကိုလည်း ကြောက်၏၊ ဤသို့ အကျွန်ုပ်ပြုခြင်းငှါ မတတ်ကောင်းဟု ဆို၏၊ မင်း၏ ခြေရင်း၌ ခစားကုန်သော ခြောက်ကျိပ် လေးယောက်ကုန်သော သူတို့သည် မင်းကို မရိုသေ မလေးမြတ်ကုန်၊ အကုသိုလ် ကိုလည်း မကြောက်ကုန်၊ သင်သည် သာလျှင် မင်းကို ရိုသေလေးမြတ်၏၊ အကုသိုလ်ကို ကြောက်၏ဟု မိဖုယားဆို၏၊ ရှင်မိဖုယား မှန်၏၊ ထိုခြောက်ကျိပ် လေးယောက်ကုန်သော သူတို့အားလည်း ဤသို့ အကယ်၍ သိလိမ်မာသည် ဖြစ်ငြားအံ့၊ ထိုခြောက်ကျိပ် လေးယောက်ကုန်သော သူတို့သည် ဤသို့သဘော ရှိသော အမှုကို မပြုကုန်ရာ၊ အကျွန်ုပ်သည်ကား သိလိမ်မာလျက် ဤသို့သဘော ရှိသော ကြမ်းကြုတ်သောအမှုကို မပြုဟူ၍ဆို၏၊ မိဖုယားသည် ပုဏ္ဏား သင်သည် အဘယ့်ကြောင့်များစွာပြောဆိုသနည်း၊ အကယ်၍ငါ့စကားကိုနားမထောင်အံ့၊ သင့်ဦးခေါင်းကို ပြတ်စေအံ့ဟုဆို၏၊ ဘုရားလောင်းသည် ရှင်မိဖုယား တခုသော ကိုယ်အဖြစ်၌ ဦးခေါင်းကို ဖြတ်ခြင်းကို ထားဘိဦး၊ တထောင်သော ကိုယ် အဖြစ်၌ ဦးခေါင်းကို ဖြတ်ငြားသော်လည်း အကျွန်ုပ်သည် ဤကဲ့သို့သော အမှုကို ပြုခြင်းငှါ မတတ်နိုင်ဟု ဆို၏။

**မိဖုယားသည်** ထိုသို့ဖြစ်စေ သိရအံ့ဟု ဘုရားလောင်းကို ခြိမ်းချောက်၍ **မိမိ၏တိုက်ခန်းသို့ ဝင်၍** ကိုယ်၌ လက်သည်းရာကို ထင်စေ၍ ဆီပြင် ကိုယ်ကို

လိမ်း၍ ညစ်နွမ်းသောအဝတ်ကို ဝတ်၍ နာယောင်ပြုလျက် ကျွန်မတို့ကိုခေါ်၍ မိဖုယား အဘယ်မှာနည်းဟု မင်းကြီး မေးသည်ရှိသော် နာပါသည်ဟု ပြောဆိုကုန်လောဟု ဆို၏၊ဘုရားလောင်းသည်လည်း မင်းအား ကြိုအံ့သောငှါ သွား၏၊ မင်းသည် မြို့ကို လကျ်ာရစ်လှည့်၍ ပြာသာဒ်သို့တက်ပြီးသော် မိဖုယားကို မမြင်ရကား မိဖုယား အဘယ်မှာနည်းဟု မေး၏၊ ရှင်မင်းကြီး မိဖုယားသည် နာ၏ဟု ဆိုကုန်၏၊ ထိုမင်းသည် အသရေရှိသော တိုက်ခန်းသို့ ဝင်၍ မိဖုယား၏ ကျောက်ကုန်းကို ဆုပ်နယ်လျက် ရှင်မ သင့်အား အဘယ်မချမ်းသာခြင်းသည် ဖြစ်သနည်းဟု မေး၏၊ မိဖုယားသည် ဆိတ်ဆိတ်နေ၏၊ သုံးကြိမ်မြောက်၌ မင်းကိုကြည့်၍ မြတ်သောမင်းကြီး သင်မင်းကြီးသည်လည်း အသက်ရှင်သည် မည၏၊ အကျွန်ုပ်ကဲ့သို့သော မိန်းမတို့သည်လည်း လင်ရှိမိန်းမတို့သည်သာလျှင် မည်ကုန်သည် မဟုတ်လောဟု မိဖုယားဆို၏၊ ရှင်မ ထိုစကားကို အဘယ့်ကြောင့် ဆိုသနည်းဟု မင်းသည် ဆို၏။

မြတ်သော မင်းကြီး သင်မင်းကြီးတို့သည် မြို့ကို စောင့်စိမ့်သောငှါ ထားသော ပုရောဟိတ်သည် သင်မင်းကြီးတို့၏ အိမ်တော်ကို သုတ်သင်အံ့ဟု ကျွံသို့လာ၍ မိမိစကားကို နားမထောင်သော အကျွန်ုပ်ကို သတ်ပုတ်၍ မိမိ နှလုံးအလိုကို ပြည့်စေ၍ သွား၏ဟု မိဖုယားဆို၏၊မင်းသည် မီး၌ထည့်အပ်သော ဆားကဲ့သို့ အမျက်အားဖြင့် ဖျစ်ဖျစ်မြည်လျက် အသရေရှိသော တိုက်ခန်းမှ ထွက်၍ တံခါးစောင့်ကို ခြေရင်း၌ ခစားသောသူတို့ကို ခေါ်စေ၍ အချင်းတို့ သွားကြကုန်၊ ပုရောဟိတ်ကို လက်ပြန်ချည်၍ သတ်အပ်သော အဖြစ်သို့ ရောက်သည်ကိုပြု၍ မြို့မှထုတ်၍ သုသာန် စဉ်းတီတုံးသို့ဆောင်၍ ပုရောဟိတ် ဦးခေါင်းကို ဖြတ်ကြကုန်ဟု ဆို၏၊ ထိုမင်းချင်းယောကျ်ားတို့သည် လျင်မြန်သဖြင့် သွား၍ ပုရောဟိတ်ကို လက်ပြန်ချည်၍ သူသတ်စည်ကို လည်စေကုန်၏၊ ဘုရားလောင်းသည် စင်စစ်သဖြင့် ထိုမိဖုယားပျက်သည့်မင်းကို ရှေးဦးစွာလျှင် ဖျက်ဆီးအပ်ပြီ၊ ယခု ငါသည် မိမိအစွမ်းဖြင့်သာလျှင် ကိုယ်ကို လွတ်စေအံ့ဟု ကြံ၏၊ ကြံပြီး၍—

ဘုရားလောင်းသည် မင်းချင်းယောကျ်ားတို့ကို အချင်းတို့ သင်တို့သည် ငါ့ကို သတ်ကုန်လတ်သော် မင်းအား ပြ၍သာလျှင် သတ်ကြကုန်လောဟု ဆို၏၊

အဘယ့်ကြောင့် ပြ၍ သတ်ရကုန်အံ့နည်းဟု မင်းချင်းတို့သည် ဆိုကုန်၏၊ ငါသည် မင်း၏အမှုကို ရွက်ဆောင်၏၊ ငါပြုသောအမှုသည် များ၏၊ များစွာကုန်သော ရွှေအိုးကြီး မြှုပ်ထားရာ အရပ်တို့ကို သိ၏၊ မင်း၏ဥစ္စာကို ငါသည် စီရင်၏၊ ငါ့ကို မင်းအား အကယ်၍ မပြကုန်အံ့၊ များစွာသော ဥစ္စာသည် ပျက်စီးလတ္တံ့၊ ငါသည် မင်းအား ဥစ္စာတို့ကို ကြားပြီးသည်ရှိသော် နောက်၌ ပြုအပ်သောအမှုကို သင်တို့ ပြုကြကုန်လောဟု ဘုရားလောင်း ဆို၏၊ မင်းချင်းယောကျ်ားတို့သည် ဘုရားလောင်းကို မင်းအား ပြကုန်၏၊ မင်းသည် ဘုရားလောင်းကို မြင်၍လျှင် အို ပုဏ္ဏား သင်သည် အဘယ့်ကြောင့် ငါ၌ ရှက်ခြင်းကို မပြုသနည်း၊ အဘယ့်ကြောင့် ဤသို့ သဘောရှိသော ယုတ်မာသောအမှုကို ပြုသနည်းဟု ဆို၏။

မြတ်သောမင်းကြီး အကျွန်ုပ်သည် ပုဏ္ဏားမျိုး၌ ဖြစ်၏၊ အကျွန်ုပ်သည် ပိုးရွခြပုန်းမျှကို သတ်ခြင်းမည်သည်ကို မပြုစဖူး၊ အရှင်မပေးသော ဥစ္စာကို မြက်, ဝါးခြမ်းစိတ်မျှကိုလည်း မယူစဖူး၊ လောဘ၏ အစွမ်းအားဖြင့် သူတပါးတို့၏ မိန်းမကို မျက်စိကိုလည်း ဖွင့်၍ မကြည့်စဖူး၊ ရယ်မြူးလိုသည်၏ အစွမ်းအားဖြင့်လည်း မုသားကို မဆိုစဖူး၊ သမန်းမြက်ဖျားမျှဖြင့်လည်း ယစ်မျိုးကို မသောက်စဖူး၊ အကျွန်ုပ်သည် အရှင်မင်းကြီးတို့၌ အပြစ်မရှိ၊ ထိုမိဖုယားမိုက်သည်ကား လောဘ၏ အစွမ်းအားဖြင့် အကျွန်ုပ်ကို လက်၌ကိုင်၍ အကျွန်ုပ်သည် ပယ်အပ်သည်ရှိသော် အကျွန်ုပ်ကို ခြိမ်းခြောက်၍ မိမိပြုအပ်သော မကောင်းမှုကို ထင်စွာပြုလျက် အကျွန်ုပ်အားကြား၍ တိုက်ခန်းတွင်းသို့ ဝင်လေ၏၊ အကျွန်ုပ်သည် အပြစ်မရှိ၊ မှာစာကိုယူ၍ လာကုန်သော ခြောက်ကျိပ် လေးယောက်ကုန်သော သူတို့သည်ကား အပြစ်ရှိကုန်၏၊ ထိုခြောက်ကျိပ် လေးယောက်ကုန်သော သူတို့ကို ခေါ်စေ၍ ထိုမိဖုယား၏စကားကို သင်တို့သည် ပြုကုန်သလော မပြုကုန်သလောဟု မေးတော်မူလောဟု ဘုရားလောင်း ဆို၏၊ မင်းကြီးသည် ထိုခြောက်ကျိပ် လေးယောက်ကုန်သောသူတို့ကို နှောင်ဖွဲ့စေ၍ မိဖုယားကို ခေါ်စေ၍ သင်သည် ထိုသူတို့နှင့် တကွ မကောင်းမှုကို ပြုသလော မပြုသလောဟု မေး၏၊ ရှင်မင်းကြီး ပြုမိပေ၏ဟု ဆိုလတ်သော် ထိုခြောက်ကျိပ်

လေးယောက်ကုန်သော သူတို့ကို လက်ပြန်ချည်စေ၍ ဤသူတို့၏ ဦးခေါင်းကို ဖြတ်ကြကုန်ဟု စေ၏။

ထိုအခါ ဘုရားလောင်းသည်မြတ်သောမင်းကြီး ခြောက်ကျိပ်လေးယောက်ကုန်သော သူတို့အား အပြစ်မရှိ၊ မိဖုရားသည် မိမိအလိုကို ပြုစေ၏၊ထို့ကြောင့် ခြောက်ကျိပ်လေးယောက်ကုန်သော သူတို့အား သည်းခံတော်မူပါ၊ ထိုမိဖုယားအားလည်း အပြစ်မရှိ၊ မိန်းမတို့မည်သည် မေထုန်အကျင့်ဖြင့် မရောင့်ရဲနိုင်ကုန်၊ ဤမေထုန်အကျင့်ဖြင့် မရောင့်ရဲခြင်းသည် ထိုမိန်းမတို့၏ ဇာတိသဘောဘည်း၊ သည်းခံခြင်းငှါသာလျှင် သင့်၏၊ ထို့ကြောင့် မိဖုယားအားလည်း သည်းခံတော်မူပါဟု အထူးထူး အပြားပြားအားဖြင့် မင်းကို သိစေ၍ ခြောက်ကျိပ်လေးယောက်ကုန်သော သူတို့ကိုလည်း လက်ပြန်ချည်ခြင်းမှ လွှတ်စေ၍ ခပ်သိမ်းကုန်သောသူတို့အား မိမိတို့၏ ဥစ္စာဖြစ်ကုန်သော အရာဌာနတို့ကို ပေးစေ၏၊ ဤသို့ အလုံးစုံသော ထိုသူတို့ကို လွှတ်စေ၍ မိမိတို့၏ အရာဌာနတို့၌တည်စေ၍ ဘုရားလောင်းသည် မင်းသို့ချဉ်းကပ်၍ မြတ်သောမင်းကြီး အလွန်မိုက်ကုန်သောသူတို့၏ တည်ရာမရှိသော စကားကြောင့် မနှောင်ဖွဲ့အပ်ကုန်သော ပညာရှိတို့ကိုလည်း လက်ပြန်ချည်ကုန်၏၊ ပညာရှိတို့၏ အကြောင်းနှင့် ယှဉ်သော စကားကြောင့် လက်ပြန်ချည်ကုန်သော သူတို့သည်လည်း လွှတ်ကုန်၏၊ ဤသို့ သူမိုက်တို့မည်သည်ကား နှောင်ဖွဲ့ခြင်းငှါ မသင့်ကုန်သော သူတို့ကိုလည်း နှောင်ဖွဲ့စေတတ်ကုန်၏၊ ပညာရှိတို့သည်ကား အနှောင်အဖွဲ့ ခံရသော်လည်း အနှောင်အဖွဲ့မှ လွှတ်စေကုန်၏ဟု ဆိုလို၍—

၁၂၀၊ အဗဒ္ဓါ တတ္ထ ဗဇ္ဈန္တိ၊ ယတ္ထ ဗာလာ ပဘာသရေ။
ဗဒ္ဓါပိ တတ္ထ မုစ္စန္တိ၊ ယတ္ထ ဓီရာ ပဘာသရေ။

ဟူသော ဤဂါထာကို ဆို၏။

မဟာရာဇ၊ မြတ်သောမင်းကြီး။ ယတ္ထ၊ အကြင်အမှု၌။ ဗာလာ၊ သူမိုက်တို့သည်။ ပဘာသရေ၊ ဆိုကုန်၏။ တတ္ထ၊ ထိုအမှု၌။ အဗဒ္ဓါ၊ နှောင်ဖွဲ့ခြင်းငှါ မသင့်ကုန်သော သူတို့သည်။ ဗဇ္ဈန္တိ၊ အနှောင်အဖွဲ့ကို ရကုန်၏။ ယတ္ထ၊ အကြင်အမှု၌။ ဓီရာ၊ ပညာရှိတို့သည်။ ပဘာသရေ၊ ဆိုကုန်၏။ တတ္ထ၊ ထိုအမှု၌။ ဗဒ္ဓါပိ၊ အနှောင်အဖွဲ့ ခံရကုန်သော သူတို့သည်လည်း။ မုစ္စန္တိ၊ လွှတ်ကုန်၏။

ဤသို့ဘုရားလောင်းသည် ဤဂါထာဖြင့်မင်းအားတရားဟော၍ မြတ်သော မင်းကြီး အကျွန်ုပ်သည် ဤဆင်းရဲကို အိမ်၌နေသည်၏ အဖြစ်ကြောင့် ရအပ်၏၊ ယခု အကျွန်ုပ်အား အိမ်ဖြင့်ကိစ္စမရှိ၊ အကျွန်ုပ်အားရဟန်းအဖြစ်ကို ခွင့်ပြုတော်မူပါလော့ဟု ရဟန်းအဖြစ်ကိုခွင့်တောင်း၍ မျက်ရည်စွတ်သောမျက်နှာရှိသော ဆွေမျိုးအပေါင်းကိုရင်း, များစွာသော စည်းစိမ်ဥစ္စာကိုရင်းစွန့်၍ ရသေ့ရဟန်း ပြုသဖြင့် ဟိမဝန္တာ၌ နေလျက် အဘိညာဉ် သမာပတ်တို့ကို ဖြစ်စေ၍ ဗြဟ္မာ့ ပြည်သို့ လား၏။

**ဇာတ်ပေါင်း**....သဗ္ဗညုမြတ်စွာဘုရားသည်ဤဓမ္မဒေသနာကိုဆောင်တော်မူ၍ ယခုအခါ စိဉ္စမာဏဝိကာသည် ထိုအခါ မိဖုယားပျက်ဖြစ်ဘူးပြီ၊ ယခုအခါ အာနန္ဒာသည် ထိုအခါ မင်းဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ပုရောဟိတ် ဖြစ်ဘူးပြီဟု ဇာတ်ကိုပေါင်းတော်မူ၏။

[မဟုတ်မမှန်၊ စွပ်စွဲပြန်၊ သူ့ထံမရောက် ကိုယ့်အားရောက်]

ဆယ်ခုတို့၏ပြည့်ကြောင်းဖြစ်သော ဗန္ဓနမောက္ခဇာတ်သည် ပြီး၏။

---

## ၁၃—ကုသနာဠိဝဂ် ၁၂၁—ကုသနာဠိဇာတ်

### အယုတ် အလတ် အမြတ်မရွေး အဆွေခင်ပွန်း ဖွဲ့အပ်သော အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "ကရေ သရိက္ခော" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာ ဆင်အပ်သော ဤ ကုသနာဠိဇာတ်ကို ဇေတဝန် ကျောင်းတော်၌ သီတင်းသုံးနေတော်မူစဉ် "အနာထပိဏ်သူဌေး၏အဆွေခင်ပွန်း"ကို အကြောင်း ပြု၍ ဟောတော်မူ၏၊ ထိုစကားကို ချဲ့ဦးအံ့၊ အနာထပိဏ် သူဌေးကို ချစ် ကျွမ်းဝင်ကုန်သော အမျိုးအဆွေ ခင်ပွန်းတို့သည် ပေါင်းစုကုန်၍ သူဌေးကြီး သင်နှင့် အမျိုးအနွယ် ဥစ္စာစပါး အစရှိသည်တို့ဖြင့် ဤသူသည် တူသည်မဟုတ် လွန်မြတ်သည်မဟုတ် အဘယ့်ကြောင့် ထိုသူနှင့်မိတ်ဖွဲ့ခြင်းကို ပြုသနည်း မပြုလင့် ဟု အဖန်တလဲလဲမြစ်ကုန်၏၊ အနာထပိဏ် သူဌေးသည်ကား ယုတ်သောသူတို့နှင့် ရင်း, တူသော သူတို့နှင့်ရင်း, လွန်သော သူတို့နှင့်ရင်း မိတ်ဖွဲ့ခြင်းမည်သည်ကို

ပြုအပ်သလျှင် ကတည်းဟု နှလုံးထား၍ ထိုအဆွေအမျိုးခင်ပွန်းတို့၏ စကားကို မယူဘဲ စားသောရွာသို့သွားသည်ရှိသော် ထိုအဆွေခင်ပွန်းကို ဥစ္စာစောင့်ပြု၍ သွား၏။

ဤသို့ အစရှိသော အလုံးစုံသော စကားကို ကာဠကဏ္ဏိ ဝတ္ထု၌ ဆိုအပ်ပြီးသောနည်းဖြင့်လျှင် သိအပ်၏။

အထူးကား ဤဇာတ်၌—

အနာထပိဏ် သူဌေးသည် မိမိ၏အိမ်၌ဖြစ်သော အကြောင်းကို မြတ်စွာဘုရားအား လျှောက်ကြားသည်ရှိသော် သဗ္ဗညု မြတ်စွာဘုရားသည် သူကြွယ် အဆွေခင်ပွန်းမည်သည်ကား ငယ်သော မည်သည် မရှိ၊ ဤအဆွေခင်ပွန်းဖွဲ့ရာ၌ အဆွေခင်ပွန်းတို့၏တရားကို စောင့်ခြင်းငှါ စွမ်းနိုင်သော အဖြစ်သည်သာလျှင် ပမာဏဖြစ်၏၊ အဆွေခင်ပွန်းမည်သည်ကို ကိုယ်နှင့် တူသည်ဖြစ်စေ ယုတ်သည် ဖြစ်စေ မြတ်သည်ဖြစ်စေ ဖွဲ့အပ်၏၊ ထိုစကားသည် သင့်၏၊ အယုတ် အလတ် အမြတ်ဖြစ်သော ထိုအဆွေခင်ပွန်းတို့သည်လည်း မိမိ ဆောင်ရွက်အပ်သော အမှုကို ဆောင်ရွက်ကုန်သည်သာလျှင်တည်း၊ ယခုအခါ ရှေးဦးစွာ သင်သည် မိမိအောက် နိမ့်သော အဆွေခင်ပွန်းကိုအမှီပြု၍ ဥစ္စာရှင်ဖြစ်၏၊ ရှေးသူဟောင်း တို့သည် တမူကား မိမိအောက်နိမ့်သော အဆွေခင်ပွန်းကို အမှီပြု၍ ဗိမာန်ရှင် ဖြစ်ဘူးကုန်၏ဟု မိန့်တော်မူ၍ အနာထပိဏ် သူဌေးသည် တောင်းပန်အပ်ရကား အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....သူဌေး လွန်လေပြီးသောအခါ ဗာရာဏသီ ပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် မင်း၏ ဥယျာဉ်ဝယ် သမန်းမြက်ချုံ၌ နတ်၏ အဖြစ်ဖြင့် ဖြစ်၏၊ ထို ဥယျာဉ်၌လျှင် မင်္ဂလာကျောက်ဖျာကို အမှီပြု၍ ဖြောင့်သော ပင်စည်ရှိသော ဝန်းသော အခက်အခွနှင့်ပြည့်စုံသော မင်း၏အထံမှ ရအပ်သော ပူဇော်သက္ကာရ ရှိသော ရုစာမည်သော မင်္ဂလာသစ်ပင်သည်ရှိ၏၊ (မုခကမည်သောသစ်ပင်*ဟူ၍လည်း ဆိုအပ်၏) ထိုမင်္ဂလာသစ်ပင်၌ ဘုန်းတန်ခိုးကြီးသော တပါးသော နတ်မင်း သည် ဖြစ်၏၊ ဘုရားလောင်းအား ထိုနတ်မင်းနှင့်တကွ မိတ်ဖွဲ့ခြင်းသည်ဖြစ်၏။

---

* မုက္ခကမည်သော သစ်ပင် (သိ)၊ သမုက္ခက မည်သော သစ်ပင် (သျှာ)

ထိုအခါ မင်းသည် တဆောင်သော တပင်တိုင် နန်းပြာသာဒ်၌ နေ၏၊ ထို ပြာသာဒ်တိုင်သည် နှဲ၏၊ တခုသော အနှစ်ရှိသောတိုင်ကို ဆောင်စေ၍ ထိုတိုင် ကို မတုန်မလှုပ်အောင် ပြုကုန်လောဟု ဆို၏၊ လက်သမားတို့သည် အရှင်မင်း ကြီး ကောင်းပြီဟု မင်း၏စကားကို ဝန်ခံကုန်၍ နန်းတိုင်ဘို့ လျောက်ပတ်သော သစ်ကို ရှာကုန်လတ်သော် တပါး၌ မမြင်ကုန်၍ ဥယျာဉ်၌ ဝင်ကုန်၍ မုခကမည် သော သစ်ပင်ကို မြင်ကုန်၍ မင်း၏အထံသို့ သွားကုန်၍ မင်းသည် အမောင်တို့ နန်းတိုင်ဘို့ လျောက်ပတ်သောသစ်ကို သင်တို့ မြင်ခဲ့၏လောဟု မေးသည်ရှိသော် အရှင်မင်းကြီး မြင်ခဲ့ပြီ၊ မြင်ငြားသော်လည်း ထိုသစ်ပင်ကို မခုတ်ဝံ့ပါကုန်ဟု ဆို၏၊ အဘယ့်ကြောင့် မခုတ်ဝံ့သနည်းဟု မေးသည်ရှိသော် အကျွန်ုပ်တို့သည် တပါး၌ သစ်ပင်ကို မမြင်ကုန်၍ ဥယျာဉ်တော်သို့ဝင်ကုန်၏၊ ဥယျာဉ်တော်၌ လည်း မင်္ဂလာသစ်ပင်ကိုထား၍ တပါးသော သစ်ပင်ကို မမြင်ကုန်၍ ထိုမင်္ဂလာ သစ်ပင်တော် ဖြစ်သည်၏အဖြစ်ကြောင့် ထိုသစ်ပင်ကို မခုတ်ဝံ့ပါကုန်ဟု လက် သမားတို့သည် လျှောက်ကြကုန်၏၊ သွားကြကုန် ထိုမင်္ဂလာသစ်ပင်ကို ခုတ်ကုန် ၍ ပြာသာဒ်ကို ခိုင်အောင် ပြုကြကုန်၊ တပါးသောသစ်ပင်ကို ငါတို့သည် မင်္ဂ လာသစ်ပင် ပြုကုန်အံ့ဟု မင်းကြီးဆို၏၊ ထိုလက်သမားတို့သည် ကောင်းပြီဟု ပူဇော်ပသသွယ်ကို ယူ၍ ဥယျာဉ်သို့ သွားကုန်၍ နက်ဖြန် ခုတ်ပါအံ့ဟု သစ်ပင် အား ပူဇော်ပသခြင်းကို ပြုကုန်၍ ထွက်ကြကုန်၏။

ရုက္ခဇိုဝ်းနတ်သည် ထိုအကြောင်းကိုသိ၍ နက်ဖြန် ငါ့ဗိမာန်ကို ဖျက်ဆီး ကုန်လတ္တံ့၊ ငါ့သားငယ်တို့ကို ယူ၍ အဘယ်သို့ သွားရလတ္တံ့နည်းဟု ဆင်ခြင် လတ်သော် သွားရာအရပ်ကို မမြင်၍ သားငယ်တို့ကို လည်ဘက်၍ ငို၏၊ ထိုရုက္ခ ဇိုဝ်းနတ်၏ သန္ဒိဋ္ဌ သမ္ဘတ္တ အဆွေခင်ပွန်းဖြစ်ကုန်သော ရုက္ခဇိုဝ်း နတ်တို့သည် လာလတ်ကုန်၍ ဤငိုခြင်းကား အကြောင်း အသို့နည်းဟု မေးကုန်၍ ထို အကြောင်းကို ကြားကုန်လတ်သော် မိမိတို့သည်လည်း လက်သမားတို့ကို ဖဲစေ အပ်သော အကြောင်းကို မမြင်ကုန်၍ ထိုရုက္ခဇိုဝ်းနတ်ကို ဘက်၍ ငိုကြကုန်၏၊ ထိုအခါ ဘုရားလောင်းသည် ရုက္ခဇိုဝ်းနတ်ကို ဖူးမြင်အံ့ဟု မင်္ဂလာသစ်ပင်သို့ သွား၍ ထိုအကြောင်းကို ကြားလျှင် ထိုသို့ဖြစ်စေ အရှင်နတ်မင်းတို့သည် မစိုး ရိမ်ကုန်လင့်၊ ကျွန်ုပ်သည် ထိုသစ်ပင်ကို ခုတ်စိမ့်သောငှါ မပေးအံ့၊ နက်ဖြန်

လက်သမားတို့သည် လာသောကာလမှာ ကျွန်ုပ်ပြုသောအမှုကို ကြည့်ကြကုန်လော့ဟု ဆို၍ ထိုနတ်တို့ကို နှစ်သိမ့်စေ၍ နက်ဖြန် လက်သမားတို့သည် လာသောကာလ၌ ပုတ်သင်အသွင် ဖန်ဆင်း၍ ဤလက်သမားတို့၏ ရှေ့မှသွား၍ မင်္ဂလာသစ်ပင်၏ အမြစ်ကြားသို့ဝင်၍ မင်္ဂလာသစ်ပင်ကို အခေါင်းရှိသကဲ့သို့ ပြု၍ သစ်ပင်၏အလယ်ဖြင့် တက်လတ်၍ ပင်စည်၏ထိပ်မှ ထွက်၍ ခေါင်းကိုလှုပ်လျက်ဝပ်၏၊ လက်သမားကြီးသည် ထိုပုတ်သင်ကို မြင်လတ်၍ သစ်ပင်ကို လက်ဖြင့်တီး၍ ဤသစ်ပင်ကား အခေါင်းရှိ၏၊ အနှစ်မရှိ၊ ယမန်နေ့က မဆင်ခြင်မိ၍လျှင် ငါတို့သည် ပူဇော်ခြင်းကို ပြုမိကုန်၏ဟု တခဲနက်သော သစ်ပင်ကြီးကို ကဲ့ရဲ့၍ ဖဲလေ၏။

ရုက္ခဇိုဝ်းနတ်မင်းသည် ဘုရားလောင်းကို အမှီပြု၍ ဗိမာန်ရှင်ဖြစ်၏၊ ရုက္ခဇိုဝ်းနတ်မင်းအား ပျူငှာလောကဝတ်ကိုပြုအံ့သောငှါ သန္ဒိဋ္ဌအဆွေခင်းပွန်း၊ သမ္ဘတ္တအဆွေခင်ပွန်းနတ်တို့သည် စည်းဝေးကြကုန်၏၊ ရုက္ခဇိုဝ်းနတ်မင်းသည် အကျွန်ုပ်၏ ဗိမာန်ကို ရပေပြီဟု နှစ်သက်သော စိတ်ရှိသည်ဖြစ်၍ ထိုအဆွေခင်ပွန်းတို့၏ အလယ်၌ ဘုရားလောင်း၏ ကျေးဇူးအထူးကို ဆိုလျက် အရှင်နတ်မင်းတို့ အကျွန်ုပ်တို့သည် တန်ခိုး ကြီးကုန်လျက်လည်း နုသောပညာ ရှိသည်၏အဖြစ်ကြောင့် ဤအကြောင်းကို မသိချေ၊ သမန်းဘုတ် ကျူရုံနေ နတ်သည်တမူကား ဉာဏ်နှင့် ပြည့်စုံသည်၏အဖြစ်ကြောင့် ကျွန်ုပ်တို့ကို ဗိမာန်ရှင်ပြုပေ၏၊ မိတ်မည်သည်ကို ကိုယ်နှင့် အင်တူသည်ဖြစ်စေ မြတ်သည်ဖြစ်စေ ယုတ်သည်ဖြစ်စေ ဖွဲ့အပ်သည်သာလျှင် ဖြစ်၏၊ ထိုစကားသည် သင့်၏၊ ခပ်သိမ်းကုန်သော အဆွေခင်ပွန်းတို့သည်လည်း မိမိတို့၏ အစွမ်းဖြင့် အဆွေခင်ပွန်းတို့အားဖြစ်သော ဆင်းရဲကို ထုတ်၍ ချမ်းသာ၌ တည်စေကုန်သလျှင်ကတည်းဟု အဆွေခင်ပွန်းတို့၏တရားကို ချီးမွမ်းလို၍—

၁၂၁။ ကရေ သရိက္ခော အထ ဝါပိ သေဋ္ဌော၊
နိဟီနကော ဝါပိ ကရေယျ ဧကော။

ကရေယျုံ မေ ဗျသနေ ဥတ္တမတ္ထံ၊
ယထာ အဟံ ကုသနာဠိ ရုစာယံ။

ဟူသော ဤဂါထာကို ဆို၏။

ဘောန္တော ဒေဝတာယော၊ အရှင်နတ်တို့၊ သရိက္ခောပိ၊ ကိုယ်နှင့်တူသော သူသည်လည်း။ မိတ္တဓမ္မံ၊ အဆွေခင်ပွန်းတို့၏ တရားကို။ ကရေ၊ ပြုရာ၏။ သေဋ္ဌော အထဝါပိ၊ ကိုယ်ထက်မြတ်သော သူသည်လည်း။ မိတ္တဓမ္မံ၊ အဆွေခင်ပွန်းတို့၏ တရားကို။ ကရေ၊ ပြုရာ၏။ ဧကော၊ တယောက်သော။ နိဟီနကောဝါပိ၊ ကိုယ့်အောက်ယုတ်သော သူသည်လည်း။ မိတ္တဓမ္မံ၊ အဆွေခင်ပွန်းတို့၏ တရားကို။ ကရေယျ၊ ပြုရာ၏။ တေ၊ ထိုအယုတ် အလတ် အမြတ်ဖြစ်ကုန်သော သူတို့သည်။ ဗျသနေ၊ အဆွေခင်ပွန်းအား ပျက်စီးခြင်းသည်။ ဥပ္ပန္နေ၊ ဖြစ်လတ်သော်။ ဥတ္တမံ၊ မြတ်သော။ အတ္ထံ၊ အကျိုးကို။ ကရေယျုံ၊ ပြုကုန်ရာ၏။ တသ္မာ၊ ထိုကြောင့်။ ရုစာယံ၊ ရုစာမည်သော မင်္ဂလာသစ်ပင်၌။ နိဗ္ဗတ္တော၊ ဖြစ်သော။ အဟံ စ၊ ငါသည်၎င်း။ ကုသနာဠိ စ၊ ဘုန်းတန်ခိုးနည်းသော သမန်းဘုတ်ကျူရုံ၌ ဖြစ်သောနတ်သည်၎င်း။ တေ မယံ၊ ထိုငါတို့သည်။ မိတ္တသန္ထဝံ၊ မိတ်ဖွဲ့ခြင်းကို။ ကရိမှ ယထာ၊ ပြုကုန်သကဲ့သို့။ တထာ၊ ထို့အတူ။ ဒုက္ခာ၊ ဆင်းရဲခြင်းမှ။ မုစ္စိတုကာမေဟိ၊ လွတ်လိုကုန်သော။ အညေဟိပိ၊ တပါးကုန်သော သူတို့သည်လည်း။ သဒိသောပိ၊ ကိုယ်နှင့်တူသော သူကို၎င်း။ ဟီနောပိ၊ ကိုယ့်အောက်ယုတ်သော သူကို၎င်း။ ပဏီတောပိ၊ ကိုယ့်ထက်မြတ်သော သူကို၎င်း။ မိတ္တော၊ မိတ်ဖွဲ့ခြင်းကို။ ကာတဗ္ဗော၊ ပြုအပ်၏။

ရုစာမည်သော မင်္ဂလာသစ်ပင်စောင့်နတ်သည် ဤဂါထာဖြင့် နတ်အပေါင်းအား တရားဟော၍ အသက် အပိုင်း အခြား ပတ်လုံးတည်၍ သမန်းဘုတ်ကျူရုံနတ်နှင့်တကွ ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း**....သဗ္ဗညု မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ အာနန္ဒာသည် ထိုအခါ ရုစာမည်သော မင်္ဂလာ သစ်ပင်စောင့်နတ် ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ သမန်းဘုတ်ကျူရုံစောင့်နတ် ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[ယုတ်မြတ်မဟူ၊ ကိုယ်နှင့်တူ၊ မိတ်ယူ ပေါင်းထိုက်စွာ]

ရှေးဦးစွာသော ကုသနာဠိဇာတ်သည် ပြီး၏။

## ၁၂၂—ဒုမ္မေဇာတ်

### သူတပါးတို့အား ငြူစူတတ်သောသူ၏ အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**...နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "ယသံ လဒ္ဓါန ဒုမ္မေဓော" အစရှိသော ဂါထာ ပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤ ဒုမ္မေဓဇာတ်ကို ဇေတဝန် ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "ဒေဝဒတ်"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုစကားကို ချဲ့ဦးအံ့၊ တရားသဘင်၌ ရဟန်းတို့သည် ငါ့သျှင်တို့ ဒေဝဒတ်ကား ကောင်းသော လာခြင်း ရှိတော်မူသော မြတ်စွာဘုရား၏ လပြည့်ဝန်းကဲ့သို့ တင့်တယ်စွာသော မျက်နှာတော်ကိုရင်း ရှစ်ဆယ်သော လက္ခဏာတော်ငယ် သုံးဆယ့်နှစ်ပါးသော ယောကျ်ားမြတ်တို့၏ လက္ခဏာတော်ကြီးတို့ဖြင့် တန်ဆာ ဆင်အပ်သော တလံမျှသော ရောင်ခြည်တော်တို့ဖြင့် ခြံရံအပ်သော အသွယ် အသွယ် အစုံ အစုံ အစု အစု ဖြစ်ကုန်သော ဘုရားရောင်ခြည်တော်တို့ကို လွှတ်သော မြတ်သော တင့်တယ်ခြင်းအစုသို့ ရောက်သော ကိုယ်တော်ကိုရင်း မြင်၍ စိတ်ကို ကြည်ညိုခြင်းငှါ မဖြစ်စေနိုင် ငြူစူခြင်းကိုသာလျှင် ပြု၏၊ ဘုရား မည်သည်ကား ဤသို့ သဘောရှိသော သီလ, သမာဓိ, ပညာ, အရဟတ္တဖိုလ်, ပစ္စဝေက္ခနာဉာဏ်နှင့် ပြည့်စုံကုန်၏ ဟူ၍ ဆိုအပ်သော ကျေးဇူးစကားကို သည်းခံခြင်းငှါ မတတ်နိုင် ငြူစူခြင်းကိုသာလျှင် ပြု၏ဟူ၍ ဒေဝဒတ်၏ကျေးဇူး မဲ့ကို ပြောဆိုကြကုန်၏။

သဗ္ဗညု မြတ်စွာဘုရားသည် ကြွလာတော်မူ၍ ရဟန်းတို့ ယခု ငါလာတော် မူသော အခါ၌ အဘယ်မည်သော စကားဖြင့် စည်းဝေးကြကုန်သနည်းဟု မေးတော်မူ၍ ဤမည်သော စကားဖြင့် စည်းဝေးပါကုန်၏ဟု နားတော် လျှောက်သည်ရှိသော် ရဟန်းတို့ ဒေဝဒတ်သည်ယခုအခါ၌သာလျှင် ငါဘုရား၏ ကျေးဇူးကို ဆိုအပ်သည်ရှိသော် ငြူစူခြင်းကို ပြုသည်မဟုတ်သေး၊ ရှေး၌လည်း ပြုဘူးသည် သာလျှင်တည်းဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ မဂဓတိုင်း ရာဇဂြိုဟ်ပြည်၌ မဂဓ မည်သော မင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် ဆင်မျိုး၌ဖြစ်၍ အလုံးစုံဖြူ၏၊ အောက်၌ဆိုအပ်ပြီးသော အဆင်းရှိသော ရူပသမ္ပတ္တိနှင့် ပြည့်စုံ၏၊

ထိုဆင်ဖြူကို ဤဆင့်ကား လက္ခဏာနှင့် ပြည့်စုံသော ဆင်တည်းဟု မဂဓမင်းသည် မင်္ဂလာဆင်ကို ပြု၏၊ ထိုအခါ ပွဲသဘင်ဖြစ်သောနေ့၌ အလုံးစုံသော မြို့ကို နတ်ပြည်ကဲ့သို့ တန်ဆာဆင်၍ အလုံးစုံသော တန်ဆာတို့ဖြင့် တန်ဆာဆင်အပ်သော မင်္ဂလာဆင်ကိုစီး၍ ကြီးစွာသောမင်း၏အခြံအရံဖြင့် မင်းသည် မြို့ကို လက်ျာရစ် လှည့်လည်၏၊ လူများသည် ထိုထိုအရပ်၌ ရပ်၍ မင်္ဂလာဆင်၏ အဆင်း၏ တင့်တယ်ခြင်းအစုသို့ ရောက်သော ကိုယ်ကို မြင်၍ အံ့ဘွယ်ရှိပေစွ၊ ဆင်၏အဆင်းသည် တင့်တယ်ပေစွ၊ ဆင်၏ တင့်တယ်ခြင်းသည် အံ့ဘွယ်ရှိပေစွ၊ ဆင်၏လက္ခဏာနှင့် ပြည့်စုံခြင်းသည် အံ့ဘွယ်ရှိပေစွ၊ ဤသို့ အစရှိသော အလုံးစုံဖြူသော ဆင်မြတ်မည်သည်ကား စကြဝတေးမင်းအား လျောက်ပတ်၏ဟု မင်္ဂလာဆင်ကိုသာလျှင် ချီးမွမ်းကုန်၏။

မင်းသည် မင်္ဂလာဆင်အား ချီးမွမ်းသံကို ကြား၍ သည်းခံအံ့သောငှါ မတတ်နိုင်ရကား ငြူစူခြင်းကို ဖြစ်စေ၍ ယနေ့လျှင် ထိုဆင်ကို တောင်ကမ်းပါးပြတ်၌ ကျစေ၍ အသက်ကုန်ခြင်းသို့ ရောက်စေအံ့ဟု ကြံ၍ ဆင်စီးဆရာကို ခေါ်စေ၍ သင်သည် အသို့ပြု၍ ဤဆင်ကို သင်အပ်သနည်းဟု မေး၏၊ အရှင်မင်းကြီး ဆင်ကို သင်အပ်ပြီဟု လျှောက်သည်ရှိသော် ကောင်းစွာသင်သလော မကောင်းသဖြင့် သင်သလောဟု မေး၏၊ ရှင်မင်းကြီး ကောင်းစွာ သင်၏ဟု လျှောက်၏၊ အကယ်၍ ကောင်းစွာသင်ငြားအံ့ ထိုဆင်ကို ဝေပုလ္လတောင်ထိပ်သို့ တက်စေနိုင်အံ့လောဟု မေး၏၊ ရှင်မင်းကြီး တောင်ထိပ်သို့ တက်စိမ့်သောငှါ တတ်နိုင်ပါ၏ဟု လျှောက်၏၊ ထိုသို့တပြီးကား လာလောဟု ဆို၍ မိမိသည် ဆင်မှသက်၍ ဆင်ဆရာကို တက်စေ၍ တောင်ခြေရင်းသို့ သွား၍ ဆင်ဆရာကို ဆင်ကျောက်ကုန်း၌ နေစေ၍ ဆင်သည် ဝေပုလ္လတောင်ထိပ်သို့ တက်ပြီးသည်ရှိသော် မိမိလည်း အမတ်အပေါင်း ခြံရံလျက် ဝေပုလ္လတောင်ထိပ်သို့ တက်၍ ဆင်ကို တောင်ကမ်းပါးပြတ်သို့ရှေ့ရှုပြုစေ၍ ဆင်ဦးစီးသည် အကျွန်ုပ် ဤဆင်ကို ကောင်းစွာ သင်အပ်ပြီဟု လျှောက်၏၊ ထိုဆင်ကို ရှေးဦးစွာ အခြေသုံးချောင်းတို့ဖြင့်သာလျှင် ရပ်စေလောဟု ဆို၏။

ဆင်ဆရာသည် ကျောက်ကုန်း၌ နေလျက် အမောင် အခြေသုံးဘက်ဖြင့် ရပ်လောဟု ဆင်အား ဖနှောင့်ဖြင့် အမှတ်သညာကိုပေး၏၊ ဘုရားလောင်းသည် ဆင်ဆရာဆိုတိုင်းပြု၏၊ တဖန် မင်းသည် ရှေ့ခြေနှစ်ဘက်တို့ဖြင့် သာလျှင် ရပ်စေ

လေ့ဟုဆို၏၊ ဘုရားလောင်းသည် နောက်ခြေနှစ်ဘက်တို့ကို ကြွ၍ ရှေ့ခြေနှစ်ဘက်တို့ဖြင့် သာလျှင် ရပ်၏၊ နောက်ခြေနှစ်ဘက်တို့ဖြင့် သာလျှင် ရပ်စေလေ့ဟု ဆိုသော်လည်း ရှေ့ခြေနှစ်ဘက်တို့ကိုကြွ၍ နောက်ခြေ နှစ်ဘက်တို့ဖြင့် သာလျှင် ရပ်၏၊ ခြေတဘက်ဖြင့်သာလျှင် ရပ်စေလေ့ဟု ဆိုသော်လည်း ခြေသုံးဘက်တို့ကို ကြွ၍ ခြေတဘက်ဖြင့်သာလျှင် ရပ်၏၊ ထိုအခါ မင်္ဂလာဆင်၏ မကျသောအဖြစ်ကိုသိ၍ အကယ်၍စွမ်းနိုင်အံ့၊ ကောင်းကင်၌ ခြေတို့ကိုထားစေလေ့ဟု ဆို၏၊ ဆင်ဆရာသည် ဇမ္ဗူဒီပါအလုံး၌ ဤဆင်နှင့်တူသောကောင်းစွာသင်အပ်သော ဆင်မည်သည်မရှိ၊ ယုံမှားမဲ့လျှင် ဤဆင်ကို ဤမင်းသည် တောင်ကမ်းပါး၌ ကျ၍ သေစေလိုသည် ဖြစ်သတတ်ဟု ကြံ၏၊ ကြံပြီး၍—

ဆင်ဆရာသည် ဆင်၏ နားရင်း၌ကပ်၍ အမောင် ဤမင်းသည် အမောင့်ကို ဤတောင်ထိပ်မှ ကျ၍ သေစေလို၏၊ အမောင်သည် ဤမင်းအား မထိုက်မလျောက် ကောင်းကင်ဖြင့် သွားခြင်းငှါ အမောင်အား အစွမ်းရှိငြားအံ့၊ စီးမြဲတိုင်းသာလျှင် ရှိသော ကျွန်ုပ်ကိုယူ၍ ကောင်းကင်သို့ပျံဘက်၍ ဗာရာဏသီသို့သွားပါလေ့ဟု ဆို၏ ဘုန်းတန်ခိုးနှင့်ပြည့်စုံသောဘုရားလောင်းသည်ထိုခဏ၌ပင်လျှင် ကောင်းကင်၌ တည်၏၊ ဆင်ဆရာသည် မင်းကြီး ဤဆင်သည် ဘုန်းတန်ခိုးနှင့်ပြည့်စုံ၏၊ သင်ကဲ့သို့ ဘုန်းပညာနည်းသောသူအား မထိုက်မလျောက် ဘုန်းပညာနှင့်ပြည့်စုံသော မင်းအားသာလျှင် ထိုက်လျောက်၏၊ သင်ကဲ့သို့ ဘုန်းပညာနည်းသောသူတို့သည် ဤကဲ့သို့ သဘောရှိသော ဆင်မြတ်ကိုရကုန်၍ ထိုဆင်၏ကျေးဇူးကို မသိကုန်ရကား ထိုဆင်မြတ်ကိုရင်း ကြွင်းသော အခြံအရံ စည်းစိမ်ကိုရင်း ဖျက်ဆီးတတ် သလျှင်ကတည်းဟု ဆို၍ ဆင်ကျောက်ကုန်း၌ နေလျက်—

၁၂၂၊ ယသံ လဒ္ဓါန ဒုမ္မေဓော၊ အနတ္ထံ စရတိ အတ္တနော။
အတ္တနော စ ပရေသဉ္စ၊ ဟိံသာယ ပဋိပဇ္ဇတိ။

ဟူသော ဤဂါထာကို ဆို၏။

မဟာရာဇ၊ မင်းကြီး။ ဒုမ္မေဓော၊ သင်ကဲ့သို့ ပညာမရှိသောသူသည်။ ယသံ၊ အခြံအရံ စည်းစိမ်ကို။ လဒ္ဓါန၊ ရ၍။ အတ္တနော၊ မိမိ၏။ အနတ္ထံ၊ အကျိုးမဲ့ကို။



၅၅၀-ပ၊ ဒုမ္မေဓဇာတ်
မင်္ဂလာဆင်အား တောင်ထိပ်သို့ တက်စေ၍ ရှေ့ခြေကို မြှောက်ခိုင်းနေပုံ

စရတိ၊ ကျင့်၏။ ကတ္တဗ္ဗာကတ္တဗ္ဗံ၊ ပြုအပ် မပြုအပ်ကို။ အဇာနန္တော၊မသိရကား။ အတ္တနော စ၊ မိမိအားရင်း။ ပရေသဉ္စ၊ သူတပါးတို့အားရင်း။ ဟိံသာယ၊ ညှဉ်းဆဲခြင်းငှါ။ ပဋိပဇ္ဇတိ၊ ကျင့်၏။

ဤဂါထာပုဒ်ဖြင့် မင်းအား တရားဟော၍ မင်းကြီး ယခု နေရစ်လော့ဟုဆို၍ ကောင်းကင်သို့ ပျံ၍ ဗာရာဏသီသို့သွား၍ မင်းယင်ပြင် ကောင်းကင်၌ရပ်၍ မြို့အလုံး ချောက်ချား၍ ငါတို့မင်းဘို့ ကောင်းကင်ဖြင့် ဆင်ဖြူလာ၍ မင်းယင်ပြင်၌ တည်သတည်းဟု တပြိုင်နက် အုတ်အုတ်ကျက်ကျက် ဖြစ်၏၊ လျင်စွာ မင်းအားလည်း ကြားလျှောက်ကုန်၏၊ မင်းသည် ထွက်လာ၍ ငါ၏ အသုံး အဆောင်ဘို့ အကယ်၍ လာရောက်ငြားအံ့၊ မြေ၌ တည်လော့ဟု ဆို၏၊ ဘုရား လောင်းသည် မြေ၌တည်၏၊ ဆင်ဆရာသည် ဆင်မှဆင်းသက်၍ မင်းကိုရှိခိုး၍ နေ၏၊မင်းသည် အမောင် အဘယ်က လာသနည်းဟု မေးလတ်သော် မြတ်သော မင်းကြီး ရာဇဂြိုဟ်ပြည်က လာခဲ့ပါသည်ဟု ဆို၍ အလုံးစုံသော အကြောင်းကို လျှောက်၏၊ မင်းသည် အမောင် သင်သည် ဗာရာဏသီသို့ လာသဖြင့် နှစ်သက် ဘွယ်သောအမှုကိုပြုပေ၏ဟု ဝမ်းမြောက်ဝမ်းသာ မြို့ကိုတန်ဆာဆင်စေ၍ ဆင် ကို မင်္ဂလာဆင်အရာ၌ထား၍ မြို့အလုံးကို သုံးစုစု၍ တစုကို ဘုရားလောင်းအား တစုကို ဆင်ဆရာအား ပေး၏၊ တစုကို မိမိယူ၏၊ ဘုရားလောင်း ရောက်သော ကာလမှစ၍ကား ဇမ္ဗူဒိပ်အလုံး၌ မင်းအဖြစ်သည် ဗာရာဏသီမင်း၏ လက်သို့ သာလျှင် ရောက်၏၊ ဗာရာဏသီမင်းသည် ဇမ္ဗူဒိပ်၌ မြတ်သောမင်းဖြစ်၍ ဒါန အစရှိကုန်သော ကောင်းမှုတို့ကိုပြု၍ ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ ဒေဝဒတ်သည် ထိုအခါ မဂဓမင်း ဖြစ်ဘူးပြီ၊ ယခုအခါ သာရိပုတ္တရာ သည် ထိုအခါ ဗာရာဏသီမင်း ဖြစ်ဘူးပြီ၊ ယခုအခါ အာနန္ဒာသည် ထိုအခါ ဆင်ဆရာ ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ မင်္ဂလာဆင် ဖြစ် ဘူးပြီဟု ဇာတ်ကိုပေါင်းတော်မူ၏။

[သူများငြူစူ၊ ကိုယ်၌မူ၊ မပြူ စည်းစိမ်ပျက်]

နှစ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော ဒုမ္မေဓဇာတ်သည် ပြီး၏။

## ၁၂၃–နင်္ဂလီသဇာတ်

### ထိုင်းမှိုင်း တွေဝေသောကြောင့် သင့်–မသင့် ရာ–မရာကို မသိသောသူ၏ အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့် တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "အသဗ္ဗတ္ထ ဂါမိံ ဝါစံ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤနင်္ဂလီသဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "လာဠုဒါယီမထေရ်"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ လာဠုဒါယီသည် တရားဟောသည်ရှိသော် ဤအရာ၌ ဤတရားကို ဟောအပ်၏၊ ဤအရာ၌ ဤတရားကို မဟောအပ်ဟု သင့်,မသင့် ရာ,မရာကို မသိ၊ မင်္ဂလာအရာ၌ "တိရောကုဋ္ဋေသု တိဋ္ဌန္တိ၊ သန္ဓိသိင်္ဃာဋကေသု စ" အစရှိသော ဤအမင်္ဂလာတရားကို မင်္ဂလာတရားပြု၍ ဟော၏၊ အမင်္ဂလာအရာတို့၌ "ဗဟူ ဒေဝါ မနုဿာ စ၊မင်္ဂလာနိ အစိန္တယုံ"ဟုဆိုပြီး၍ ဤသို့ သဘောရှိကုန်သော မင်္ဂလာတို့၏ အရာကိုလည်း, အထောင်ကိုလည်း ပြုခြင်းငှါ စွဲမြဲနိုင်ကြစေကုန်သတည်းဟု ဟော၏၊ ထိုအခါ တနေ့သ၌ တရားသဘင်ဝယ် ရဟန်းတို့သည် ငါ့သျှင်တို့ လာဠုဒါယီသည် ရာ, မရာ သင့်, မသင့်ကို မသိ၊ အလုံးစုံ၌ မဆိုအပ်သည့် စကားကို အလုံးစုံ၌ ဆိုတတ်၏ဟု စကားကို ဖြစ်စေကုန်၏။

သဗ္ဗညု မြတ်စွာဘုရားသည် ကြွလာတော်မူ၍ ရဟန်းတို့ ယခုအခါ အဘယ် စကားဖြင့် စည်းဝေးကြကုန်သနည်းဟု မေးတော်မူ၍ ဤမည်သော စကားဖြင့် စည်းဝေးကြပါကုန်၏ဟု နားတော်လျှောက်သည်ရှိသော် ရဟန်းတို့ လာဠုဒါယီသည် ယခုအခါ၌သာလျှင် ထိုင်းမှိုင်းတွေဝေသည် ဖြစ်၍ သင့်,မသင့် ရာ,မရာကို မသိသည် မဟုတ်သေး၊ ရှေး၌လည်း ဤလာဠုဒါယီသည် ဤသို့သဘောရှိသည် ဖြစ်ဘူး၏၊ အမြဲ လာဠုကမည်သည်သာလျှင် ဖြစ်၏ဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည်မင်းပြုသည်ရှိသော် ဘုရားလောင်းသည် ပုဏ္ဏားသူကြွယ်မျိုး၌ဖြစ်၍ အရွယ်သို့ရောက်လတ်သော် တက္ကသိုလ်ပြည်၌ ခပ်သိမ်းသော အတတ်တို့ကို

သင်၍ ဗာရာဏသီပြည်၌ဒိသာပါမောက္ခဆရာဖြစ်၍ တပည့်လုလင် ငါးရာတို့ကို အတတ်သင်စေ၏၊ ထိုလုလင်တို့တွင် တယောက်သော ထိုင်းမှိုင်းတွေဝေသော လာဠုကမည်သော လုလင်သည် အတတ်သင် တပည့်ဖြစ်၍ အတတ်သင်လာ၏၊ ဉာဏ်ထိုင်းသည်၏ အဖြစ်ကြောင့်ကား သင်ခြင်းငှါ မတတ်နိုင်၊ ဘုရားလောင်း အားကား ကျေးဇူးပြု၏၊ ကျွန်ကဲ့သို့ ခယ်သိမ်းသော ကိစ္စတို့ကို ပြု၏၊ ထိုအခါ တနေ့သ၌ ဘုရားလောင်းသည် ညစာစား၍ အိပ်ရာ၌ အိပ်လျက် လက်, ခြေ, ကျောက်ကုန်းတို့ကို နှိပ်နယ်၍ သွားသော ထိုလာဠုကလုလင်ကို အမောင် ညောင်စောင်းခြေတို့ကို ထောက်၍ သွားလောဟု ဆို၏၊ လာဠုကလုလင်သည် တခုသော ညောင်စောင်းခြေကို ထောက်၍ တခုသော ညောင်စောင်းခြေကို မရရကား မိမိပေါင်၌ ညောင်စောင်းခြေကို ထား၍ ညဉ့်ကို ကုန်စေ၏၊ ဘုရားလောင်းသည် မိုးသောက်သောအခါထ၍ လာဠုကကိုမြင်လျှင် အမောင် အဘယ့်ကြောင့် ဤသို့ အိပ်နေသနည်းဟု မေး၏၊ဆရာ တခုသောညောင်စောင်း ခြေ၏အထောက်ကိုမရ၍ ပေါင်ပေါ်၌ ညောင်စောင်းကိုထား၍ အိပ်သတည်း ဟု လျှောက်၏။

ဘုရားလောင်းသည် ထိတ်လန့်သောစိတ်ရှိ၏၊ ဤလာဠုကသည် အလွန်လျှင် ငါ့အား ကျေးဇူးပြု၏၊ ဤမျှသော လုလင်တို့၏အတွင်း၌ ဤလုလင်သည်လျှင် ဉာဏ်ထိုင်း၍ အတတ်ကို သင်ခြင်းငှါ မတတ်နိုင်၊အသို့လျှင် လာဠုကကို ငါသည် ပညာရှိအောင်ပြုအံ့နည်းဟု ကြံ၏၊ ထိုအခါ ဘုရားလောင်းအား ဤသို့သော အကြံသည် ဖြစ်၏၊ ငါသည် ဤလုလင်ကို ထင်းခွေ ဟင်းရွက်ခူး သွား၍ လာလတ်သော် ယနေ့ သင်သည် အဘယ်ကို မြင်ခဲ့သနည်း အဘယ်အမှုကို ပြုခဲ့သနည်းဟု မေးအံ့၊ တိုအခါ ယနေ့ အကျွန်ုပ်သည် ဤမည်သော ဝတ္ထုကို မြင်ခဲ့၏၊ ဤမည်သော အမှုကို ပြုခဲ့၏ဟု ပြောဆိုလတ္တံ့၊ ထိုအခါ ထိုလုလင်ကို ထင်မြင်ခဲ့သော ဝတ္ထုသည်ရင်း ပြုခဲ့သောအမှုသည်ရင်း အဘယ်နှင့်တူသနည်းဟု မေးအံ့၊ ထိုလုလင်သည် ဤမည်သော ဝတ္ထုနှင့် တူ၏၊ ဤသို့ သဘောရှိ၏ဟု ဥပမာဖြင့်ရင်း အကြောင်းဖြင့်ရင်း ဆိုလတ္တံ့၊ ဤသို့ လာဠုကကို အသစ်အသစ် ဖြစ်သော ဥပမာကိုရင်း အကြောင်းကိုရင်း ဆိုစေ၍ ပညာ ရှိအောင် ပြုအံ့၊ ဤတခုသော အကြောင်းသည် ရှိ၏ဟု အကြံသည် ဖြစ်၏၊ ကြံပြီး၍ ဘုရားလောင်းသည် လာဠုကကို ခေါ်စေ၍ လုလင် သင်သည် ယနေ့မှစ၍

**ထင်းခွေအုံသောငှါဝင်း ဟင်းရွက်ခူးအုံသောငှါဝင်း သွားသောအရပ်၌ မြင်ခဲ့၊ ကြားခဲ့၊ စားခဲ့၊ သောက်ခဲ့၊ ခံခဲ့ရသည်ကို ငါ့အား လျှောက်လာလှည့်ဟု ဆို၏။**

လာဠကသည် ကောင်းပြီဟု ဝန်ခံ၍ တနေ့သ၌ လုလင်တို့နှင့်အတူ ထင်းခွေအုံသောငှါ တောသို သွားလတ်သော် တော၌ မြွေကိုမြင်ခဲ့၍ ဆရာ အကျွန်ုပ် မြွေကို မြင်ခဲ့သည်ဟု ဆရာအား ကြားလျှောက်၏၊ အမောင် မြွေသည် အဘယ်နှင့်တူသနည်းဟု ဆရာက မေး၏၊ ဆရာ မြွေသည် ထွန်တုံး ထွန်သန်နှင့် တူ၏ဟု လျှောက်၏၊ အမောင် ကောင်းစွ, ကောင်းစွ၊ နှစ်သက်ဘွယ်သော ဥပမာကို အမောင် ဆောင်နိုင်ပေ၏၊ မြွေမည်သည်ကား ထွန်တုံး ထွန်သန်နှင့် တူသည်သာလျှင်တည်းဟု ဆရာဆို၏၊ထိုအခါ ဘုရားလောင်းသည် လုလင်သည် နှစ်သက်ဘွယ်သော ဥပမာကို ဆောင်နိုင်၏၊ ထိုလုလင်ကို ပညာရှိအောင် ပြုခြင်းငှါ တတ်နိုင်လတ္တံ့ဟု ကြံ၏၊ လုလင်သည် တဖန် တနေ့သ၌ တောက ဆင်ကိုမြင်ခဲ့၍ ဆရာ ယနေ့ အကျွန်ုပ် ဆင်ကို မြင်ခဲ့ရ၏ဟု လျှောက်လာ၏၊ အမောင် ဆင်ကား အဘယ်နှင့်တူသနည်းဟု ဆရာက မေး၏၊ ဆရာ ဆင်ကား ထွန်တုံး ထွန်သန်နှင့် တူ၏ဟု လျှောက်၏၊ ဘုရားလောင်းသည် ဆင်၏ နှာမောင်းကား ထွန်တုံး ထွန်သန်နှင့် တူ၏၊ ဆင်စွယ် အစရှိသည် တို့လည်း ထွန်တုံး ထွန်သန်နှင့် တူကုန်၏၊ ဤလုလင်ကား မိုက်သည်၏ အဖြစ်ကြောင့် ခွဲခြမ်း၍ မပြောနိုင်ရကား ဆင်နှာမောင်းကို ရည်၍ ဆိုသည် ဖြစ်မည်၏ဟု ဆိတ်ဆိတ်နေ၏။

ထိုအခါ တနေ့သ၌ ဆွမ်းဘိတ်ရာအရပ်ငယ် ကြံကိုရ၍ ဆရာ ယနေ့ ကြံစုတ်ခဲ့ရ၏ဟု လျှောက်လာ၏၊ အမောင် ကြံသည် အဘယ်နှင့် တူသနည်းဟု မေးလတ်သော် ဆရာ ကြံသည် ထွန်တုံး ထွန်သန်နှင့် တူ၏ဟု လျှောက်၏၊ ဆရာသည် အတန်ငယ် လျော်သော အကြောင်းကို ဆို၏ဟု ဆိတ်ဆိတ်နေ၏၊ တဖန်တနေ့သ၌ ဆွမ်းဘိတ်ရာအရပ်ဝယ် အချို့ကုန်သော လုလင်တို့သည် တင်လဲ နို့ဓမ်းဖြင့်စားကြကုန်၏၊အချို့ကုန်သော လုလင်တို့သည်နို့ရည်ဖြင့် စားကြကုန်၏၊ လာဠကသည် ဆရာ ယနေ့ အကျွန်ုပ်တို့ နို့ဓမ်း နို့ရည်ဖြင့် စားခဲ့ရကုန်သည်ဟု လျှောက်လာ၏၊ အမောင် နို့ဓမ်းနို့ရည်သည် အဘယ်နှင့် တူသနည်းဟု မေး၏၊ ဆရာ နို့ဓမ်း နို့ရည်သည် ထွန်တုံး ထွန်သန်နှင့် တူ၏ဟု လျှောက်၏၊ ဆရာသည်

ဤလုလင်ကား မြွေသည် ထွန်တုံး ထွန်သန်နှင့် တူ၏ဟု ဆိုသဖြင့် ကောင်းသော စကားကို ဆို၏၊ ဆင်သည် ထွန်တုံး ထွန်သန်နှင့် တူ၏ဟု ဆိုသဖြင့်လည်း နှာမောင်းကို ရည်၍ အနည်းငယ်သော အသင့်အားဖြင့် ဆိုအပ်၏၊ ကြံသည် ထွန်တုံး ထွန်သန်နှင့်တူ၏ဟု ဆိုသဖြင့်လည်း အနည်းငယ်သော ယုတ္တိသည် ရှိ၏၊ နို့ဓမ်းနို့ရည် တို့သည်မူကား အမြဲဖြူကုန်၏၊ ထည့်အပ်သော အိုးခွက်သဏ္ဌာန်ရှိ၏၊ ထို့ကြောင့် ဤစကားသည်ကား အချင်းခပ်သိမ်းအားဖြင့် မတူ၊ ဤလာဠုကကို အတတ်သင်စိမ့်သော်ငှါ မတတ်ကောင်းချေဟု ဆိုလို၍—

၁၂၃၊ အသဗ္ဗတ္ထဂါမိံ ဝါစံ၊ ဗာလော သဗ္ဗတ္ထ ဘာသတိ။
နာယံ ဒဓိံ ဝေဒိ န နင်္ဂလီသံ၊ ဒဓိပ္ပယံ [1] မညတိ နင်္ဂလီသံ။

ဟူသော ဤဂါထာကို ဆို၏။

အသဗ္ဗတ္ထဂါမိံ၊ ဥပမာ၏ အစွမ်းအားဖြင့် အလုံးစုံသော ဥပမေယျ၌ မဝင်သော။ ဝါစံ၊ စကားကို။ ဗာလော၊ သူမိုက်သည်။ သဗ္ဗတ္ထ၊ အလုံးစုံသော ဥပမေယျ၌။ ဘာသတိ၊ ဆို၏။ အယံ၊ ဤသူမိုက်သည်။ ဒဓိံ၊ နို့ဓမ်းကို။ န နင်္ဂလီသံ၊ ထွန်တုံး ထွန်သန်နှင့် မတူသည်ကို။ န ဝေဒိ၊ မသိနိုင်ခဲ့။ အယံဗာလော၊ ဤသူမိုက်သည်။ ဒဓိပ္ပယံ၊ နို့ဓမ်း နို့ရည်ကို။ နင်္ဂလီသံ၊ ထွန်တုံး ထွန်သန်နှင့် တူ၏ဟူ၍။ မညတိ၊ မှတ်ထင်၏။

“ဒဓိတိ ဒဓိမေဝ၊ ပယန္တိ ခီရံ၊ ဒဓိ စ ပယဉ္စ ဒဓိပ္ပယံ” ဟု ဇာတ်အဋ္ဌကထာ။

ဤသို့ သဘောရှိသော သူမိုက်ဖြင့် အဘယ်အကျိုး ရှိအံ့နည်းဟု တပည့်တို့အား တရားဟော၍ ရိက္ခာကို ပေး၍ လွှတ်လိုက်၏။

**ဇာတ်ပေါင်း**....သဗ္ဗညုမြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ လာဠုဒါယီသည် ထိုအခါ လာဠုကလုလင် ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ဒိသာပါမောက္ခဆရာ ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[ပညာမဲ့ပေ၊ တွေဝေလေ၊ ထွေထွေရာသင့် မထောက်ချင့်၊

သုံးခုတို့၏ ပြည့်ကြောင်းဖြစ်သော နင်္ဂလီသဇာတ်သည် ပြီး။]

---

၁၊ ဒဓိပ္ပယံ (သီ၊ သျာ၊ ဣ)

## ၁၂၄—အမ္ဗဇာတ်

### ဝတ်တရားနှင့် ပြည့်စုံသော သူတယောက်ကိုမှီ၍ အများ ချမ်းသာသော အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**...နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော လဗ္ဗည္ဟု မြတ်စွာဘုရားသည် "ဝါယမေထေဝ ပုရိသော" အစရှိသော ဂါထာ ပုဒ်ဖြင့် တန်ဆာ ဆင်အပ်သော ဤ အမ္ဗဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "တပါးသောဝတ်နှင့် ပြည့်စုံသော ရဟန်း"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ထိုရဟန်းသည် သာဝတ္ထိပြည်၌နေသော အမျိုး သားဖြစ်၍ သာသနာတော်၌ ဝမ်းရေးကို မငဲ့ဘဲ ရဟန်းပြုပြီးသည်ရှိသော် ဝတ် နှင့် ပြည့်စုံသည် ဖြစ်သတတ်၊ ဆရာ ဥပဇ္ဈာယ်တို့အား ပြုရသော ဝတ်ကိုဂင်း၊ သောက်ရေ သုံးဆောင်ရေ တည်ထားခြင်း ဥပုသ်အိမ်၌ ပြုရသောဝတ် ဇရုံးအိမ် အစရှိသည်တို့၌ ပြုရသော ဝတ်တို့ကိုဂင်း ကောင်းစွာပြု၏၊ တဆယ့် လေးပါးကုန်သော ဝတ်ကြီးတို့၌ဂင်း၊ ရှစ်ဆယ်ကုန်သော ခန္ဓကဝတ်တို့၌ဂင်း ဖြည့်လေ့ရှိသည်သာ ဖြစ်၏၊ ကျောင်းကို တံမြက်လှည်း၏၊ ပရိဝုဏ်ကို တံမြက်လှည်း၏၊ ဆွမ်းခံရာ အရပ် စင်္ကြံစရပ်ကို တံမြက်လှည်း၏၊ ကျောင်းခရီး ကို တံမြက်လှည်း၏၊ လူတို့အား သောက်ရေကို ပေး၏၊ လူတို့သည် ထိုရဟန်း အား ဝတ်နှင့် ပြည့်စုံခြင်းကြောင့် ကြည်ညိုကုန်၍ ငါးရာ အတိုင်းအရှည် ရှိ ကုန်သော အမြဲတည်အပ်ကုန်သော ဆွမ်းတို့ကို လှူကုန်၏၊ များသော လာဘ် ပူဇော်သက္ကာရ ရှိသည်ဖြစ်၏၊ ထိုရဟန်းကိုမှီ၍ များစွာကုန်သော ရဟန်းတို့အား ချမ်းသာစွာ နေရခြင်းသည် ဖြစ်၏။

ထိုအခါ တနေ့သ၌ ရဟန်းတို့သည် တရားသဘင်၌ ငါ့ချင်တို့ ဤအမည်ရှိ သော ရဟန်းသည် မိမိ ဝတ်နှင့် ပြည့်စုံသဖြင့် များသောလာဘ် ပူဇော်သက္ကာရ ကို ဖြစ်စေ၏၊ ထိုရဟန်းကိုမှီ၍ များစွာကုန်သော ရဟန်းတို့အား ချမ်းသာစွာ နေရခြင်းသည် ဖြစ်၏၊ ဤသို့သောစကားကို ဖြစ်စေကုန်၏၊ မြတ်စွာဘုရားသည် ကြွလာတော်မူလတ်၍ ရဟန်းတို့ ယခုအခါ အဘယ်မည်သော စကားဖြင့် စည်းဝေး ကြကုန်သနည်းဟု မေးတော်မူလတ်၍ ဤမည်သော စကားဖြင့် စည်းဝေးပါကုန်၏ဟု နားတော် လျှောက်သည်ရှိသော် ရဟန်းတို့ ယခုအခါ၌

သာလျှင် ဤရဟန်းသည် ဝတ်နှင့် ပြည့်စုံသည် မဟုတ်သေး၊ ရှေး၌လည်း ဝတ်နှင့် ပြည့်စုံသည်သာလျှင်တည်း၊ တယောက်သော ထိုရဟန်းကို မှီ၍ ငါးရာကုန်သော ရသေ့တို့သည် သစ်သီးကြီးငယ် အကျိုးငှါ တောသို့ မသွားမူ၍ ထိုရဟန်းသည်သာလျှင် ဆောင်အပ်သော သစ်သီးကြီးငယ်တို့ဖြင့် မျှဘူးကုန်၏ဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုလတ်သည်ရှိသော် ဘုရားလောင်းသည် ဥဒိစ္စပုဏ္ဏားမျိုး၌ ဖြစ်၍ အရွယ်သို့ ရောက်လတ်သော် ရသေ့ရဟန်းပြု၍ ငါးရာသော ရသေ့ အခြံအရံ ရှိသည်ဖြစ်၍တောင်ခြေရင်း၌ နေ၏၊ ထိုအခါ ဟိမဝန္တာ၌ ပြင်းထန်သော နွေအခါသည် ဖြစ်၏၊ ထိုထိုအရပ်၌ သောက်ရေတို့သည် ပြတ်ကုန်၏၊ တိရစ္ဆာန်တို့သည် သောက်ရေကို မရကုန်သည်ဖြစ်၍ ပင်ပန်းကုန်၏၊ ထိုအခါ ရသေ့တို့တွင် တယောက်သော ရသေ့သည် ထိုတိရစ္ဆာန်တို့၏ ရေငတ်ခြင်း ဆင်းရဲကို မြင်၍ တခုသော သစ်ပင်ကို ဖြတ်၍ စားကျင်းပြု၍ သောက်ရေကို ဆောင်၍ စားကျင်းကို ပြည့်စေ၍ ထိုတိရစ္ဆာန်တို့အား သောက်ရေကိုပေး၏၊ များစွာကုန်သော တိရစ္ဆာန်တို့သည် စည်းဝေးလာကုန်၍ သောက်ရေကိုသောက်ကုန်သည်ရှိသော် ရသေ့အား သစ်သီးကြီးငယ်အကျိုးငှါ သွားခွင့်သည်မဖြစ်၊ ထိုရသေ့သည် အာဟာရ ပြတ်လျက်လည်း သောက်ရေကို ပေးသည်သာလျှင်တည်း။

သားအပေါင်းတို့သည် ဤရသေ့သည် ငါတို့အား သောက်ရေကို ပေးသည်ရှိသော် သစ်သီးကြီးငယ် အကျိုးငှါ သွားခွင့်ကို မရ၊ အာဟာရ ပြတ်သည်၏အဖြစ်ကြောင့် အလွန်လျှင် ပင်ပန်း၏၊ ယခု ငါတို့သည် ကတိကဝတ်ကို ပြုကြကုန်အံ့ဟု ကြံကြကုန်၏၊ ကြံကုန်ပြီး၍ တိရစ္ဆာန်တို့သည် ကတိကဝတ်ကို ပြုကြကုန်၏၊ အဘယ်သို့ ပြုကြကုန်သနည်း ဟူမူကား ဤအခါမှစ၍ သောက်ရေကို သောက်အံ့သောငှါ လာသော တိရစ္ဆာန်သည် မိမိအစွမ်း အားလျော်သဖြင့် သစ်သီးကိုယူ၍လျှင် လာအပ်၏ဟု ကတိကဝတ်ကို ပြုကုန်၏၊ ထိုအခါမှစ၍ တခုတခုသော တိရစ္ဆာန်သည် အစွမ်းအားလျော်သဖြင့် မြတ်ကုန် ချိုကုန်သော သရက်သီး,သပြေသီး,ပိန္နဲသီး အစရှိသည်တို့ကိုယူ၍လျှင် လာကုန်၏၊ တယောက်

သော ရသေ့၏အကျိုးငှါ ဆောင်အပ်သော သစ်သီးကြီးငယ်တို့သည် လှည်းတဆယ့်နှစ်စီးခွဲတိုက် ဝန်ပမာဏရှိသည် ဖြစ်၏၊ ငါးရာသော ရသေ့တို့သည် ထိုသစ်သီးကိုသာသျှင် သုံးဆောင်ကုန်၏၊ အလွန်ကို စွန့်ကုန်၏၊ ဘုရားလောင်းသည် ထိုသစ်သီးကိုမြင်၍ တယောက်သော ဝတ်နှင့် ပြည့်စုံသော ရသေ့မည်သည်ကို မှီ၍ ဤမျှ အတိုင်းအရှည်ရှိကုန်သော ရသေ့တို့အား သစ်သီးကြီးငယ် အကျိုးငှါ မသွားမူ၍ မျှခြင်းသည် ဖြစ်၏၊ ဝီရိယမည်သည်ကို ပြုအပ်သလျှင်ကတည်းဟု ဆိုလို၍—

၁၂၄၊ ဝါယမေထေဝ ပုရိသော၊ န နိဗ္ဗိန္ဒေယျ ပဏ္ဍိတော။
ဝါယာမဿ ဖလံ ပဿ၊ ဘုတ္တာ အမ္ဗာ အနီတိဟံ။

ဟူသော ဤဂါထာကို ဆို၏။

ပုရိသော၊ ယောကျ်ားသည်။ ဝါယမေထေဝ-ဝါယမေထ ဧဝ၊ လုံ့လပြုရာသလျှင်ကတည်း။ ပဏ္ဍိတော၊ ပညာရှိသည်။ န နိဗ္ဗိန္ဒေယျ၊ မငြီးငွေ့ရာ။ ဝါယာမဿ၊ လုံ့လ၏။ ဖလံ၊ အကျိုးကို။ ပဿ၊ ရှုပါလော။ အမ္ဗာ၊ သရက်အစရှိကုန်သော သစ်သီးတို့ကို။ ဘုတ္တာ၊ စားအပ်ကုန်၏။ အနီတိဟံ၊ မျက်မှောက်သာလျှင်။ ဝါယာမဿ၊ လုံ့လ၏။ ဖလံ၊ အကျိုးကို။ ပဿ၊ ရှုပါလော့။

ဤသို့ ဘုရားလောင်းသည် ရသေ့အပေါင်းအား အဆုံးအမကို ပေး၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ ဝတ်နှင့်ပြည့်စုံသောရဟန်းသည် ထိုအခါ ဝတ်နှင့်ပြည့်စုံသော ရသေ့ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ရသေ့အပေါင်းတို့၏ ဆရာဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[ ဝတ်နှင့်ပြည့်ပြည့်ဝ ထိုသူအား၊ အများမိုခါ ချမ်းသာစွာ ]

လေးခုတို့၏ပြည့်ကြောင်းဖြစ်သော အမ္ဗဇာတ်သည် ပြီး၏။

# ၁၂၅—ကဋ္ဌာဟကဇာတ်

## သူတပါးတို့အား ကဲ့ရဲ့ရှုတ်ချသော စကားကို ဆိုတတ်သောသူ၏ အကြောင်း။

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညုမြတ်စွာဘုရားသည် "ဗဟုမ္ပိ သော ဝိကတ္ထေယျ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤ ကဋ္ဌာဟကဇာတ်ကို ဇေတဝန် ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "တယောက်သော ရှုတ်ချသော စကားကို ဆိုတတ်သော ရဟန်း"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုရဟန်း၏ ဝတ္ထုသည် အောက်၌ ဆိုအပ်ပြီးသည်နှင့် တူသလျှင်ကတည်း။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် များစွာသော စည်းစိမ်ဥစ္စာရှိသော သူဌေး ဖြစ်၏၊ ထိုသူဌေး၏ မယားသည် သားကိုဖွား၏၊ထိုသူဌေး၏ ကျွန်မသည်လည်း ထိုနေ့၌ပင်လျှင် သားဖွား၏၊ ထိုသူငယ်နှစ်ယောက်တို့သည် တပြိုင်နက်ကြီးကုန်၏၊ သူဌေးသားသည် အက္ခရာအရေးကို သင်သည်ရှိသော် ထိုသူဌေး ကျွန်သည်လည်း သင်ပုန်းကို ယူလျက်သွား၍ ထိုသူဌေးသားနှင့်လျှင်တကွ အက္ခရာအရေးကိုသင်၏၊ ဂဏန်းကိုသင်၏ နှစ်ကြိမ် သုံးကြိမ်သော သင်ခြင်းတို့ကိုပြု၏၊ ထိုကျွန်မသားသည် အစဉ်သဖြင့် စကား၌လိမ်မာ၏၊ ဝေါဟာရ၌လိမ်မာ၏၊ ပျိုနု၏၊ အဆင်းလှ၏၊ အမည်အားဖြင့် ကဋ္ဌာဟကမည်၏၊ ထိုကဋ္ဌာဟကသည် သူဌေးအိမ်၌ ဘဏ္ဍာစိုးအမှုကို ပြုလျက် ငါ့ကို ဤသူဌေးတို့သည် အခါခပ်သိမ်းဘဏ္ဍာစိုးအရာကိုသာလျှင် မပြုစေကုန်လတ္တံ့၊တစုံတခုသောဒေသကိုလျှင်မြင်၍ ပုတ်ခတ်၍ နှောင်ဖွဲ့၍ အမှတ်ပေး၍ ကျွန်အသုံးအဆောင်ဖြင့် သုံးဆောင်စေကုန်လတ္တံ့၊ ပစ္စန္တရစ်၌ကား သူဌေး အဆွေခင်ပွန်းဖြစ်သော သူဌေးသည်ရှိ၏၊ငါသည် သူဌေး၏စကားဖြင့်မှာစာကိုယူ၍ ပစ္စန္တရစ်သို့သာသွား၍ ငါသည်သူဌေးသားဟုဆို၍ သူဌေးအားလှည့်စားအံ့၊ ထိုသူဌေးသမီးကိုယူ၍ ချမ်းသာစွာ အကယ်၍နေရမူကား ကောင်း၏ဟုကြံ၏၊ ကြံပြီး၍ ထိုကဋ္ဌာဟကသည် ကိုယ်တိုင်သာလျှင် ပုရပိုက်ကိုယူ၍ ငါသည် ဤအမည်ရှိသော ငါ၏သားကို သင်၏အထံသို့စေ၏၊ သမီးနှင့်သားကို ထိမ်းမြားသဖြင့် စပ်ခြင်းမည်သည်

ငါ့အား သင်နှင့်ငြင်း, သင့်အား ငါနှင့်ငြင်း အတူတကွ လျောက်ပတ်၏၊ ထို့ကြောင့် သင်သည် ဤသူငယ်အား မိမိသမီးကို ပေး၍ ထိုငါ့သားကို သင့်အိမ်၌ နေစေလော့၊ ငါသည်လည်း အခွင့်ကို ရသည်ရှိသော် လာပါအံ့ဟုရေး၍ သူဌေး တံဆိပ်ခတ်၍ အလိုအားလျော်စွာ ရိက္ခာတို့ကိုငြင်း, နံ့သာပုဆိုး စသည်တို့ကို ငြင်း ယူ၍ ပစ္စန္တရစ်သို့သွား၍ သူဌေးကို ဖူးမြင်ရှိခိုး၍ နေ၏။

ထိုအခါ ထိုကဋ္ဌာဟာကကို သူဌေးသည် အမောင် အဘယ် အရပ်မှ လာသနည်းဟု မေး၏ ဗာရာဏသီပြည်မှ လာ၏ဟုဆို၏၊ အဘယ်သူ့သားနည်းဟု မေး၏၊ ဗာရာဏသီသူဌေး၏ သားဟု ဆို၏၊ အဘယ်ကိစ္စကြောင့် ဤအရပ်သို့ လာသနည်းဟု မေး၏၊ ထိုအခါ ကဋ္ဌာဟာကသည် ဤအမှာစာကို မြင်သဖြင့် သိကုန်လတ္တံ့ဟု မှာစာကို ပေး၏၊ သူဌေးသည် အမှာစာကို ဘတ်၍ ယခုအခါ၌ ငါသည် သိ၏ဟု နှစ်သက်သောစိတ် ရှိသည်ဖြစ်၍ သမီးကိုပေး၍ နေစေ၏၊ ထိုကဋ္ဌာဟာကအား အခြံအရံသည်များ၏၊ ထိုကဋ္ဌာဟာကသည် ယာဂု ခဲဘွယ် အစရှိသည်တို့ကိုငြင်း အဝတ်နံ့သာ အစရှိသည်တို့ကိုငြင်း ဆက်အပ်ကုန်သည်ရှိသော် ယာဂုမည်သည်ကို ဤသို့ ကျိုကုန်၏၊ ခဲဘွယ်မည်သည်ကို ဤသို့ ချက်ကုန်၏၊ ထမင်း မည်သည်ကို ဤသို့ ချက်ကုန်၏၊ ပစ္စန္တရစ်၌နေသော သူတို့မည်သည်ကား ဩော်–မိုက်စွဟု ယာဂု အစရှိသည်တို့ကို ကဲ့ရဲ့၍ ဤသူတို့သည် ပစ္စန္တရစ်၌ နေသည်၏ အဖြစ်ကြောင့် ပုဆိုးတို့ကိုသုံးဆောင်အံ့သောငှါ မသိကုန်၊ နံ့သာတို့ကို သွေးအံ့သောငှါ မသိကုန်၊ ပန်းတို့ကို ကုံးအံ့သောငှါ မသိကုန်၊ ဤသို့ အဝတ်အမှုကိုပြုသောသူ, နံ့သာသွေးသောသူ အစရှိသည်တို့ကို ကဲ့ရဲ့၏။

ဘုရားလောင်းသည်လည်း ကျွန်ကို မမြင်သည်ရှိသော် ကဋ္ဌာဟာကသည် မထင်၊ အဘယ်သို့ သွားသနည်း၊ ထိုကဋ္ဌာဟာကကို ရှာကြကုန်လော့ဟု လူတို့ကို စေ၏၊ ထိုလူတို့တွင် တယောက်သောသူသည်သွား၍ ထိုကဋ္ဌာဟာကကို မြင်သည်ရှိသော် မှတ်၍ မိမိကိုယ်ကိုမသိစေမူ၍ လာပြီးလျှင် ဘုရားလောင်းအားကြား၏၊ ဘုရားလောင်းသည် ထိုအကြောင်းကိုကြား၍ ထိုကဋ္ဌာဟာကသည် မသင့်သည်ကို ပြု၏၊ ထိုကဋ္ဌာဟာကကိုသွား၍ ယူအံ့ဟု မင်းကိုပန်၍ များစွာသော အခြံအရံနှင့် ထွက်၏၊ သူဌေးသည် ပစ္စန္တရစ်သို့ သွားသတတ်ဟု အလုံးစုံသော အရပ်၌

ထင်ရှားဖြစ်၏၊ ကဋ္ဋာဟကသည် သူဌေးလာသတတ်ဟု ကြား၍ ထိုသူဌေးသည် ထပါးသော အကြောင်းကြောင့် မလာ၊ ငါ့ကို အမှုပြု၍သာလျှင် ထိုသူဌေး၏ ယောခြင်းသည် ဖြစ်ရာ၏၊ ငါသည် အကယ်၍ ပြေးအံ့၊ တဖန် လာအံ့သောငါ မတတ်ကောင်းသည် ဖြစ်လတ္တံ့၊ ငါ၏ အရှင်အား ခရီးဦးကြိုဆို၍ ကျွန်အမှုကို ပြု၍ ထိုအရှင်အားလျှင် နှစ်သက်စေအံ့ဟုကြံ၏၊ ကြံပြီး၍ ထိုကဋ္ဋာဟကသည် ထိုအခါမှစ၍ ပရိသတ်အလယ်၌ ဤသို့ ဆို၏၊ တပါးကုန်သော မိုက်ကုန်သော သူတို့သည် မိမိ၏ မိုက်သည်၏အဖြစ်ကြောင့် မိဘတို့၏ကျေးဇူးကို မသိကုန်သည် ဖြစ်၍ ထိုမိဘတို့၏ စားသောအခါ၌ အရှိအသေအမှုတို့ကို မပြုမူ၍ မိဘတို့နှင့် တကွသာလျှင် သုံးဆောင်ကုန်၏၊ ငါတို့သည်ကား မိဘတို့၏ ကျေးဇူးကို သိကုန်၏၊ ထိုမိဘတို့၏ စားသော ကာလ၌ လက်ဆေးအင်ကို ခံကုန်၏၊ ထွေးအင်ကို ခံကုန်၏၊ ဘောဇဉ်တို့ကို ဆောင်ကုန်၏၊ သောက်ရေကိုရင်း, ယပ်ကိုရင်း ယူ၍လုပ်ကျွေးကုန်၏၊ ကိုယ်လက် သုတ်သင်သောကာလ၌ သန့်သက် ရေအိုးကို ယူ၍ ဖုံးလွှမ်းရာ အရပ်သို့ သွားသည်တိုင်အောင် အလုံးစုံသော ကျွန်တို့သည် အရှင်တို့အား ပြုအပ်သော ကိစ္စကို ပြု၏။

ထိုကဋ္ဋာဟကသည် ဤသို့ ပရိသတ်ကို မှတ်စေ၍ ဘုရားလောင်း၏ ပစ္စန္တရစ် အနီးသို့ ရောက်သောကာလ၌ ယောက္ခမကို ဘခင် အကျွန်ုပ်၏ အဘသည် အရှင်တို့အား ဖူးမြင်အံ့သောငါ လာသတတ်၊ သင်တို့သည် ခဲဘွယ်ဘောဇဉ်ကို စီရင်ကြကုန်လော၊ ငါသည် လက်ဆောင်ကို ယူ၍ ခရီးဦး ကြိုဆိုအံ့ဟု ဆို၏၊ ယောက္ခမသည် အမောင် ကောင်းပြီဟု ဝန်ခံ၏၊ ကဋ္ဋာဟကသည် များစွာသော လက်ဆောင်တို့ကို ယူ၍ ရှိခိုး၍ လက်ဆောင်ကို ဆက်၏၊ ဘုရားလောင်း သည်လည်း ထိုလက်ဆောင်ကိုယူ၍ ကဋ္ဋာဟကနှင့်တကွ နှုတ်ခွန်းဆက်ခြင်းကို ပြု၍ မိုးသောက်သော ကာလ၌ သစ်ခက်တပ်၌ နေ၍ ကိုယ်လက်သုတ်သင်အံ့ သောငါ ဖုံးလွှမ်းရာအရပ်သို့ သွား၏၊ ကဋ္ဋာဟကသည် မိမိအခြံအရံကို နစ်စေ၍ သန့်သက်ရေအိုးကို ယူ၍ ဘုရားလောင်း၏ အထံသို့ သွား၍ သန့်သက်ရေ သုံးဆောင်သောကိစ္စအဆုံး၌ ခြေတို့၌ဝပ်၍ အရှင် အကျွန်ုပ်သည် အရှင်တို့သည် အကြင်မျှလောက်သော ဥစ္စာတို့ကို အလိုရှိကုန်၏၊ ထိုမျှလောက်သော ဥစ္စာကို ပေးပါအံ့၊ အကျွန်ုပ်၏ အခြေအရံကို မကွယ်ပါစေကုန်လင့်ဟု ဆို၏၊ ဘုရား

လောင်းသည် ထိုကဋ္ဌဟာကအား ဝတ်နှင့် ပြည့်စုံသည်၏ အဖြစ်ကြောင့် ကြည်ညိုသည်ဖြစ်၍ မကြောက်လင့်၊ သင့်အား ငါ့အထံမှ အပြစ်မရှိဟု နှစ်သိမ့်စေ၍ ပစ္စန္တရစ်မြို့သို့ ဝင်၏၊ များစွာသော ပူဇော် သက္ကာရသည် ဖြစ်၏၊ ကဋ္ဌဟာကသည်လည်း ထိုသူဌေးအား မပြတ် ကျွန်သည် ပြုအပ်သော ကိစ္စကို ပြု၏။

ထို့နောက် တကြိမ်သောအခါ၌ ချမ်းသာစွာ နေသော ထိုသူဌေးကြီးကို ပစ္စန္တရစ်သူဌေးသည် သူဌေးကြီး ငါသည် သင်တို့၏မှာစာကို မြင်လျှင် သင်တို့၏ သားအား သမီးကိုပေး၏ဟု ဆို၏၊ ဘုရားလောင်းသည် ကဋ္ဌဟာကကို သားပြု၍ ထိုအမှုအားလျော်စွာ ချစ်ဘွယ်သော စကားကိုဆို၍ သူဌေးကို နှစ်သက်စေ၏၊ ထိုအခါမှစ၍ ကဋ္ဌဟာက၏ မျက်နှာကို ကြည့်ခြင်းငှါ ဝံ့သောသူမည်သည် မရှိ၊ ထိုအခါ တနေ့သ၌ ဘုရားလောင်းသည် သူဌေးသမီးကို ခေါ်စေ၍ ချစ်သမီး လာလော၊ ငါ၏ဦးခေါင်း၌ သန်းတို့ကို ရှာလော့ဟု ဆို၍ လာလတ်၍ သန်းကို ကောက်သော ထိုသတို့သမီးကို ချစ်ဘွယ်သောစကားကို ဆို၍ ချစ်သမီး သင့်အား ငါ့သားသည် ချမ်းသာ ဆင်းရဲတို့၌ မမေ့မလျော့ ရှိပါ၏လော၊ နှစ်ယောက်ကုန်သော သူတို့သည် ဝမ်းမြောက်ကုန်သည် ဖြစ်၍ ညီညွတ်စွာ နေခြင်းကို နေကြကုန်၏လောဟု မေး၏။

ဘခင် သူဌေးကြီး သင်တို့၏သားအား ကပါးသောအပြစ်သည် မရှိ၊ စင်စစ်သော်ကား အာဟာရကို ကဲ့ရဲ့၏ဟု ဆိုလေ၏၊ ချစ်သမီး ဤငါ့သားသည် အခါခပ်သိမ်း ချမ်းသာသော သဘော ရှိသည်သာလျှင်တည်း၊ စင်စစ်သော်ကား သင့်အား ငါသည် ဤငါ့သား၏ နှုတ်ပိတ်မန္တန်ကိုသင်အံ့၊ သင်သည် ကောင်းစွာ သင်၍ စားသောကာလ၌ ကဲ့ရဲ့သော ငါ့သား၏ ရှေ့မှရပ်၍ သင်သော နည်းဖြင့် သာလျှင် ဆိုလော့ဟု ဂါထာကိုသင်၍ နှစ်ရက် သုံးရက် နေ၍ ဗာရာဏသီမြို့သို့ သာလျှင် သွား၏၊ ကဋ္ဌဟာကသည်လည်း များစွာသော ခဲဘွယ်ဘောဇဉ်ကိုယူ၍ ပို့လိုက်၍ များစွာသော ဥစ္စာကိုဆက်ပြီးလျှင် ရှိခိုး၍ ပြန်၏၊ ထိုကဋ္ဌဟာကသည် ဘုရားလောင်း၏သွားသောကာလမှစ၍ အတိုင်းထက်အလွန် မာနရှိသည်ဖြစ်၏၊ ထိုကဋ္ဌဟာကသည် တနေ့သ၌ သူဌေးသမီးသည် အထူးထူးသော အရသာရှိသော ဘောဇဉ်ကို တည်၍ ယောက်မကို ယူ၍ လုပ်ကျွေးသည်ရှိသော် ထမင်းကို ကဲ့ရဲ့

အံ့သောငှါ အားထုတ်၏၊ သူဌေးသမီးသည် ဘုရားလောင်း၏အထံ၌ သင်အပ်သောနည်းဖြင့်—

၁၂၅၊ ဗဟုမ္ပိ သော ဝိကတ္ထေယျ၊ အညံ ဇနပဒံ ဂတော။
အန္ဒာဂန္တွာန ဒူသေယျ၊ ဘုဉ္ဇ ဘောဂေ ကဋ္ဌာဟက။

ဟူသော ဤဂါထာကို ဆို၏။

ကဋ္ဌာဟက၊ ကဋ္ဌာဟက။အညံ၊ တပါးသော။ ဇနပဒံ၊ ဇနပုဒ်သို့။ဂတော၊ ရောက်သည်ရှိသော်။ သော၊ ထိုသူသည်။ဗဟုမ္ပိ၊ များစွာလည်း။ ဝိကတ္ထေယျ၊ ရွှတ်ချရာ၏။ အန္ဒာဂန္တွာန၊ တဖန် လာလတ်၍။ ဒူသေယျ၊ ဖျက်ဆီးရာ၏။ ဘောဂေ၊ စည်းစိမ်တို့ကို။ ဘုဉ္ဇ၊ ခံစားလော့။

သူဌေးသမီးသည်ကား ထိုဂါထာ၏ အနက်ကို မသိဘဲလျက် သင်သောနည်းဖြင့် သဒ္ဒါကိုသာလျှင် ရွှတ်၏၊ ကဋ္ဌာဟကသည် မချွတ်မုချ သူဌေးသည် ငါ၏အမည်ကိုကြား၍ ထိုသူဌေးသမီးအား အလုံးစုံသော စကားကို ပြောဆိုအပ်သည်ဖြစ်လတ္တံ့ဟု နှလုံးသွင်း၍ ထိုအခါမှစ၍ တဖန် ထမင်းကို ကဲ့ရဲ့အံ့သောငှါမဝံ့၊ ချသော မာနရှိသည်ဖြစ်၍ ရတိုင်းသော ထမင်းကိုစား၍ ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကိုဆောင်တော်မူ၍ ယခုအခါ ရှုတ်ချသောစကားကို ဆိုတတ်သောရဟန်းသည် ထိုအခါ ကဋ္ဌာဟက ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ဗာရာဏသီသူဌေး ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[ကိုယ့်ကိုကိုယ်သိ၊ ကဲ့ရဲ့ဘိ၊ မကြည့်သူများကို]
ငါးခုတို၏ ပြည့်ကြောင်းဖြစ်သော ကဋ္ဌာဟကဇာတ်သည် ပြီး၏။

---

## ၁၂၆—အသိလက္ခဏဇာတ်

**တံစိုးစား၍ သန်လျက်လက္ခဏာကိုဘတ်သော ပုဏ္ဏား၏ နှာသီးဖျား နှစ်ပိုင်းပြတ်သော အကြောင်း**

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့် တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "တထေဝေကဿ ကလျာဏံ" အစရှိသော ဂါထာ

ပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤ အသိလက္ခဏ ဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "ကောသလမင်း၏ သန်လျက် လက္ခဏာကို ဘတ်တတ်သော ပုဏ္ဏား"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုပုဏ္ဏားသည် ပန်းဘဲတို့သည် မင်းအား သန်လျက်ကို ဆက်သောကာလ၌ သန်လျက်ကိုနမ်း၍ ဘတ်၏၊ ထိုပုဏ္ဏားသည် အကြင် ပန်းဘဲလက်မှ လာဘ်ရ၏၊ ထိုပန်းဘဲ၏ သန်လျက်ကို လက္ခဏာနှင့် ပြည့်စုံ၏၊ မင်္ဂလာနှင့် ယှဉ်၏ဟု ဆို၏၊ အကြင် ပန်းဘဲတို့၏လက်မှ လာဘ်မရ၊ ထိုပန်းဘဲတို့၏ သန်လျက်ကို ကဲ့ရဲ့၏၊ ထိုအခါ တယောက်သော ပန်းဘဲသည် သန်လျက်ကိုပြု၍ သန်လျက်အိမ်၌ သိမ်မွေ့သော ငြုတ်မှုန့်ကိုထည့်၍ မင်းအား သန်လျက်ကိုဆက်၏၊ မင်းသည် ပုဏ္ဏားကို ခေါ်စေ၍ သန်လျက်ကို စုံစမ်းလောဟု ဆို၏၊ သန်လျက်ကိုကိုင်၍ နမ်းသောပုဏ္ဏား၏နှာခေါင်းကို ငြုတ်မှုန့်တို့သည် ဝင်ကုန်၍ ချေလိုသည်၏အဖြစ်ကို ဖြစ်စေကုန်၏၊ ချေသော ပုဏ္ဏား၏ နှာခေါင်းသည် သန်လျက်သွား ခတ်မိသည်ဖြစ်၍ နှစ်ပိုင်းပြတ်၏၊ ဤသို့ ပုဏ္ဏား၏ နှာခေါင်းပြတ်သည်၏ အဖြစ်သည် ရဟန်းသံဃာ၌ ထင်ရှား၏။

ထိုအခါ တနေ့သ၌ ရဟန်းတို့သည် တရားသဘင်၌ စည်းဝေးကုန်၍ ငါ့သျှင်တို့ ကောသလမင်း၏ သန်လျက် လက္ခဏာ ဘတ်တတ်သော ပုဏ္ဏားသည် သန်လျက်ကိုနမ်းလျက် နှာခေါင်းကို ဖြတ်သတတ်ဟူသော စကားကို ဖြစ်စေကုန်၏၊ မြတ်စွာဘုရားသည် လာတော်မူလတ်၍ ရဟန်းတို့ ယခုအခါ၌ အဘယ်မည်သော စကားဖြင့် စည်းဝေးကြကုန်သနည်းဟု မေးတော်မူလတ်၍ ဤမည်သောစကားဖြင့် စည်းဝေးကြပါကုန်၏ဟု နားတော် လျှောက်သည်ရှိသော် ရဟန်းတို့ ယခုအခါ၌သာလျှင် ဤပုဏ္ဏားသည် သန်လျက်ကို နမ်းလျက် နှာခေါင်းပြတ်ခြင်းသို့ ရောက်သည် မဟုတ်သေး၊ ရှေး၌လည်း ရောက်ဘူးသည် သာလျှင်တည်းဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုလတ်သည်ရှိသော် ထိုဗြဟ္မဒတ်မင်းအား သန်လျက်လက္ခဏာကို ဘတ်တတ်သော ပုဏ္ဏားသည်ဖြစ်၏၊အလုံးစုံသော ဝတ္ထုသည် ပစ္စုပ္ပန်နှင့် တူသလျှင်ကတည်း၊ဗြဟ္မဒတ်မင်းသည်ကား ထိုပုဏ္ဏားအား ဆေးသမားကို ပေး၍

နှာခေါင်းစွန်းကို ကုစားချမ်းသာစေ၍ ချိပ်တို့ဖြင့် နှာခေါင်းတုကိုပြု၍ တဖန် ခစားစေ၏၊ ဗာရာဏသီမင်းအားကား သားမရှိ၊တယောက်သော သမီးသည်ရင်း, တူသည်ရင်း ရှိ၏၊ ထိုပြဟ္မဒတ်မင်းသည် နှစ်ယောက်လည်း ဖြစ်ကုန်သော ထို သမီး,တူတို့ကို မိမိ၏အထံ၌သာလျှင် ကြီးစေ၏၊ ထိုသမီး,တူတို့သည် တကွနက် ကြီးခြင်းသို့ ရောက်ကုန်သည်ရှိသော် အချင်းချင်း တပ်သောစိတ် ရှိကုန်သည် ဖြစ်ကုန်၏၊ မင်းသည်လည်း အမတ်တို့ကိုခေါ်၍ ငါ၏တူသည်လည်း ဤပြည်၏ သခင်သာလျှင်တည်း၊ သမီးကို ထိုတူအားပေး၍ ထိုတူအား ဘိသိက်သွန်းခြင်းကို ပြုအံ့ဟုဆို၍ တဖန် ငါ၏တူသည် ခပ်သိမ်းသော အခြင်းအရာအားဖြင့်လည်း ငါ၏ဆွေမျိုး ဖြစ်သလျှင်ကတည်း၊ ထိုတူအား တပါးသော မင်းသမီးကိုဆောင် ၍ အဘိသိက် သွန်းခြင်းကိုပြု၍ သမီးကို တပါးသောမင်းအား ပေးအံ့၊ ဤသို့ ပြု သည်ရှိသော် ငါ့အား ဆွေမျိုးတို့သည် များကုန်သည်ဖြစ်လတ္တံ့၊ ငါတို့သည်သာ လျှင် နှစ်ပြည်ထောင်တို့၏ အရှင်သည် ဖြစ်ကုန်အံ့ဟု ကြံ၏၊ ကြံပြီး၍ မင်း သည် အမတ်တို့နှင့်တကွ တိုင်ပင်၍ နှစ်ယောက်လည်း ဖြစ်ကုန်သော သမီး, တူ တို့ကိုခွဲ၍ နေစိမ့်သောငှါ သင့်၏ဟု တူကို တပါးသောအိမ်၌ သမီးကို တပါးသော အိမ်၌ နေစေ၏၊ ထိုသမီး, တူတို့သည် တဆယ့်ခြောက်နှစ် အရွယ်ရှိသည်၏အဖြစ် သို့ ရောက်ကုန်၍ အလွန်လျှင် တပ်သော စိတ်ရှိကုန်၏။

မင်းသားသည် ဦးရီးသမီးကို နန်းတွင်းမှ ထုတ်စိမ့်သောငှါ အဘယ်ဥပါယ်ဖြင့် တတ်ကောင်းသည် ဖြစ်ရာအံ့နည်းဟု ကြံသည်ရှိသော် တခုသော ဥပါယ်သည် ရှိ၏ဟု နတ်ဝင်မကို ခေါ်စေ၍ ထိုနတ်ဝင်မအား တထောင်သော အသပြာကို ပေး၍ အကျွန်ုပ်သည် အဘယ်အမှုကို ပြုရအံ့နည်းဟု မေးသည်ရှိသော် ငါ့ဦးရီး ၏ သမီးကို နန်းတွင်းမှထုတ်၍ ထိုသို့သော အခြင်းအရာအားဖြင့် ပြုလောဟု ဆို ၏၊ ထိုနတ်ဝင်မသည် အရှင်ကောင်းပြီ၊ ငါသည် မင်းသို့ကပ်၍ ဤသို့ဆိုအံ့၊ မင်း ကြီး မင်းသမီးအထက်၌ သူယုတ်သည် ရှိ၏၊ ဤမျှလောက်သော ကာလပတ် လုံး ပြန်၍ ကြည့်သောသူသည် မရှိ၊ ငါသည် မင်းသမီးကို ဤမည်သော ရထား သို့တင်၍ များစွာကုန်သော လက်နက် လက်စွဲကုန်သော ယောကျ်ားတို့ကိုယူ ၍ များစွာသော အခြံအရံဖြင့် သုသာန်သို့ သွား၍ အင်းပျဉ်ဝန်း ခံသော ညောင်စောင်း အောက်၌ သူသေကို အိပ်စေ၍ ညောင်စောင်း အထက်၌

မင်းသမီးကိုထား၍ နံ့သာရေအိုး တရာ့ရှစ်လုံးတို့ဖြင့် ရေချိုးစေ၍ သူယုတ်ကို မျှောအံ့၊ ဤသို့ဆို၍ မင်းသမီးကို သုသာန်သို့ဆောင်အံ့၊ အရှင့်သားသည် အကျွန်ုပ်တို့၏ ထိုသုသာန်သို့ သွားသောနေ့၌ အကျွန်ုပ်တို့၏ ရှေးဦးစွာလျှင် အတန်ငယ် ပြုတ်မှုန့်ကို ယူ၍ လက်နက်စွဲကုန်သော မိမိ၏လူတို့ဖြင့် ခြံရံလျက် ရထားကို စီး၍ ရထားကို သုသာန်တံခါး၌ တခုသောအရပ်၌ရပ်၍ လက်နက်စွဲကုန်သော သူတို့ကို သုသာန်တောသို့ ဝင်စေ၍ မိမိသည် သုသာန် အင်းပျဉ်ဝန်းသို့သွား၍ သူသေကဲ့သို့ မှောက်ခုံအိပ်လော့၊ အကျွန်ုပ်သည် ထိုအရပ်သို့သွား၍ အရှင်မင်းသား၏အထက်၌ ညောင်စောင်းကို ခင်း၍ မင်းသမီးကိုချီ၍ ညောင်စောင်း၌ ထားအံ့၊ ထိုခဏ၌ ပြုတ်မှုန့်ကို နှာခေါင်း၌ထည့်၍ နှစ်ကြိမ် သုံးကြိမ် ချေလော၊ သင် ချေသောကာလ၌ ငါတို့သည် မင်းသမီးကို စွန့်၍ ပြေးကုန်အံ့၊ ထို အခါ သင်မင်းသားသည် မင်းသမီးကို ဦးခေါင်းဆေး၍ မိမိသည်လည်း ဦး ခေါင်းဆေး၍ မင်းသမီးကိုယူ၍ အိမ်သို့သွားလေလော့ဟု ဆို၏၊ မင်းသားသည် ကောင်းပြီဟု ဝန်ခံ၏။

ဆို နတ်ဝင်မသည်လည်း သွား၍ မင်းအား ထိုအကြောင်းကို ကြား၏၊ မင်းသည်လည်း ဝန်ခံ၏၊ မင်းသမီးအားလည်း ထိုအကြောင်းကို ကြား၏၊မင်းသမီး သည်လည်း ဝန်ခံ၏၊ နတ်ဝင်မသည်လည်း ထွက်သောနေ့၌ မင်းသားအား အမှတ် ပေး၍ များစွာသော အခြံအရံဖြင့် သုသာန်သို့ သွားသည်ရှိသော် အစောင့် အရှောက် လူတို့အား ကြောက်ခြင်းကို ဖြစ်စိမ့်သောငှါ ငါသည် မင်းသမီးကို ညောင်စောင်းဝယ် ထားသောကာလ၌ သူသေ ယောကျ်ားသည် ချေလတ္တံ့၊ ချေ၍လျှင် ညောင်စောင်းအောက်မှ ထွက်၍ အကြင် အကြင်သူတို့ကို ရှေးဦးစွာ မြင်လတ္တံ့၊ ထိုထိုသူတို့ကိုလျှင် ဖမ်းလတ္တံ့၊ မမေ့မလျော့ကုန်သည် ဖြစ်ကြကုန် လော့ဟု ဆို၏၊ မင်းသားသည် ရှေးဦးစွာ သွား၍ ဆိုအပ်ပြီးသော နည်းဖြင့် လျှင် သုသာန်၌ အိပ်၏၊ နတ်ဝင်မကြီးသည် မင်းသမီးကိုချီ၍ အင်းပျဉ်ဝန်း ရှိရာ အရပ်သို့သွားလျက် မကြောက်လင့်ဟု အမှတ်ကိုပေး၍ ညောင်စောင်း၌ ထား၏၊ထိုခဏ၌ မင်းသားသည် ပြုတ်မှုန့်ကို နှာခေါင်း၌ထည့်၍ ချေ၏၊ချေကာ မျှ၌လျှင် နတ်ဝင်မကြီးသည် မင်းသမီးကိုစွန့်၍ ကြီးစွာသော ဟစ်ကြွေးခြင်းကို ဟစ်ကြွေးလျက် အလုံးစုံသောသူတို့၏ ရှေးဦးစွာ ပြေး၏၊ ထို နတ်ဝင်မကြီး၏

ပြေးသောကာလမှစ၍ တယောက်သောသူသည်လည်း တည်ခြင်းငှါ စွမ်းနိုင်သောသူမည်သည် မဖြစ်၊ ကိုင်တိုင်း ကိုင်တိုင်း ကုန်သော လက်နက်တို့ကို စွန့်၍ ခမ်းသိမ်းကုန်သော သူတို့သည် ပြေးကုန်၏။

မင်းသားသည်လည်း တိုင်ပင် တိုင်းသော အလုံးစုံသော အမှုကို ပြု၍ မင်းသမီးကို ယူ၍ မိမိအိမ်သို့သွား၏၊ နတ်ဝင်မကြီးသည် သွား၍ ထိုအကြောင်းကို ကြား၍ မင်းအား လျှောက်၏၊ မင်းသည် ပကတိအားဖြင့်လည်း ထိုမင်းသမီးကို ငါသည် ထိုငါ့တူ၏ အကျိုးငှါသာလျှင် ကြီးစေ၏၊ မွေးကျွေးအပ်၏၊ စားဘွယ်ဿနာ၌ စွန့်အပ်သော ထောပတ်ကဲ့သို့ ဖြစ်ပြီဟု ဝန်ခံ၏၊ နောက်အဘို့၌ တူအား မင်းအဖြစ်ကိုပေး၍ သမီးကို မိဖုယားကြီးအရာပြုစေ၏၊ ထိုတူဖြစ်သော မင်းသည် ထိုသမီးနှင့် အညီအညွတ်နေခြင်းကိုနေလျက် တရားသဖြင့် မင်းပြု၏၊ ထိုသန်လျက်လက္ခဏာကို ဘတ်တတ်သော ပုဏ္ဏားသည်လည်း ထိုမင်းအား ခစား၏၊ တနေ့သ၌ မင်းအားခစားအံ့သောငှါ လာလတ်၍ နေသို့ရှေးရှုပြု၍ ခစားသော ပုဏ္ဏား၏ ချိပ်သည် ကြေ၏၊ နှာခေါင်းတုသည် မြေသို့ကျ၏၊ ထိုပုဏ္ဏားသည် ရှက်၍ အောက်သို့ မျက်နှာပြုလျက်သာ နေ၏၊ ထိုအခါ ထိုပုဏ္ဏားကို မင်းသည် ပြက်ရယ်ပြုလိုသည်ဖြစ်၍ ဆရာ မကြံကုန်လင့်၊ ချေခြင်းမည်သည် အချို့သောသူအား ကောင်း၏၊ အချို့သောသူအား ယုတ်မာ၏၊ သင်တို့သည် ချေသဖြင့် နှာခေါင်းကို ပြတ်စေကုန်၏၊ ငါတို့သည်ကား ချေသဖြင့် ဦးရီးသမီးကို ရ၍ မင်းအဖြစ်သို့ ရောက်၏ဟု ဆိုလို၍—

၁၂၆။ တထေဝေကဿ ကလျာဏံ၊ တထေဝေကဿ ပါပကံ။
တသ္မာ သဗ္ဗံ န ကလျာဏံ၊ သဗ္ဗံ ဝါပိ န ပါပကံ။

ဟူသော ဤဂါထာကို ဆို၏။

အာစရိယ၊ ဆရာ။ တထေဝ၊ ထိုချေခြင်းသည်လျှင်။ ဧကဿ၊ အချို့သောသူအား။ ကလျာဏံ၊ ကောင်း၏။ တထေဝ၊ ထိုချေခြင်းသည်လျှင်။ ဧကဿ၊ အချို့သောသူအား။ ပါပကံ၊ ယုတ်မာ၏။ တသ္မာ၊ ထို့ကြောင့်။ သဗ္ဗံ၊ အလုံးစုံသော ချေခြင်းသည်။ န ကလျာဏံ၊ မကောင်း။ သဗ္ဗံ ဝါပိ၊ အလုံးစုံသော ချေခြင်းသည်လည်း။ န ပါပကံ၊ မယုတ်မာ။

ဤသို့ မင်းသည် ဤဂါထာဖြင့် အကြောင်းကို ဆို၍ အလှူအစရှိသော ကောင်းမှုတို့ကို ပြု၍ ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း**...မြတ်စွာဘုရားသည် ဤဂါထာဖြင့် လောကသည်သမုတ် အပ်ကုန်သော ကောင်းခြင်း ယုတ်မာခြင်းတို့၏ ကေန် မဟုတ်သည်၏အဖြစ်ကို ပြပြီး၍ ယခုအခါ သန်လျက်လက္ခဏာ ဘတ်တတ်သော ပုဏ္ဏားသည် ထိုအခါ သန်လျက်လက္ခဏာ ဘတ်တတ်သော ပုဏ္ဏား ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရား သည်လျှင် ထိုအခါ တူဖြစ်သောမင်းဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[လောကသမုတ်၊ အမြေထုတ်၊ ကောင်း,ယုတ် နေကန်သိ]

**ခြောက်ခုတို့၏ ပြည့်ကြောင်းဖြစ်သော အသိလက္ခဏဇာတ်သည် ပြီး၏။**

---

## ၁၂၇—ကလဏ္ဍုကဇာတ်

**သူတပါးတို့အား ရှုတ်ချကဲ့ရဲ့တတ်သောသူ၏ အကြောင်း**

**ပစ္စုပ္ပန်ဝတ္ထု**...နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "တေ ဒေသာ တာနိ ဝတ္ထူနိ" အစရှိသော ဂါထာ ပုဒ်ဖြင့်တန်ဆာဆင်အပ်သော ဤကလဏ္ဍုကဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "တယောက်သော ရှုတ်ချသော စကားကို ဆိုတတ် သော ရဟန်း"ကို အကြောင်းပြု၍ ဟောတော်မူ၏။

> ကလဏ္ဍုကဇာတ်၌ နှစ်ပါးကုန်သော ဝတ္ထုတို့သည်လည်း ကဋ္ဌာ ဟကဇာတ်နှင့် တူကုန်သလျှင် ကတည်း။

**အတိတ်ဝတ္ထု**...ဤ ကလဏ္ဍုက ဇာတ်၌ကား ဗာရာဏသီ သူဌေးအား ကလဏ္ဍုကမည်သော ကျွန်သည် ဖြစ်၏၊ ထိုကလဏ္ဍုက၏ ပြေး၍ ပစ္စန္တရစ် သူဌေး၏ သမီးကိုယူ၍ များစွာသော အခြံအရံဖြင့် နေသောကာလ၌ ဗာရာဏသီ သူဌေးသည် ရှာစေသည်ရှိသော် ထိုကလဏ္ဍုက၏ ရောက်ရာအရပ်ကို မသိသည် ဖြစ်၍ သွားချေ ကလဏ္ဍုကကို ရှာချေဟု မိမိသားဖြစ်သော ကျေးသားငယ်ကို စေ၏၊ ကျေးသားငယ်သည် ထိုမှဤမှလှည့်လည်သည်ရှိသော် ထိုမြို့သို့ ရောက်၏၊ ထိုကာလ၌လည်း ကလဏ္ဍုကသည် မြစ်ကစားခြင်းကို ကစားလိုသည်ဖြစ်၍

များစွာသော ပန်းနံ့သာ နံ့သာပျောင်းကိုရင်း, ခဲဘွယ်ဘောဇဉ်ကိုရင်း ယူခဲ့စေ၍ သူဌေးသမီးနှင့်တကွ လှေစီး၍ ရေ၌ ကစား၏၊ ထိုအရပ်၌ မြစ်ကစားခြင်းကို ကစားကုန်သော အစိုးရကုန်သော သူတို့သည် ထက်စွာသော ဆေးဖြင့် ထုံအပ်သော နို့ရည်ကို သောက်ကုန်၏၊ ထို့ကြောင့် တနေ့ပတ်လုံး ရေ၌ ကစားကုန်သော သူတို့အား အချမ်းသည် မနှိပ်စက်၊ ဤကလဏ္ဍုကသည်ကား နို့ရည်ကို နှုတ်၌ငုံ၍ ခံတွင်းဆေး၍ ထိုနို့ရည်ကိုထွေး၏၊ ထွေးသည်ရှိသော် ရေ၌မထွေးမူ၍ သူဌေးသမီး ဦးခေါင်း၌ ထွေး၏၊ ကျေးသားငယ်သည် ထိုမြစ်နားသို့ သွား၍ တခုသော ရေသဖန်းခက်၌ နား၍ ကြည့်သည်ရှိသော် ကလဏ္ဍုကကို သိ၍ သူဌေးသမီး ဦးခေါင်း၌ နို့ရည်ကို ထွေးသည်ကိုမြင်၍ ဟယ် ကလဏ္ဍုကမည်သော ကျွန် မိမိ၏အမျိုးကိုရင်း, နေရာအရပ်ကိုရင်း အောက်မေ့လော့၊ နို့ရည်ကို နှုတ်၌ ငုံ၍ ခံတွင်းကိုဆေး၍ အမျိုးနှင့်ပြည့်စုံသော ချမ်းသာသဖြင့် ကြီးသော သူဌေးသမီး၏ ဦးခေါင်း၌ မထွေးလင့်၊ မိမိပမာဏကို သိလောဟု ဆိုလို၍—

၁၂၇၊ တေ ဒေသာ တာနိ ဝတ္ထူနိ၊ အဟဉ္စ ဝနဂေါစရော။
အနုဝိစ္စ ခေါ တံ ဂဏှေယျုံ၊ ပိဝ ခီရံ ကလဏ္ဍုက။

ဟူသော ဤဂါထာကို ဆို၏။

ကလဏ္ဍုက၊ ကလဏ္ဍုက။ တေ ဒေသာ၊ ထိုသင်၏အရပ်တို့သည်ရင်း။ တာနိ ဝတ္ထူနိ၊ ထိုသင်၏တည်ရာ တို့သည်ရင်း။ သန္တိ၊ ရှိကုန်၏။ တာနိ၊ ထိုဒေသ, ဝတ္ထုတို့ကို။ ဝနဂေါစရော၊ တော၌ကျက်စားသော။ အဟဉ္စ၊ ငါကျေးသားသည်လည်း။ ဇာနာမိ၊ သိ၏။ သာမိကာ၊ သင်၏ သခင်တို့သည်။ တံ၊ သင့်ကို။ အနုဝိစ္စ၊ သိ၍။ ဂဏှေယျုံ၊ ဖမ်းကုန်ရာ၏။ ခီရံ၊ နို့ရည်ကို။ ပိဝ၊ သောက်လေ လေလော။

ကလဏ္ဍုကသည်လည်း ကျေးသားငယ်ကို သိ၍ ငါ့ကို ထင်ရှားသည်ကို ပြုရာ၏ဟု ကြောက်ခြင်းကြောင့် အရှင် လာလော့ အဘယ်အခါ၌ လာသနည်းဟု ဆို၏၊ ကျေးသားငယ်သည် ကလဏ္ဍုကသည် ငါ့ကို အစီးအပွားကိုအလိုရှိသည်၏အဖြစ်ကြောင့် မခေါ်၊ ငါ၏လည်ကို လိမ်၍ သတ်ခြင်းငှါ အလိုရှိ၏ဟု သိ၍ ငါ့အား သင်ဖြင့် အလိုမရှိဟု ထိုသဖန်းခက်မှပျံ၍ ဗာရာဏသီပြည်သို့ သွား၍ မြင်ခဲ့တိုင်း သူဌေးအား အကျယ်အားဖြင့်ပြောဆို၏၊ သူဌေးသည် ကလဏ္ဍုက

သည် မသင့်သည်ကို ပြု၏ဟု ဆို၍ သွားပြီးသည်ရှိသော် ထိုကလဏ္ဍုကအား အာဏာပြု၍ ထိုကလဏ္ဍုကကို ဗာရာဏသီသို့ ဆောင်ခဲ့၍ ကျွန်အသုံးအဆောင် ဖြင့် သုံးဆောင်၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ ထိုရဟန်းသည် ထိုအခါ ကလဏ္ဍုက ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရား သည်လျှင် ထိုအခါ ဗာရာဏသီသူဌေး ဖြစ်ဘူးပြီဟု ဇာတ်ကိုပေါင်းတော်မူ၏။

[ကိုယ်၏အဖြစ်၊ ကိုယ့်သနစ်၊ စင်စစ် သိအပ်စွာ]

ခုနစ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော ကလဏ္ဍုကဇာတ်သည် ပြီး၏၊

---

## ၁၂၈—ဗိဠာရဝတ ဇာတ်

### အဲ့ဘွယ်သရဲကို ပြုတတ်သောသူ၏ အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် “ယော ဝေ ဓမ္မံ ဓဇံ ကတွာ” အစရှိသော ဂါထာ ပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤဗိဠာရဝတဇာတ်ကို ဇေတဝန်ကျောင်းတော် ၌ သီတင်းသုံးနေတော်မူစဉ် “တယောက်သော အံ့ဘွယ်သရဲကို ဖြစ်စေတတ် သော ရဟန်း”ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုအခါ မြတ်စွာဘုရား သည် ထိုရဟန်း၏ အံ့ဘွယ်သရဲကို ဖြစ်စေသည်၏ အဖြစ်ကို ကြားလျှောက်သည် ရှိသော် ရဟန်းတို့ ယခုအခါ၌သာလျှင် ဤရဟန်းသည် အံ့ဘွယ်သရဲကို ဖြစ်စေ တတ်သည်မဟုတ်သေး၊ ရှေး၌လည်း ဖြစ်စေဘူးသည် သာလျှင်တည်းဟု မိန့် တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**...လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည် သောမင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် ကြွက်အမျိုး၌ ပဋိ သန္ဓေယူ၍ ကြီးခြင်းကိုစွဲ၍ ဝက်ငယ်ပမာဏရှိသော ကိုယ်ရှိသည်ဖြစ်၍ အရာမက များစွာကုန်သော ကြွက်တို့ဖြင့် ခြံရံလျက် တော၌ နေ၏၊ ထိုအခါ တခုသော မြေခွေးသည် ထိုမှဤမှ လှည့်လည်သည်ရှိသော် ထိုကြွက်အပေါင်းကို မြင်၍

ကြွက်အပေါင်းတို့ကို လှည့်စား၍စားအံ့ဟု ကြံ၍ ကြွက်တို့၏ နေရာအရပ်အနီး၌ နေသို့ ရှေးရှု ခံတွင်းဖြင့် လေကိုခံလျက် ခြေတချောင်းဖြင့်ရပ်၏၊ ဘုရားလောင်းသည် အစာရှာအံ့သောငှါ သွားသည်ရှိသော် ထိုမြေခွေးသည် သီလရှိသည် ဖြစ်လတ္တံ့ဟု ထိုမြေခွေး၏အထံသို့ သွား၍ အရှင် အရှင်သည် အဘယ်အမည် ရှိသနည်းဟု မေး၏၊ အချင်း ငါသည် ဓမ္မိက အမည်ရှိ၏ဟု ဆို၏၊ အခြေလေးချောင်းတို့ကို မြေ၌မရပ်မူ၍ အဘယ့်ကြောင့် ခြေတချောင်းဖြင့်သာလျှင် ရပ်သနည်းဟု မေး၏၊ ငါသည် ခြေလေးချောင်းတို့ကို မြေ၌ထားသည်ရှိသော် မြေသည် ရွက်ဆောင်အံ့သောငှါမတတ်ကောင်း၊ ထို့ကြောင့်ခြေတချောင်းဖြင့်သာလျှင် ရပ်၏ဟု ဆို၏၊ ခံတွင်းကိုဖွင့်၍ အဘယ့်ကြောင့် ရပ်သနည်းဟု မေး၏၊ ငါတို့သည် တပါးသော အစာကို မစားကုန်၊ လေကိုသာလျှင် စားကုန်၏ဟု ဆို၏၊ ထို့နောက်မှ အဘယ့်ကြောင့် နေသို့ ရှေးရှု ရပ်သနည်းဟု မေး၏၊ နေကို ရှိခိုး၏ဟု ဆို၏၊ ဘုရားလောင်းသည် ထိုမြေခွေး၏စကားကိုကြား၍ ဤမြေခွေးသည် သီလရှိသည် ဖြစ်လတ္တံ့ဟု ထိုအခါမှစ၍ ကြွက်အပေါင်းနှင့် တကွ ညနံနက် ထိုမြေခွေးအား ခစားအံ့သောငှါ သွား၏။

ထိုအခါ ကြွက်မင်း၏ ခစားခြင်းကိုပြု၍ သွားသောကာလ၌ မြေခွေးသည် အလုံးစုံသော ကြွက်တို့မှ နောက်ဖြစ်သော ကြွက်ကိုဖမ်း၍ အသားကို စား၍ မျို၍ ခံတွင်းကို သုတ်၍ ရပ်၏၊ အစဉ်သဖြင့်ကြွက်အပေါင်းသည်ပါးသည်ဖြစ်၏၊ ကြွက်တို့သည် ရှေး၌ ငါတို့အား ဤနေရာသည်မဆံ့၊ အခြားမရှိကုန်သည်ဖြစ်၍ နေရကုန်၏၊ ယခုအခါ၌ လျော့၏၊ ဤနေရာသည် မပြည့်သလျှင် ကတည်း၊ ဤ မပြည့်ခြင်း၏ အကြောင်းသည်ကား အသို့ နည်းဟု ဘုရားလောင်းအား ထိုအကြောင်းကို ကြားကုန်၏၊ ဘုရားလောင်းသည် အဘယ် အကြောင်း ကြောင့်လျှင် ကြွက်တို့ ပါးကုန်သနည်းဟု ကြံသည်ရှိသော် မြေခွေး၌ ယုံမှားခြင်းကို ဖြစ်စေ၍ ထိုမြေခွေးကို စုံစမ်းအံ့ဟု ခစားသော ကာလ၌ ကြွင်းသော ကြွက်တို့ကို ရှေ့ထား၍ မိမိသည် နောက်က နေ၏၊ မြေခွေးသည် ထိုကြွက်၏ အထက်၌ ပြေးလာသည် ရှိသော် ဘုရားလောင်းသည် မိမိအား ဖမ်းအံ့သောငှါ ပြေးလာသော ထိုမြေခွေးကို မြင်၍ အို မြေခွေး သင်၏ ဤအကျင့်သည် ကောင်းသော တရားသဘောအားဖြင့် မဟုတ်၊ စင်စစ်လျှင်

တပါးကုန်သော သူတို့အား ညှဉ်းဆဲအံ့သောငှါ တရားတံခွန်ကိုပြု၍ ကျင့်၏ဟု ဆိုလို၍—

၁၂၈၊ ယော ဝေ ဓမ္မံ ဓဇံ ကတွာ၊ နိဂူဠှော ပါပမာစရေ။
ဝိဿာသယိတွာ ဘူတာနိ၊ ဗိဠာရံ နာမ တံ ဝတံ။

ဟူသော ဤဂါထာကို ဆို၏။

ယော၊ အကြင်သူသည်။ ဝေ၊ စင်စစ်။ ဓမ္မံ ဓဇံ၊ တရားတံခွန်ကို။ ကတွာ၊ ပြု၍။ ဘူတာနိ၊ သတ္တဝါတို့ကို။ ဝိဿာသယိတွာ၊ အကျွမ်းဝင်စေ၍။ နိဂူဠှော၊ လျှို့ဝှက်လျက်။ ပါပံ၊ မကောင်းမှုကို။ အာစရေ၊ ကျင့်၏။ တံ ဝတံ၊ ထိုသူတို့၏ အကျင့်သည်။ ဗိဠာရံ နာမ၊ စဉ်းလဲစဉ်းစားသော အကျင့်မည်၏။

ကြွက်မင်းသည် ပြောဆိုလျက်လျှင် ခုန်၍ ထိုမြေခွေး၏ လည်သို့ရောက်၍ မေးအောက်၌ ရေမျိုကိုကိုက်၍ ရေမျိုကိုခွဲ၍ အသက်ကုန်ခြင်းသို့ ရောက်စေ၏၊ ကြွက်အပေါင်းတို့သည်ပြန်၍ မြေခွေးကိုစပ်စပ်မြည်စေလျက်စား၍ သွားကုန်၏၊ ရှေးဦးစွာ ရောက်ကုန်သော ကြွက်တို့သည် အသားကို စားရကုန်သတတ်၊ နောက်မှ ရောက်ကုန်သော ကြွက်တို့သည် မစားရကုန်၊ ထိုအခါမှစ၍ ကြွက် အပေါင်းသည် ဘေးမရှိသည် ဖြစ်၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ အံ့ဘွယ်သရဲကို ဖြစ်စေတတ်သော ရဟန်းသည် ထိုအခါ မြေခွေး ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ကြွက်မင်း ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[တရားဓမ္မ၊ အလံပြ၊ ပါပယုတ်မာ သေရရှာ]

ရှစ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော ဗိဠာရဝတဇာတ်သည် ပြီး၏။

---

## ၁၂၉—အဂ္ဂိက ဘာရဒွါဇဇာတ်

ဤဝတ္ထုသည်လည်း အံ့ဘွယ်သရဲကို ဖြစ်စေသော အကြောင်းပင်တည်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော ထူးညီမြတ်စွာဘုရားသည် "နာယံ သိခါ ပုညဟေတု" အစရှိသော ဂါထာ

ပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤအဂ္ဂိကဘာရဒွါဇဇာတ်ကို ဇေတဝန်ကျောင်း တော်၌ သီတင်းသုံး နေတော်မူစဉ် "အံ့ဘွယ်သရဲကို ဖြစ်စေတတ်သော ရဟန်း" ကိုလျှင် အကြောင်းပြု၍ ဟောတော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည် သောမင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် ကြွက်မင်းဖြစ်၍ တော ၌ နေ၏၊ ထိုအခါ တခုသောမြေခွေးသည် တောမီးလောင်သည်ရှိသော် ပြေးအံ့ သောငှါ မတတ်နိုင်သည်ဖြစ်၍ တခုသော၊သစ်ပင်၌ ဦးခေါင်းကိုဆိုက်၍ နေ၏၊ ထိုမြေခွေး၏ ကိုယ်အလုံး၌ အမွေးတို့ကို မီးလောင်အုန်၏၊ သစ်ပင်ကို ဆိုက်၍ တည်ရာဖြစ်သော ထိပ်၌ ဦးစွန်းကဲ့သို့ အနည်းငယ်သော အာမွှးတို့သည် တည် ကုန်၏၊ ထိုမြေခွေးသည် တနေ့သ၌ ရေအိုင်၌ ရေသောက်စဉ် အရိပ်ကို ကြည့် ဘည်ရှိသော် ဦးစွန်းကိုမြင်၍ ယခုငါ့အား အသက်မွေးခြင်း၏အရင်းသည် ဖြစ် ပြီဟု တော၌ လှည့်လည်သည်ရှိသော် ထိုကြွက်အပေါင်းတို့ကိုမြင်၍ ဤကြွက်တို့ ကို လှည့်စား၍ စားအံ့ဟု အောက်၌ ဆိုအပ်ပြီးသော နည်းဖြင့်သာလျှင် ကြွက် တို့၏အနီး၌ နေ၏။

ထိုအခါ မြေခွေးကို ဘုရားလောင်းသည် အစာရှာသွားသည်ရှိသော် မြင်၍ ဤမြေခွေးသည် သီလရှိသည် ဖြစ်လတ္တံ့ဟု အမှတ်ရှိသည်ဖြစ်၍ ချဉ်းကပ်၍ သင်သည် အဘယ်အမည်ရှိသနည်းဟု မေး၏၊ ငါသည် အဂ္ဂိကဘာရဒွါဇ အမည် ရှိ၏ဟု ဆို၏၊ ထိုနေ၁င်မှ အဘယ့်ကြောင့် ဤအရပ်သို့ လာသနည်းဟု မေး၏၊ အချင်း သင်တို့ကို စောင့်ရှောက်အံ့သောငှါ လာ၏ဟု ဆို၏၊ ငါတို့ကို အဘယ် သို့ပြု၍ စောင့်ရှောက်လတ္တံ့နည်းဟု ဆို၏၊ ငါသည် အမြီးရေတွက်ခြင်းမည်သည် ကိုသိ၏၊ သင်တို့သည် စောစောကလျှင် ထွက်၍ အစာရှာသွားသော ကာလ၌ ဤမျှရှိကုန်၏ဟု ရေတွက်၍ တဖန် ပြန်သောကာလ၌လည်း ရေတွက်အံ့၊ ဤသို့ ညနံနက် ရေတွက်လျက် စောင့်ရှောက်အံ့ဟုဆို၏၊ ဦးရီး ထိုသို့တပြီးကား စောင့် လော့ဟု ဆို၏၊ ထိုမြေခွေးသည် ကောင်းပြီဟု ဝန်ခံ၍ ထွက်သော ကာလ၌ တကောင်, နှစ်ကောင်, သုံးကောင် အစရှိသည်ဖြင့် ရေတွက်၍ ပြန်လာသော ကာလ၌လည်း ထိုအတူလျှင် ရေတွက်၍ အလုံးစုံသော ကြွက်တို့၏ နောက်ဖြစ် သော ကြွက်ကိုဖမ်း၍ စား၏၊ ကြွင်းသောစကားသည် ရှေးဝတ္ထုနှင့် တူသလျှင်

ကတည်း၊ ဤ အဂ္ဂိကဘာရဒွါဇဇာတ်၌ကား ကြွက်မင်းသည် ပြန်၍တည်လျက် အိုအဂ္ဂိကဘာရဒွါဇ ကောင်းသောအကျင့်ရှိသည်၏ အဖြစ်အားဖြင့် သင်၏ထိပ်၌ ဤဦးစွန်းကို မထားအပ်၊ ဝမ်းဟူသော အကြောင်းကြောင့်ကား ထားအပ်၏ ဟု ဆိုလို၍—

၁၂၉။ နာယံ သိခါ ပုညဟေတု၊ ဃာသဟေတု အယံ သိခါ။
နာဂုဋ္ဌိဂဏန်[၁] ယာတိ၊ အလံ တေ ဟောတု အဂ္ဂိက။

ဟူသော ဤဂါထာကို ဆို၏။

အဂ္ဂိက၊ အဂ္ဂိက။ ပုညဟေတု၊ ကောင်းမှု ဟူသော အကြောင်းကြောင့်။ အယံ သိခါ၊ ဤဦးစွန်းကို။ န ဌပိတာ၊ မထားအပ်။ ဃာသဟေတု၊ အစာဟူသောအကြောင်းကြောင့်။ အယံ သိခါ၊ ဤဦးစွန်းကို။ ဌပိတာ၊ ထားအပ်၏။ အယံ မူသိကဂဏော၊ ဤကြွက်အပေါင်းသည်။ အင်္ဂုဋ္ဌိဂဏန်၊ အမြီး ရေတွက်ခြင်းသို့။ န ယာတိ၊ မရောက်။ တေ၊ သင်အား။ ဧတ္တာဝတာ၊ ဤမျှဖြင့်သာ၊ အလံ ဟောတု၊ တန်သည်ဖြစ်စေလော။

ကြွင်းသော စကားသည် ရှေးဝတ္ထုနှင့် တူသလျှင်ကတည်း။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ ဤရဟန်းသည် ထိုအခါ မြေခွေး ဖြစ်ဘူးပြီ၊ယခုအခါ ငါဘုရားသည် လျှင် ထိုအခါ ကြွက်မင်း ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[အလိမ်အဝါ၊ ခဏသာ၊ ကြာလာဘေးဖြစ် ဇိဝိန်ပစ်]

ကိုးခုတို၏ ပြည့်ကြောင်းဖြစ်သော အဂ္ဂိကဘာရဒွါဇဇာတ်သည် ပြီး၏။

---

## ၁၃၀—ကောသိယ ဇာတ်

### နာဟန်ဆောင်၍ သယောက်လင်ထားသော မိန်းမ၏အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညုမြတ်စွာဘုရားသည် "ယထာ ဝါစာ စ ဘုဉ္ဇဿု" အစရှိသော ဂါထာပုဒ်

---

၁၊ နဂုဋ္ဌဂဏန် (သီ၊ သျာ) နာဂုဋ္ဌဂဏန် (က)

ဖြင့် တန်ဆာဆင်အပ်သော ဤကောသိယဇာတ်ကို ဇေတဝန် ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ်၌ "သာဝတ္ထိပြည်၌ တယောက်သော မာတုဂါမ"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုပုဏ္ဏေးမသည် တယောက်သော သဒ္ဓါခြင်းနှင့် ပြည့်စုံသောသီတင်းသည် ဖြစ်သော ပုဏ္ဏား၏မယား ပုဏ္ဏေးမဖြစ်သတတ်၊ ထိုပုဏ္ဏေးမသည် သီလမရှိ၊ ယုတ်မာသော အကျင့်ရှိ၏၊ ညဉ့်၌ လွန်ကျူးသော အကျင့်ကိုကျင့်၏၊နေ့အခါ၌ တစုံတခုသောအမှုကိုမပြုမူ၍ နာဟန်ကိုပြု၍ညည်းညူလျက်အိပ်၏၊ထိုအခါ ထိုပုဏ္ဏေးမအား ပုဏ္ဏားသည် ရှင်မ ရှင်မအားအဘယ်မချမ်းသာခြင်းသည် ဖြစ်သနည်းဟု မေး၏၊ ငါ့အား လေသည် ထိုးကျင့်၏ဟု ဆို၏၊ ထိုသို့ လေထိုးကျင့်သည်ရှိသော်အဘယ်ကိုရခြင်းငှါသင့်သနည်းဟုမေး၏၊ သိမ်မွေ့သော ပြေပြစ်ကုန်သော မြတ်ကုန်သော ယာဂု, ထမင်း, ဆီ အစရှိသည်တို့ကို ရခြင်းငှါ သင့်၏ဟု ဆို၏၊ ပုဏ္ဏားသည် အကြင် အကြင် အာဟာရကို ပုဏ္ဏေးမသည် အလိုရှိ၏၊ ထိုထိုအာဟာရကိုဆောင်၍ပေး၏၊ ကျွန်ကဲ့သို့အလုံးစုံသော ကိစ္စကို ပြု၏၊ ထိုပုဏ္ဏေးမသည်ကား ပုဏ္ဏား၏ အိမ်သို့ ဝင်သောကာလ၌ အိပ်၏၊ အပသို့ ထွက်သောကာလ၌ သယောက်လင်တို့နှင့် တကွ ကာလကို လွန်စေ၏။

ထိုအခါ ပုဏ္ဏားသည် ဤပုဏ္ဏေးမ၏ကိုယ်၌ ထိုးကျင့်ကုန်သော လေတို့၏ အဆုံးသည်မထင်ဟုနှလုံးသွင်း၍ တနေ့သ၌နံ့သာအစရှိသည်တို့ကိုယူ၍ ဇေတဝန် ကျောင်းတော်သို့သွား၍ မြတ်စွာဘုရားကို ပူဇော်ရှိခိုး၍ တင့်အပ်လျောက်ပတ်သော အရပ်၌နေ၏၊ ပုဏ္ဏား အဘယ့်ကြောင့် မထင်သနည်းဟု မိန့်တော်မူသည် ရှိသော် အရှင်ဘုရား အကျွန်ုပ်၏ ပုဏ္ဏေးမ၏ကိုယ်၌လေတို့သည် ထိုးကျင့်ကုန်၏၊ ထိုအကျွန်ုပ်သည် ထိုပုဏ္ဏေးမဘို့ ထောပတ်,ဆီ အစရှိသည်တို့ကိုရင်း,မွန်မြတ်ကုန်သော ဘောဇဉ်တို့ကိုရင်း ရှာရ၏၊ ထိုပုဏ္ဏေးမ၏ ကိုယ်သည်လည်း အထူးသဖြင့် ကြည်လင်သောအဆင်း,အသားအရေ ရှိသည်ဖြစ်၏၊ လေနာ၏အဆုံးသည်ကား မထင်၊ အကျွန်ုပ်သည် ထိုပုဏ္ဏေးမကို လုပ်ကျွေးရသည်ဖြစ်၍လျှင် အထံတော်သို့ လာခြင်း၏ အခွင့်ကို မရဟု လျှောက်၏၊ မြတ်စွာဘုရားသည် ပုဏ္ဏေးမ၏ ယုတ်မာသော အဖြစ်ကို သိတော်မူ၍ ပုဏ္ဏား ဤသို့အိပ်သော မာတုဂါမ၏ ရောဂါသည် မငြိမ်းသည်ရှိသော် ဆေးကို ပြုခြင်းငှါ သင့်၏ဟု ရှေး၌လည်း

သင့်အား ပညာရှိတို့သည် ဆိုအပ်သောစကားကို ဘဝဖုံးလွှမ်းသည် ဖြစ်သော ကြောင့် သင်မမှတ်နိုင်၊ဤသို့ မိန့်ခတော်မူ၍ ထိုပုဏ္ဏားသည်တောင်းပန်အပ်သည် ဖြစ်၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုလတ်သည်ရှိသော် ဘုရားလောင်းသည် ပုဏ္ဏားသူကြွယ်မျိုး၌ ဖြစ်၍ တက္ကသိုလ်ပြည်၌ အလုံးစုံသော အတတ်တို့ကို သင်၍ ဗာရာဏသီပြည်၌ ဒိသာပါမောက္ခဆရာဖြစ်၏၊ တရာ့တပါးကုန်သော မင်းနေပြည်တို့မှ မင်းသား ပုဏ္ဏားသားတို့သည် များသောအားဖြင့် ထိုဘုရားလောင်း အထံ၌ အတတ်သင်ကုန်၏၊ ထိုအခါ တယောက်သော ဇနပုဒ်၌နေသော ပုဏ္ဏားသည် ဘုရားလောင်း၏ အထံ၌ ဗေဒင်သုံးပုံတို့ကိုရင်း, တဆယ့်ရှစ်ပါးသော အတတ်တို့ကိုရင်း သင်၍ ဗာရာဏသီပြည်၌လျှင် ဥစ္စာကို ဖြစ်စေ၍ နေ့တိုင်း နေ့တိုင်း နှစ်ကြိမ် သုံးကြိမ် ဘုရားလောင်းအထံသို့ လာ၏၊ ထိုပုဏ္ဏား၏ ပုဏ္ဏေးမသည် သီလမရှိသည်ဖြစ်၍ ယုတ်မာသော အကျင့်ရှိသည် ဖြစ်၏။

ဤသို့ အစရှိကုန်သော အလုံးစုံသော စကားသည် ပစ္စုပ္ပန်ဝတ္ထုနှင့် တူသလျှင်ကတည်း။

ဘုရားလောင်းသည်ကား ဤသို့သော အကြောင်းကြောင့် အဆုံးအမကို ခံလို၍ လာအံ့သော၄ါ အခွင့်ကို မရဟု ဆိုသည်ရှိသော် ထိုပုဏ္ဏေးမယ်သည် ဤပုဏ္ဏားကို လှည့်စား၍ အိပ်၏ဟု သိ၍ ထိုပုဏ္ဏေးမ၏ ရောဂါအားလျော်သော ဆေးကို ကြားအံ့ဆို၍ အမောင်သည် ဤနေ့မှစ၍ ထောပတ်အရသာ နို့ချည်အရသာ အစရှိသည်တို့ကိုမပေးလင့်၊ နွားကျင်ငယ်၌ ငါးပါးကုန်သော အရွက်တို့ကိုရင်း, စိုသော သစ်သီးအစရှိသည်တို့ကိုရင်း ထည့်၍ ထောင်း၍ အသစ်ဖြစ်သော ကြေးနီခွက်၌ထည့်၍ ကြေးနီနံ့ကို ယူစေ၍ ကြိုးကိုရင်း လွန်ကိုရင်း သစ်ခက်ကိုရင်းကိုင်၍ ဤဆေးသည်သင်၏ရောဂါအား လျော်သောဆေးတည်း၊ ဤဆေးကိုမူလည်း သောက်လော့၊ ထ၍ သင်သည် စားသော ထမင်းအား လျော်သော အမှုကိုမူလည်း ပြုလော့၊ ဤသို့ ဆိုလေလော့၊ ဆေးကို အကယ်၍ မသောက်အံ့၊ ထိုပုဏ္ဏေးမကို ကြိုးဖြင့်ရင်း, လွန်ဖြင့်ရင်း, သစ်ခက်ဖြင့်ရင်း ငင်၍ ရိုက်ခတ်ကောင်းသော အရာ၌ ရိုက်ခတ်၍ ဆံတို့၌ ဆွဲငင်၍ တတောင်ဖြင့်

ထောင်းလေလော့၊ ထိုပုဏ္ဏေးမသည် ထိုခဏ၌လျှင် ထ၍ အမှုကိုပြုလတ္တံ့ဟု ဆိုလိုက်၏၊ ထိုပုဏ္ဏားသည် ကောင်းပြီဟု ဝန်ခံ၍ ဆရာမှာလိုက်သော နည်းဖြင့်လျှင် ဆေးကိုပြု၍ ရှင်မ ဤဆေးကိုသောက်လော့ဟု ဆို၏၊ သင့်အား အဘယ်သူသည် ဤဆေးကို ပြောသနည်းဟုမေး၏၊ ရှင်မ ဆရာပြော၏ဟုဆို၏၊ ထိုဆေးကို ပယ်ဘိလော့ မသောက်အံ့ဟု ဆို၏၊ လုလင်သည်မိမိ၏အလိုအားဖြင့် မသောက်လတ္တံ့ဟု ကြိုးကိုကိုင်၍ မိမိရောဂါအား လျောက်ပတ်သော ဆေးကို မူလည်းသောက်လော့၊ ယာဂုထမင်းအားလျော်သော အမှုကိုလည်း ပြုလော့ဟု ဆိုလို၍—

၁၃၀၊ ယထာ ဝါစာ စ ဘုဉ္ဇဿု၊ ယထာဘုတ္တဉ္စ ဗျာဟရ။
ဥဘယံ တေ န သမေတိ၊ ဝါစာ ဘုတ္တဉ္စ ကောသိယေ။

ဟူသော ဤဂါထာကို ဆို၏။

ကောသိယေ၊ ကောသိယ အနွယ်၌ဖြစ်သော ပုဏ္ဏေးမ။ ယထာ ဝါစာ စ၊ ဆိုသော စကားနှင့် အညီလည်း။ ဘုဉ္ဇဿု၊ စားလော့။ ယထာဘုတ္တဉ္စ၊ စားသည်နှင့် ညီစွာလည်း။ ဗျာဟရ၊ အိမ်၌ အမှုကိုပြုလော့။ တေ၊ သင်၏။ ဝါစာ စ၊ စကားသည်ရင်း။ ဘုတ္တဉ္စ၊ အစားသည်ရင်း။ ဥဘယံ၊ နှစ်ပါးစုံသည်။ န သမေတိ၊ မညီ။

ဤသို့ ဆိုသည်ရှိသော် ကောသိယပုဏ္ဏား၏သမီးသည် ဆရာသည်ကြားသော ထာလမှစ၍ ငါသည် ဤပုဏ္ဏားကို လှည့်စားခြင်းငှါ မဘတ်နိုင်၊ ထ၍ အမှုကို ပြုအံ့ဟု ထ၍ အမှုကိုပြု၏၊ ဆရာသည် ငါ၏ သီလမရှိသောအဖြစ်ကို သိအပ်ပြီ၊ ယခု ဤနေ့မှစ၍ ဤသို့ သဘောရှိသောအမှုကို ပြုအံ့သော်ငှါ မတတ်ကောင်းဟု ဆရာသည် ကဲ့ရဲ့အပ်သည်မှ ကြောက်သောကြောင့် မကောင်းမှုကိုလည်း ကြဉ်၍ သီလရှိသည် ဖြစ်၏၊ ထိုပုဏ္ဏေးမသည်လည်း မြတ်စွာဘုရားသည် သိတော်မူ အပ်သည် ဖြစ်သတတ်ဟု မြတ်စွာဘုရား၌ ရိုသေသဖြင့် တဖန် လွန်ကျူးသော အကျင့်ကို မကျင့်ခြင်းကို ပြု၏။

**ဇာတ်ပေါင်း**....သဗ္ဗညုမြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ လင်မယားတို့သည် ထိုအခါ လင်မယား ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ဆရာ ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[မာယာဟန်ဆောင်၊ သယောက်ထောင်၊ အနှောင် မထားရာ]

ဆယ်ခုတို့၏ပြည့်ကြောင်းဖြစ်သော ကောသိယဇာတ်သည် ပြီး၏။

---

## ၁၄—အသမ္ပဒါနဝဂ် ၁၃၁—အသမ္ပဒါနဇာတ်

### ကျေးဇူးကို မသိတတ်သော သူဌေး အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**...နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "အသမ္ပဒါနေ နိတရိတာရဿ" အစရှိသော ဂါထာပုဒ်ဖြင့်တန်ဆာဆင်အပ်သော ဤအသမ္ပဒါနဇာတ်ကို ဝေဠုဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "ဒေဝဒတ်"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုစကားကို ချဲ့ဦးအံ့၊ ထိုအခါ ရဟန်းတို့သည် တရားသဘင်၌ ငါ့သျှင်တို့ ဒေဝဒတ်သည် ကျေးဇူးကိုမသိတတ်၊ မြတ်စွာဘုရား၏ ကျေးဇူးတော်ကို မသိဟု စကားကို ဖြစ်စေကုန်၏၊ မြတ်စွာဘုရားသည် လာတော်မူလတ်၍ ရဟန်းတို့ ယခု ငါလာတော်မူသော အခါ၌ အဘယ်မည်သော စကားဖြင့် စည်းဝေးကြကုန်သနည်းဟု မေးတော်မူလတ်၍ ဤမည်သော စကားဖြင့် စည်းဝေးပါကုန်၏ဟု နားတော် လျှောက်သည်ရှိသော် ရဟန်းတို့ ယခုအခါ၌သာလျှင် ဒေဝဒတ်သည် ကျေးဇူးကို မသိတတ်သည် မဟုတ်သေး၊ ရှေး၌လည်း ကျေးဇူးကို မသိတတ်သည် သာလျှင်တည်းဟု မိန့်တော်မူ၍ ထိုရဟန်းတို့သည် တောင်းပန်အပ်သည်ဖြစ်၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသော အခါ မဂဓတိုင်း ရာဇဂြိုဟ် ပြည်၌ တယောက်သော မဂဓရာဇ်မင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် ထိုမင်း၏လျှင် ကုဋေရှစ်ဆယ်ကြွယ်ဝသော သူဌေးဖြစ်၏၊ အမည်အားဖြင့် သင်္ခ ဟူသော အမည်ရှိ၏၊ဗာရာဏသီပြည်၌ ကုဋေရှစ်ဆယ်ကြွယ်ဝသည်လျှင်ဖြစ်သော ပီဠိယမည်သော သူဌေးသည် ဖြစ်၏၊ ထိုနှစ်ယောက်ကုန်သော သူဌေးတို့သည်

အချင်းချင်း အဆွေခင်ပွန်း ဖြစ်ကြကုန်၏၊ ထိုသူဌေးတို့တွင် ဗာရာဏသီပြည်၌ ပိဋ္ဌိယသူဌေးအား တစုံတခုသော အကြောင်းကြောင့် ကြီးစွာသော ဘေးသည် ဖြစ်၏၊ အလုံးစုံသော ဥစ္စာသည် ယုတ်၏၊ ထိုပိဋ္ဌိယသူဌေးသည် ဆင်းရဲသည် ကိုးကွယ်ရာ မရှိသည်ဖြစ်၍ မယားကိုခေါ်၍ သခ်သူဌေးကို အကြောင်းပြု၍ ဗာရာဏသီပြည်မှ ခြေဖြင့်သာလျှင် ထွက်ခဲ့၍ ရာဇဂြိုဟ်ပြည်၌ ထိုသခ်သူဌေး အိမ်သို့ သွား၏၊ ထိုသခ်သူဌေးသည် ထိုပိဋ္ဌိယသူဌေးကိုမြင်၍ ငါ၏ အဆွေခင် ပွန်းသည် လာ၏ဟု နှစ်သက်၍ ပူဇော်ခြင်း မြတ်နိုးခြင်းကို ပြု၍ နှစ်ရက်သုံးရက် ကို လွန်စေ၍ တနေ့သ၌ အဆွေ အဘယ်ကိစ္စကြောင့် ဤအရပ်သို့ လာသနည်း ဟု မေး၏၊ အဆွေ ငါ့အား ဘေးဖြစ်၏၊ အလုံးစုံသော ဥစ္စာသည်ကုန်၏၊ ငါ့ အား ထောက်ပံ့ပါလောဟု ဆို၏၊ အဆွေ ကောင်းပြီ မကြောက်လင့်ဟု ဆို၍ ဘဏ္ဍာဥစ္စာကို အလယ်၌ခွဲ၍ ထက်ဝက်လျှင် ပေး၏။

ထိုပိဋ္ဌိယသူဌေးသည် ထိုထိုစည်းစိမ်ကို ယူ၍ ဗာရာဏသီသို့သွား၍ နေခြင်း ကိုပြု၏၊ နောက်အဘို့၌ သခ်သူဌေးအားလည်း ထိုသို့ သဘောရှိသည်သာလျှင် ဖြစ်သောဘေးသည် ဖြစ်၏၊ ထိုသခ်သူဌေးသည် မိမိ၏ ကိုးကွယ်ရာကို စုံစမ်းသည် ရှိသော် ငါသည် အဆွေခင်ပွန်းအား ကျေးဇူးပြုအပ်၏၊ ထက်ဝက်သော စည်းစိမ်ကို ပေးအပ်၏၊ ထိုသူဌေးသည် ငါ့ကိုမြင်၍ မစွန့်လတ္တံ့၊ ထိုသူဌေး၏ အထံသို့ သွားအံ့ဟု ကြံပြီးသော် မယားကို ခေါ်၍ ခြေဖြင့်သာလျှင် ဗာရာဏသီ သို့သွား၍ မယားကို ရှင်မ သင့်အား ငါနှင့်တကွ ခရီးအလယ်၌ သွားခြင်းမည် သည် မသင့်၊ ငါသည် စေအပ်သော ယာဉ်ကိုစီး၍ များစွာသော အခြံအရံဖြင့် နောက်မှ လာရလတ္တံ့၊ အကြင်မျှလောက် ယာဉ်ကို မစေသေး၊ ထိုမျှလောက် ဤစရပ်၌ နေလော့ဟု ဆို၍ မယားကို စရပ်၌ ထားခဲ့၍ မိမိသည် မြို့သို့ဝင်၍ သူဌေးအိမ်သို့ သွား၍ ရာဇဂြိုဟ်ပြည်မှ သင်တို့၏ အဆွေခင်ပွန်းဖြစ်သော သခ် မည်သော သူဌေးသည် လာ၏ဟု ကြားစေ၏၊ ထိုပိဋ္ဌိယသူဌေးသည် လာစေ သတည်းဟု ခေါ်စေ၍ ထိုသခ်သူဌေးကို မြင်၍ နေရာမှမထ၊ ပျူငှာ လောက ဝတ်ကို မပြု၊ သက်သက် အဘယ်အကျိုးငှါ လာသနည်းဟု မေး၏၊ သင်တို့ကို ဖူးမြင်အံ့သောငှါ လာ၏ဟု ဆို၏၊ နေရာကို သင်သည် အဘယ်မှာ ယူအပ်

သနည်းဟု မေး၏၊ သူဌေး ရှေးဦးစွာ နေရာအရပ်သည် မရှိသေး၊ သူဌေးမကို လည်း စရပ်၌ ထားခဲ့၍လျှင် လာ၏ဟု ဆို၏၊ ဤအိမ်၌ သင်တို့အား နေရာအရပ် သည် မရှိ၊ ရိက္ခာကိုယူ၍ တခုသောအရပ်၌ ချက်စားကုန်၍ သွားကြကုန်လော့၊ တဖန် ငါတို့၏ အိမ်သို့ မဝင်လာကြကုန်လင့်ဟုဆို၍ ငါ့အဆွေခင်ပွန်း၏ ပုဆိုး စွန်း၌ ဖွဲ၍ တတုမ္ဗမျှသော ဖွဲကို ပေးလော့ဟု ကျွန်ကိုဆိုစေ၏။

ထိုနေ့၌ ပိဠိယသူဌေးသည် နီသော သလေးတို့ကိုခါ၍ လှေ့၍ လှည်း တထောင်တိုက်မျှ ကျီကို ပြည့်စေ၏၊ ကုဋေလေးဆယ်သော ဥစ္စာကိုယူ၍ လာ သော ကျေးဇူးကိုမသိသော ခိုးသူကြီးသည် တတုမ္ဗမျှသောဖွဲကို အဆွေခင်ပွန်း အား ပေးစေ၏၊ ကျွန်သည် တောင်း၌ တတုမ္ဗမျှသောဖွဲကို ထည့်၍ ဘုရား လောင်း၏အထံသို့ သွား၏၊ ဘုရားလောင်းသည် ဤသူယုတ်သည် ငါ့အထံမှ ကုဋေလေးဆယ်သော ဥစ္စာကိုရ၍ ယခုအခါ၌ တတုမ္ဗမျှသော ဖွဲကိုပေးစေ၏၊ ယူရအံ့လော မယူရအံ့လောဟု ကြံ၏၊ ထိုသခ်သူဌေးအား ဤသို့သော အကြံ သည် ဖြစ်၏၊ ဤသူဌေးသည် ရှေးဦးစွာ ကျေးဇူးကိုမသိ၊ အဆွေခင်ပွန်းအား ပြစ်မှားသည်ကို ပြုခြင်း အဆွေခင်ပွန်း ဖျက်ဆီးခြင်း ပြုဘူးသော ကျေးဇူးကို ဖျက်ခြင်းအားဖြင့် ငါနှင့်တကွ ချစ်ခြင်းကို ဖျက်၏၊ ငါသည် ထိုပိဠိယသူဌေး သည် ပေးအပ်သော တတုမ္ဗမျှသော ဖွဲကို ယုတ်သည်၏ အဖြစ်ကြောင့် အကယ် ၍ မယူအံ့၊ ငါသည် ချစ်သည်၏အဖြစ်ကို ဖျက်အံ့၊ အလွန်မိုက်ကုန်သော သူတို့ သည် အနည်းငယ်ကို ရကုန်၍ မယူကုန်ဘဲ အဆွေခင်ပွန်းကို ဖျက်ဆီးကုန်၏၊ ငါသည်ကား ထိုပိဠိယသူဌေးသည် ပေးအပ်သော တတုမ္ဗမျှသော ဖွဲကိုယူ၍ ငါ၏ အစွမ်းအားဖြင့် ချစ်သည်၏ အဖြစ်ကို တည်စေအံ့၊ ဤသို့သော အကြံ သည် ဖြစ်၏၊ ထိုသခ်သူဌေးသည် တတုမ္ဗမျှသော ဖွဲကို ပုဆိုးစွန်း၌ဖွဲ၍ ပြာသာဒ် မှ သက်ခဲ့၍ စရပ်သို့ လာ၏။

ထိုအခါ ထိုသခ်သူဌေးကို မယားသည် အရှင် အရှင်သည် အဘယ်ကို ရခဲ့ သနည်းဟု မေး၏၊ ရှင်မ ငါတို့၏ အဆွေခင်ပွန်းဖြစ်သော ပိဠိယ သူဌေးသည် တတုမ္ဗမျှသော ဖွဲကိုပေး၍ ငါတို့ကို ယနေ့လျှင် လွှတ်လိုက်၏ဟု ဆို၏၊ ထိုသူဌေး မသည် အရှင် အဘယ်အကျိုးငှါ ယူခဲ့သနည်း၊ ဤဖွဲသည် ကုဋေလေးဆယ်သော ဥစ္စာအား လျော်ကပတ်သလောဟုဆို၍ ငိုအံ့သောငှါ အားထုတ်၏၊ ဘုရား



၅၅၀-ပ၊ အသမ္ပဒါနဇာတ်

ကုဋေလေးဆယ် ကျေးဇူးရှင်အား ဖွဲတစ်ပြည်ပြန်ပေးနေပုံ

လောင်းသည် ရှင်မ မငိုလင့်၊ ငါသည် ထိုသူဌေးနှင့်တကွ အချစ်ပျက်အံ့သော အဖြစ်မှ ကြောက်လေသည်၏ အဖြစ်ကြောင့် ငါ၏အစွမ်းအားဖြင့် ချစ်သည်၏ အဖြစ်ကို တည်စိမ့်သောငှါ ယူ၏၊ သင်သည် အဘယ့်ကြောင့် စိုးရိမ်သနည်းဟု ဆိုလို၍—

၁၃၁၊ အသမ္ဗဒါနေနိတရီတရဿ၊ ဗာလဿ မိတ္တာနိ ကလီ ဘဝန္တိ။
တသ္မာ ဟရာမိ ဘုသံ အစ္စမာနံ၊ မာ မေ မိတ္တိ ဇီယိတ္ထ သဿတာယံ။

ဟူသော ဤဂါထာကို ဆို၏။

အသမ္ဗဒါနေန၊ မယူခြင်းကြောင့်။ ဣတရီတရဿ၊ အမှတ်မဲ့ယုတ်မာသော။ ဗာလဿ၊ သူမိုက်အား။ မိတ္တာနိ၊ အဆွေခင်ပွန်းတို့သည်။ ကလီ၊ ပျက်စီးကုန်သည်။ ဘဝန္တိ၊ ဖြစ်ကုန်၏။ တသ္မာ၊ ထို့ကြောင့်။ မေ၊ ငါ့အား။ မိတ္တိ၊ ချစ်ခြင်းသည်။ မာ ဇီယိတ္ထ၊ မပျက်စီးစေသတည်း။ အယံ၊ ဤချစ်ခြင်းသည်။ သဿတော၊ မြဲစေသတည်းဟု။ အစ္စမာနံ၊ တတုမ္ဗမျှသော။ ဘုသံ၊ ဖွဲကို။ ဟရာမိ၊ ယူခဲ့၏။

ဤသို့ ဆိုသော်လည်း သူဌေးမယားသည် ငိုသည်သာလျှင်တည်း၊ ထိုခဏ၌ သခ်သူဌေးသည် ပိဋ္ဌိယသူဌေးအား ပေးအပ်သော အမှုလုပ်ကျွန်သည် စရပ်တံခါးဖြင့် လာသည်ရှိသော် သူဌေးမယား၏ ငိုသံကို ကြား၍ စရပ်သို့ဝင်၍ မိမိ၏သခင်တို့ကို မြင်၍ ခြေတို့၌ဝပ်၍ ငိုလျက် သခင်တို့ ဤအရပ်သို့ အဘယ် အကျိုးငှါ လာကြကုန်သနည်းဟု မေး၏၊ သူဌေးသည် အလုံးစုံသော အကြောင်းကို ကြား၏၊ အမှုလုပ်ကျွန်သည် သခင်တို့ ဤသို့ဖြစ်စေ မကြံကြကုန်လင့်ဟု နှစ်ယောက်ကုန်သော သူတို့ကို နှစ်သိမ့်စေ၍ မိမိအိမ်သို့ ဆောင်၍ နံ့သာရေဖြင့် ရေချိုးစေ၍ စားစေ၍ သင်တို့၏ သခင်တို့သည် လာကြကုန်၏ဟု ကြွင်းသောသူတို့ကိုလည်း စည်းဝေးစေ၍ နှစ်ရက် သုံးရက်ကိုလွန်စေ၍ ခပ်သိမ်းကုန်သော ကျွန်တို့ကိုယူ၍ မင်းယင်ပြင်သို့ သွား၍ ဟစ်ကြွေးခြင်းကို ပြုကုန်၏၊ မင်းသည်လည်း ထိုသူတို့ကို ခေါ်စေ၍ ဤ ဟစ်ကြွေးခြင်းသည် အသို့နည်းဟု မေး၏၊ထိုကျွန်တို့သည်လည်း အလုံးစုံသောအကြောင်းကို မင်းအားကြားကုန်၏၊

မင်းသည် ထိုကျွန်တို့၏ စကားကိုကြားလျှင် နှစ်ယောက်ကုန်သော သူဌေးတို့ကို ခေါ်စေ၍ သခ်သူဌေးကို သူဌေးကြီး သင်သည် ပိင်္ဂိယသူဌေးအား ကုဋေလေးဆယ်သော ဥစ္စာတို့ကို ပေးသတတ် ဟူသည် မှန်သလောဟု မေး၏။

မြတ်သောမင်းကြီး မှန်ပါ၏၊ အကျွန်ုပ်ကိုကြံ၍ ရာဇဂြိုဟ်ပြည်သို့ လာသော အကျွန်ုပ်၏ အဆွေခင်ပွန်းဖြစ်သောသူဌေးအား သက်သက်ဥစ္စာကိုသာ ပေးအပ်သည်မဟုတ်သေး၊ အလုံးစုံသော အသက်ရှိသော စည်းစိမ်, အသက် မရှိသော စည်းစိမ်ကို နှစ်စုတို့ကိုပြု၍ ညီမျှသော အဘို့ကိုပေး၏ဟု လျှောက်၏၊ မင်းသည် ထိုသခ်သူဌေး ဆိုသော စကားသည် မှန်သလောဟု ပိင်္ဂိယသူဌေးကို မေး၏၊ ရှင်မင်းကြီး မှန်ပေ၏ဟု ဆို၏၊ သင့်ကိုလျှင် ကြံ၍ လာသော သခ်သူဌေးအား သင်သည်ပြုအပ်သော တစုံတခုသောပူဇော်ခြင်းသည်ရင်း,မြတ်နိုးခြင်းသည်ရင်း ရှိသလောဟု မေး၏၊ ထိုပိင်္ဂိယသူဌေးသည် ဆိတ်ဆိတ်နေ၏၊ သင်သည် ထိုသခ်သူဌေး၏ ပုဆိုးစွန်း၌ထည့်၍ ပေးအပ်သော တတုမ္ဘမျှသောဖွဲသည် ရှိသလောဟု မေး၏၊ ထိုစကားကို ကြား၍ ဆိတ်ဆိတ်နေသည် သာလျှင် ဖြစ်၏၊ မင်းသည် အသို့ ပြုအပ်သနည်းဟု အမတ်တို့နှင့်တကွတိုင်ပင်၍ ဆိုပိင်္ဂိယသူဌေးကိုရေရွတ်၍ သွားကြကုန်၊ ပိင်္ဂိယသူဌေးအိမ်၌ အလုံးစုံသော စည်းစိမ်ကို သခ်သူဌေးအား ပေးကြကုန်လောဟုဆို၏၊ဘုရားလောင်းသည် မြတ်သောမင်းကြီး အကျွန်ုပ်အား သူတပါးဥစ္စာဖြင့် အလိုမရှိ၊ အကျွန်ုပ်သည် ပေးအပ်သော ဥစ္စာကိုသာလျှင် ပေးစေကုန်လောဟု ဆို၏၊ မင်းသည် ဘုရားလောင်း၏ ဥစ္စာကို ပေးစေ၏၊ ဘုရားလောင်းသည် အလုံးစုံသော မိမိသည် ပေးအပ်သော စည်းစိမ်ကိုရ၍ ကျွန်အပေါင်း ခြံရံလျက် ရာဇဂြိုဟ်ပြည်သို့လျှင်သွား၍ ဥစ္စာကိုဖြစ်စေ၍ အလှူ အစရှိကုန်သော ကောင်းမှုတို့ကိုပြု၍ ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ ဒေဝဒတ်သည် ထိုအခါ ပိင်္ဂိယသူဌေး ဖြစ်ဘူးပြီ၊ ယခုအခါငါဘုရားသည်လျှင် ထိုအခါ သခ်သူဌေး ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[ကျေးဇူးမသိ၊ လူတိုးတိ၊ ဒဏ်ထိ လေတော့တာ]

ရှေးဦးစွာသော အသမ္ပဒါနဇာတ်သည် ပြီး၏။

# ၁၃၂—ဘီရုကဇာတ်

## ကိလေသာဖြင့် ဖြားယောင်းသည်ကို စောင်းလှည့်၍ မကြည့်ခြင်းကြောင့် မင်းအဖြစ်သို့ ရောက်သော အကြောင်း

**ပဉ္စဂရုပွနိဝတ္တု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "ကုသလူပဒေသေ ဓိတိယာ ဒဠှာယ စ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤ ဘီရုကဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "အဇပါလညောင်ပင်ရင်း၌ မာရ်မင်းသမီးတို့၏ ဖြားယောင်းသည်"ကို အကြောင်းပြု၍ ဤသုတ္တန်ကို ဟောတော်မူ၏၊ ထိုစကားကို ချဲ့ဦးအံ့၊ မြတ်စွာဘုရားသည် အစမှစ၍—

ဒဒ္ဒလ္လမာနာ အာဂဉ္ဆုံ၊ တဏှာ စ အရတီ ရဂါ။
တာ တတ္ထ ပနုဒီ သတ္ထာ၊ တူလံ ဘဋ္ဌံဝ မာလုတော။

ဟူ၍ ဟောတော်မူ၏။

တတ္ထ၊ ထိုအဇပါလ ညောင်ပင်ရင်း၌။ တဏှာ စ၊ တဏှာမည်သောနတ်သမီးသည်ရင်း။ အရတီ စ၊ အရတီမည်သော နတ်သမီးသည်ရင်း။ ရာဂါ စ၊ ရာဂါမည်သော နတ်သမီးသည်ရင်း။ ဒဒ္ဒလ္လမာနာ၊ ထွန်းပလျက်။ အာဂဉ္ဆုံ၊ လာကုန်၏။ မာလုတော၊ လေသည်။ ဘဋ္ဌံ၊ ကျသော။ တူလံ၊ လဲဝါဂွမ်းကို။ ပနုဒီ ဣဝ၊ လွင့်သကဲ့သို့။ သတ္ထာ၊ မြတ်စွာဘုရားသည်။ တာ၊ ထိုမာရ်မင်းသမီးသုံးယောက်တို့ကို။ ပနုဒီ၊ ပယ်တော်မူ၏။

ဤသို့ အဆုံးတိုင်အောင် ထိုသုတ္တန်ကို ဟောတော်မူသော ကာလ၌ တရားသဘင်၌ စည်းဝေးကုန်သော ရဟန်းတို့သည် ငါ့သျှင်တို့ မြတ်စွာဘုရားသည် မာရ်မင်းသမီးတို့သည် များစွာကုန်သော နတ်၌ဖြစ်ကုန်သော အဆင်းတို့ကို ဖန်ဆင်း၍ ဖြားယောင်းအံ့သောငှါ ကပ်လာကုန်သည်တို့ကို မျက်စိတော်တို့ကိုလည်း ဖွင့်၍ ကြည့်တော်မမူ၊ မြတ်စွာဘုရားတို့၏ အစွမ်းတော်မည်သည် အံ့ဘွယ်ရှိစွ၊ ဤသို့ စကားကို ဖြစ်စေကုန်၏၊ မြတ်စွာဘုရားသည် လာတော်မူလတ်၍ ရဟန်းတို့ ယခုအခါ၌ အဘယ်မည်သောစကားဖြင့် စည်းဝေးကြကုန်သနည်းဟု မေးတော်မူလတ်၍ ဤမည်သောစကားဖြင့် စည်းဝေးပါကုန်သည် ဟု နား

တော် လျှောက်သည်ရှိသော် ရဟန်းတို့ ယခုအခါ၌ ခပ်သိမ်းသော အာသဝေါ တို့ကို ကုန်စေ၍ သဗ္ဗညုအဖြစ်သို့ ရောက်သော ငါဘုရားသည် မာရ်မင်းသမီးတို့ ကို မကြည့်ခြင်းမည်သည်ကား အံ့ဘွယ်မရှိသေး၊ ငါသည် ရှေး၌ သဗ္ဗညုတဉာဏ် ကိုရှာစဉ် ကိလေသာနှင့်ယှဉ်သော ကာလ၌လည်း ဖန်ဆင်းအပ်သော နတ်၌ ဖြစ်သော အဆင်းကို ဣန္ဒြေတို့ကိုဖျက်၍ ကိလေသာ၏ အစွမ်းအားဖြင့် မကြည့် မူ၍သာလျှင် သွား၍ မြတ်သောမင်းအဖြစ်သို့ ရောက်ဘူးပြီဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည် သောမင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် အစ်ကို တထောင်တို့ ၏ ညီအငယ် ဖြစ်၏။

> ဤသို့ အစရှိသော အလုံးစုံသော စကားကို အောက် တေလပတ္တ ဇာတ် * ၌ ဆိုအပ်ပြီးသော နည်းဖြင့်သာလျှင် ခွဲအပ်၏။

ထိုအခါ၌ကား တက္ကသိုလ်ပြည်၌ နေကုန်သော သူတို့သည် မြို့ပစရပ်၌ ဘုရားလောင်းသို့ ကပ်ပြီးသည်ရှိသော် တောင်းပန်၍ မင်းအဖြစ်ကို အပ်နှင်း၍ အဘိသိက်သွန်ခြင်းကို ပြု၍ တက္ကသိုလ်ပြည်၌ နေကုန်သော လူတို့သည် မြို့ကို လည်း နတ်ပြည်ကဲ့သို့ မင်း၏ နန်းတော်ကိုလည်း သိကြားနတ်မင်း၏ နန်း တော်ကဲ့သို့ တန်ဆာဆင်ကုန်၏၊ ထိုအခါ ဘုရားလောင်းသည် မြို့သို့ဝင်၍ မင်း ၏ နန်းတော်ဖြစ်သော ပြာသာဒ် မြတ်သော အပြင်၌ ကောင်းစွာဆောက်အပ် သော ထီးဖြူရှိသော မြတ်သော ရတနာပလ္လင်သို့ တက်၍ သိကြားနတ်မင်း၏ တင့်တယ်ခြင်းကဲ့သို့သော တင့်တယ်ခြင်းဖြင့် နေ၏၊ အမတ် ပုဏ္ဏား သူကြွယ် တို့သည်ရင်း မင်းသားတို့သည်ရင်း ခပ်သိမ်းသော တန်ဆာဖြင့် ဆင်ကုန်လျက် ခြံရံ၍ တည်ကုန်၏။

နတ်သမီးနှင့် တူကုန်သော ကခြင်း, သီခြင်း, တီးမှုတ်ခြင်း၌ လိမ္မာကုန်သော မြတ်သော တင့်တယ်ခြင်းနှင့် ပြည့်စုံကုန်သော တသောင်း ခြောက်ထောင် ကုန်သော ကချေသည် မိန်းမတို့သည် ကခြင်း, သီခြင်း, တီးမှုတ်ခြင်းတို့ကို

---

* ကေကနိပါတ် ၉၆-ဝတ္ထုတွင် ကြည့်ပါ။

ဖြစ်စေကုန်၏၊ သီချင်းသံ တီးမှုတ်သံဖြင့် မင်း၏နန်းတော်သည် မိုဃ်း၏ထစ်ကြိုး သံဖြင့် ပြည့်သော မဟာသမုဒ္ဒရာဝမ်းကဲ့သို့ တပြိုင်နက် တချက်တည်း အုတ်အုတ် ကျက်ကျက် ဖြစ်၏၊ ဘုရားလောင်းသည် မိမိ၏အသရေ တင့်တယ်ခြင်းအစုကို ကြည့်လျက်လျှင် ငါသည် ထိုဘီလူးမတို့သည် ဖန်ဆင်းအပ်သော နတ်၌ဖြစ် သောအဆင်းကို အကယ်၍ ကြည့်ငြားအံ့ အသက်ကုန်ခြင်းသို့ ရောက်သည် ဖြစ် ရာ၏၊ ဤတင့်တယ်ခြင်း အသရေအစုကို မမြင်ရရာ ပစ္စေကဗုဒ္ဓါ၏ အဆုံး အမ၌ တည်သည်၏ အဖြစ်ကြောင့် ငါသည် ဤမင်းအဖြစ်ကို ရအပ်၏ဟု ကြံ၏၊ ဤသို့ ကြံပြီး၍ ဥဒါန်းကို ကျူးလိုရကား—

၁၃၂၊ ကုသလူပဒေသေ ဓိတိယာ ဒဠှာယ စ၊
အနိဝတ္တိတတ္တာ ဘယဘီရုတာယ စ[၁] ။
န ရက္ခသီနံ ဝသမာဂမိမှသေ၊
သ သောတ္ထိဘာဝေါ မဟတာ ဘယေန မေ။

ဟူသော ဤဂါထာကို ဆို၏။

ကုသလူပဒေသေ၊ လိမ္မာကုန်သော အရှင်ပစ္စေကဗုဒ္ဓါတို့၏ အဆုံးအမ၌။ ဒဠှာယ၊ မြဲသောအားဖြင့်။ ဓိတိယာ စ၊ လုံ့လပြုခြင်းကြောင့်ရင်း။ ဘယဘီရု တာယ၊ စိတ်၏ထိတ်လန့်ခြင်း ကိုယ်၏တုန်လှုပ်ခြင်းဖြင့်။ အနိဝတ္တိတတ္တာ စ၊ မဆုတ်မနစ်သည်၏အဖြစ်ကြောင့်ရင်း။ ရက္ခသီနံ၊ ဘီလူးမတို့၏။ ဝသံ၊နိုင်ငံသို့။ န အာဂမိမှသေ၊ မလိုက်ကုန်။ မေ၊ ငါ့အား။ မဟတာ၊ကြီးစွာသော။ ဘယေ န၊ ဘေးမှ။ သ သောတ္ထိဘာဝေါ၊ ထိုချမ်းသာခြင်းသည်။ ဇာတော ဖြစ်၏။

ဤသို့ ဘုရားလောင်းသည် ဤဂါထာဖြင့် တရားဟော၍ တရားသဖြင့် မင်းပြု၍ အလှူအစရှိကုန်သော ကောင်းမှုတို့ကိုပြု၍ ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ တက္ကသိုလ်ပြည်သို့ သွား၍ မင်းအဖြစ် သို့ရောက်သော မင်းသား ဖြစ်ဘူးပြီဟု ဇာတ်ကိုပေါင်းတော်မူ၏။

[ ငြားဃောင်းကိလေ၊ မကြည့်ပေ၊ မသွေမင်းဖြစ် စည်းစိမ်သစ် ]

**နှစ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော ဘိရှကဇာတ်သည် ပြီး၏။**

---

၁၊ အဝတ္တိထတ္တာ ဘယဘီရုတာယ စ (သီ၊ သျာ၊ ဣ)

## ၁၃၃—ဃတာသနဇာတ်

### မလျောက်ပတ်သော နေရာမှ စွန့်ခွါပြောင်းအပ်သည်၏ အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "ခေမံ ယဟိံ" အစရှိသောဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤဃတာသနဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးနေတော်မူစဉ် "တယောက်သော ရဟန်း"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုစကားကို ချဲ့ဦးအံ့၊ ထိုရဟန်းသည် မြတ်စွာဘုရားအထံတော်၌ ကမ္မဋ္ဌာန်းကို ယူ၍ တခုသော ပစ္စန္တရစ် ရွာငယ်ကို အမှီပြု၍ တောကျောင်း၌ ဝါသို့ကပ်၏၊ ထိုရဟန်းအား ရှေးဦးစွာသော ကာလ၌လျှင် ဆွမ်းအလို့ငှါ ရွာသို့ဝင်စဉ် ကျောင်းကို မီးလောင်၏၊ ထိုရဟန်းသည် နေရာမရှိသည်၏ အဖြစ်ကြောင့် ပင်ပန်းသည်ဖြစ်၍ ဒါယကာတို့အား ကြား၏၊ ဒါယကာတို့သည် အရှင်ဘုရား ဤသို့ဖြစ်စေ ကျောင်းဆောက်ပါကုန်အံ့၊ ရှေးဦးစွာ ထွန်ကုန်အံ့၊ ရှေးဦးစွာ ကြဲကုန်အံ့၊ ဤသို့ အစရှိသည်တို့ကို ဆိုကုန်လျက် ဝါတွင်းသုံးလကို လွန်စေကုန်၏၊ ထိုရဟန်းသည် ကျောင်း မလျောက်ပတ်သည်၏ အဖြစ်ကြောင့် ကမ္မဋ္ဌာန်းကို အပြီးသို့ ရောက်စေခြင်းငှါ မတတ်နိုင်၊ ထိုရဟန်းသည် နိမိတ်မျှကိုလည်း မဖြစ်စေနိုင်၍ ဝါကျွတ်သည်ရှိသော် ဇေတဝန်ကျောင်းတော်သို့ သွားပြီးလျှင် မြတ်စွာဘုရားကို ရှိခိုး၍ တင့်အပ်လျောက်ပတ်သောအရပ်၌ နေ၏။

မြတ်စွာဘုရားသည် ထိုရဟန်းနှင့်တကွ ပျူငှါ လောကဝတ်ကိုပြု၍ ရဟန်း သင့်အား ကမ္မဋ္ဌာန်းသည် လျောက်ပတ်သည် ဖြစ်ပြီလောဟု မေးတော်မူ၏၊ ထိုရဟန်းသည် အစမှစ၍ မလျောက်ပတ်သည်၏အဖြစ်ကို လျှောက်၏၊ မြတ်စွာဘုရားသည် ရဟန်း ရှေး၌ တိရစ္ဆာန်တို့သည်လည်း မိမိ၏ လျောက်ပတ်သည် မလျောက်ပတ်သည်ကို သိ၍ လျောက်ပတ်သော ကာလ၌ နေ၍ မလျောက်ပတ်သော ကာလ၌ နေရာအရပ်ကို စွန့်၍ တပါးသော အရပ်သို့ သွားကုန်၏၊ သင်သည် အဘယ်ကြောင့် မိမိ၏ လျောက်ပတ်သည် မလျောက်ပတ်သည်ကို မသိသနည်းဟု မိန့်တော်မူ၍ ထိုရဟန်းသည် တောင်းပန်အပ်သည်ဖြစ်၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုလတ်သည်ရှိသော် ဘုရားလောင်းသည် ငှက်အမျိုး၌ဖြစ်၍ လိမ်မာသောအဖြစ်သို့ ရောက်၍ တင့်တယ်ခြင်းအစုသို့ ရောက်သော ငှက်မင်းဖြစ်၍ ကခုသော တောအရပ်၌ ဇာတဿရအိုင်နား၌ အခက်အရွက်နှင့် ပြည့်စုံသော ထူသော အရွက်ကြီးငယ်ရှိသော သစ်ပင်ကြီးကိုမှီ၍ အခြွေအရံနှင့်တကွနေ၏၊ များစွာကုန်သော ငှက်တို့သည် သစ်ပင်၏ ရေအထက်၌ ဖြန့်သောအခက်တို့၌ နေလျက် ကိုယ်မှဖြစ်သော အညစ်အကြေးကို ရေ၌ ကျစေကုန်၏၊ ထိုဇာတဿရအိုင်၌လည်း ကြမ်းသောနဂါးမင်းသည်နေ၏၊ ထိုနဂါးမင်းအား ဤငှက်တို့သည် ငါ၏နေရာဖြစ်သော ဇာတဿရအိုင်၌ ကိုယ်မှဖြစ်သော အညစ်အကြေးကိုချကုန်၏၊ ငါသည် ရေမှ မီးကို ထစေ၍ သစ်ပင်ကို လောင်စေ၍ ထိုငှက်တို့ကို အကယ်၍ ပြေးစေရမူကား ကောင်းစွဟု အကြံဖြစ်၏၊ ကြံပြီး၍ နဂါးမင်းသည် အမျက်ထွက်သော စိတ်ရှိသည်ဖြစ်၍ ညဉ့်အဘို့၌ ခပ်သိမ်းကုန်သောငှက်တို့သည်စည်းဝေး၍ သစ်ခက်တို့၌အိပ်သောကာလတို့၌ ရှေးဦးစွာလျှင် ခံလောက်၌ တင်အပ်သော ရေကဲ့သို့ ကျိုက်ကျိုက် ဆူစေ၍ နှစ်ကြိမ်မြောက်၌ အခိုးကိုထစေ၍ သုံးကြိမ်မြောက်၌ ထန်းလုံးပမာဏရှိသော မီးလျှံကိုထစေ၍ ဘုရားလောင်းသည် ရေမှထသောမီးလျှံကိုမြင်၍ အိုငှက်တို့ မီးလောင်ခြင်း မည်သည်ကို ရေဖြင့် ငြိမ်းစေကုန်၏၊ ယခုအခါ၌ကား ရေကိုပင်လျှင် မီးလောင်၏၊ ငါတို့သည် ဤသစ်ပင်၌ နေခြင်းငှါမဟုတ်ကောင်းကုန်၊ တပါးသောသစ်ပင်သို့ သွားကြကုန်အံ့ဟု ဆိုလို၍—

၁၃၃၊ ခေမံ ယဟိံ တတ္ထ အရီ ဥဒီရိတော၊
ဒကဿ မဇ္ဈေ ဇလတေ ဃတာသနော။

န အဇ္ဇ ဝါသော မဟိယာ မဟီရုဟေ၊
ဒိသာ ဘဇဝှော သရဏာဇ္ဇ နော ဘယံ။

ဟူသော ဤဂါထာကို ဆို၏။

**ဘော သကုဏာ၊ အိုငှက်တို့။ ယဟိံ၊ အကြင်ရေ၌။ ခေမံ၊ ဘေးမရှိ။ တတ္ထ၊ ထိုရေ၌။ အရီ၊ မီးဟူသော ရန်သူသည်။ ဥဒီရိတော၊ ထ၏။ ဒကဿ၊ ရေ၏။ မဇ္ဈေ၊ အလယ်၌။ ဃတာသနော၊ မီးသည်။ ဇလတေ၊ ပြောင်ပြောင်တောက်၏။**

အဇ္ဇ၊ ယခု။ နော၊ ငါတို့အား။ မဟိယာ၊မြေမှ။ ဇာတော၊ဖြစ်သော။မဟိရုဟော၊ ဤသစ်ပင်၌။ ဝါသော၊ နေရခြင်းသည်။ န အတ္ထိ၊ မရှိ။ အဇ္ဇ၊ ယခု။ နော၊ ငါတို့အား။ သရဏာ၊ ကိုးကွယ်ရာမှ။ ဘယံ၊ဘေးဖြစ်၏။ ဒိသာ၊အရပ်မျက်နှာ တို့သို့။ ဘဇဝ္ဟော၊ ပျံကြကုန်အံ့။

ဤသို့ဆို၍ ဘုရားလောင်းသည် မိမိစကားကို လိုက်နာကုန်သော ငှက်တို့ကို ခေါ်၍ တပါးသော အရပ်သို့ သွား၏၊ ဘုရားလောင်း၏ စကားကို မယူမူ၍ နေကုန်သော ငှက်တို့သည်ကား အသက်ကုန်ခြင်းသို့ရောက်ကုန်၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကိုဆောင်တော်မူ၍ သစ္စာတို့ကို ပြတော်မူ၏၊ သစ္စာကို ပြတော်မူသည်၏ အဆုံး၌ ထိုရဟန်းသည် အရဟတ္တဖိုလ်၌တည်လေ၏၊ သစ္စာကိုပြပြီး၍ ယခုအခါ ဘုရားပရိသတ်တို့သည် ထိုအခါ ဘုရားလောင်း၏စကားကို လိုက်နာကုန်သော သူတို့သည် ဖြစ်ဘူးကုန် ပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ငှက်မင်း ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[လျှောက်ပတ်ကနေ၊ မလျှောက်ပေ၊ ထွက်လေတပါးရပ်]

**သုံးခုတို၏ ပြည့်ကြောင်းဖြစ်သော ဿထာသနဇာတ်သည် ပြီး၏။**

---

## ၁၃၄–ဈာနသောဓနဇာတ်

### မြတ်စွာဘုရား၏ အကျဉ်းပြဿနာကို အရှင်သာရိပုတ္တရာသည် အကျယ်ဖြေသော အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "ယေ သညီနော" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤဈာနသောဓနဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးနေတော်မူစဉ် သင်္ကဿနဂိုရ်ပြည် တံခါး၌ ကိုယ်တော်သည် အကျဉ်း အားဖြင့် မေးတော်မူသော ပြဿနာကို အရှင်သာရိပုတ္တရာသည် "အကျယ် အားဖြင့် ဖြေခြင်း"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ထိုစကား၌ ဤဆိုလတ္တံ့ သည်ကား အတိတ်ဝတ္ထုတည်း။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုလတ်သည်ရှိသော် ဘုရားလောင်းသည် တောကျောင်း၌ စုတေသည်ရှိသော် တပည့်တို့သည် မေးအပ်သည်ဖြစ်၍ နေဝသညီ နာသညီ-ဟု ဆို၏၊ ရသေ့တို့သည် တပည့်ကြီး၏ စကားကို မယုံကြည်ကုန်၊ ဘုရားလောင်းသည် အာဘဿရဘုံမှ လာ၍ ကောင်းကင်၌ ရပ်၍—

၁၃၄၊ ယေ သညိနော တေပိ ဒုဂ္ဂတာ၊
ယေပိ အသညိနော တေပိ ဒုဂ္ဂတာ။
ဧတံ ဥဘယံ ဝိဝဇ္ဇယ၊
တံ သမာပတ္တိသုခံ အနင်္ဂဏံ။

ဟူသော ဤဂါထာကို ဆို၏။

ယေ သတ္တာ၊ အကြင်သတ္တဝါတို့သည်။ သညိနော၊ သညာရှိကုန်၏။ တေပိ၊ ထိုသတ္တဝါ တို့သည်လည်း။ ဒုဂ္ဂတာ၊ ဆင်းရဲကုန်၏။ ယေ သတ္တာ၊ အကြင်သတ္တဝါတို့သည်။ အသညိနော၊ သညာမရှိကုန်။ တေပိ၊ ထိုသတ္တဝါတို့သည် လည်း။ ဒုဂ္ဂတာ၊ ဆင်းရဲကုန်၏။ ဧတံ ဥဘယံ၊ ထိုနှစ်ပါးသော သညီဘဝ, အသညီဘဝကို။ ဝိဝဇ္ဇယ၊ ကြဉ်လော့။ တံ သမာပတ္တိသုခံ၊ ထိုနေဝသညာ နာသညာယတန ဈာန်ချမ်းသာသည်။ အနင်္ဂဏံ၊ အပြစ်မရှိ။

ဤသို့ ဘုရားလောင်းသည် တရားဟော၍ တပည့်ကြီး၏ ကျေးဇူးကို ဆို၍ ဗြဟ္မာ့ပြည်သို့ သွား၏၊ ထိုအခါ ကြွင်းကုန်သော ရသေ့တို့သည် တပည့်ကြီး၏ စကားကို ယုံကြည်ကြကုန်၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ သာရိပုတ္တရာ မထေရ်သည် ထိုအခါ တပည့်ကြီး ဖြစ်ဘူးပြီ၊ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ဗြဟ္မာကြီးဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[အကျဉ်းမေးပေ၊ အကျယ်ဖြေ၊ တော်ပေတပည့် ထေရ်သာရိ]

လေးခုတိုက် ပြည့်ကြောင်းဖြစ်သော ဈာနသောဓနဇာတ်သည် ပြီး၏။

## ၁၃၅—စန္ဒာဘဇာတ်

### အရှင်သာရိပုတ္တရာ၏အလောင်း ဖြေသော ပြဿနာ၏ အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့် တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "စန္ဒာဘံ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင် အပ်သော ဤ စန္ဒာဘဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော် မူစဉ် "သင်္ကဿနဂိုရ်ပြည်တံခါး၌ ရှင်သာရိပုတ္တရာ၏သာလျှင်ပြဿနာဖြေခြင်း" ကို အကြောင်းပြု၍ ဟောတော်မူ၏၊

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည် သောမင်းသည် မင်းပြုလတ်သည်ရှိသော် ဘုရားလောင်းသည် တောကျောင်း၌ စုတေသည်ရှိသော် တပည့်ကြီးတို့သည် မေးအပ်သည်ဖြစ်၍ "စန္ဒာဘံ သူရိယာ ဘံ"ဟု ဆို၍ အာဘဿရဘုံ၌ဖြစ်၏၊ ရသေ့တို့သည် တပည့်ကြီး၏စကားကို မယုံ ကြည်ကြကုန်၊ ဘုရားလောင်းသည် လာလတ်၍ ကောင်းကင်၌ ရပ်လျက်လျှင်—

၁၃၅၊ စန္ဒာဘံ သူရိယာဘဉ္စ၊ ယောဓ ပညာယ ဂါဓတိ။
အဝိတက္ကေန ဈာနေန၊ ဟောတိ အာဘဿရူပဂေါ။

ဟူသော ဤဂါထာကို ဆို၏။

ဣဓ၊ ဤလောက၌။ ယော ပုဂ္ဂလော၊ အကြင်ပုဂ္ဂိုလ်သည်။ စန္ဒာဘဉ္စ၊ လရောင် ဟူသော ဩဒါတကသိုဏ်းကိုရင်း။ သူရိယာဘဉ္စ၊ နေရောင်ဟူသော ပီတကသိုဏ်းကိုရင်း။ ပညာယ၊ ပညာဖြင့်။ ဂါဓတိ၊ သက်၏။ သော ပုဂ္ဂလော၊ ထိုပုဂ္ဂိုလ်သည်။ တထာ ကတွာ၊ ထိုသို့ပြု၍။ ပဋိလဒ္ဓေန၊ ရအပ်သော။ အဝိ တက္ကေန ဈာနေန၊ ဒုတိယဈာန်ဖြင့်။ အာဘဿရူပဂေါ၊ အာဘဿရ ဗြဟ္မာ့ ပြည်သို့ လားသည်။ ဟောတိ၊ ဖြစ်၏။

ဤသို့ ဘုရားလောင်းသည် ရသေ့တို့ကို သိစေ၍ တပည့်ကြီး၏ ကျေးဇူးကို ဆို၍ ဗြဟ္မာ့ပြည်သို့လျှင် သွား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ သာရိပုတ္တရာသည် ထိုအခါ တပည့်ကြီးဖြစ်ဘူးပြီ၊ ယခုအခါငါဘုရား သည်လျှင် ထိုအခါ ဗြဟ္မာကြီး ဖြစ်ဘူးပြီဟု ဇာတ်ကိုပေါင်းတော်မူ၏။

[အံမြောက်ချမ်းကျင်၊ လ,နေသွင်၊ ထေရ်ရှင် ပုဏ္ဏရာ]

ငါးခုတို့၏ ပြည့်ကြောင်းဖြစ်သော စန္ဒာသဇာတ်သည် ပြီး၏။

---

## ၁၃၆—သုဝဏ္ဏဟံသဇာတ်

### အလိုကြီး၍ ပျက်စီးသောမိန်းမ၏ အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော လဗ္ဗညုမြတ်စွာဘုရားသည် "ယံ လဒ္ဓံ တေန တုဋ္ဌဗ္ဗံ" အစရှိသောဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤ သုဝဏ္ဏဟံသဇာတ်ကို ဇေတဝန် ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "ထုလ္လနန္ဒာ အမည်ရှိသော ရဟန်းမိန်းမ" ကို အကြောင်းပြု၍ဟောတော်မူ၏၊ ထိုစကားကိုခွဲ့ဦးအံ့၊သာဝတ္ထိပြည်၌ တယောက် သော သီတင်းသည်သည် ဘိက္ခုနီသံဃာကို ကြက်သွန်ဖြင့်ဘိတ်၍ ယာခင်းစောင့် ကို ရဟန်းမိန်းမတို့သည် အကယ်၍ လာကုန်အံ့၊ တယောက်သော ရဟန်းမိန်းမ အား နှစ်ခု, သုံးခုကုန်သော အပ၌ အစေ့ရှိကုန်သော ကြက်သွန်ကိုလှူလောဟု စေ၏၊ ထိုအခါမှစ၍ ရဟန်းမိန်းမတို့သည် ထိုသူ၏အိမ်သို့ရင်း, ယာခင်းသို့ရင်း ကြက်သွန် အကျိုးငှါ သွားကုန်၏။

ထိုအခါ တခုသော ပွဲသဘင်ရှိသော နေ့၌ ထိုသီတင်းသည်၏ အိမ်၌ ကြက်သွန်သည် ကုန်ခြင်းသို့ ရောက်၏၊ ထုလ္လနန္ဒာ ဘိက္ခုနီမသည် [illegible]အရံနှင့် တကွ အိမ်သို့ သွား၍ ဒါယကာ ကြက်သွန်အလိုရှိ၏ဟု ဆို၏၊ ရှင်မ ကြက်သွန် သည် မရှိ၊ ဆောင်ခဲ့သော ကြက်သွန်သည်ကုန်၏၊ ယာခင်းသို့သွားလေလောဟု ဆို၏၊ ယာခင်းသို့ သွား၍ အတိုင်းအရှည်ကို မသိမူ၍ ကြက်သွန်ကိုနုတ်ယူစေ၏၊ ယာခင်းစောင့်သည် အဘယ့်ကြောင့်လျှင် ဤရဟန်းမိန်းမတို့သည် အတိုင်း အရှည်ကိုမသိမူ၍ ကြက်သွန်ကို နုတ်ယူကုန်ဘိသနည်းဟု ကဲ့ရဲ့၏၊ ထိုယာခင်း စောင့် စကားကို ကြား၍ အကြင် ရဟန်းမိန်းမတို့သည် အလိုနည်းကုန်၏၊

ထိုရဟန်းမိန်းမတို့သည်လည်း ကဲ့ရဲ့ကုန်၏၊ ထိုရဟန်းမိန်းမတို့၏ စကားကိုကြား ကုန်၍ ရဟန်းယောကျ်ားတို့ သည်လည်း ကဲ့ရဲ့ကုန်၏၊ ကဲ့ရဲ့ကုန်ပြီး၍လည်း မြတ်စွာဘုရားအား ထိုအကြောင်းကို ကြားလျှောက်ကုန်၏။

မြတ်စွာဘုရားသည် ထုလ္လနန္ဒာမည်သော ရဟန်းမိန်းမကို ကဲ့ရဲ့တော်မူ၍ ရဟန်းတို့ အလိုကြီးသော ပုဂ္ဂိုလ်မည်သည်ကို ဖွားသော အမိသော်လည်း မနှစ်သက်သည် ဖြစ်၏၊ မကြည်ညိုကုန်သေးသော သူတို့ကိုလည်း ကြည်ညိုစိမ့်သောငှါ ကြည်ညိုပြီးသောသူတို့အားလည်း အတိုင်းထက်အလွန်ကြည်ညိုခြင်းကို ဖြစ်စိမ့်သောငှါ မဖြစ်သေးသော လာဘ်ကိုလည်း ဖြစ်စိမ့်သောငှါ ဖြစ်ကုန်ပြီးသော လာဘ်ကိုလည်း အမြဲတည်ခြင်းကို ပြုအံ့သောငှါ မတတ်နိုင်၊ အလိုနည်းသော ပုဂ္ဂိုလ်သည်ကား မကြည်ညိုကုန်သေးသော သူတို့ကို ကြည်ညိုစိမ့်သောငှါ ကြည်ညိုကုန်ပြီးသော သူတို့ကိုလည်း အတိုင်းထက် အလွန်ကြည်ညိုစိမ့်သောငှါ မဖြစ်သေးသော လာဘ်ကိုလည်း ဖြစ်စိမ့်သောငှါ ဖြစ်ပြီးသော လာဘ်ကိုလည်း အမြဲတည်စိမ့်သောငှါ တတ်နိုင်၏၊ ဤသို့ အစရှိသောနည်းဖြင့် ရဟန်းတို့အား အမှုအားလျော်စွာ တရားဟော၍ ရဟန်းတို့ ဤထုလ္လနန္ဒာသည် ယခုအခါ၌သာ အလိုကြီးသည် မဟုတ်သေး၊ ရှေး၌လည်း အလိုကြီးသည် သာလျှင်တည်းဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည်မင်းပြုသည်ရှိသော် ဘုရားလောင်းသည် တဦးသောပုဏ္ဏားမျိုး၌ ဖြစ်၏၊ အရွယ်သို့ ရောက်သော် ထိုဘုရားလောင်းအား တူသော ဇာတ်ရှိသော အမျိုးမှ မယားကိုဆောင်ကုန်၏၊ ထိုဘုရားလောင်းအား နန္ဒာလည်းတယောက်, နန္ဒာဝတီလည်း တယောက်, သုန္ဒရီနန္ဒာလည်း တယောက် ဤသုံးယောက်ကုန်သော သမီးတို့သည် ဖြစ်ကုန်၏၊ ထိုသုံးယောက်ကုန်သော သမီးတို့သည် လင်အိမ်သို့ မရောက်မီလျှင် ဘုရားလောင်းသည် စုတေ၍ ရွှေဟင်္သာအမျိုး၌ ဖြစ်၏၊ ရွှေဟင်္သာအား ဇာတိဿရဉာဏ်သည် ဖြစ်၏၊ ရွှေဟင်္သာသည် အရွယ်သို့ ရောက်သည်ဖြစ်၍ ရွှေအတောင်ဖြင့် ဖုံးလွှမ်းအပ်သော တင့်တယ်ခြင်းအစုသို့ ရောက်သော အတ္တဘောကိုမြင်၍ ငါသည် အဘယ်မှစုတေ၍လျှင် ဤရွှေဟင်္သာ အဖြစ်၌ ဖြစ်သနည်းဟု ဆင်ခြင်သည်ရှိသော် လူ့ပြည်မှလာ၍ ဖြစ်၏ဟု သိ၍

တဖန် အသို့လျှင် ငါ၏ ပုဏ္ဏေးမသည်ရင်း, သမီးသုံးယောက်တို့သည်ရင်း အသက်မွေးကုန်သနည်းဟု ဆင်ခြင်သည်ရှိသော် သူတပါးတို့၏ အခစားပြု၍ ငြိုငြင်သဖြင့် အသက်မွေး၏ဟု သိ၍ ငါ၏ကိုယ်၌ ရွှေဖြင့်ပြီးသော အတောင်တို့သည် ထုခြင်းခတ်ခြင်းငှါ ခံ့ကုန်၏၊ဤကိုယ်မှဖြစ်သော အတောင်တို့ကို ထိုပုဏ္ဏေးမနှင့် သမီးသုံးယောက်တို့အား တယောက် တတောင်စီကို ပေးအံ့၊ ထိုရွှေအတောင်ဖြင့် ငါ၏ မယားသည်ရင်း, သမီးသုံးယောက်တို့သည်ရင်း ချမ်းသာစွာ အသက်မွေးရကုန်လတ္တံ့ဟု နှလုံးသွင်း၍ ရွှေဟသ်ာမင်းသည် ထိုအရပ်သို့ သွား၍ ခေါင်အုပ်ဝါးစွန်း၌ နား၏။

ပုဏ္ဏေးမသည်ရင်း, သမီးသုံးယောက်တို့သည်ရင်း ဘုရားလောင်းကို မြင်၍ အသျှင် အဘယ်မှ လာသနည်းဟု မေးကြကုန်၏၊ ငါသည် သင်တို့၏ အဘတည်း၊ စုတေ၍ ရွှေဟသ်ာအမျိုး၌ ဖြစ်၏၊ သင်တို့ကို ရှုအံ့သောငှါ ဤအရပ်သို့ လာ၏၊ ဤအခါမှစ၍ သင်တို့အား သူတပါးတို့၏အခစားကိုပြု၍ ဆင်းရဲသဖြင့် အသက်မွေးရခြင်းကိစ္စသည် မရှိပြီ၊ ငါသည် သင်တို့အား အတောင် တတောင်စီ ပေးအံ့၊ ထိုအတောင်ကို ရောင်းချ၍ ချမ်းသာသဖြင့် အသက်မွေးကုန်လောဟု ဆို၍ တတောင်စီပေး၍ သွား၏၊ ထိုရွှေဟသ်ာမင်းသည် ဤသို့သော နည်းဖြင့်လျှင် ရံခါ ရံခါ လာလတ်၍ တတောင်စီ တတောင်စီပေး၏၊ ပုဏ္ဏေးမသည်ရင်း သမီးသုံးယောက်တို့သည်ရင်း ကြွယ်ဝချမ်းသာကုန်သည် ဖြစ်၏၊ ထိုနောင်မှ တနေ့သ၌ ပုဏ္ဏေးမသည် သမီးတို့ကို ချစ်သမီးတို့ တိရစ္ဆာန်တို့၏ စိတ်မည်သည် သိနိုင်ခဲ၏၊ ရံခါ သင်တို့၏အဘသည် ဤအရပ်သို့ မလာအံ့၊ အသို့ ပြုကြကုန်အံ့နည်း၊ ယခုအခါ ထိုရွှေဟသ်ာ၏ လာသောကာလ၌ အလုံးစုံသော အတောင်တို့ကို အကုန်နုတ်၍ ယူကုန်အံ့ဟု တိုင်ပင်၏၊ ထိုသမီးသုံးယောက်တို့သည် ဤသို့ပြုသည်ရှိသော် ငါတို့၏အဘသည် ပင်ပန်းလတ္တံ့ဟု ဝန်မခံကုန်၊ ပုဏ္ဏေးမသည် အလိုကြီးသည်၏အဖြစ်ကြောင့် တဖန် တနေ့သ၌ ရွှေဟသ်ာမင်း၏ လာသောကာလ၌ သခင် ရှေးဦးစွာ လာလော့ဟု ဆို၍ မိမိအထံသို့ ကပ်လာသော ရွှေဟသ်ာမင်းကို လက်နှစ်ဘက်တို့ဖြင့် ကိုင်၍ ခပ်သိမ်းကုန်သော အတောင်တို့ကို နုတ်၏၊ ဘုရားလောင်း၏ အလိုမှကင်း၍ နိုင်ထက်မူသာဖြင့် ယူအပ်သည်၏အဖြစ်ကြောင့် အလုံးစုံကုန်သော အတောင်တို့သည် ဗျိုင်းတောင်နှင့် တူသည် ဖြစ်ကုန်၏၊ ဘုရားလောင်းသည် အတောင်တို့ကိုဖြန့်၍ သွားအံ့သောငှါ မတတ်နိုင်။

ထိုအခါ ထိုရွှေဟင်္သာမင်းကို ပုဏ္ဏေးမသည် အိုးစရည်းကြီး၌ ထည့်၍မွေး၏၊ ထိုရွှေဟင်္သာမင်းအား တဖန် ပေါက်သော အတောင်တို့သည်လည်း ဖြူသည်သာလျှင် ဖြစ်ကုန်၏၊ အတောင် ပေါက်သည်ရှိသော် မိမိနေရာအရပ်သို့ သွား၍သာလျှင် တဖန် မလာပြီ၊ မြတ်စွာဘုရားသည် ဤအတိတ်ဝတ္ထုကို ဆောင်တော်မူ၍ ရဟန်းတို့ ထုလ္လနန္ဒာသည် ယခုအခါ၌သာလျှင် အလိုကြီးသည်မဟုတ်သေး၊ ရှေး၌လည်း အလိုကြီးသည် သာလျှင်တည်း၊ အလိုကြီးသည်၏ အဖြစ်ကြောင့်ကား ရွှေမှယုတ်ဘူးပြီ၊ ယခုအခါ၌လည်း မိမိ၏ အလိုကြီးသည်၏ အဖြစ်ကြောင့်လျှင် ကြက်သွန်မှလည်း ယုတ်လတ္တံ့၊ ထို့ကြောင့် ဤအခါမှစ၍ ဤကြက်သွန်ကို စားခြင်းငှါ မရလတ္တံ့၊ ထုလ္လနန္ဒာကဲ့သို့လည်း ထို့အတူ ထုလ္လနန္ဒာကိုမှီ၍ ကြွင်းသော ရဟန်းမိန်းမတို့သည်လည်း ကြက်သွန်ကို စားခြင်းငှါ မရကုန်လတ္တံ့၊ ထို့ကြောင့် များစွာကုန်သော ဝတ္ထုကိုရ၍ အတိုင်းအရှည်ကိုလျှင် သိအပ်၏၊ နည်းသော ဝတ္ထုကို ရ၍ကား ရတိုင်းသာလျှင် ရောင့်ရဲခြင်းကို ပြုအပ်၏၊ အလွန်ကို မတောင့်တအပ်ဟု မိန့်တော်မူလို၍—

၁၃၆၊ ယံ လဒ္ဓံ တေန တုဋ္ဌဗ္ဗံ၊ အတိလောဘော ဟိ ပါပကော။
ဟံသရာဇံ ဂဟေတွာန၊ သုဝဏ္ဏာ ပရိဟာယထ။

ဟူသော ဤဂါထာကို ဟောတော်မူ၏။

ယံ၊ အကြင်ဝတ္ထုကို။ လဒ္ဓံ၊ ရအပ်၏။ တေန၊ ထိုဝတ္ထုဖြင့်။ တုဋ္ဌဗ္ဗံ၊ ရောင့်ရဲအပ်၏။ ဟိ-သစ္စံ၊ မှန်၏။ အတိလောဘော၊ အလွန်လောဘကြီးသောသူသည်။ ပါပကော၊ ယုတ်မာ၏။ ဟံသရာဇံ၊ ဟင်္သာမင်းကို။ ဂဟေတွာန၊ ဖမ်း၍။ သုဝဏ္ဏာ၊ ရွှေမှ။ ပရိဟာယထ၊ ယုတ်ဘူးပြီ။

**ဇာတ်ပေါင်း**....ဤဝတ္ထုကို ဟောတော်မူ၍ မြတ်စွာဘုရားသည် များစွာသောအကြောင်းဖြင့် ကဲ့ရဲ့တော်မူ၍ အကြင်ရဟန်းမိန်းမသည် ကြက်သွန်ကိုစားငြားအံ့၊ ထိုရဟန်းမိန်းမအား ပါစိတ် အာပတ် သင့်၏ဟု သိက္ခာပုဒ်ကို ပညတ်တော်မူ၍ ယခုအခါ ထုလ္လနန္ဒာသည် ထိုအခါ ပုဏ္ဏေးမ ဖြစ်ဘူးပြီ၊ ယခုအခါ ညီအစ်မ သုံးယောက်တို့သည်လျှင် ထိုအခါ သမီးသုံးယောက်တို့ ဖြစ်ဘူးကုန်ပြီ၊

ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ရွှေဟသ်ာ ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[အလိုလောဘ၊ ကြီးလွန်းက၊ လာဘ်မှ ယုတ်သည်သာ]

ခြောက်ခုတို့၏ ပြည့်ကြောင်းဖြစ်သော သုဝဏ္ဏတံသဇာတ်သည် ပြီး၏။

---

## ၁၃၇—ဗဗ္ဗုဇာတ်

### ပေးသောအစာကို စား၍ ထိုပေးသောသူအား နှလုံးမသာဘွယ်ကို ပြုသောအကြောင်း

ပစ္စုပ္ပန်ဝတ္ထု။—နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် “ယတ္ထေကော လဘတေ ဗဗ္ဗု” အစရှိသော ဂါထာ ပုဒ်ဖြင့် တန်ဆာ ဆင်အပ်သော ဤ ဗဗ္ဗုဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် “ကာဏမာတာ သိက္ခာပုဒ်” ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုစကားကို ချဲ့ဦးအံ့၊ သာဝတ္ထိပြည်၌ သမီး၏ အစွမ်းအားဖြင့် ကာဏမာတာ မည်သော သောတာပန် ဖြစ်သော ဘုရားတပည့် ဖြစ်သော သီတင်းသည်မသည် ဖြစ်၏၊ ထိုကာဏမာတာသည် သမီးဖြစ်သော ကာဏာ ကို တခုသော ရွာငယ်၌ အမျိုးတူ ဖြစ်သော ယောကျ်ားအား ပေး၏၊ ကာဏာသည် တစုံတခုသော ပြုဘွယ်ကိစ္စကြောင့် အမိအိမ်သို့ လာ၏၊ ထိုအခါ ထိုကာဏာ၏ လင်သည် နှစ်ရက်,သုံးရက်လွန်သဖြင့် ကာဏာသည်လာလော၊ ကာဏာ၏ လာခြင်းကို ငါသည် အလိုရှိ၏ဟု တမန်ကို စေ၏၊ ကာဏာသည် တမန်၏စကားကို ကြား၍ မိခင် သွားအံ့ဟု အမိအားခွင့်ပန်၏၊ ကာဏမာတာ သည် ဤမျှသော ကာလတိုင်အောင် နေ၍ လက်ချည်း အဘယ်ကြောင့် သွားအံ့နည်းဟု ဆို၍ မုံ့ကို ကြော်၏၊ ထိုခဏ၌လျှင် တယောက်သော ဆွမ်းခံ သွားသော ရဟန်းသည် ထိုကာဏမာတာ၏ အိမ်သို့ရောက်၏၊ သီတင်းသည် မကြီးသည် ထိုရဟန်းကို နေစေ၍ သပိတ်ပြည့်အောင် မုံ့ကို လှူစေ၏၊ ထိုရဟန်း သည် ထွက်၍ တပါးသော ရဟန်းအား ကြား၏၊ ထိုရဟန်းအားလည်း ထို့ အတူလျှင် လှူစေ၏၊ ထိုရဟန်းသည်လည်း ထွက်၍ တပါးသော ရဟန်းအား ကြား၏၊ ထိုရဟန်းအားလည်း ထို့အတူလျှင် လှူစေ၏၊ ထိုရဟန်းသည်လည်း

ထွက်၍ တပါးသော ရဟန်းအား ကြား၏၊ ထိုရဟန်းအားလည်း ထို့အတူ လျှင် လှူစေ၏၊ ဤသို့ လေးပါးကုန်သော ရဟန်းတို့အား လှူစေ၏၊ လုပ်ရင်း တိုင်းဖြစ်သော မုံ့သည် ကုန်ခြင်းသို့ ရောက်၏၊ ကာဏာ၏ သွားခြင်းသည် မပြည့်စုံ။

ထိုအခါ ထိုကာဏာ၏ လင်သည် နှစ်ကြိမ် သုံးကြိမ်မြောက်လည်း တမန်ကို စေ၏၊ သုံးကြိမ်မြောက် စေသည်ရှိသော် ကာဏာသည် အကယ်၍ မလာအံ့ ငါသည် တပါးသော မယားကို ဆောင်အံ့ဟု စေ၏၊ သုံးကြိမ်တိုင်အောင်လည်း သွားခြင်းသည် မပြည့်စုံ၊ ကာဏာ၏ လင်သည် တပါးသောမယားကိုဆောင်၏၊ ကာဏာသည် အကြောင်းကို ကြား၍ ငိုလျက် နေ၏၊ မြတ်စွာဘုရားသည် ထိုအကြောင်းကို သိတော်မူ၍ နံနက်အခါ၌ သင်းပိုင်ကို ပြင်ဝတ်၍ သပိတ် သင်္ကန်းကို ယူ၍ အိမ်သို့ ကြွတော်မူ၍ ခင်းအပ်သော နေရာ၌ နေတော်မူ၍ ကာဏာ၏အမိကို ဤကာဏာသည် အဘယ့်ကြောင့် ငိုသနည်းဟုမေးတော်မူ၏၊ ဤမည်သော အကြောင်းကြောင့် ငို၏ဟု လျှောက်၏၊ ထိုစကားကို ကြားတော် မူ၍ ကာဏာ၏ အမိကို နှစ်သိမ့်စေ၍ တရားစကားကို ဟောတော်မူ၍ နေရာမှ ထ၍ ကျောင်းသို့ ကြွတော်မူ၏၊ ထိုအခါ လေးယောက်ကုန်သော ရဟန်းတို့၏ သုံးကြိမ်တိုင်အောင် စီရင်သော မုံ့ကိုယူ၍ ကာဏာ၏ သွားခြင်း၏ ပျက်သော အဖြစ်သည် ရဟန်းသံဃာ၌ ထင်ရှား၏။

ထိုအခါ တနေ့သ၌ ရဟန်းတို့သည် တရားသဘင်၌ ငါ့သျှင်တို့ လေးပါး ကုန်သော ရဟန်းတို့စင်လျက် သုံးကြိမ်တိုင်အောင် ကာဏာမာတာ၏ မုံ့ကိုစား၍ ကာဏာ၏ သွားခြင်း အန္တရာယ်ကိုပြု၍ လင်သည် စွန့်အပ်သော သမီးကိုမှီ၍ သီတင်းသည်မကြီး၏ နှလုံးမသာယာခြင်းကို ဖြစ်စေအပ်၏ဟု စကားကို ဖြစ်စေ ကုန်၏၊ မြတ်စွာဘုရားသည် လာတော်မူလတ်၍ ရဟန်းတို့ ယခုအခါ အဘယ် မည်သော စကားဖြင့် စည်းဝေးကြ ကုန်သနည်းဟု မေးတော်မူလတ်၍ ဤ မည်သော စကားဖြင့် စည်းဝေးပါကုန်၏ဟု နားတော်လျှောက်သည် ရှိသော် ရဟန်းတို့ ယခုအခါ၌ သာလျှင် ထိုလေးယောက်ကုန်သော ရဟန်းတို့သည် ကာဏာမာတာ၏ ဥစ္စာကို စား၍ ထိုကာဏာမာတာအား နှလုံး မသာခြင်းကို

ဖြစ်စေကုန်သည် မဟုတ်သေး၊ ရှေး၌လည်း ဖြစ်စေဘူးကုန်သည်သာလျှင်တည်းဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**...လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည်မင်းပြုသည်ရှိသော် ဘုရားလောင်းသည် ကျောက်သွေးအမျိုး၌ဖြစ်၍ အရွယ်သို့ရောက်သည်ရှိသော် အပြီးတိုင်အောင်သော အတတ်ရှိ၏၊ကာသိတိုင်း၌ တခုသောနိဂုံး၌ ကုဋေ ယောက်သော များစွာသော စည်းစိမ်ရှိသောသူဌေးသည် ဖြစ်၏၊ ထိုသူဌေးအား မြှုပ်၍ ထားအပ်သည်သာလျှင် ဖြစ်ကုန်သော ကုဋေလေးဆယ်သော ရွှေတို့သည် ဖြစ်ကုန်၏၊ ထိုအခါ သူဌေး၏ မယားသည် သေ၍ ဥစ္စာ၌ တပ်မက်မောသဖြင့် ဥစ္စာ၏အပေါ်၌ ကြွက်မ၏အဖြစ်ဖြင့် ဖြစ်၏၊ ဤသို့ အစဉ်သဖြင့် ထိုအမျိုးသည် ပျက်စီးခြင်းသို့ ရောက်၏၊ အနွယ်သည် ပြတ်၏၊ ထိုရွာသည်လည်း စွန့်အပ်သည်ဖြစ်၏၊ မထင်ရှားသော အဖြစ်သို့ ရောက်၏၊ ထိုအခါ ဘုရားလောင်းသည် ထိုရွာဟောင်းအရပ်၌ ကျောက်တို့ကို ဖော်ထုတ်၍ သွေး၏၊ ထိုအခါ ကြွက်မသည် အစာရှာ သွားသည်ရှိသော် ဘုရားလောင်းကို အဖန်တလဲလဲမြင်၍ ဖြစ်သော ချစ်ခြင်းရှိသည်ဖြစ်၍ ငါ့အား ဥစ္စာများ၏ အကြောင်းမရှိသဖြင့် ပျက်စီး၏၊ ဤသူနှင့် တပေါင်းတည်းဖြစ်၍ ဤဥစ္စာကိုပေး၍ အသားကို ဝယ်စေ၍ စားအံ့ဟု ထိုကြွက်မသည် တနေ့သ၌ တသပြာကို နှုတ်သီးဖြင့် ကိုက်၍ ဘုရားလောင်း၏ အထံသို့ လာ၏။

ဘုရားလောင်းသည် ထိုကြွက်မကိုမြင်၍ ချစ်ဘွယ်သောစကားဖြင့် ပြောဆိုလျက် မိခင် အဘယ့်ကြောင့် အသပြာကို ယူ၍ လာသနည်းဟု ဆို၏၊ သခင် ဤအသပြာကိုယူ၍ ကိုယ်လည်းသုံးလော့၊ ငါ့ဘို့လည်း အသားကို ဆောင်ခဲ့လောဟု ဆို၏၊ ဘုရားလောင်းသည် ကောင်းပြီဟု ဝန်ခံ၍ အသပြာကိုယူ၍ အိမ်သို့သွား၍ တပဲဖြင့် အသားကိုဝယ်၍ ဆောင်ခဲ့၍ ထိုကြွက်မအား ပေး၏၊ ထိုကြွက်မသည် ထိုအသားကိုယူ၍ မိမိနေရာအရပ်သို့ သွား၍ အလိုအတိုင်းစား၏၊ ထိုအခါမှစ၍ ဤနည်းဖြင့် နေ့တိုင်း နေ့တိုင်း ဘုရားလောင်းအား တသပြာကို ပေး၏၊ ဘုရားလောင်းသည်လည်း ထိုကြွက်မဘို့ အသားကို ဆောင်ခဲ့၏၊ထိုအခါ တနေ့သ၌ ထိုကြွက်မကို ကြောင်သည် ဖမ်းမိ၏၊ ထိုအခါ ကြွက်မသည် ကြောင်ကို အဆွေ ငါ့အား မသတ်ပါလင့်ဟု ဆို၏၊ အဘယ့်ကြောင့် မသတ်ရအံ့နည်း၊

အကြင်အကြောင်းကြောင့် ငါသည် ဆာမွတ်၏၊ အသားကို စားလို၏၊ ထို့ကြောင့် ငါသည် မသတ်အံ့သော်ငှါ မတတ်နိုင်ဟု ဆို၏၊ သင်သည် ယနေ့သာလျှင် အသားကို စားလိုသလော၊ ထိုသို့မဟုတ်မူကား အခါခပ်သိမ်း စားလိုသလောဟု မေး၏၊ ရသည်ရှိသော် အခါခပ်သိမ်း စားလို၏ဟု ဆို၏၊ အခါခပ်သိမ်း စားလိုသည် အကယ်၍ ဖြစ်အံ့၊ ဤသို့ စားလိုသည်ရှိသော် ငါသည် သင့်အား အခါခပ်သိမ်း အသားကို ပေးအံ့၊ ငါ့ကို လွှတ်လောဟု ဆို၏။

ထိုအခါ ကြွက်မကို ကြောင်သည် ထိုသို့ကာပြီးကား မမေ့မလျော့ ဖြစ်လောဟုဆို၍ လွှတ်လိုက်၏၊ ထိုအခါမှစ၍ ကြွက်မသည် မိမိဘို့ ဆောင်ခဲ့သော အမဲကို နှစ်စုတို့ကိုပြု၍ တစုကို ထိုကြောင်အားပေး၏၊ တစုကို မိမိသည်စား၏၊ ထိုအခါ ကြွက်မကို တနေ့သ၌ တခုသောကြောင်သည် ဖမ်းမိပြန်၏၊ ထိုကြောင်ကိုလည်း ထို့အတူ သိစေ၍ မိမိကို လွှတ်စေ၏၊ထိုအခါမှစ၍ ဤသို့ မိမိဘို့ ဆောင်ခဲ့သော အမဲကို သုံးစုတို့ကိုပြု၍ စားကုန်၏၊ တဖန် ကြောင်တခုသည် ဖမ်းမိပြန်၏၊ ထိုကြောင်ကိုလည်း ထိုအတူလျှင် သိစေ၍ မိမိကိုယ်ကို လွှတ်စေ၏၊ ထိုအခါမှစ၍ လေးစုတို့ကိုပြု၍ စားကုန်၏၊ တဖန် တခုသောကြောင်သည် ဖမ်းမိပြန်၏၊ ထိုကြောင်ကိုလည်း ထိုအတူလျှင် သိစေ၍ မိမိကိုယ်ကို လွှတ်စေ၏၊ ထိုအခါမှစ၍ ငါးစုတို့ကိုပြု၍ စားကုန်၏၊ ထိုကြွက်မသည် ငါးခုမြောက်သော အစုကို စားရသည်ဖြစ်၍ နည်းသော အာဟာရရှိသည်၏ အဖြစ်ကြောင့် ပင်ပန်းသည်ဖြစ်၍ ကြုံလှီသည် ဖြစ်၏၊ နည်းသော အသား အသွေးရှိသည် ဖြစ်၏။

ဘုရားလောင်းသည် ထိုကြွက်မကိုမြင်၍ မိခင် အဘယ့်ကြောင့် ညှိုးသနည်းဟုဆို၏၊ ဤမည်သော အကြောင်းကြောင့် ညှိုး၏ဟု ဆိုသည်ရှိသော် သင်သည် ဤမျှလောက်သော ကာလတိုင်အောင် အဘယ့်ကြောင့် ငါ့အားမကြားသနည်း ဤအရာ၌ ပြုအပ်သည်ကို ငါသည် သိအံ့ဟု ထိုကြွက်မကို နှစ်သိမ့်စေ၍ သက်သက်သော ဖလ်ကျောက်ဖြင့် ဂူကိုပြု၍ ဆောင်ခဲ့၍ မိခင် သင်သည် ဤဖလ်ဂူသို့ဝင်ပြီးလျှင် လာတိုင်း လာတိုင်းကုန်သော ကြောင်တို့ကို ကြမ်းကြုတ်ကုန်သော စကားတို့ဖြင့် ခြိမ်းချောက်ကုန်လောဟု ဆို၏၊ ထိုကြွက်မသည် ဖလ်ဂူ၌ဝင်၍ နေ၏၊ ထိုအခါ တခုသောကြောင်သည် လာလတ်၍ ငါ့အားအသားကို ပေးလောဟု ဆို၏၊ ထိုအခါ ကြောင်ကို ကြွက်မသည် ဟယ် ကြောင်ပျက်

ငါသည် သင်၏ အမဲဆောင်လော၊ မိမိသားသမီးတို့၏ အသားကို စားလောဟု ခြိမ်းခြောက်၏၊ ကြောင်သည် ဖလ်ဂူ၌ နေသည်ကို မသိ၍ အမျက်၏ အစွမ်း အားဖြင့် ကြွက်မကိုယူအံ့ဟု အဆောတလျင် ပြေး၍ ရင်ဖြင့် ဖလ်ဂူကို ခတ်မိ၍ ထိုခဏ၌လျှင် ထိုကြောင်၏ ရင်သည် ကွဲ၏၊ မျက်စိတို့သည် ထွက်သော အခြင်း အရာသို့ ရောက်ကုန်သည် ဖြစ်ကုန်၏၊ ထိုကြောင်သည် ထိုခဏ၌လျှင် အသက် ကုန်ခြင်းသို့ ရောက်၍ တင့်အပ်သော ဖုံးကွယ်ရာ အရပ်၌လည်း၏၊ ဤနည်းဖြင့် နောက် ကြောင်သုံးကောင်သည်လည်း အသက်ကုန်ခြင်းသို့ ရောက်၏၊ ဤသို့ လျှင် လေးခုကုန်သော ကြောင်တို့သည် အသက်ကုန်ခြင်းသို့ ရောက်ကုန်၏၊ ထိုအခါမှစ၍ ကြွက်မသည် ဘေးမရှိသည်ဖြစ်၍ ဘုရားလောင်းအား နေ့တိုင်း နေ့တိုင်း နှစ်သပြာ သုံးသပြာတို့ကို ပေး၏၊ ဤသို့ အစဉ်သဖြင့် အလုံးစုံသော ဥစ္စာသည် ဘုရားလောင်း၏ဥစ္စာ ဖြစ်၏၊ ထိုနှစ်ယောက်သော သူတို့သည် အသက်ထက်ဆုံး ချစ်ခြင်းကိုမပျက်စေမူ၍ ကံအားလျော်စွာ လား၏၊ မြတ်စွာ ဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ဘုရားဖြစ်တော်မူ၍—

၁၃၇၊ ယတ္ထေကော လဘတေ ဗဗ္ဗု၊ ဒုတိယော တတ္ထ ဇာယတိ။
တတိယော စ စတုတ္ထော စ၊ ဣဒံ တေ ဗဗ္ဗုကာ ဗိလံ။

ဟူသော ဤဂါထာကို ဟောတော်မူ၏။

ယတ္ထ၊ အကြင် အရပ်၌။ ဧကော ဗဗ္ဗု၊ တခုသော ကြောင်သည်။ မူသိကံ ဝါ၊ ကြွက်မကိုရင်း။ မံသံ ဝါ၊ အသားကိုရင်း။ လဘတေ၊ ရ၏။ တတ္ထ၊ ထိုအရပ်၌။ ဒုတိယော၊ နှစ်ခုမြောက်သော ကြောင်သည်။ ဇာယတိ၊ ဖြစ်၏။ တတိယော စ၊ သုံးခုမြောက်သော ကြောင်သည်လည်း။ ဇာယတိ၊ ဖြစ်၏။ စတုတ္ထော စ၊ လေးခုမြောက်သော ကြောင်သည်လည်း။ ဇာယတိ၊ ဖြစ်၏။ တေ ဗဗ္ဗုကာ၊ ထိုကြောင်တို့သည်။ ဣဒံ ဗိလံ၊ ဤဖလ်ဂူကို။ ဥရေန၊ ရင်ဖြင့်။ ပဟရိတွာ၊ ခတ်မိ၍။ ဇီဝိတက္ခယံ၊ အသက်ကုန်ခြင်းသို့။ ပတ္တာ၊ ရောက်ကုန်၏။

**ဇာတ်ပေါင်း**…မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ လေးယောက်ကုန်သော ရဟန်းတို့သည် ထိုအခါ ကြောင် လေး ကောင်တို့ ဖြစ်ဘူးကုန်ပြီ၊ ယခုအခါ ကာဏမာတာသည် ထိုအခါ ကြွက်မ

ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ကျောက်သွေးသော ရွှေသွား ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[သုံ့ဥစ္စာခိုး၊ သူတပါး၊ စိတ်အား နှောက်ရှက်ပြု]

ခုနစ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော ဗဗ္ဗုဇာတ်သည် ပြီး၏။

---

## ၁၃၈—ဂေါဓဇာတ်

### အဲ့ဘွယ်သရဲကို ဖြစ်စေသော အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**...နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "ကိံ တေ ဇဋာဟိ ဒုမ္မေဓ" အစရှိသော ဂါထာ ပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤဂေါဓဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "အံ့ဘွယ်သရဲကို ဖြစ်စေတတ်သော တယောက်သော ရဟန်း"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ပစ္စုပ္ပန်ဝတ္ထုသည် အောက်၌ ဆိုအပ်ပြီးသော ဝတ္ထုနှင့် တူသလျှင်ကတည်း။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည် သောမင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် ဖွတ်အမျိုး၌ ပဋိသန္ဓေ ယူ၏၊ ထိုအခါ တဦးသော ငါးပါးသောအဘိညာဉ်ရှိသော ခြိုးခြံသောအကျင့် ရှိသော ရသေ့သည် တခုသော ပစ္စန္တရစ်ရွာကိုအမှီပြု၍ တောအရပ်၌ သစ်ရွက် မိုးသော ကျောင်း၌ နေ၏၊ ရွာ၌နေသော လူတို့သည် ရသေ့ကို ရိုသေစွာ လုပ်ကျွေးကုန်၏၊ ဘုရားလောင်းသည် ထိုရသေ့၏စင်္ကြံဦး၌ တခုသောတောင်ပို့၌ နေ၏၊ နေသော ဘုရားလောင်းသည်လည်း နေ့တိုင်း နေ့တိုင်း နှစ်ကြိမ်, သုံးကြိမ် ဆည်းကပ်၍ အကြောင်းအကျိုးနှင့်စပ်သော စကားကိုနာ၍ ရသေ့ကို ရှိခိုး၍ မိမိနေရာအရပ်သို့ ပြန်သွား၏၊ နောက်အဘို့ကာလ၌ ရသေ့သည် ရွာ၌နေသော သူတို့ကို ပန်ကြား၍ ဖဲ၏၊ သီလအကျင့်နှင့်ပြည့်စုံသော ထိုရသေ့သည် ဖဲသည် ရှိသော် တယောက်သော ကောက်ကျစ်သော ရသေ့သည် လာလတ်၍ ထိုကျောင်း၌နေ၏၊ ဘုရားလောင်းသည်လည်း ဤရသေ့သည်လည်း သီလရှိ၏ဟု မှတ်၍ ရှေးနည်းဖြင့်လျှင် ထိုရသေ့အထံသို့ လာ၏။

ထိုအခါ နွေကာလ၌ အကာလမိုးသည် ရွာသည်ရှိသော် တောင်ပို့တို့မှ ယင်တို့သည် ထွက်ကုန်၏၊ ထိုယင်တို့ကို စားအံ့သောငှါ ဖွတ်တို့သည် လှည့်လည်ကုန်၏၊ ရွာ၌နေကုန်သော သူတို့သည် ရွာမှထွက်၍ များစွာကုန်သော ဖွတ်တို့ကို ဖမ်း၍ ဖွတ်သားတို့ကို ပြေပြစ်သော အဆောက်အဦနှင့်ယှဉ်လျက် အချဉ်အချို ချက်၍ ရသေ့အားလှူ၏၊ ရသေ့သည် ဖွတ်သားကိုစား၍ ရသတဏှာဖြင့် နှောင်ဖွဲ့သည်ဖြစ်၍ ဤအသားသည် အလွန်ကောင်း၏၊ အဘယ်မည်သော သတ္တဝါ၏ အသားနည်းဟု မေး၍ ဖွတ်သားဟုကြား၍ ငါ့အထံ၌ဖွတ်ကြီးသည် လာ၏၊ ထိုဖွတ်ကြီးကို သတ်၍ အသားကို စားအံ့ဟု ကြံ၏၊ ကြံပြီး၍ အိုးကိုရင်း ချဉ်ဆား အစရှိသည်ကိုရင်း ဆောင်စေ၍ တင့်အပ်သော အရပ်၌ ထား၍ ဆောက်ပုတ်ကိုယူ၍ သင်္ကန်းဖြင့် ဖုံးလွှမ်း၍ ကျောင်းတံခါး၌ ဘုရားလောင်း၏ လာခြင်းကို ကြည့်လျက် အလွန်ငြိမ်သက်သကဲ့သို့ ဖြစ်၍ နေ၏။

ဘုရားလောင်းသည် ညချမ်းအခါ၌ ရသေ့အထံသို့ သွားအံ့ဟု ထွက်၍ ကပ်သည်ရှိသော် ထိုရသေ့၏ ဣန္ဒြေဖောက်ပြန်ခြင်းကို မြင်၍ ရသေ့သည် တပါးသော နေ့တို့၌ နေသော အခြင်းအရာဖြင့် မနေ၊ ယနေ့ ရသေ့သည် ငါ့ကိုကြည့်ငြားသော်လည်း ပျက်သောဣန္ဒြေရှိသည်ဖြစ်၍ကြည့်၏၊ ထိုရသေ့ကို စုံစမ်းအံ့ဟု ဘုရားလောင်းသည် ရသေ့၏ လေအောက်၌ နေ၍ ဖွတ်သားနံ့ နံ၍ ဤကောက်ကျစ်သော ရသေ့သည် ယနေ့ ဖွတ်သားကို စားသည် ဖြစ်လတ္တံ့၊ ထို့ကြောင့် ထိုရသေ့အား ရသတဏှာသည် နှောင်ဖွဲ့အပ်သည်ဖြစ်၍ ယနေ့ မိမိအထံသို့ ကပ်သော ငါ့ကို ဆောက်ပုတ်ဖြင့် ရိုက်၍ အသားကို ချက်၍ စားလိုသည် ဖြစ်လတ္တံ့ဟု ထိုရသေ့ အထံသို့ မကပ်မူ၍ ဖဲ၍သွား၏၊ ရသေ့သည် ဘုရားလောင်း၏ မလာသော အဖြစ်ကိုသိ၍ ဤရသေ့သည် ငါ့ကိုသတ်လို၏ဟု ဤဖွတ်သည် သိအပ်သည် ဖြစ်လတ္တံ့၊ ထိုသို့သော အကြောင်းကြောင့် မလာငြားသော်လည်း ထိုဖွတ်အား အဘယ်မှာ လွတ်ရအံ့နည်းဟု ဆောက်ပုတ်ကို ထုတ်၍ပစ်၏၊ ထိုဆောက်ပုတ်သည် ဘုရားလောင်း၏ အမြီး အဖျားကိုလျှင် ခတ်မိ၏၊ ဘုရားလောင်းသည် လျင်စွာတောင်ပို့သို့ဝင်၍ တပါးသောအပေါက်ဖြင့် ဦးခေါင်းကိုဖော်၍ အို-ကောက်ကျစ်သောရသေ့ ငါသည် သင်၏အထံသို့ ကပ်သည်ရှိသော် သီလရှိ၏ဟု မှတ်ထင်၍ ကပ်၏၊ ယခုအခါ၌ ငါသည်

**သင်၏ ကောက်ကျစ်သောအဖြစ်ကို သိရပြီ၊ ထိုသို့သဘောရှိသောခိုးသူကြီးအား** ဤရဟန်းအသွင်ဖြင့် အဘယ်အကျိုးရှိအံ့နည်းဟု ဆိုလို၍—

၁၃၈၊ ကိံ တေ ဇဋာဟိ ဒုမ္မေဓ၊ ကိံ တေ အဇိနသာဋိယာ။
အဗ္ဘန္တရံ တေ ဂဟနံ၊ ဗာဟိရံ ပရိမဇ္ဇသိ။

ဟူသော ဤဂါထာကို ဆို၏။

ဒုမ္မေဓ၊ ရသေ့မိုက်။ တေ၊ သင့်အား။ ဇဋာဟိ၊ ဆံကျစ်တို့ဖြင့်။ ကိံ၊ အဘယ်အကျိုးရှိအံ့နည်း။ တေ၊ သင့်အား။ အဇိနသာဋိယာ၊ သစ်နက်ရေဖြင့်။ ကိံ၊ အဘယ်အကျိုးရှိအံ့နည်း။ တေ၊ သင်၏။ အဗ္ဘန္တရံ၊ ကိုယ်တွင်းနှလုံးသည်။ ဂဟနံ၊ ဖုံးလွှမ်းအပ်သော ကိလေသာ တောအုပ်ရှိ၏။ ဗာဟိရံ၊ အပကာသာ။ ပရိမဇ္ဇတိ၊ ပြေပြစ်၏။

ခိုးသူဖြစ်သော သင်သည် ဤအရပ်၌ နေသဖြင့် အဘယ်အကျိုးရှိအံ့နည်း၊ လျင်စွာ ဤအရပ်မှ ပြေးလေလော၊ အကယ်၍ မပြေးအံ့၊ သင့်အား ရွာ၌ နေသော လူတို့အား ကြား၍ နှိပ်စက်ခြင်းကို ပြုအံ့၊ ဤသို့ ဘုရားလောင်းသည် ကောက်ကျစ်သောရသေ့ကို ခြိမ်းချောက်၍ တောင်ပို့သို့လျှင် ဝင်၏၊ ကောက်ကျစ်သော ရသေ့သည်လည်း ထိုအရပ်မှ ဖဲလေ၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ၌ အံ့ဘွယ်သရဲကိုဖြစ်စေတတ်သောရဟန်းသည် ထိုအခါ ကောက်ကျစ်သော ရသေ့ဖြစ်ဘူးပြီ၊ ယခုအခါ သာရိပုတ္တရာသည် ထိုအခါရှေ့ဦးစွာနေသော သီလရှိသော ရသေ့ကြီး ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ဖွတ်ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[အပပြေပြစ်၊ အတွင်းညစ်၊ ကောက်ကျစ်သူအား သတိထား]

ရှစ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော ဂေါဓာဇာတ်သည် ပြီး၏။

---

## ၁၃၉—ဥဘတောဘဋ္ဌဇာတ်

### နှစ်ပါးစုံသောအကျိုးမှ ရှုံးခြင်းအကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညုမြတ်စွာဘုရားသည် "အက္ခီ ဘိန္နာ ပဋော နဋ္ဌော" အစရှိသော ဂါထာ

ပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤ ဥဘတောဘဋ္ဌဇာတ်ကို ဝေဠုဝန် ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "ဒေဝဒတ်"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ထိုအခါ တရားသဘင်၌ ရဟန်းတို့သည် ငါ့သျှင်တို့ နှစ်ဘက်မှ ပြောင်ပြောင်တောက်သော အလယ်၌ မစင်အလိမ်းလိမ်းကပ်သော သုသာန်၌ စွန့်အပ်သော ထင်းသည် တော၌လည်း ထင်းကိစ္စကို မပြီးစေနိုင်၊ ရွာ၌လည်း ထင်းကိစ္စကို မပြီးစေနိုင်၊ ထို့အတူလျှင် ဒေဝဒတ်သည် ဤသို့သဘောရှိသော ဝဋ္ဋဆင်းရဲမှ ထွက်မြောက်စေတတ်သော သာသနာ၌ ရဟန်းပြု၍ နှစ်ပါးစုံမှ ရှုံး၏၊ နှစ်ပါးစုံမှယုတ်၏၊ လူတို့၏စည်းစိမ်မှုလည်း ယုတ်၏၊ ရဟန်းအကျိုးကိုလည်း မပြီးစေနိုင်၊ ဤသို့လျှင် စကားကိုဖြစ်စေကုန်၏၊ မြတ်စွာဘုရားသည် လာတော်မူလတ်၍ ယခုအခါ အဘယ်စကားဖြင့် စည်းဝေးကြကုန်သနည်းဟု မေးတော် မူလတ်၍ ဤမည်သော စကားဖြင့် စည်းဝေးပါကုန်၏ဟု နားတော်လျှောက်သည်ရှိသော် ရဟန်းတို့ ယခုအခါ၌သာလျှင် ဒေဝဒတ်သည် နှစ်ပါးစုံမှ ရှုံးသည် မဟုတ်သေး၊ ရှေး၌လည်း နှစ်ပါးစုံမှ ရှုံးဘူးသလျှင်ကာတည်းဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည်မင်းပြုသည်ရှိသော် ဘုရားလောင်းသည် ရုက္ခဇိုဝ်းနတ်၏ အဖြစ်ဖြင့် ဖြစ်၏၊ ထိုအခါ ...ခုသောရွာငယ်၌ တံငါတို့သည် နေကုန်၏၊ ထိုအခါ တယောက်သော တံငါသည် ငါးမျှားချိတ်ကိုယူ၍ သားငယ်နှင့်တကွ အကြင်ထုံးအိုင်၌ ပကတိအားဖြင့်လည်း တံငါတို့သည် ငါးတို့ကို ဖမ်းယူကြကုန်၏၊ ထိုထုံးအိုင်သို့ သွား၍ ငါးမျှားချိတ်ကို ပစ်၏၊ ငါးမျှားချိတ်သည် ရေဖုံးလွှမ်းသော တခုသော သစ်ငုတ်၌ ငြိ၏၊ ထိုအခါ တံငါသည် ငါးမျှားချိတ်ကို ငင်အံ့သော၄ါ မတတ်နိုင်သည်ဖြစ်၍ ဤငါးမျှားချိတ်သည် ငါးကြီး၌ ငြိသည်ဖြစ်လတ္တံ့၊ သားငယ်ကို အမိအထံသို့စေ၍ အိမ်နီးချင်းတို့နှင့်တကွ ခိုက်ရန်ကိုဖြစ်စေအံ့၊ ဤသို့ ခိုက်ရန်ပြုသည်ရှိသော် တစုံတယောက်သော အိမ်နီးချင်းသည် ဤငါးမှအစုကို မတောင်းလတ္တံ့ဟု ကြံ၏၊ ကြံပြီးသည်ရှိသော် အမောင် သွားချေ ငါတို့သည် ငါးကြီးကို ရအပ်သည်၏ အဖြစ်ကို အမိအား ကြားချေ ...လော့ အိမ်နီးချင်းတို့နှင့်တကွ ခိုက်ရန်ကို ပြုလောဟု ဆိုချေလော့ဟု ဆို၏။

ထိုတံငါသည် သားငယ်ကို စေ၍ ငါးမျှားချိတ်ကို ငင်အံ့သောငှါ မတတ်နိုင်သည်ဖြစ်၍ ကြိုးပြတ်အံ့သည်မှ ကြောက်သောကြောင့် အပေါ်ရုံ ပုဆိုးကို ကြည်း၌ထား၍ ရေသို့သက်၍ ငါး၌ တပ်မက်မောခြင်းကြောင့် ငါးကိုစမ်းသည်ရှိသော် သစ်ငုတ်တို့ဖြင့် ခတ်မိ၍ မျက်စိနှစ်လုံးတို့သည်လည်း ပေါက်ကုန်၏၊ ထိုတံငါ၏ ကြည်း၌ထားသော ပုဆိုးကိုလည်း ခိုးသူခိုး၏၊ ထိုတံငါသည် ဝေဒနာသို့ ရောက်သည်ဖြစ်၍ မျက်စိတို့ကို လက်ဖြင့် ဖုံးအုပ်လျက် မ,၍ ရေမှတက်၏၊ တုန်လှုပ်လျက် ပုဆိုးကို ရှာ၏၊ ထိုတံငါ၏ မယားသည်လည်း ခိုက်ရန်ကိုပြု၍ တစုံတယောက်သော သူ၏ ငါးအစုကို မတောင်းသည်၏ အဖြစ်ကို ပြုအံ့ဟု နားတဘက်၌ ထန်းရွက်နားဒေါင်း ဝတ်၍ မျက်လုံးတဘက်၌ ထမင်းအိုးမင်ဖြင့် ကွက်၍ ခွေးငယ်ကို ရင်ဖြင့်ပိုက်၍ အိမ်နီးချင်းအိမ်သို့ သွား၏။

ထိုအခါ ထိုတံငါ၏ မယားကို တယောက်သော အဆွေခင်ပွန်းမသည် သင်၏ နားတဘက်၌လျှင် ထန်းရွက်နားဒေါင်းကိုဝတ်၏၊ မျက်လုံးတဘက်၌ ထမင်းအိုးမင်ဖြင့် ကွက်၏၊ ချစ်လှစွာသော သားကိုကဲ့သို့ ခွေးငယ်ကို ရင်ဖြင့်ပိုက်၍ တအိမ်မှ တအိမ်သို့ သွား၏၊ သင်သည် ရူးသလောဟု ဆို၏၊ ငါသည် မရူး သင်သည်ကား ငါ့ကို အကြောင်းမရှိဘဲလျက် ဆဲရေး၏၊ ရေရွတ်၏၊ ယခု သင့်ကို ရွာစားအထံသို့ သွား၍ ရှစ်သပြာတို့ကို လျော်စေအံ့ဟု ဤသို့ ငြင်းခုံခြင်းကို ပြု၍ နှစ်ယောက်ကုန်သော မိန်းမတို့သည် ရွာစားအထံသို့ သွားကြကုန်၏၊ ထိုမိန်းမတို့၏ ငြင်းခုံခြင်းကို စီစစ်သည်ရှိသော် ထိုတံငါမယား၏ အထက်၌သာလျှင် လျော်ဒဏ်သည် ကျ၏၊ ထိုအခါ တံငါးမယားကို နှောင်ဖွဲ့၍ ဒဏ်ကို ပေးလော့ဟု ပုတ်ခတ်အံ့သောငှါ အားထုတ်ကုန်၏၊ ရက္ခဇိုဝ်းနတ်သည် ရွာ၌ ထိုတံငါမယား၏ ဤအကြောင်းကိုရင်း, တော၌ ထိုမိန်းမ၏ လင်၏ ပျက်စီးခြင်းကိုရင်း မြင်၍ သစ်ခွကြား၌ ရပ်လျက် အို ယောကျ်ား သင်၏ အမှုသည် ရေ၌လည်း ပျက်စီး၏- ကြည်း၌လည်း ပျက်စီး၏၊ နှစ်ပါးစုံမှ ရှုံး၏ဟု ဆိုလို၍—

၁၃၉၊ အက္ခီ ဘိန္နာ ပဋော နဋ္ဌော၊ သခီ ဂေဟေ စ ဘဏ္ဍနံ။
ဥဘတော ပဒုဋ္ဌာ ကမ္မန္တာ [၁]၊ ဥဒကမှိ ထလမှိ စ။

ဟူသော ဤဂါထာကို ဆို၏။

---

၁၊ ပဒုဋ္ဌကမ္မန္တော (သီ)၊ ပဒုဋ္ဌော ကမ္မန္တော (ဇူ)

ဘော ပုရိသ၊ အိုယောကျ်ား။ တေ၊သင်၏။ အက္ခိ၊ မျက်စိတို့သည်။ ဘိန္နာ၊ ပေါက်ကုန်၏။ ပဠေ၊ ပုဆိုးသည်။ နဋ္ဌော၊ ပျောက်၏။ ဂေဟေ စ၊ အိမ်၌လည်း။ သခိ၊ မယားသည်။ ဘဏ္ဍနံ၊ ခိုက်ရန်ဖြစ်၏။ ဥဒကမှိ စ၊ ရေ၌ရင်း။ ထလမှိ စ၊ ကြည်း၌ရင်း။ ဥဘတော၊ နှစ်ပါးစုံမှ။ ကမ္မန္တာ၊ အမှုတို့သည်။ ပဒုဋ္ဌာ၊ ပျက်စီးကုန်၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ ဒေဝဒတ်သည် ထိုအခါ တံငါ ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ရုက္ခစိုဝ်းနတ် ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[နှစ်ဘက်အကျိုး၊ ဆုတ်ယုတ်ညှိုး၊ ကိုယ်ဆိုးလို့သာမှတ်]

ကိုးခုတို့၏ ပြည့်ကြောင်းဖြစ်သော ဥဘတောဘဋ္ဌ ဇာတ်သည် ပြီး၏။

---

## ၁၄၀—ကာကဇာတ်

### ပုဏ္ဏားဏ်အပေါ်၌ ကျီးမစင်စွန့်သော အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**...နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "နိစ္စံ ဥဗ္ဗိဂ္ဂ ဟဒယာ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤကာကဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "ဆွေတော် မျိုးတော်တို့၏ အကျိုးငှါ ကျင့်ခြင်း"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ပစ္စုပ္ပန်ဝတ္ထုသည် ဒွါဒသကနိပါတ် ဘဒ္ဒသာလဇာတ်၌ ထင်စွာ ဖြစ်လတ္တံ့။

**အတိတ်ဝတ္ထု**...လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် ကျီးအမျိုး၌ ဖြစ်၏၊ ထိုအခါ တနေ့သ၌ မင်း၏ ပုရောဟိတ်သည် မြို့ပမြစ်နား၌ ရေချိုးပြီးလျှင် နံ့သာတို့ဖြင့် လိမ်း၍ ပန်းပန်၍ မြတ်သောအဝတ်ကို ကောင်းစွာဝတ်လျက် မြို့သို့ဝင်၏၊ မြို့တံခါးဝယ် တံခါးတိုင်ဖျား၌ နှစ်ခုကုန်သော ကျီးတို့သည် နားကုန်၏၊ ထိုကျီးတို့တွင် တခုသောကျီးသည် တခုသောကျီးကို အဆွေ ငါသည် ဤပုဏ္ဏား၏

အပေါ်၌ မစင်ကို ချအံ့ဟု ဆို၏၊ တခုသော ကျီးသည် သင်သည် ဤအမှုကို မနှစ်သက်လင့်၊ ဤပုဏ္ဏားသည် အစိုးရ၏၊ အစိုးရသောသူနှင့်တကွ ရန်ပြုခြင်း မည်သည် ယုတ်မာ၏၊ ထိုစကားသည် မှန်၏၊ ဤပုဏ္ဏားသည် အမျက်ထွက်သည် ရှိသော် အလုံးစုံလည်း ဖြစ်ကုန်သော ကျီးတို့ကို ဖျက်ဆီးရာ၏ဟု ဆို၏၊ ငါသည် မပြုအံ့သောငှါ မတတ်နိုင်ဟု ဆို၏၊ ထိုသို့တပြီးကား အမှန်ပင်လျှင် ဘေးဖြစ် လတ္တံ့ဟု ဆို၍ တခုသောကျီးသည် ပျံ၏၊ ထိုကျီးသည် ပုဏ္ဏားသည် တံခါးတိုင် အောက်အဘို့သို့ ရောက်သည်ရှိသော် တွဲလျားဆွဲသော ဝတ္ထုကို ချွတ်သကဲ့သို့ ပုဏ္ဏား၏ ဦးခေါင်း၌ မစင်ကိုချ၏၊ ပုဏ္ဏားသည် အမျက်ထွက်၍ ကျီးတို့၌ ရန်ငြိုး ဖွဲ့၏။

ထိုအခါ တယောက်သော အခစား စပါးထောင်းသော ကျွန်မသည် ကောက်ကို အိမ်တံခါး၌ နေပူ၌ဖြန့်၍ ထိုင်လျက်လျှင် အိပ်ပျော်ခြင်းသို့ရောက် ၏၊ ထိုကျွန်မ၏ မေ့လျော့ခြင်းကိုသိ၍ ရှည်သော အမွေးရှိသော တခုသောဆိတ် သည် လာလတ်၍ ကောက်ကိုစား၏၊ကျွန်မသည် နိုးသည်ရှိသော် ထိုဆိတ်ကိုမြင် ၍ ပြေးစေ၍ ထိုဆိတ်သည် နှစ်ကြိမ်မြောက်ဌင်း သုံးကြိမ်မြောက်ဌင်း ထိုကျွန် မ၏ ထို့အတူလျှင် အိပ်ပျော်သောကာလ၌ ကောက်ကိုစား၏၊ ထိုကျွန်မသည် လည်း ထိုဆိတ်ကို သုံးကြိမ်ပြေးစေ၍ ထိုဆိတ်သည် အဖန်တလဲလဲ စားသည်ရှိ သော် ထက်ဝက်သော ကောက်ကို စားလတ္တံ့၊ ငါ့အား များစွာသော ဥစ္စာ ယုတ်ခြင်းသည် ဖြစ်လတ္တံ့၊ ယခုအခါ ထိုဆိတ်၏ မလာခြင်းအကြောင်းကို ပြုအံ့ဟု ကြံ၏၊ ကြံပြီး၍ မီးစကိုကိုင်၍ အိပ်ပျော်သကဲ့သို့ ထိုင်၍ ကောက်ကို စားအံ့သောဆိတ်သည် ရောက်သည်ရှိသော် ထ၍ မီးစဖြင့် ဆိတ်ကို ခတ်၏၊ အမွေးတို့ကို မီးလောင်ကုန်၏၊ ဆိတ်သည် ကိုယ်ကို မီးလောင်သည်ရှိသော် မီးကို ငြိမ်းစေအံ့ဟု လျှင်စွာသွား၍ ဆင်တင်းကုပ်၏ အနီး၌ တခုသော မြက်တင်းကုပ်၌ ကိုယ်ကို ပွတ်၏၊ ထိုတင်းကုပ်ကို မီးလောင်၏၊ ထိုမြက် တင်းကုပ်မှထသော မီးလျှံသည် ဆင်တင်းကုပ်ကိုစွဲ၏၊ ဆင်တင်းကုပ်ကို မီး လောင်ကုန်သည်ရှိသော် ဆင်ကျောက်ကုန်းတို့ကို လောင်ကုန်၏၊ များစွာကုန် သော ဆင်တို့သည် ကိုယ်၌ မီးလောင်မှာရှိကုန်၏၊ ဆေးသမားတို့သည် ဆင်တို့ကို အနာမရှိသည်တို့ကို ပြုအံ့သောငှါ မတတ်နိုင်ကုန်သည်ဖြစ်၍ မင်းအား ကြား ကုန်၏။

မင်းသည် ပုရောဟိတ်ကို ဆရာ ဆင်တို့ကို ဆေးသွားတို့သည် ဆေးကုအံ့သောငှါ မတတ်နိုင်ကုန် တစုံတခုသောဆေးကို သင်သည် သိသလောဟုမေး၏၊ မြတ်သောမင်းကြီး သိ၏ဟု ဆို၏၊ အဘယ်ကို ရအံ့သောငှါ သင့်သနည်းဟု မေး၏၊ မြတ်သောမင်းကြီး ကျီးဆီကို ရခြင်းငှါ သင့်၏ဟုဆို၏၊ ထိုသို့တပြီးကား ကျီးတို့ကို သတ်၍ အဆီကို ဆောင်ကုန်လောဟု ဆို၏၊ ထိုအခါမှစ၍ ကျီးတို့ကို သတ်၍ အဆီကိုမရ၍ ထိုထိုအရပ်၌လျှင် အစုကိုပြုကုန်၏၊ ကျီးတို့အား ကြီးစွာသောဘေးသည် ဖြစ်၏၊ ထိုအခါ ဘုရားလောင်းသည် ကျီးရှစ်သောင်း အခြံအရံရှိသည်ဖြစ်၍ သုသာန်၌ နေ၏၊ တခုသော ကျီးသည် သွား၍ ကျီးတို့အား ဖြစ်သောဘေးကို ဘုရားလောင်းအား ကြား၏၊ ဘုရားလောင်းသည် ငါ့ကို ထား၍ ငါမှတပါးသော ငါ၏ အဆွေအမျိုးတို့အား ဘေးကို ပယ်ခြင်းငှါ စွမ်းနိုင်သော သူမည်သည် မရှိ၊ ထိုဘေးကိုပယ်အံ့ဟု ဆယ်ပါးသောပါရမီတို့ကို ဆင်ခြင်၍ မေတ္တာပါရမီကို ရှေ့သွားပြု၍ တဟုန်တည်းဖြင့် ပျံ၍ ဖွင့်အပ်သော လေသွန်တံခါးမဖြင့် ဝင်၍ မင်း၏နေရာ အောက်သို့ ဝင်၏။

ထိုအခါ ထိုကျီးကို တယောက်သောသူသည် ဖမ်းလိုသည်ဖြစ်၏၊ မင်းသည် ဘေးလွတ်ရာသို့ ဝင်၏၊ မဖမ်းလင့်ဟု မြစ်၏၊ ဘုရားလောင်းသည် အတန်ငယ် အပင်အပန်းဖြေ၍ မေတ္တာပါရမီကိုဆင်ခြင်၍ နေရာအောက်မှထွက်၍ မင်းကို မြတ်သော မင်းကြီး မင်းမည်သည် ဆန္ဒ အစရှိသည်၏ အစွမ်း အားဖြင့် မလားမူ၍ မင်းပြုအံ့သောငှါ သင့်၏၊ အကြင်အမှုကို ပြုအပ်၏၊ ထိုအမှုကို စုံစမ်းဆင်ခြင်၍ ပြုခြင်းငှါ သင့်၏၊ ပြုအပ်သော အကြင်အမှုသည် ပြီး၏၊ ထိုအမှုကိုသာလျှင် ပြုခြင်းငှါ သင့်၏၊ ဤမှတပါးသော အမှုကို မပြုအပ်၊ ပြုအပ်သော အကြင် အမှုသည် မပြီး၊ ထိုအမှုကို မင်းတို့သည် အကယ်၍ ပြုကုန်အံ့၊ လူအများအား သေဘေး အဆုံးရှိသော ကြီးစွာသော ဘေးသည် ဖြစ်လတ္တံ့၊ ပုရောဟိတ်သည် ရန်ငြိုးဖွဲ့သည်ဖြစ်၍ မုသားဆိုခြင်းကို ပြု၏၊ ကျီးတို့အား အဆီမည်သည် မရှိဟု ဆို၏၊ ထိုစကားကို ကြား၍ မင်းသည် ကြည်ညိုသော စိတ်ရှိသည်ဖြစ်၍ ဘုရားလောင်းကို ရွှေအင်းပျဉ်၌ နေစေ၍ ထိုရွှေအင်းပျဉ်၌နေသော ဘုရားလောင်း၏ အတောင်ကြားတို့ကို အကြိမ်တရာ အကြိမ်တထောင် ချက်အပ်သော ဆီတို့ဖြင့် လိမ်း၍ ရွှေခွက်ငယ်နှင့် မင်းအား

ထိုက်သော ကောင်းသော ဘောဇဉ်ကို ပေးစေ၍ ဝသော ကင်းသော ပူပန်ခြင်း ရှိသော ဘုရားလောင်းကို ပညာရှိ သင်သည် ကျီးတို့အား အဆီမည်သည် မရှိဟု ဆို၏၊ အဘယ်အကြောင်းကြောင့် ကျီးတို့အား အဆီမရှိသနည်းဟု မေး၏၊ ထိုအခါ မင်းကို ဘုရားလောင်းသည် ဤအကြောင်းကြောင့်ငင်း,ဤအကြောင်း ကြောင့်ငင်း အဆီမရှိဟု အလုံးစုံသော မင်းအိမ်ကို တစပ်တည်းသော အသံ ရှိသည်ကိုပြု၍ တရားဟောလိုရကား—

၁၄၀၊ နိစ္စံ ဥဗ္ဗိဂ္ဂဟဒယာ၊ သဗ္ဗလောကဝိဟေသကာ။
တသ္မာ နေသံ ဝသာ နတ္ထိ၊ ကာကာနမှာက ဉာတိနံ။

ဟူသော ဤဂါထာကို ဆို၏။

မဟာရာဇ၊ မြတ်သောမင်းကြီး။ ကာကာ နာမ၊ ကျီးတို့မည်သည်ကား။ နိစ္စံ၊ အမြဲ။ ဥဗ္ဗိဂ္ဂဟဒယာ၊ ထိတ်လန့်သော နှလုံးရှိကုန်၏။ သဗ္ဗလောကဝိဟေသကာ၊ ခပ်သိမ်းသော လူတို့ကို ညှဉ်းဆဲတတ်ကုန်၏။ တသ္မာ၊ ထို့ကြောင့်။ အမှာကံ၊ ငါတို့၏။ ဉာတိနံ၊ အဆွေအမျိုးဖြစ်ကုန်သော။ နေသံ ကာကာနံ၊ ထိုကျီးတို့အား။ ဝသာ၊ အဆီသည်။ နတ္ထိ၊ မရှိ။

လွန်လေပြီးသောအခါကလည်းမဖြစ်စဘူး နောင်အခါ၌လည်းမဖြစ်လတ္တံ့၊ ဤသို့ ဘုရားလောင်းသည် ဤအကြောင်းကို ထင်စွာပြု၍ မြတ်သောမင်းကြီး မင်းမည်သည် မစုံစမ်း မဆင်ခြင်မူ၍ မပြုအပ်ဟု မင်းကို သိစေ၏၊ မင်းသည် လည်း နှစ်သက်၍ ဘုရားလောင်းအား မင်းအဖြစ်ဖြင့် ပူဇော်၏၊ ဘုရားလောင်း သည် မင်းအဖြစ်ကို ခံ၍ မင်းအား အပ်နှင်း၏၊ မင်းကို ငါးပါးကုန်သော သီလတို့၌ တည်စေ၍ ခပ်သိမ်းကုန်သော သတ္တဝါတို့အား ဘေးမဲ့ကိုတောင်း၏၊ မင်းသည်လည်း ဘုရားလောင်း၏ ဒေသနာကို နာရ၍ ခပ်သိမ်းကုန်သော သတ္တဝါတို့အား ဘေးမဲ့ပေး၍ ကျီးတို့အား အမြဲဖြစ်သော အလှူဝတ်ကို တည်စေ၏၊ နေ့တိုင်း နေ့တိုင်း တဆယ့်တစိတ်သော ဆန်ကို ထမင်းချက်စေ၍ အထူးထူးသော မြတ်သော အရသာဖြင့် နယ်၍ ကျီးတို့အား လှူ၏၊ ဘုရား လောင်းအားကား မင်း၏ ဘောဇဉ်ကိုလျှင် လှူ၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ အာနန္ဒာသည် ထိုအခါ ဗာရာဏသီမင်း ဖြစ်ဘူးပြီ၊ ယခုအခါ ငါ ဘုရားသည်လျှင် ထိုအခါ ကျီးမင်း ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[ဆွေမျိုးအကျိုး၊ ဆောင်သည်ပိုး၊ ဘေးမျိုးရန်ကွာ စည်းစိမ်ဖြာ]

ဆယ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော ကာကဇာတ်သည် ပြီး၏။

---

## ၁၅—ကကဏ္ဍကဝဂ် ၁၄၁—ဂေါဓဇာတ်

### ဆန့်ကျင်ဘက် အဆွေခင်ပွန်းနှင့် မပေါင်းအပ်သော အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "န ပါပဇနသံသေဝီ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤဂေါဓဇာတ်ကို ဝေဠုဝန် ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "တယောက်သော ဆန့်ကျင်ဘက် အဆွေခင်ပွန်းကို ပေါင်းဘော်သော ရဟန်း"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ (ပစ္စုပ္ပန် ဝတ္ထုသည် မဟိဠာမုခ ဇာတ်၌ ဆိုအပ်ပြီးသည်နှင့် တူသလျှင်ကတည်း)။

**အတိတ်ဝတ္ထု**...လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုလတ်သည်ရှိသော် ဘုရားလောင်းသည် ဖွတ်အမျိုး၌ ပဋိသန္ဓေ နေ၏၊ ထိုဘုရားလောင်းသည် အရွယ်သို့ ရောက်သည်ရှိသော် မြစ်နား၌ တွင်းကြီး၌ အရာမကသော ဖွတ်တို့ဖြင့် ခြံရံလျက် နေ၏ ထိုဖွတ်မင်း၏ သား ဖြစ်သော ဖွတ်ငယ်သည် တခုသောပုတ်သင်နှင့်တကွ အဆွေခင်ပွန်းဖွဲ့ခြင်းကိုပြု၍ ထိုပုတ်သင်နှင့်တကွ ဝမ်းမြောက်ဝမ်းသာနေလျက် ပုတ်သင်ကို ဘက်အံ့ဟု ဖိ၏၊ ထိုဖွတ်ကို ထိုပုတ်သင်နှင့်တကွ အကျွမ်းဝင်ခြင်းကို ဖွတ်မင်းအား ကြားကုန်၏၊ ဖွတ်မင်းသည် သားကို ခေါ်စေ၍ အမောင် သင်သည် အရာမဟုတ်သည်၌ အကျွမ်းဝင်ခြင်းကို ပြု၏၊ ပုတ်သင်တို့မည်သည် ယုတ်သောအမျိုးရှိကုန်၏၊ ထိုပုတ်သင်နှင့်တကွ အကျွမ်းဝင်ခြင်းကို မပြုအပ်၊ သင်သည် ထိုပုတ်သင်နှင့် တကွ အကျွမ်းဝင်ခြင်းကို အကယ်၍ ပြုလတ္တံ့၊ ထိုပုတ်သင်ကိုမှီ၍ အလုံးစုံ

လည်းဖြစ်သော ဖွတ်အမျိုးသည် ပျက်စီးခြင်းသို့ ရောက်လတ္တံ့၊ ဤနေ့မှစ၍ ထိုပုတ်သင်နှင့် တကွ အကျွမ်းဝင်ခြင်းကို မပြုလင့်ဟု ဆို၏၊ ထိုဖွတ်ငယ်သည် ပြုသည်သာလျှင်တည်း။

ဘုရားလောင်းသည် အဖန်တလဲလဲ ဆိုငြားသော်လည်း ထိုဖွတ်ငယ်အား ထိုပုတ်သင်နှင့် တကွ အကျွမ်းဝင်ခြင်းကို မြစ်အံ့သောငှါ မတတ်နိုင်သည်ဖြစ်၍ ငါတို့အား ထိုပုတ်သင်ကိုမှီ၍ ဘေးဖြစ်လတ္တံ့၊ ထိုဘေးဖြစ်သည်ရှိသော် ပြေးရာခရီးကို ပြည့်စုံစေခြင်းငှါ သင့်၏ဟု နံပါးတဘက်၌ ကယ်ပေါက်ကို ပြုစေ၏၊ ဖွတ်မင်း၏သားသည်လည်း အစဉ်သဖြင့် ကြီးသောကိုယ်ရှိသည် ဖြစ်၏၊ ပုတ်သင်သည်ကား ရှေးပမာဏရှိသည်သာလျှင် ဖြစ်၏၊ ဖွတ်သည် ပုတ်သင်ကို ဘက်အံ့ဟု ရံခါ ဖိသလျှင်ကတည်း၊ ပုတ်သင်အား တောင်ထွဋ်ဖြင့် ဖိသကဲ့သို့ဖြစ်၏၊ ထိုပုတ်သင်သည် ပင်ပန်းသည်ဖြစ်၍ ဤဖွတ်သည် နှစ်ရက် သုံးရက်တို့ပတ်လုံး ငါ့ကို ဤသို့ ဘက်လတ္တံ့၊ ငါ၏အသက်သည် မရှိပြီ၊ တယောက်သော မုဆိုးနှင့်တကွ ပေါင်းသည်ကိုပြု၍ ဤဖွတ်အမျိုးကို ဖျက်အံ့ဟု ကြံ၏၊ ကြံပြီး၍ ထိုနောင်မှ တနေ့သ၌ နွေအခါ၌ မိုဃ်းရွာသည်ရှိသော် တောင်ပို့မှ ယင်တို့သည် ထွက်ကုန်၏၊ ထိုထိုအရပ်မှ ဖွတ်တို့သည် ထွက်ကုန်၍ ယင်တို့ကို စားကုန်၏။

တယောက်သောဖွတ်မုဆိုးသည် ဖွတ်တွင်းကို ဖျက်အံ့ဟု ပေါက်တူးကိုကိုင်၍ ခွေးတို့နှင့်တကွ တောသို့ဝင်၏၊ ပုတ်သင်သည် ထိုမုဆိုးကိုမြင်၍ ငါ၏ နှလုံးအလိုကို ဖြည့်အံ့ဟု မုဆိုးအထံသို့ ကပ်၍ အိုယောကျ်ား အဘယ့်ကြောင့် တော၌ လှည့်လည်သနည်းဟု မေး၏၊ ဖွတ်တို့၏အကျိုးငှါ လှည့်လည်၏ဟု ဆို၏၊ ငါသည် များစွာသော ဖွတ်တို့၏နေရာကို သိ၏၊ ထိုနေရာကို ပြအံ့၊ မီးကိုရင်း ကောက်ရိုးကိုရင်း ယူ၍ လာလောဟု ဆို၏၊ ထိုမုဆိုးကို ထိုအရပ်သို့ ပို့ဆောင်၍ တောင်ပို့ကိုပြ၍ အိုယောကျ်ား သင်သည် ဤတောင်ပို့၌ ကောက်ရိုးကိုထည့်၍ မီးကိုတိုက်ပြီးလျှင် အခိုးကိုလွှတ်၍ ထက်ဝန်းကျင်မှ ခွေးတို့ကို ထား၍ မိမိသည် ဆောက်ပုတ်ကြီးကို ကိုင်၍ ထွက်တိုင်း ထွက်တိုင်းကုန်သော ဖွတ်တို့ကို ရိုက်သတ်၍ အစုကို ပြုလော၊ ဤသို့လည်း ဆို၍ ယနေ့ ရန်သူ၏ ပျက်စီးခြင်းကို မြင်ရလတ္တံ့ဟု တခုသောအရပ်၌ ဦးခေါင်းကိုထောင်၍ အိပ်၏။

မူဆိုးသည်လည်း ကောက်ရိုးမီးခိုးကို လွှတ်၏၊ အခိုးသည် တွင်းဝသို့ဝင်၏၊ ဖွတ်တို့သည် အခိုးသင့်ကုန်၍ သေဘေးမှ ကြောက်ကုန်ရကား ထွက်၍ပြေးအံ့ သော်ငှါ အားထုတ်ကုန်၏၊ မူဆိုးသည်လည်း ထွက်တိုင်း ထွက်တိုင်းကုန်သော ဖွတ်တို့ကို ရိုက်သတ်၏၊ မူဆိုးလက်မှ လွတ်တိုင်း လွတ်တိုင်းကုန်သော ဖွတ်တို့ကို ခွေးတို့သည် ဖမ်းကုန်၏၊ ဖွတ်တို့အား ကြီးစွာသော ပျက်စီးခြင်းသည် ဖြစ်၏၊ ဘုရားလောင်းသည် ပုတ်သင်ကို မှီ၍ ဘေးဖြစ်၏ဟု သိ၍ ယုတ်မာသော ယောကျ်ားနှင့် ပေါင်းဘော်ခြင်းမည်သည်ကို မပြုအပ်၊ ယုတ်မာသော သူတို့ကို မှီ၍ စီးပွားချမ်းသာ မည်သည် မရှိ၊ ထိုယုတ်မာသော ပုတ်သင်၏ အစွမ်း အားဖြင့် ဤမျှအတိုင်းအရှည်ရှိကုန်သော ဖွတ်တို့၏ ပျက်စီးခြင်းသည် ဖြစ်၏ဟု ကယ်ပေါက်ဖြင့် ပြေး၍—

၁၄၁၊ **န** ပါပဇန သံသေဝိ၊ အစ္စန္တ သုခမေဓတိ။
ဂေါဓာကုလံ ကကဏ္ဍာဝ၊ ကလိံ ပါပေတိ အတ္တနံ။

ဟူသော ဤဂါထာကို ဆို၏။

ဂေါဓာကုလံ၊ ဖွတ်မျိုးသည်။ ကကဏ္ဍာ၊ ပုတ်သင်မှ။ သုခံ၊ ချမ်းသာကို။ **န** ဧဓတိ ဣဝ၊ မရသကဲ့သို့။ ပါပဇနသံသေဝိ၊ ယုတ်မာသော အဆွေခင်ပွန်းနှင့် ပေါင်းဘော်သော သူသည်။ အစ္စန္တသုခံ၊ စင်စစ် ချမ်းသာကို။ န ဧဓတိ၊ မရ။ အတ္တာနံ၊ ကိုယ်ကို။ ကလိံ၊ ပျက်စီးခြင်းသို့။ ပါပေတိ၊ ရောက်စေ၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ ဒေဝဒတ်သည် ထိုအခါ ပုတ်သင်ဖြစ်ဘူးပြီ၊ ယခုအခါ ဆန့်ကျင်ဘက် အဆွေခင်ပွန်းကို ပေါင်းဘော်သော ရဟန်းသည် ထိုအခါ ဘုရားလောင်း၏ သားဖြစ်သော ဖွတ်ငယ် ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ဖွတ်မင်း ဖြစ်ဘူးပြီဟု ဇာတ်ကိုပေါင်းတော်မူ၏။

[ဆန့်ကျင်ဘက်သား၊ မိတ်ဆွေထား၊ အမျှား ပျက်စီးမည်]

ရှေးဦးစွာသော ဂေါဓဇာတ်သည် ပြီး၏။

## ၁၄၂—သိဂ်ါလဇာတ်

### ဒေဝဒတ်အလောင်းသည် ဘုရားလောင်းအား သတ်ခြင်းငှါ လုံ့လပြုသော အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညုမြတ်စွာဘုရားသည် "ဧတံ ဟိ တေ ဒုရာဇာနံ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤသိဂ်ါလဇာတ်ကို ဇေတဝန် ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "ဒေဝဒတ်၏ သတ်အံ့သောငှါ လုံ့လပြုခြင်း" ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုစကားကို ခွဲ့ဦးအံ့၊ တရားသဘင်၌ ရဟန်းတို့၏ စကားကို ကြာတော်မူ၍ မြတ်စွာဘုရားသည် ရဟန်းတို့ ယခုအခါ၌ သာလျှင် ဒေဝဒတ်သည် ငါဘုရားအား သတ်ခြင်းငှါလုံ့လပြုသည်မဟုတ်သေး၊ ရှေး၌လည်း သတ်အံ့သောငှါ လုံ့လပြုဘူးသလျှင် ကတည်း၊ ထိုသို့ ပြုငြား သော်လည်း ငါဘုရားကို သတ်အံ့သောငှါ မတတ်နိုင်၊ မိမိသည်သာလျှင် ပင်ပန်း၏ဟု မိန့်တော်မူ၍ အတိတ်ကို မဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည်မင်းပြုသည်ရှိသော် ဘုရားလောင်းသည် မြေခွေးဝမ်း၌ ပဋိသန္ဓေယူသဖြင့် မြေခွေးမင်းဖြစ်၍ မြေခွေးအပေါင်းခြံရံလျက် သုသာန်တော၌နေ၏၊ ထိုအခါ ရာဇဂြိုဟ်ပြည်၌ ပွဲသဘင်ဖြစ်၏၊ များသောအားဖြင့် လူတို့သည် သေသောက်ကုန်၏၊ဤပွဲသည် သေသောက်သော ပွဲသည်သာလျှင် ဖြစ်သတတ်၊ ဤပွဲ၌ များစွာသော သေသောက်ကြူးတို့သည် များစွာသော သေကိုရင်း အမဲကိုရင်း ဆောင်ခဲ့စေ၍ တန်ဆာဖြင့် ဆင်ယင်ကုန်လျက် သီ၍ သီ၍ သေကိုလည်း သောက်ကုန်၏၊ အမဲကိုလည်း စားကုန်၏၊ ထိုသေသောက်ကြူးတို့အား ပဌမယာမ်၏ အဆုံး၌လျှင် အမဲသည် ကုန်၏၊ သေသည်ကား များသေးသလျှင် ကတည်း။

ထိုအခါ တယောက်သော သေသောက်ကြူးသည် အမဲတို့ကို ပေးလော့ဟု ဆို၏၊ အမဲသည် ကုန်ပြီဟု ဆိုသည်ရှိသော် ငါသည် ထင်ရှားရှိစဉ် အမဲ၏ ကုန်ခြင်းမည်သည် မရှိဟု ဆို၍ အစိမ်းပစ်ရာ သုသာန်၌ လူသေ၏ အသားကို စားအံ့သောငှါ လာသော မြေခွေးကို သတ်၍ အသားကို ဆောင်အံ့ဟု

ဆောက်ပုတ်ကို ကိုင်၍ ပြွန်ပေါက်ခရီးဖြင့် မြို့မှထွက်၍ သုသာန်သို့ သွား၍ ဆောက်ပုတ်ကို ကိုင်၍ ထိုခဏ၌ သူသေကဲ့သို့ ပက်လက်အိပ်၏၊ ဘုရားလောင်းသည် မြေခွေးအပေါင်း ခြံရံလျက် ထိုသုသာန်သို့ သွား၏၊ ထိုသေသောက်ကြူးကိုမြင်၍ ဤသူသည် မသေဟု သိ၍လည်း အတိုင်းထက် အလွန် စုံစမ်းဦးအံ့ဟု ထိုသေသောက်ကြူး၏ လေအောက်၌ ရပ်၍ ကိုယ်နံ့ကို နမ်း၍ အဟုတ်အမှန် သေသောက်ကြူး၏ မသေသောအဖြစ်ကို သိ၍ ထိုသေသောက်ကြူးကို ရှက်စေ၍ လွှတ်လိုက်အံ့ဟု သွား၍ ဆောက်ပုတ်စွန်း၌ ကိုက်၍ ငင်၏၊ သေသောက်ကြူးသည် ဆောက်ပုတ်ကို မလွှတ်ဘဲ ကပ်လာသောမြေခွေးကိုကား ကြည့်လျက် သာလျှင် မြဲစွာကိုင်၏၊ ဘုရားလောင်းသည် ဖဲ၍ အို ယောကျ်ား သင်သည် သေသည် အကယ်၍ ဖြစ်ငြားအံ့၊ ငါသည် ဆောက်ပုတ်ကို ငင်သည်ရှိသော် အတိုင်းထက်အလွန် မြဲစွာမကိုင်ရာ၊ ဤသို့သော အကြောင်းကြောင့် သေသောအဖြစ်ကိုရင်း မသေသော အဖြစ်ကိုရင်း သိနိုင်ခဲ၏ဟု ဆိုလို၍—

> ၁၄၂၊ တေ ဟိ တေ ဒုရာဇာနံ၊ ယံ သေသိ မတသာယိတံ။
> ယဿ တေ ကဍ္ဍမာနဿ၊ ဟတ္ထာ ဒဏ္ဍော န မုစ္စတိ။

ဟူသော ဤဂါထာကို ဆို၏။

ဘော ပုရိသ၊ အိုယောကျ်ား။ တွံ၊ သင်သည်။ ယံ-ယေန ကာရဏေန၊ အကြင် အကြောင်းကြောင့်။ မတသာယိတံ၊ သူသေကဲ့သို့သော အိပ်ခြင်းကို။ သေသိ၊ အိပ်၏။ ကဍ္ဍမာနဿ၊ ငင်အပ်သော။ ယဿ တေ၊ အကြင် သင်၏။ ဟတ္ထာ၊ လက်မှ။ ဒဏ္ဍော၊ ဆောက်ပုတ်သည်။ န မုစ္စတိ၊ မလွှတ်။ တေ၊ သင်၏။ တေ ကာရဏံ၊ ထိုအကြောင်းကို။ ဒုရာဇာနံ၊ သိနိုင်ခဲ၏။

ဤသို့ ဆိုသည်ရှိသော် ထိုသေသောက်ကြူးသည် ထိုမြေခွေးသည် ငါ၏ မသေသောအဖြစ်ကို သိ၏ဟု ထ၍ ဆောက်ပုတ်ဖြင့် ပစ်၏၊ ဆောက်ပုတ်သည် ချွတ်ယွင်း၏၊ သေသောက်ကြူးသည် ယခု ငါသည် ချွတ်ယွင်းသည် ဖြစ်၏၊ သင်သည် သွားလေလော့ဟု ဆို၏၊ ဘုရားလောင်းသည် ပြန်၍ အို ယောကျ်ား သင်သည် ငါ့ကိုကား ချွတ်ယွင်း၏၊ ရှစ်ထပ်သော ငရဲကြီးတို့ကိုရင်း, တဆယ့်ခြောက်ထပ်သော ဥဿဒငရဲငယ်တို့ကိုရင်း မချွတ်ယွင်းသည်သာလျှင်တည်း

ဟုဆို၍ ဖဲလေ၏၊ သေသောက်ကြူးသည် တစုံတခုကို မရမူ၍ သုသာန်မှထွက်၍ ကျုံး၌ ရေချိုး၍ လာသော ခရီးဖြင့်သာလျှင် မြို့သို့ ဝင်၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ ဒေဝဒတ်သည် ထိုအခါ သေသောက်ကြူး ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ မြေခွေး ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[သူတပါးကို၊ သေစေလို၊ ကိုယ်ကိုပင်ပန်း ကျိုးမလန်း]

နှစ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော သိင်္ဂါလဇာတ်သည် ပြီး၏။

## ၁၄၃—ဝိရောစဇာတ်

### မတုပအပ်သည်ကို တုပသောကြောင့် ကြီးစွာပျက်စီးခြင်းသို့ ရောက်သော အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "လသီ စ တေ နိပ္ဖလိတာ"အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤ ဝိရောစဇာတ်ကို ဝေဠုဝန် ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "ဒေဝဒတ်သည် ဂယာသီသ၌ မြတ်စွာဘုရား အတုပြုသည်၏အဖြစ်" ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုစကားကို ချဲ့ဦးအံ့၊ ဒေဝဒတ်သည် ယုတ်သော ဈာန်ရှိသည်ဖြစ်၍ ယုတ်သော လာဘ်ရှိသည်ဖြစ်၍ တခုသောအကြောင်းသည် ရှိ၏ဟုကြံ၍ မြတ်စွာဘုရားကို ငါးပါးသောဝတ္ထုဘိုကိုတောင်း၍ မရသည်ရှိသော် နှစ်ပါးစုံသော အဂ္ဂသာဝကတို့၏ အတူနေဘပည့်ဖြစ်ကုန်သော ရဟန်းသစ်ဖြစ်ကုန်သော ဓမ္မဝိနယ၌ မလိမ္မာကုန်သော ငါးရာကုန်သော ရဟန်းတို့ကိုခေါ်၍ ဂယာသီသသို့သွား၍ သံဃာကိုခွဲ၍ တသိမ်တည်း၌ အသီးသီးသော သံဃာကံကိုပြု၍ မြတ်စွာဘုရားသည် ထိုရဟန်းတို့၏ ဉာဏ်ရင့်သော ကာလကို သိ၍ နှစ်ပါးကုန်သော အဂ္ဂသာဝကတို့ကို စေ၏၊ ထိုအဂ္ဂသာဝကတို့ကို မြင်၍ ဒေဝဒတ်သည် နှစ်သက်သော စိတ်ရှိသည်ဖြစ်၍ ညဉ့်အခါ၌ တရားကို ဟောလတ်သည်ရှိသော် ဘုရား၏ တင့်တယ်စံပယ်ခြင်းကို ပြုအံ့ဟု မြတ်စွာဘုရား၏အတုကိုပြုလို၍ငါ့သျှင်သာရိပုတ္တရာ ရဟန်းသံဃာသည်

ကင်းသော ထိနမိဒ္ဓ ရှိ၏၊ သင်သည် ရဟန်းတို့အား တရားဟော ပါလော့၊ ငါ၏ ကျောက်သည် ညောင်းညာ၏၊ ငါသည် ထိုကျောက်ကို ဆန့်ဦးအံ့ဟု ဆို၍ အိပ်ပျော်ခြင်းသို့ ရောက်၍ နှစ်ပါး ကုန်သော အဂ္ဂသာဝက တို့သည် ထိုရဟန်းတို့အား တရားဟော၍ အရဟတ္တဖိုလ်ဖြင့် နိုးစေ၍ ခပ်သိမ်းကုန်သော ရဟန်းတို့ကို ယူ၍ ဝေဠုဝန်ကျောင်းသို့ သာလျှင် ပြန်ကုန်၏။

ကောကာလိကသည် အချည်းနှီးသော ကျောင်းကို မြင်၍ ဒေဝဒတ်၏ အထံသို့ သွား၍ ငါ့သျှင် ဒေဝဒတ် သင်၏ပရိသတ်ကိုဖျက်၍ နှစ်ပါးကုန်သော အဂ္ဂသာဝကတို့သည် ကျောင်းကို အချည်းနှီးပြု၍ သွားကုန်၏၊ သင်သည်ကား အိပ်သည်သာလျှင်တည်းဟု ဆို၍ ထိုဒေဝဒတ်၏ ကိုယ်ဝတ်သက်န်းကို ပယ်၍ နံရံ၌ ကျောက်တိုင်ဖြင့် ကြိတ်သကဲ့သို့ ဒေဝဒတ်ကို ဖနောင့်ဖြင့် ရင်၌ဆောင့်၏၊ ထိုခဏ၌ပင်လျှင် ထိုဒေဝဒတ်၏ခံတွင်းမှသွေးအန်၏၊ ထိုဒေဝဒတ်သည်ထိုအခါမှ စ၍ နာသည်ဖြစ်၏၊ မြတ်စွာဘုရားသည် သာရိပုတ္တရာမထေရ်ကို သာရိပုတ္တရာ သင်တို့၏ သွားသောကာလ၌ ဒေဝဒတ်သည် အသို့ပြုသနည်းဟု မေးတော်မူ၏၊ အရှင်ဘုရား ဒေဝဒတ်သည် အကျွန်ုပ်တို့ကို မြင်၍ ဘုရား၏ တင့်တယ် စံပယ်ခြင်းကို ပြုအံ့ဟု မြတ်စွာဘုရား၏ အတုကိုပြု၍ ကြီးစွာသော ပျက်စီးခြင်းသို့ ရောက်၏ဟု လျှောက်၏၊ မြတ်စွာဘုရားသည် သာရိပုတ္တရာ ဒေဝဒတ်သည် ယခုသာလျှင် ငါ၏အတုကိုပြု၍ ပျက်စီးခြင်းသို့ ရောက်သည် မဟုတ်သေး၊ ရှေး၌လည်း ရောက်ဘူးသည် သာလျှင်တည်းဟု မိန့်တော်မူ၏၊ သာရိပုတ္တရာ မထေရ်သည် တောင်းပန်အပ်သည်ဖြစ်၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည်မင်းပြုသည်ရှိသော် ဘုရားလောင်းသည် ကေသရရာဇာခြင်္သေ့ဖြစ်၍ ဟိမဝန္တာ အရပ်၌ ရွှေဂူ၌ နေ၏၊ ထိုကေသရရာဇာ ခြင်္သေ့သည် တနေ့သ၌ ဂူမှထွက်၍ အရပ်လေးမျက်နှာကို ကြည့်၍ ခြင်္သေ့သံကို ဟောက်၍ အစာရှာအံ့သောငှါ သွားသည်ရှိသော် ကျွဲကြီးကိုသတ်၍မြတ်သောအသားကိုစားပြီးသည်ရှိသော် တခုသော အိုင်သို့သက်၍ ပတ္တမြားအဆင်းနှင့်တူသော ရေဖြင့် ဝမ်းကို ပြည့်စေ၍ လိုဏ်ကိုရည်၍ သွား၏၊ ထိုအခါ တခုသော မြေခွေးသည် အစာရှာသွားသည်ရှိသော် အဆောတလျင် ခြင်္သေ့ကိုမြင်၍ ပြေးအံ့သောငှါ မတတ်နိုင်

သည်၏ အဖြစ်ကြောင့် ခြသေ့်၏ ရှေ့မှ လက်တို့ဖြင့် ရှိခိုး၍ ဝပ်၏၊ မြေခွေး အသို့ပြုသနည်းဟု ဆိုသည်ရှိသော် အရှင် အကျွန်ုပ်သည် အရှင်၏ ခြေရင်း၌ လုပ်ကျွေးလို၏ဟုဆို၏၊ ခြသေ့်သည် ကောင်းပြီ လာလော့ ငါ့ကိုလုပ်ကျွေးလော့၊ သင့်ကို မြတ်သော အသားကို စားစေအံ့ဟုဆို၍ မြေခွေးကို ခေါ်၍ ရွှေဂူသို့ သွား၏၊ မြေခွေးသည် ထိုအခါမှစ၍ ခြသေ့်၏စားကြွင်းကိုစား၏၊ ထိုမြေခွေးသည် နှစ်ရက် သုံးရက် လွန်သဖြင့်လျှင် ဝသောကိုယ်ရှိသည် ဖြစ်၏။

ထိုအခါ ထိုမြေခွေးကို တနေ့သ၌ ဂူ၌အိပ်လျက်လျှင် ခြသေ့်သည် မြေခွေး သွားချေ တောင်ထိပ်၌ရပ်၍ တောင်ခြေရင်း၌ လှည့်လည်ကုန်သော ဆင်,မြင်း, ကျွဲအစရှိသည် တို့တွင် အကြင် သား၏ အသားကို စားလို၏၊ ထိုသားကို ကြည့်ပြီးလျှင် လာလတ်၍ ဤမည်သော သား၏ အသားကို စားလို၏ဟု ဆို၍ ငါ့ကို ရှိခိုး၍ အရှင် ထွန်းပလောဟုဆိုလော့၊ ငါသည် ထိုသားကိုသတ်၍ မြတ်သော အသားကို စား၍ သင့်အားလည်း ပေးအံ့ဟု ဆို၏၊ မြေခွေးသည် တောင်ထိပ်သို့ တက်၍ အထူးထူး အပြားပြားရှိကုန်သော သားတို့ကိုကြည့်၍ အကြင် သား၏ အသားကိုလျှင် စားလို၏၊ ရွှေဂူသို့ဝင်၍ ထိုသားကိုလျှင် ခြသေ့်အား ကြား၍ အရှင် ထွန်းပလောဟု ဆို၏၊ ခြသေ့်သည် လျင်စွာ ပြေး၍ အမုန်ယစ်သော မြတ်သော ဆင်သည်လည်း အကယ်၍ဖြစ်အံ့၊ ထိုအရပ် ၌လျှင် ထိုဆင်ကို အသက်ကုန်ခြင်းသို့ ရောက်စေ၍ မိမိသည်လည်း မြတ်သော အသားကို စား၏၊ မြေခွေးအားလည်း ပေး၏၊ မြေခွေးသည် ဝမ်းပြည့်အောင် အသားကို စား၍ ဂူသို့ဝင်၍ အိပ်၏။

ထိုမြေခွေးသည်ကာလရှည်သည်ရှိသော် ငါသည်လည်း အခြေလေးချောင်း ရှိသလျှင်ကတည်း၊ အဘယ့်ကြောင့် သူတပါးတို့သည် မွေးကျွေးအပ်သည်ဖြစ်၍ နေအံ့နည်း ဤနေ့မှစ၍ ငါသည်လည်း ဆင်အစရှိသည်တို့ကိုသတ်၍ အသားကို စားအံ့၊ သားတို့၏ မင်းဖြစ်သော ခြသေ့်သည် အရှင် ထွန်းပလောဟု ဆိုသော စကားကိုလျှင် မှီ၍ ဆင်တို့ကို သတ်၏၊ ငါသည်လည်း ခြသေ့်ကို ဇမ္ဗုက ထွန်းပ လောဟု ဆိုစေ၍ တခုသော ဆင်ကို သတ်၍ အသားကို စားအံ့ဟု မာနကို ပွားစေ၏၊ ထိုမြေခွေးသည် ခြသေ့်သို့ ကပ်၍ အရှင် ငါသည် ရှည်မြင့်စွာသော ကာလပတ်လုံး အရှင်တို့သည် သတ်အပ်သော ဆင်တို့၏ အသားကို စားအပ်၏၊



၅၅၀–ပ၊ ဝိရောစဇာတ်

စိတ်ကြီးဝင်၍ ဆင်ကြီးကို တုပသောမြေခွေး ဆင်နင်းခံရပုံ

အကျွန်ုပ်သည်လည်း တခုသောဆင်ကိုသတ်၍ အသားကိုစားလို၏၊ ထိုကြောင့် သင်တို့၏ အိပ်ရာရွှေဂူ၌ အိပ်အံ့၊ သင်တို့သည် တောင်ခြေရင်း၌ သွားသော ဆင်ကိုကြည့်၍ ငါ၏အထံသို့ လာ၍ ဇမ္ဗုက ထွန်းပလော့ဟု ဆိုကုန်လော့၊ ဤမျှ၌ ဝန်တိုခြင်းကို မပြုပါကုန်လင့်ဟု ဆို၏။

ထိုအခါ ထိုမြေခွေးကို ခြင်္သေ့သည် မြေခွေး သင်သည် ဆင်တို့ကို သတ်အံ့ သောငှါ မစွမ်းနိုင်၊ ခြင်္သေ့အမျိုး၌ဖြစ်သော ဆင်ကို သတ်၍ အသားကိုစားအံ့ သောငှါ စွမ်းနိုင်သော မြေခွေးမည်သည် လောက၌ မရှိ၊ သင်သည် ထိုအမှုကို မနှစ်သက်လင့်၊ ငါသည် သတ်အပ်သော ဆင်တို့၏သာလျှင် အသားကို စား၍ နေလော့ဟု ဆို၏၊ မြေခွေးသည် ဤသို့ ဆိုငြားသော်လည်း ကြဉ်အံ့သောငှါ အလိုမရှိ၊ အဖန်တလဲလဲ တောင်းပန်သလျှင်ကတည်း၊ ခြင်္သေ့သည် ထိုမြေခွေးကို မြစ်အံ့သောငှါ မတတ်နိုင်သည်ဖြစ်၍ ဝန်ခံ၏၊ ထိုသို့တပြီးကား ငါ၏နေရာ အရပ်သို့ ဝင်၍ အိပ်လော့ဟု မြေခွေးကို ရွှေဂူ၌ အိပ်စေ၍ တောင်ခြေရင်း၌ အမုန်ယစ်သော ဆင်ကိုကြည့်၍ ရွှေဂူတံခါးသို့ သွား၍ မြေခွေး ထွန်းပလော့ဟု ဆို၏၊ မြေခွေးသည် ရွှေဂူလိုဏ်မှထွက်၍ အရပ်လေးမျက်နှာကိုကြည့်၍ သုံးကြိမ် ဟောင်၍ အမုန်ယစ်သော မြတ်သော ဆင်၏ဦးကင်း၌ ကျအံ့ဟု ပြေး၍ ဆင် ခြေရင်း၌ ကျ၏၊ ဆင်သည် လက်ျာခြေကို ချီ၍ မြေခွေး၏ ဦးခေါင်းကိုနင်း၏၊ ဦးခေါင်းရိုးတို့သည် မှုန်မှုန်ညက်ညက် ကြေကုန်၏၊ ထို့နောင်မှ ထိုမြေခွေး၏ ကိုယ်ကို ဆင်သည် ခြေဖြင့်ခွေ၍ အစုကိုပြု၍ အထက်၌ မစင်ကိုချ၍ ကြိုးကြာသံ ကဲ့သို့သောအသံကိုမြည်၍ တောသို့ဝင်၏၊ ဘုရားလောင်းသည် ဤအကြောင်းကို မြင်၍ ယခုအခါ၌ မြေခွေး ထွန်းပလော့ဟု ဆို၍—

၁၄၃၊ လသီ စ တေ နိပ္ဖလိဘာ၊ မတ္ထကော စ ပဒါလိတော။
သဗ္ဗာ တေ ဖာသုကာ ဘဂ္ဂါ၊ အဇ္ဇ ခေါ တွံ ဝိရောစသိ။

ဟူသော ဤဂါထာကို ဆို၏။

ဇမ္ဗုက၊ မြေခွေး။ တေ၊ သင်၏။ လသီ စ၊ ဦးနှောက်သည်လည်း။ နိပ္ဖလိတာ၊ ထွက်၏။ မတ္ထကော စ၊ ဦးခေါင်းသည်လည်း။ ပဒါလိတော၊ ကွဲ၏။ တေ၊ သင်၏။ သဗ္ဗာ၊ ခပ်သိမ်းကုန်သော။ ဖာသုကာ၊ နံရိုးတို့သည်။ ဘဂ္ဂါ၊ ကျိုးကုန်ပြီ။ အဇ္ဇ ခေါ၊ ယခုလျှင်။ တွံ၊ သင်သည်။ ဝိရောစသိ၊ ထွန်းပလော့။

ဘုရားလောင်းသည် ဤဂါထာကိုဆို၍ အသက်ထက်ဆုံးတည်၍ ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ ဒေဝဒတ်သည် ထိုအခါ မြေခွေး ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည် သာလျှင် ထိုအခါ ကေသရရာဇာခြင်္သေ့ ဖြစ်ဘူးပြီဟု ဇာတ်ကိုပေါင်းတော်မူ၏။

[မတူတဲ့ဟာ၊ မတုရာ၊ ကိုယ်သာ ပျက်စီးမည်]

**သုံးခုတို့၏ ပြည့်ကြောင်းဖြစ်သော ဝိရောစဇာတ်သည် ပြီး၏။**

---

## ၁၄၄—နင်္ဂုဋ္ဌဇာတ်

### ဘုရားလောင်းသည် မိစ္ဆာအယူကို ကျင့်ပြီးမှ ပယ်စွန့်သော အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**...နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် “ဗဟုမ္ပေတံ အသဗ္ဘိ ဇာတဝေဒ” အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာ ဆင်အပ်သော ဤ နင်္ဂုဋ္ဌဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် “တက္ကတွန်းတို့၏ မိစ္ဆာအကျင့်” ကို အကြောင်းပြု၍ဟောတော်မူ၏၊ထိုအခါ ထိုတက္ကတွန်းတို့သည်ဇေတဝန်ကျောင်းတော်၏နောက်အပြင်၌ အထူးထူးအပြားပြားရှိသော မိစ္ဆာအကျင့်ကို ကျင့်ကုန်သတတ်၊ များစွာကုန်သော ရဟန်းတို့သည် ထိုတက္ကတွန်းတို့၏ ဆောင့်ကြောင့်ထိုင်၍ လုံ့လပြုခြင်း,လင်းနို့ကဲ့သို့ တွဲလျားဆွဲ၍ ကျင့်ခြင်း, ဆူးပေါ်၌ အိပ်ခြင်း ပဉ္စာတပ အစရှိသည် အပြားရှိသော မိစ္ဆာအကျင့်ကိုမြင်၍ မြတ်စွာဘုရားကို အရှင်ဘုရား မိစ္ဆာအကျင့်ကိုမှီ၍ တစုံတခုသော ကုသိုလ်သည်ရှင်း, အစီးအပွားသည်ရှင်း ရှိပါသလောဟု မေးလျှောက်ကုန်၏။

မြတ်စွာဘုရားသည် ရဟန်းတို့ ဤသို့သဘောရှိသော မိစ္ဆာအကျင့်ကိုမှီ၍ ကုသိုလ်သည်ရှင်း, အစီးအပွားသည်ပင်းမရှိ၊ ရှေးပညာရှိတို့သည် ဤသို့သဘောရှိသော မိစ္ဆာအကျင့်ကိုမှီ၍ ကုသိုလ်သည်ရှင်း, အစီးအပွားသည်ရှင်း ဖြစ်လတ္တံ့ဟူသော အမှတ်ရှိသည်ဖြစ်၍ ဖွားသောနေ့၌ ယူအပ်သောမီးကို ယူ၍ တောသို့

ဝင်၍ မီးပူဇော်ခြင်း အစရှိသည်၏အစွမ်းအားဖြင့် တစုံတခုသော အစီးအပွားကို မမြင်ကုန်သည်ဖြစ်၍ မီးကို ရေဖြင့်ငြိမ်းစေ၍ ကသိုဏ်းပရိကံကိုပြု၍ အဘိညာဉ်တို့ကိုရင်း, သမာပတ်တို့ကိုရင်း ဖြစ်စေ၍ ဗြဟ္မာ့ပြည်သို့ လားကုန်၏ဟု ဟောတော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုလတ်သည်ရှိသော် ဘုရားလောင်းသည် ဥဒိစ္စပုဏ္ဏားမျိုး၌ ဖြစ်၏၊ ဘုရားလောင်း၏ ဖွားသောနေ့၌ မိဘတို့သည် ဖွားသောနေ့မီးကို ယူ၍ ထားကုန်၏၊ ထိုအခါ ထိုဘုရားလောင်းကို တဆယ့်ခြောက်နှစ်ရှိသော အခါ၌ ချစ်သား ငါတို့သည် သင်၏ ဖွားသောနေ့၌ မီးကိုယူကုန်ပြီ၊ အိမ်၌ အကယ်၍နေလိုငြားအံ့၊ ဗေဒင်သုံးပုံတို့ကိုသင်လော့၊ ဗြဟ္မာ့ပြည်သို့ အကယ်၍လားလိုငြားအံ့၊ မီးကို ယူပြီးလျှင် တောသို့ဝင်၍ မီးကိုလုပ်ကျွေးလျက် ဗြဟ္မာကြီးတို့အား နှစ်သက်စေ၍ ဗြဟ္မာ့ပြည်သို့ လားလေလော့၊ ဤသို့သော စကားကို ဆိုကုန်၏၊ ထိုဘုရားလောင်းသည် အိမ်၌ နေသဖြင့် ငါ့အား အလိုမရှိဟု မီးကိုယူ၍ တောသို့ဝင်ပြီးလျှင် ကျောင်းဖန်ဆင်း၍ မီးကိုလုပ်ကျွေးလျက် တော၌နေ၏၊ ဘုရားလောင်းသည် တနေ့သ၌ ပစ္စန္တရစ်ရွာ၌ နွားအလှူကိုရ၍ ထိုနွားကို ကျောင်းသို့ဆောင်၍ ဘုန်းရှိသောမီးကို နွားသားကိုစားစေအံ့ဟုကြံ၏၊ထိုအခါ ဘုရားလောင်းအား ဤအရပ်၌ ဆားသည် မရှိ၊ ဘုန်းရှိသောမီးသည် ဆားမရှိသော အမဲကို စားအံ့သော်ငါ မတတ်နိုင်လတ္တံ့၊ ရွာမှ ဆားကို ဆောင်၍ ဘုန်းရှိသောမီးကို ဆားနှင့်တကွသော အမဲကို စားစေအံ့ဟု ကြံ၏။

ဘုရားလောင်းသည် ထိုနွားကို ထိုကျောင်း၌လျှင် နှောင်ဖွဲ့၍ ဆားအကျိုးငှါ ရွာသို့သွား၏၊ ဘုရားလောင်းသည် သွားသည်ရှိသော် များစွာကုန်သော မုဆိုးတို့သည် ထိုအရပ်သို့ လာကုန်၍ နွားကို မြင်သည်ရှိသော် သတ်၍ ချက်ပြီးလျှင် စား၍ အမြီးကိုရင်း, ခြေရိုးကိုရင်း, အရေကိုရင်း ထိုအရပ်၌ စွန့်၍ ကြွင်းသော အသားကို ယူ၍ သွားကြကုန်၏၊ ပုဏ္ဏားသည် လာလတ်၍ အမြီးအစရှိသည်မျှကိုမြင်၍ ဘုန်းရှိသော ဤမီးသည် မိမိဥစ္စာကိုလည်း စောင့်အံ့ သော်ငါ မတတ်နိုင်၊ ငါ့ကိုကား အဘယ်အခါ၌ စောင့်လတ္တံ့နည်း၊ဤမီးကို လုပ်ကျွေးခြင်းသည် အကျိုးမရှိသည် ဖြစ်ရာ၏၊ ဤမီးကို လုပ်ကျွေးခြင်း

ဟူသော အကြောင်းကြောင့် ကုသိုလ်သည်ရှင်း, အစီးအပွားသည်ရှင်း မရှိဟု ကြံ၏၊ ကြံပြီး၍ ဘုရားလောင်းသည် မီးကို လုပ်ကျွေးခြင်း၌ ကင်းသော ဆန္ဒရှိသည်ဖြစ်၍ ဘုန်းရှိသော အိုမီး သင်သည် မိမိ၏ ဥစ္စာကိုလည်း စောင့် အံ့သောငှါ မတတ်နိုင်၊ ငါ့ကို အဘယ်အခါ၌ စောင့်လတ္တံ့နည်း၊ အမဲသည် မရှိ၊ ဤမျှဖြင့် နှစ်သက်လော့ဟု အမြီးအစရှိသည်တို့ကို မီး၌ ထည့်လျက်—

၁၄၄၊ ဗဟုမ္ပေတံ အသဗ္ဘိ ဇာတဝေဒ၊ ယံ တံ ဝါလဓိနာဘိပူဇယာမ။
မံသာရဟဿ နတ္ထဇ္ဇ မံသံ၊ နင်္ဂုဋ္ဌမ္ပိ ဘဝံ ပဋိဂ္ဂဟာတု။

ဟူသော ဤဂါထာကို ဆို၏။

အသဗ္ဘိ၊ ယုတ်မာသော။ ဇာတဝေဒ၊ မီး။ ယံ-ယေန ကာရဏေန၊ အကြင် အကြောင်းကြောင့်။ တံ၊ သင့်ကို။ မယံ၊ ငါတို့သည်။ ဝါလဓိနာ၊ နွားမြီးဖြင့်။ အဘိပူဇယာမ၊ ပူဇော်ကုန်၏။ ဧတံ၊ ထိုနွားမြီးသည်။ ဗဟုံ၊ များ၏။ မံသာ ရဟဿ၊ အမဲဖြင့် ပူဇော်ထိုက်သော သင့်အား။ အဇ္ဇ၊ ယခု။ မံသံ၊ ပူဇော်ဘွယ် အမဲသည်။ နတ္ထိ၊ မရှိ။ ဘဝံ၊ အရှင်သည်။ နင်္ဂုဋ္ဌမ္ပိ၊ နွားမြီးကိုလည်း။ ပဋိဂ္ဂဟာတု၊ ခံလော့။

ဤသို့ဆို၍ ဘုရားလောင်းသည် မီးကို ရေဖြင့်ငြိမ်းစေ၍ ရသေ့ ရဟန်းပြု၍ အဘိညာဉ်တို့ကိုရှင်း, သမာပတ်တို့ကိုရှင်း ဖြစ်စေ၍ ဗြဟ္မာ့ပြည်သို့ လား၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ မီးကိုငြိမ်းစေသောရသေ့ ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[မိစ္ဆာအကျင့်၊ ကျိုးမဆင့်၊ အသင့် နှလုံးသွင်း]

လေးခုတ္တိ၏ ပြည့်ကြောင်းဖြစ်သော နင်္ဂုဋ္ဌဇာတ်သည် ပြီး၏။

---

## ၁၄၅—ရာဓဇာတ်

### မိန်းမတို့အား စောင့်ရှောက်ခြင်းငှါ မတတ်နိုင်သော အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညုမြတ်စွာဘုရားသည် "န တွံ ရာဓ ဝိဇာနာသိ" အစရှိသော ဂါထာပုဒ်ဖြင့်

တန်ဆာဆင်အပ်သော ဤရာဇောဝါဒကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးနေတော်မူစဉ် "မယားယောင်း ဖြားယောင်းသော ရဟန်း"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ပစ္စုပ္ပန် ဝတ္ထုသည် ဣန္ဒြိယဇာတ် * ၌ ထင်စွာ ဖြစ်လတ္တံ့၊ အထူးကား မြတ်စွာဘုရားသည် ထိုရဟန်းကို ခေါ်တော်မူ၍ ရဟန်း မာတုဂါမမည်သည် စောင့်ရှောက်ခြင်းငှါ မတတ်နိုင်၊ အစောင့်အရှောက်ကို ထား၍ စောင့်ရှောက် ကုန်သော်လည်း စောင့်ရှောက် အံ့သောငှါ မတတ်နိုင်ကုန်၊ သင်သည်လည်း ရှေး၌ ထိုမိန်းမကို အစောင့်အရှောက်ထား၍ စောင့်ရှောက် အံ့သောငှါ မတတ်နိုင်၊ ယခုအခါ၌ အသို့စောင့်ရှောက်လတ္တံ့နည်းဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**...လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် ကျေးအမျိုး၌ဖြစ်၏၊ ကာသိတိုင်း၌ တယောက်သောပုဏ္ဏားသည် ဘုရားလောင်းကိုင်း, ဘုရားလောင်း၏ညီကိုင်း သားအရာ၌ ထား၍ မွေးမြူ၏၊ ထိုနှစ်ခုကုန်သော ကျေးတို့တွင် ဘုရားလောင်းအား ပေါဋ္ဌပါဒဟူသောအမည်သည်ဖြစ်၏၊ ညီငယ်အား ရာဓဟူသော အမည်သည် ဖြစ်၏၊ ထိုပုဏ္ဏား၏ မယားသည်ကား လွန်ကျူးသော အကျင့်ရှိ၏၊ သီလမရှိ၊ ထိုပုဏ္ဏားသည် ကုန်သွယ်အံ့သောငှါ သွားသည်ရှိသော် နှစ်ခုကုန်သော ကျေးသားညီနောင်တို့ကိုလည်း အမောင်တို့ သင်တို့၏ အမိဖြစ်သော ပုဏ္ဏေးမသည် လွန်ကျူးသော အကျင့်ကို အကယ်၍ကျင့်အံ့၊ ထိုပုဏ္ဏေးမကို မြစ်ရစ်ကြကုန်လော့ဟု ဆို၏၊ ဘုရားလောင်းသည် ဘခင်ကောင်းပြီ မြစ်ခြင်းငှါ တတ်နိုင်သည် ရှိသော် မြစ်ကုန်အံ့၊ မတတ်နိုင်သည်ရှိသော် ဆိတ်ဆိတ် နေကုန်သည် ဖြစ်ကုန်အံ့ဟု ဆို၏၊ ဤသို့ ပုဏ္ဏားသည် ပုဏ္ဏေးမကို ကျေးသားတို့အား အပ်နှင်း၍ ကုန်သွယ်အံ့သောငှါ သွား၏။

ထိုပုဏ္ဏား၏ သွားသောနေ့မှစ၍ လွန်ကျူးသောအကျင့်ကိုကျင့်အံ့သောငှါ အားထုတ်၏၊ ဝင်ကုန်သောသူတို့၏ငှင်း, ထွက်ကုန်သောသူတို့၏ငှင်း အဆုံးသည်မရှိ၊ ထိုပုဏ္ဏေးမ၏ အမူအရာကို မြင်၍ ရာဓသည် ဘုရားလောင်းကို အစ်ကိုကြီးငါတို့၏အဘသည် သင်တို့၏အမိသည် လွန်ကျူးသော အကျင့်ကို အကယ်၍

---

* ဣန္ဒြိယဇာတ် သတ္တကနိပါတ်မှာ ပါသည်။

ကျင့်အံ့ တားမြစ်ရစ်ကုန်လော့ဟု ဆို၍ သွား၏၊ ယခု ပုဏ္ဏေးမသည် လွန်ကျူး သောအကျင့်ကို ကျင့်၏၊ ထိုပုဏ္ဏေးမကို မြစ်ကုန်အံ့ဟုဆို၏၊ ဘုရားလောင်းသည် ညီထွေး သင်သည် မလိမ်မာသည်၏ အဖြစ်ကြောင့် မိုက်သည်၏ အဖြစ်ဖြင့် ဟာလျှင် ဆို၏၊ မာတုဂါမ မည်သည်ကို ချီ၍ ရွက်၍ သွားကုန်သော သူတို့ သည်လည်း စောင့်ရှောက်အံ့သောငှါ မတတ်နိုင်၊ အကြင်အမှုကို ပြုအံ့သောငှါ မတတ်နိုင်၊ ထိုအမှုကို ပြုခြင်းသည် မသင့်ဟု ဆိုလို၍—

၁၄၅၊ န တွံ ရာဓ ဝိဇာနာသိ၊ အဍ္ဎရတ္တေ အနာဂတေ။
အဗျယတံ[၁] ဝိလပသိ၊ ဝိရတ္တော ကောသိယာယနေ။

ဟူသော ဤဂါထာကို ဆို၏။

ရာဓ၊ ရာဓ။ တွံ၊ သင်သည်။ န ဝိဇာနာသိ၊ မသိ။ အဍ္ဎရတ္တေ၊ သန်းခေါင် အခါသည်။ အနာဂတေ၊မရောက်မီ။ တွေကာ၊ဤမျှအတိုင်းအရှည်ရှိကုန်သော။ ဇနာ၊ လူတို့သည်။ အာဂတာ၊ လာကုန်၏။ ကောသိယာယနေ၊ ကောသိယ အနွယ်ဖြစ်သောပုဏ္ဏေးမသည်။ ဝိရတ္တော-ဝိရတ္တာ၊ လင်ပုဏ္ဏားသို့တပ်ခြင်းကင်း၏။ တွံ၊ သင်သည်။ အဗျယတံ၊ မလိမ်မာသော စကားကို။ ဝိလပသိ၊ ပြောဆို၏။

ဤသို့ပြပြီး၍ကား ပုဏ္ဏေးမနှင့်တကွ ရာဓအား စကား ဆိုခြင်းငှါခွင့်မပေး၊ ထိုပုဏ္ဏေးမသည်လည်း အကြင် မျှလောက် ပုဏ္ဏား၏ မလာခြင်းသည် ရှိ၏၊ ထိုမျှလောက် အလိုရှိတိုင်း ကျင့်၏၊ ပုဏ္ဏားသည် လာလတ်၍ ပေါဋ္ဌပါဒကို အမောင် သင်၏အမိသည် အသို့ သဘောရှိသနည်းဟု မေး၏၊ ဘုရားလောင်း သည် ပုဏ္ဏားအား အလုံးစုံကို အဟုတ်အမှန်အားဖြင့် ဆို၍ ဘခင် သင့်အား ဤသို့ သဘောရှိသော သီလမရှိသော ပုဏ္ဏေးမဖြင့် အဘယ် ပြုအံ့နည်းဟု ဆို၍ ဘခင် ငါတို့သည် အမိ၏ အပြစ်ကို ဆိုသော ကာလမှစ၍ ဤအိမ်၌ နေခြင်းငှါ မသင့်ဟု ဆို၍ ပုဏ္ဏား၏ ခြေတို့ကို ရှိခိုး၍ ရာဓနှင့်တကွပျံ၍ တောသို့ သွား၏၊ မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ လေးပါး ကုန်သော သစ္စာတို့ကို ပြတော်မူ၏၊ သစ္စာကို ပြတော်မူသည်၏အဆုံး၌ ငြီးငွေ့ သော ရဟန်းသည် သောတာပတ္တိဖိုလ်၌ တည်၏။

---

၁၊ အဗျာယတံ (သီ၊ သျာ၊ ဣ)

**ဇာတ်ပေါင်း**....ယခုအခါ ထိုနှစ်ယောက်ကုန်သော လင်မယားတို့သည် ထိုအခါ ပုဏ္ဏားသည်ရင်း, ပုဏ္ဏေးမသည်ရင်း ဖြစ်ဘူးကုန်ပြီ၊ ယခုအခါ အာနန္ဒာသည် ထိုအခါ ရာဇ ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ပေါဋ္ဌပါဒ ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[မာထုဂါမ၊ ဟ္မတုံကာ၊ စေဝင့်ရခဲယဥ်းပေ]

ငါးခုတို့၏ ပြည့်ကြောင်းဖြစ်သော ရာဇဇာတ်သည် ပြီး၏၊

---

## ၁၄၆—သမုဒ္ဒကာကဇာတ်

### သမုဒ္ဒရာ၌ ကျီးမတစ်ခုသေသော် သမုဒ္ဒရာရေကို ပြောင်းသော ကျီးတို့၏ အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "အပိ နု ဟနုကာ သန္တာ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤ သမုဒ္ဒကာကဇာတ်ကို ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "များစွာကုန်သော အသက်ကြီးကုန်သော ရဟန်းတို့ကို" အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုရဟန်းတို့သည် လူဖြစ်သော ကာလ၌ သာဝတ္ထိပြည်၌ သူကြွယ်ဖြစ်ကုန်သတတ်၊ ကြွယ်ဝကုန်၏၊ များသော ဥစ္စာ ရှိကုန်၏၊ အချင်းချင်း အဆွေခင်ပွန်း ဖြစ်ကုန်၏၊ တပေါင်းတည်းဖြစ်၍ ကောင်းမှုတို့ကို ပြုကုန်၏၊ မြတ်စွာဘုရား၏ တရားတော်ကိုနာ၍ ငါတို့သည် အသက်ကြီးကုန်ပြီ၊ ငါတို့အား အိမ်၌နေသဖြင့် အဘယ်အကျိုးရှိအံ့နည်း၊ မြတ်စွာဘုရား အထံတော်၌ မွေ့လျော်ဘွယ်ရှိသော မြတ်စွာဘုရား သာသနာတော်၌ ရဟန်းပြု၍ ဆင်းရဲ၏အဆုံးကို ပြုကုန်အံ့ဟုဆို၍ အလုံးစုံသော ဥစ္စာကို သားသမီးတို့အားပေး၍ မျက်ရည်ဖြင့်ပြည့်သော မျက်နှာရှိသော ဆွေမျိုးတို့ကိုစွန့်၍ မြတ်စွာဘုရားအား ရဟန်းအဖြစ်ကို တောင်းပန်၍ ရဟန်းပြုကုန်၏၊ ရဟန်းပြုကုန်ပြီး၍လည်း ရဟန်းအားလျော်စွာ ရဟန်းတရားကို မပြုကုန်၊ အသက်ကြီးသည်၏ အဖြစ်ကြောင့် သုတ်, အဘိဓမ္မာ, ဝိနည်းကို မသင်ကုန်၊ လူဖြစ်သောကာလကဲ့သို့ ရဟန်းဖြစ်သော ကာလ၌လည်း ကျောင်းစွန်၌ သစ်ရွက်မိုးသော ကျောင်းကို ဆောက်စေ၍ တပေါင်းတည်း နေကုန်၏၊ ဆွမ်းအလို့ငှါ သွားကုန်သော်

လည်း တပါးသော အရပ်သို့ မသွားမူကုန်၍ များသောအားဖြင့် မိမိတို့ သား မယားအိမ်တို့သို့သာလျှင် သွား၍ စားကုန်၏။

ထိုရဟန်းကြီးတို့တွင် တယောက်သော ရဟန်းကြီး၏ မယားဟောင်းသည် ခပ်သိမ်းသော မထေရ်ကြီးတို့အား ကျေးဇူးပြုသည် ဖြစ်၏၊ ထို့ကြောင့် ကြွင်းကုန်သော မထေရ်ကြီးတို့သည်လည်း မိမိတို့သည် ရအပ်သော အာဟာရ ကိုယူ၍ ထိုမိန်းမ၏ အိမ်၌လျှင်နေ၍ စားကုန်၏၊ ထိုမိန်းမသည်လည်း ထိုရဟန်း ကြီးတို့အား စီရင်မြဲတိုင်းသော ဟင်းလျာကို လှူ၏၊ ထိုမိန်းမသည် အမှတ်မရှိ သောအနာသည် နှိပ်စက်အပ်သည်ဖြစ်၍ သေ၏၊ ထိုအခါ အသက်ကြီးကုန်သော ရဟန်းတို့သည် ကျောင်းသို့သွားကုန်၍ အချင်းချင်း လည်ကို ဘက်ကုန်၍ ချို သော လက်အရသာရှိသော သီတင်းသည်မကြီးသည် သေခဲ့ပြီဟု ကျောင်းစွန်၌ ငိုလျက် သွားကုန်၏၊ ထိုရဟန်းကြီးတို့၏ အသံကို ကြားကုန်၍ ထိုမှဤမှလည်း ရဟန်းတို့သည် စည်းဝေးကုန်၍ ငါ့သျှင်တို့ အဘယ့်ကြောင့် ငိုကြကုန်သနည်း ဟု မေးကုန်၏၊ ထိုရဟန်းကြီးတို့သည် ငါတို့၏ အဘော်ရဟန်း၏ ချိုသော လက်အရသာရှိသော မယားဟောင်းသည် သေခဲ့၏၊ ငါတို့အား အလွန်လျှင် ကျေးဇူးပြုပေ၏၊ ယခုအခါ၌ အဘယ်မှာ ထိုသို့သဘောရှိသော သီတင်းသည်မ ကို ရကုန်လတ္တံ့နည်း၊ ဤသို့သော အကြောင်းကြောင့် ငိုကြကုန်သတည်းဟု ဆိုကုန်၏။

ထိုရဟန်းကြီးတို့၏ ဖောက်ပြန်သော အခြင်းအရာကိုမြင်၍ ရဟန်းတို့သည် တရားသဘင်၌ ငါ့သျှင်တို့ ဤမည်သော အကြောင်းကြောင့် အသက်ကြီးကုန် သော မထေရ်တို့သည် အချင်းချင်း လည်ဘက်ကုန်၍ ကျောင်းစွန်၌ငိုကုန်လျက် သွားကုန်၏ဟု စကားကို ဖြစ်စေကုန်၏၊ မြတ်စွာဘုရားသည် လာတော်မူလတ် ၍ ရဟန်းတို့ ယခုအခါ အဘယ်မည်သော စကားဖြင့် စည်းဝေးကြကုန်သနည်း ဟု မေးတော်မူလတ်၍ ဤမည်သောစကားဖြင့် စည်းဝေးပါကုန်၏ဟု နား တော် လျှောက်သည်ရှိသော် ရဟန်းတို့ ယခုအခါ၌သာလျှင် ထိုရဟန်းကြီးတို့ သည် ထိုမိန်းမ၏ သေသည်၏အဖြစ်ကြောင့် ငိုကုန်လျက် သွားကုန်သည် မဟုတ် သေး၊ ရှေး၌လည်း ထိုရဟန်းကြီးတို့သည် ကျီးအမျိုး၌ဖြစ်၍ သမုဒ္ဒရာ၌သေသော ဤမိန်းမကိုမှီ၍ သမုဒ္ဒရာရေကို တပါးသို့ပြောင်း၍ ထိုကျီးမကို ထုတ်ယူအံ့ဟု

လုံ့လပြုလျက် ပညာရှိတို့ကို မှီ၍ အသက်ကို ရဘူးကုန်ပြီဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**...လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် သမုဒ္ဒြာစောင့်နတ်ဖြစ်၏၊ ထိုအခါ တခုသောကျီးသည် မိမိမယားဖြစ်သော ကျီးမကိုခေါ်၍ အစာရှာသွားသည်ရှိသော် သမုဒ္ဒြာနားသို့ ရောက်၏၊ ထိုကာလ၌ လူတို့သည် သမုဒ္ဒြာနား၌ နို့ဃနာ, ငါး, အမဲ, သုရာ အစရှိသည်တို့ဖြင့် နဂါးအား ပူဇော်ခြင်းကိုပြု၍ သွားကုန်၏၊ ကျီးသည် ပူဇော်ရာအရပ်သို့ သွား၍ နို့ဃနာ အစရှိသည်တို့ကို မြင်၍ ကျီးမနှင့်တကွ နို့ရည်, ဃနာ, ငါး, အမဲ အစရှိသည်တို့ကိုစား၍ များစွာသော သုရာကို သောက်၏၊ ထိုကျီးလင်မယားတို့သည်လည်း သုရာယစ်ကုန်သည်ဖြစ်၍ သမုဒ္ဒြာ၌ ကစားခြင်းကို ကစားကုန်အံ့ဟု ကမ်းနား၌ နား၍ ရေချိုးအံ့သောငှါ အားထုတ်ကုန်၏၊ ထိုအခါ တခုသော လှိုင်းတံပိုးသည် လာလတ်၍ ကျီးမကို ယူ၍ သမုဒ္ဒြာသို့ သွင်း၏၊ ထိုကျီးမကို တခုသော ငါးသည် စား၍ မျို၏၊ ကျီးဖိုသည် ငါ၏မယားသည် သေခဲ့၏ဟု ငို၏ အဖန်တလဲလဲငို၏၊ ထိုကျီးဖို၏ ငိုသံကို ကြားကုန်၍ များစွာသော ကျီးတို့သည် စည်းဝေးကုန်၍ အဘယ့်ကြောင့် ငိုသနည်းဟု မေးကုန်၏၊ ကမ်းနား၌ ရေချိုးသော သင်တို့၏ အဆွေခင်ပွန်းမကို လှိုင်းတံပိုးသည် ယူအပ်သည်ဟု ဆို၏၊ ထိုအလုံးစုံသော ကျီးတို့သည်လည်း တပြိုင်နက်သော အသံကို မြည်ကုန်လျက် ငိုကုန်၏။

ထိုအခါ ထိုကျီးတို့အား ဤသမုဒ္ဒြာရေမည်သည်ကား ငါတို့အား အဘယ်မှာယူလောက်လတ္တံ့နည်း၊ ရေကို တပါးသို့ပြောင်း၍ သမုဒ္ဒြာကို အချည်းနှီးပြု၍ အဆွေခင်ပွန်းမကို ထုတ်ကြကုန်အံ့၊ ဤသို့သော အကြံသည် ဖြစ်၏၊ ကြံပြီး၍ ထိုကျီးတို့သည် ခံတွင်းကိုပြည့်စေ၍ ရေကို အပ၌ စွန့်ကုန်၏၊ ဆားငန်ရေကြောင့် လည်သည် ခြောက်သည်ရှိသော် ထ၍ ထ၍ ကြည်းသို့ သွားကုန်၍ အပင်အပန်းဖြေကုန်၏၊ ထိုကျီးတို့သည် မေးတို့သည် ညောင်းကုန်သည်ရှိသော် ခံတွင်းတို့သည် ခြောက်ကုန်သည်ရှိသော် မျက်စိတို့သည် နီကုန်သည်ရှိသော် အိပ်ချင်ကုန်သည် ပင်ပန်းကုန်သည် ဖြစ်ကုန်၍ အချင်းချင်း ခေါ်ကုန်၍ ဗိုအချင်းတို့ ငါတို့

သည် သမုဒ္ဒရာမှ ရေကိုယူ၍ အပဒ္ဒ ကျစေကုန်၏၊ ယူရာအရပ်ကို တဖန် ရေဖြင့် ပြည့်စေ၏၊ သမုဒ္ဒရာကို အချည်းနှီးပြုအံ့သောငှါ မတတ်နိုင်ကုန်လတ္တံ့ဟု ဆိုလို၍—

၁၄၆၊ အပိ နု ဟနုကာ သန္တာ၊ မုခဥ္စ ပရိသုဿတိ။
ဩရမာမ န ပါရေမ၊ ပူရတေဝ မဟောဒဓိ။

ဟူသော ဤဂါထာကို ဆို၏။

အမ္ဘော၊ အို ကျီးတို့။ မယံ၊ ငါတို့သည်။ အတ္တနော၊ မိမိ၏။ ဗလေန၊ အစွမ်းဖြင့်။ မဟာသမုဒ္ဒါ၊ မဟာသမုဒ္ဒရာမှ။ ဥဒကံ၊ ရေကို။ ဩရမာမ၊ ထုတ်ကုန်၏။ န ပါရေမ၊ အပြီးသို့ရောက်အောင် မတတ်နိုင်။ အပိ၊စင်စစ်။ နု-နော၊ ငါတို့၏။ ဟနုကာ၊ မေးတို့သည်။ သန္တာ၊ ညောင်းကုန်၏။ မုခဥ္စ၊ ခံတွင်းသည်လည်း။ ပရိသုဿတိ၊ ခြောက်၏။ မဟောဒဓိ၊ သမုဒ္ဒရာရေသည်။ ပူရတေဝ၊ ပြည့်မြဲ ပြည့်သလျှင်ကတည်း၊

ဤသို့ဆို၍လည်း အလုံးစုံလည်းဖြစ်ကုန်သော ထိုကျီးတို့သည် ထိုကျီးမအား ဤသို့သဘောရှိသော နှုတ်သီးသည် ဖြစ်၏၊ လုံးသော မျက်စိတို့သည် ဤသို့သဘောရှိကုန်၏၊အဆင်းသဏ္ဌာန်တို့သည် ဤသို့သဘောရှိကုန်၏၊သာယာသော အသံသည် ဤသို့ သဘောရှိ၏၊ ငါတို့၏ ထိုကျီးမသည် ဤခိုးသူ သမုဒ္ဒရာကိုမှီ၍ ပျက်စီးခဲ့၏ဟု များစွာ မြည်တမ်းကုန်၏၊ ဤသို့ မြည်တမ်းကုန်သည် ရှိသော် ထိုကျီးတို့ကို သမုဒ္ဒရာစောင့်နတ်သည် ကြောက်မက်ဘွယ်သော အဆင်းကိုပြ၍ ပြေးစေ၏၊ ဤသို့ ပြေးစေသဖြင့် ထိုကျီးတို့အား ချမ်းသာခြင်းသည် ဖြစ်၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ မယားဟောင်းသည် ထိုအခါ ကျီးမ ဖြစ်ဘူးပြီ၊ ယခုအခါ အသက်ကြီးရဟန်းသည် ထိုအခါ ကျီးဖို ဖြစ်ဘူးပြီ၊ ယခုအခါ ကြွင်းကုန်သော အသက်ကြီးရဟန်းတို့သည် ထိုအခါ ကြွင်းကုန်သော ကျီးတို့သည် ဖြစ်ဘူးကုန်ပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ သမုဒ္ဒရာစောင့်နတ် ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[အရာမဟုတ်၊ လုံ့လထုတ်၍၊ ဆုတ်ယုတ်နီးပြီ၊ နတ်ကိုမှီ၊ သက်ရှည် ချမ်းသာကြောင်း]

ခြောက်ခုတို့၏ ပြည့်ကြောင်းဖြစ်သော သမုဒ္ဒကာကဇာတ်သည် ပြီး၏။

## ၁၄၇—ပုပ္ဖရတ္တဇာတ်

### မိန်းမကိုမှီ၍ တံကျင်လျှိုခံရပြီးမှ ငရဲသို့ကျသော အကြောင်း

**ပစ္စုပ္ပန်ဝတ္ထု**....နတ်နှင့် တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "န ယိဒံ ဒုက္ခံ အဒုံ ဒုက္ခံ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာ ဆင်အပ်သော ဤပုပ္ဖရတ္တဇာတ်ကို ဇေတဝန် ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "တယောက်သော ငြီးငွေ့သော ရဟန်း" ကို အကြောင်းပြု၍ဟောတော်မူ၏၊ထိုစကားကိုချဲ့ဦးအံ့၊ထိုရဟန်းကို မြတ်စွာဘုရား သည် ရဟန်း သင်သည် ငြီးငွေ့သတတ်ဟူသည်မှန်သလောဟု မေးတော်မူသည် ရှိသော် အရှင်ဘုရား မှန်ပေ၏ဟု နားတော်လျှောက်၏၊ အဘယ်သူသည် ငြီး ငွေ့စေအပ်သနည်းဟု မေးတော်မူသည် ရှိသော် မယားဟောင်းသည် ငြီးငွေ့ စေအပ်သည်ဟု နားတော်လျှောက်၍ အရှင်ဘုရား ထိုမိန်းမသည် ချိုသော လက်ရှိ၏၊ ထိုမိန်းမနှင့် ကင်း၍ နေခြင်းငှါ မတတ်နိုင်ဟု လျှောက်၏၊ ထိုအခါ ထိုရဟန်းကို မြတ်စွာဘုရားသည် ရဟန်း ဤမိန်းမသည် သင့်အား အကျိုးမရှိ သည်ကိုပြု၏၊ ရှေး၌လည်း သင်သည် ထိုမိန်းမကိုမှီ၍ တံကျင်၌ လျှိုအပ်လျက် ထိုမိန်းမကိုလျှင် တောင့်တလျက် သေ၍ ငရဲ၌ဖြစ်၏၊ ယခုအခါ အဘယ့်ကြောင့် တဖန် တောင့်တပြန်သနည်းဟု မိန့်တော်မူ၍ အတိတ်ကိုဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည် သော မင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် အာကာသစိုဝ်းနတ် ဖြစ်၏၊ ထိုအခါ ဗာရာဏသီ ပြည်ဝယ် တန်ဆောင်မုန်းလ ညဉ့်၌ လှည့်လည် သော ပွဲသဘင်သည် ဖြစ်၏၊ မြို့ကို နတ်မြို့ကိုကဲ့သို့ တန်ဆာဆင်ကုန်၏၊ အလုံး စုံသော လူသည် ပွဲသဘင် ကစားခြင်းကို မှီသည်ဖြစ်၏၊ တယောက်သော သူဆင်းရဲအားကား တခုသာလျှင်ဖြစ်သော တခဲနက်သောပုဆိုးစုံသည်ရှိသည် ဖြစ်၏၊ ထိုယောကျ်ားသည် ပုဆိုးစုံကို ကောင်းစွာ ဖွပ်ခြင်းဖြင့် ဖွပ်စေ၍ ခေါက်စေ၍ အတွန့်တရာ အတွန့်တထောင်ကို ပြုစေ၍ ထား၏၊ ထိုအခါ ထိုယောကျ်ားကို မယားသည် အရှင် ငါသည် တထည်သော ဝတ်ပန်းဆိုး အဝတ်ကို ဝတ်၍ တထည်သော ဝတ်ပန်းဆိုး ပုဆိုးကိုရုံ၍ သင်၏လည်၌ဘက်၍

တန်ဆောင်မုန်းလ ညဥ့်အခါ၌ လှည့်လည်ခြင်းကို လှည့်လည်အံ့သောငှါ အလိုရှိ၏ဟု ဆို၏။

ရှင်မ အဘယ်မှာ ဆင်းရဲကုန်သော ငါတို့အား ဝတ်ပန်းဆိုး အဝတ်ကို ရတုံအံ့နည်း ဖြူစင်သော အဝတ်ကို ဝတ်၍ ကစားလော့ဟု ဆို၏၊ ဝတ်ပန်းဆိုး အဝတ်ကို မရသည်ရှိသော် ပွဲသဘင် ကစားခြင်းကို မကစားအံ့၊ သင်သည် တပါးသော မိန်းမကို ခေါ်၍ ကစားလေလေလော့ဟု ဆို၏၊ ရှင်မ အဘယ့်ကြောင့် နှိပ်စက်ဘိသနည်း၊ အဘယ်မှာ ငါတို့အား ဝတ်ပန်းဆိုး ပုဆိုးအဝတ်ကို ရတုံအံ့နည်းဟု ဆို၏၊ အရှင် ယောကျ်ားအား အလိုရှိသည်ရှိသော် အဘယ်မှာ မရရှိတုံအံ့နည်း၊ မင်း၏ ဝတ်ပန်းခင်း၌ များစွာသော ဝတ်ပန်းသည် ရှိသည် မဟုတ်လောဟု ဆို၏၊ ရှင်မ ထိုအရပ်သည် ရက္ခိုသ်သိမ်းဆည်းသော ရေကန်နှင့်တူ၏၊ များသော အစောင့် အရှောက် ရှိ၏၊ ကပ်အံ့သောငှါ မတတ်ကောင်း၊ သင်သည် ထိုအမှုကို မနှစ်သက်လင့်၊ ရတိုင်းသော အဝတ်ဖြင့်လျှင် ရောင့်ရဲလောဟု ဆို၏၊ အရှင် ညဥ့်အဘို့၌ အမိုက်သည် ရှိခဲ့သော် ယောကျ်ား၏မရောက်ရာ အရပ်မည်သည် မရှိဟု ဆို၏၊ ထိုယောကျ်ားသည် ထိုမိန်းမသည် အဖန်တလဲလဲ ဆိုသည်ရှိသော် ကိလေသာ၏ အစွမ်းအားဖြင့် ထိုမိန်းမ၏ စကားကို လိုက်နာ၍ ရှင်မ ဤသို့ ဖြစ်စေ မကြံလင့်ဟု ထိုမယားကို နှစ်သိမ့်စေ၍ ညဥ့်အဘို့၌ အသက်ကို စွန့်၍ မြို့မှထွက်၍ မင်း၏ ဝတ်ပန်းခင်းသို့ သွား၍ စောင်ရန်းကို နင်း၍ ယာတွင်းသို့ ဝင်၏။

စောင့်ရှောက်ကုန်သော သူတို့သည် စောင်ရန်းသံကို ကြား၍ ခိုးသူ ခိုးသူဟု ခြံရံကုန်ပြီးသည် ရှိသော် ဖမ်းကုန်၍ ရေရွတ်ထောင်းခတ် နှောင်ဖွဲ့၍ ညဥ့်သည် လင်းသည်ရှိသော် မင်းအား ပြကုန်၏၊ မင်းသည် သွားကြကုန်၊ ထိုသူခိုးကို တံကျင်ဖြင့် လျှိုလေကုန်ဟု ဆို၏၊ ထိုအခါ ထိုခိုးသူကို လက်ပြန်ဖွဲ့၍ သူသတ် စည်ကြီးကို တီးလျက် မြို့မှ ထွက်၍ တံကျင်လျှိုကုန်၏၊ ပြင်းစွာသော ဝေဒနာတို့သည် ဖြစ်ကုန်၏၊ ကျီးတို့သည် ဦးခေါင်း၌ နားကုန်၍ သံတံကျင်နှင့်တူကုန်သော နှုတ်သီးတို့ဖြင့် မျက်စိတို့ကို ထိုးကုန်၏၊ ထိုယောကျ်ားသည် ထိုသို့သောဆင်းရဲကို နှလုံးမသွင်းမူ၍ ထိုမိန်းမကိုသာလျှင် အောက်မေ့၍ တခဲနက်သော ဝတ်ပန်းဆိုး အဝတ်ကို ဝတ်လျက် လည်၍ ဘက်ခြင်းငှါ အလိုရှိသော

မောင်နှံ အစုံရှိသော၊ ထိုသို့သဘောရှိသော မိန်းမနှင့် တကွ တန်ဆောင်မုန်းလ ညဉ့်၌ လှည့်လည်ခြင်းမှ ငါသည် ယုတ်၏ဟု ဆိုလို၍—

၁၄၇၊ နယိဒံ ဒုက္ခံ အဒုံ ဒုက္ခံ၊ ယံ မံ တုဒတိ ဝါယသော။
ယံ သာမာ ပုပ္ဖရတ္တေန၊ ကတ္တိကံ နာနုဘောဿတိ။

ဟူသော ဤဂါထာကို ဆို၏။

ဝါယသော၊ ကျီးသည်။ မံ၊ ငါ့ကို။ ယံ တုဒတိ၊ အကြင် သံတံကျင်နှင့်တူသော နှုတ်သီးဖြင့် ထိုးခြင်းသည် ဖြစ်၏။ ဣဒံ၊ ဤထိုးခြင်းသည်။ န ဒုက္ခံ၊ ငါ့အား မဆင်းရဲ။ သာမာ၊ ရွှေသော အဆင်းရှိသော မိန်းမသည်။ ပုပ္ဖရတ္တေန၊ ဝတ်ပန်းဆိုး အဝတ်ဖြင့်။ ကတ္တိကံ၊ တန်ဆောင်မုန်းလ ပွဲသဘင်ကို။ ယံ နာနုဘောဿတိ၊ အကြင် မခံစားရခြင်းသည် ဖြစ်လတ္တံ့။ အဒုံ၊ ထိုမောင်နှံ တွဲ၍ ပွဲသဘင် မခံစားရဘဲ အလွဲကြီးလွဲသော ဆင်းရဲသည်သာလျှင်။ ဒုက္ခံ၊ ငါ့အား ဆင်းရဲ၏။

ထိုယောကျ်ားသည် ဤသို့ မာတုဂါမကို အာရုံပြု၍ မြည်တမ်းလျက်လျှင် သေ၍ ငရဲ၌ ဖြစ်၏။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ လင်မယားတို့သည် ထိုအခါ လင်မယား ဖြစ်ဘူးကုန်ပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ထိုအကြောင်းကို မျက်မှောက်ပြု၍ တည်သော အာကာသစိုဝ်းနတ် ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[မိန်းမကိုမှီ၊ တံကျင်သီ၊ သေပြီ ငရဲရောက်]

ခုနစ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော ပုပ္ဖရတ္တဇာတ်သည် ပြီး၏။

---

## ၁၄၈—သိင်္ဂါလဇာတ်

### လောဘ ကိလေသာကို နှိပ်နင်းခြင်းအကြောင်း

**ပဋိပ္ပန္နဝတ္ထု**....နတ်နှင့်တကွသော လောကကို ဆုံးမတော် မူတတ်သော သဗ္ဗညုမြတ်စွာဘုရားသည် "နာဟံ ပုန် န စ ပုန်" အစရှိသော ဂါထာပုဒ်ဖြင့်

တန်ဆာဆင်အပ်သော ဤသိင်္ဂါလဇာတ်ကို ဇေတဝန် ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "ကိလေသာ နှိပ်နင်းခြင်း" ကိုအကြောင်းပြု၍ ဟောတော်မူ၏၊ သာဝတ္ထိပြည်၌ ငါးရာအတိုင်းအရှည်ရှိကုန်သော အဆွေခင်ပွန်း ဖြစ်ကုန်သော များစွာစည်းစိမ်ရှိကုန်သော သူဌေးသားတို့သည် မြတ်စွာဘုရား တရားတော်ကို နာရ၍ သာသနာတော်၌ အသက်ကိုစွန့်၍ ရဟန်းပြု၍ ဇေတဝန်ကျောင်းတော်၏ အစွန်ဖြစ်သော ကျောင်းရံတွင်း၌ နေကုန်သတတ်၊ ထိုအခါ ညဉ့်သန်းခေါင်၌ ထိုငါးရာကုန်သော ရဟန်းတို့အား ကိလေသာကို မှီသောအကြံ ရှိသည်ဖြစ်၏၊ ထိုရဟန်းတို့သည် ငြီးငွေ့ကုန်သည်ဖြစ်၍ မိမိတို့သည် စွန့်အပ်ကုန်သော ကိလေသာတို့ကို တဖန် ယူအံ့သောငှါ စိတ်ကို ဖြစ်စေကုန်၏၊ ထိုအခါ မြတ်စွာဘုရားသည် သန်းခေါင်ယာမ် အခြားမဲ့၌ သဗ္ဗညုတ ဉာဏ်ဘည်းဟူသော တိုင်နှင့်တကွသော ဆီမီးကိုချီ၍ ဇေတဝန်ကျောင်းတော်၌ ရဟန်းတို့သည် အဘယ်မှေ့လျော်ခြင်းဖြင့် နေကြကုန်သနည်းဟု ရဟန်းတို့၏အလိုကို ကြည့်တော်မူသည်ရှိသော် ထိုရဟန်းတို့၏ ကိုယ်တွင်း၌ ကာမရာဂနှင့်ယှဉ်သော အကြံ ဖြစ်သည်၏ အဖြစ်ကို သိတော်မူ၏၊

မြတ်စွာဘုရားသည်လည်း တယောက်သော သားရှိသော မိန်းမသည် မိမိ၏သားကို စောင့်သကဲ့သို့ရင်း, မျက်စိတဘက်သာရှိသော ယောကျ်ားသည် တဘက်သော မျက်စိကို စောင့်သကဲ့သို့ရင်း ကိုယ်တော်၏ တပည့်တို့ကိုစောင့်၏၊ နံနက် အစရှိသည်တို့တွင် အကြင် အကြင် အခါ၌ အကြင် ရဟန်းတို့အား ကိလေသာတို့သည် ဖြစ်ကုန်၏၊ ထိုရဟန်းတို့အား ထိုကိလေသာတို့ကို ထို့ထက် အလွန်ပွားစိမ့်သောငှါ မပေးမူ၍ ထိုထိုဖြစ်သောအခါ၌လျှင် နှိပ်၏၊ ထို့ကြောင့် မြတ်စွာဘုရားအား စကြဝတေးမင်း၏ မြို့တွင်း၌သာလျှင် ခိုးသူတို့၏ ဖြစ်သော ကာလကဲ့သို့ ဤကိလေသာသည် ဖြစ်၏၊ ယခုအခါ၌သာလျှင် ထိုရဟန်းတို့အား ဤမေ့ဒေသနာကိုပြု၍ ကိလေသာတို့ကို နှိပ်၍ အရဟတ္တဖိုလ်ကို ပေးအံ့ ဤသို့သော အကြံတော်သည် ဖြစ်၏၊ ထိုမြတ်စွာဘုရားသည် မွှေးကြိုင်လှစွာသော ဂန္ဓကုဋီမှ ထွက်တော်မူ၍ သာယာသော အသံတော်ဖြင့် အာနန္ဒာဟု တရားဘဏ္ဍာစိုးဖြစ်သော ရှင်အာနန္ဒာ မထေရ်ကို ခေါ်တော်မူ၏၊ အရှင် အာနန္ဒာ မထေရ်သည် အရှင်ဘုရား အဘယ်နည်းဟု လာလတ်၍ ရှိခိုး၍ တည်၏၊ အာနန္ဒာ

အကြင်မျှလောက်ကုန်သော ရဟန်းတို့သည် အစွန်ဖြစ်သော ကျောင်းရံတွင်း၌ နေကုန်၏၊ ခပ်သိမ်းကုန်သော ရဟန်းတို့ကိုလျှင် ဂန္ဓကုဋိပရိဝုဏ်၌ စည်းဝေးစေကုန်လော့ဟု မိန့်တော်မူ၍ မြတ်စွာဘုရားအား ငါသည် ထိုငါးရာကုန်သော ရဟန်းတို့ကိုလျှင် အကယ်၍ ခေါ်တော်မူအံ့၊ မြတ်စွာဘုရားသည် ငါတို့၏ ကိုယ်တွင်း၌ ကိလေသာတို့၏ ဖြစ်သော အဖြစ်ကို သိအပ်ပြီဟု ထိတ်လန့်သော စိတ် ရှိကုန်သည်ဖြစ်၍ ဓမ္မဒေသနာကို ခံအံ့သောငှါ မတတ်နိုင်ကုန် လတ္တံ့၊ ဤသို့သော အကြံသည် ဖြစ်တော်မူ၏၊ ထို့ကြောင့် ခပ်သိမ်းကုန်သော ရဟန်းတို့ကို စည်းဝေးစေကုန်လော့ဟု မိန့်တော်မူ၏။

အာနန္ဒာမထေရ်သည် အရှင်ဘုရား ကောင်းပါပြီဟု သံကောက်ကို ယူ၍ ပရိဝုဏ်တခုမှသည် ပရိဝုဏ်တခုသို့ လှည့်လည်၍ ခပ်သိမ်းကုန်သော ရဟန်းတို့ကို ဂန္ဓကုဋိပရိဝုဏ်၌ စည်းဝေးစေ၍ မြတ်စွာဘုရားတို့၏ နေရာကို ခင်း၍ မြတ်စွာဘုရားသည် ထက်ပယ်ဖွဲ့၍ အထက် ကိုယ်တော်ကို ဖြောင့်စွာထား၍ ကျောက်မြေ၌ တည်သော မြင်းမိုရ်တောင်ကဲ့သို့ အသွယ်အသွယ် အစုံအစုံ ခြောက်သွယ်ကုန်သော တခဲနက်ကုန်သော ဘုရားရောင်ခြည်တော်တို့ကို လွှတ်လျက် ခင်းအပ်သော ဘုရားနေရာ၌ နေတော်မူ၏၊ ထို ရောင်ခြည်တော်တို့သည်လည်း ခွက် အတိုင်းအရှည် ရှိကုန်လျက် ထီးအတိုင်းအရှည်ရှိကုန်လျက် စုလစ်မွန်းချွန်တပ်သော အိမ်ဝန်း အတိုင်းအရှည်ရှိကုန်လျက် ပြတ်ကုန်၍ ကောင်းကင်ပြင်၌ လျှပ်စစ်နွယ်ကဲ့သို့ ထက်ဝန်းကျင်သို့ သွားကုန်၍ သမုဒြာငမ်းကို ချောက်ချားစေ၍ နေလုလင်ထွက်သော ကာလကဲ့သို့ ဖြစ်၏၊ ရဟန်းသံဃာ သည်လည်း မြတ်စွာဘုရားကိုရှိခိုး၍ လေးမြတ်သောစိတ်ကိုဖြစ်စေ၍ ကမ္ဗလာနီ တင်းတိမ်ဖြင့် ရံဘိသကဲ့သို့ ခြံရံ၍နေ၏။

မြတ်စွာဘုရားသည် ဗြဟ္မာမင်း၏အသံနှင့်တူသောအသံတော်ကို မြွက်တော်မူ၍ ရဟန်းတို့ကိုခေါ်တော်မူ၍ ရဟန်းမည်သည် ကာမဝိတက်, ဗျာပါဒဝိတက်, ဝိဟိံသာဝိတက် ဤသုံးပါးကုန်သော အကုသလဝိတက်တို့ကို ကြံခြင်းငှါမသင့်၊ ထိုစကားသည် မှန်၏၊ အတွင်း၌ဖြစ်သောကိလေသာကို အနည်းငယ်ဟူ၍ မထေမဲ့မြင် အောက်မေ့ခြင်းငှါ မသင့်၊ ကိလေသာမည်သည် ရန်သူနှင့် တူ၏၊ ရန်သူသည်လည်း ငယ်သော မည်သည် မရှိ၊ အခွင့်ရသည် ရှိသော် ပျက်စီးခြင်းသို့

ရောက်စေ၏၊ ဤအတူသာလျှင် အနည်းငယ်ဖြစ်သော ကိလေသာသည် ဖြစ်၍ ပွားခြင်းငှါရသည်ရှိသော် ပျက်စီးခြင်းသို့ရောက်စေ၏၊ ဤကိလေသာမည်သည် လတ်တလော သေစေတတ်သော အဆိပ်နှင့် တူ၏၊ အသားအရေ၌ ဖြစ်သော အိုင်းအမာနှင့် တူ၏၊ လျှင်သော အဆိပ်ရှိသော မြွေနှင့် တူ၏၊ မိုးကြိုး လောင်မီးနှင့် တူ၏၊ ကပ်ငြိစေခြင်းငှါ မသင့်၊ ရွံရှာအပ်၏၊ ဖြစ်တိုင်း ဖြစ်တိုင်း သော ခဏော၌ပင်လျှင် ပညာ၏ အစွမ်းအားဖြင့် ဘာဝနာ၏ အစွမ်းအားဖြင့် အကြင်သို့သော အခြင်းအရာအားဖြင့် စွန့်အပ်သည်ရှိသော် တခဏမျှလည်း နှလုံး၌ မတည်မူ၍ ပဒုမာကြာရွက်၌ ရေပေါက်ကဲ့သို့ လျှောကျ၏၊ ထိုသို့သော အခြင်းအရာအားဖြင့် စွန့်အပ်၏၊ ရှေးပညာရှိတို့သည်လည်း အနည်းငယ်သော ကိလေသာကို ကဲ့ရဲ့၍ အကြင်သို့သော အခြင်းအရာအားဖြင့် တဖန် ကိုယ်တွင်း၌ မဖြစ်၊ ထိုသို့သော အခြင်းအရာအားဖြင့် နှိပ်စက်ကုန်၏ဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည် သောမင်းသည် မင်းပြုသည်ရှိသော် ဘုရားလောင်းသည် မြေခွေးအမျိုး၌ ပဋိ သန္ဓေယူ၍ တောဝယ် မြစ်နား၌ နေ၏၊ ထိုအခါ တခုသော ဆင်အိုသည် ဂင်္ဂါ မြစ်နား၌သေ၏၊ မြေခွေးသည်အစာရှာသွားသည်ရှိသော် ထိုဆင်သေကောင်ကို မြင်၍ ငါ့အား များစွာသော အစာသည် ဖြစ်၏ဟု ဆို၍ ထိုဆင်သေကို နှာ မောင်း၌ကိုက်၏၊ထွန်တုံးထွန်သံ၌ကိုက်သော ကာလကဲ့သို့ဖြစ်၏၊ဆိုမြေခွေးသည် ဤနှာမောင်း၌ စားအပ်သည်နှင့်ယှဉ်သော အသားသည် မရှိဟု အစွယ်တို့၌ ကိုက်၏၊ အရိုး၌ ကိုက်သောကာလကဲ့သို့ ဖြစ်၏၊ နားတို့၌ ကိုက်၏၊ စကောစွန်း၌ ကိုက်သော ကာလကဲ့သို့ ဖြစ်၏၊ ဝမ်း၌ ကိုက်၏၊ ကျီ၌ ကိုက်သော ကာလကဲ့သို့ ဖြစ်၏၊ ခြေ၌ ကိုက်၏၊ ဆုံ၌ ကိုက်သော ကာလကဲ့သို့ ဖြစ်၏၊ အရိုး၌ ကိုက်၏၊ ကျည်ပွေ့၌ ကိုက်သော ကာလကဲ့သို့ ဖြစ်၏၊ မြေခွေးသည် ဤအမဲ၌ စားအပ် သည်နှင့်ယှဉ်သော အသားသည် မရှိဟု အလုံးစုံသော အရပ်၌ သာယာခြင်းကို မရ၍ ဝစ္စမဂ်၌ ကိုက်၏၊ နူးညံ့သော မုံ့၌ ကိုက်သော ကာလကဲ့သို့ ဖြစ်၏၊ ထိုမြေခွေးသည် ယခု ငါသည် ဤဆင်သေကောင်၌ နူးညံ့သော စားအပ်သည်နှင့် ယှဉ်သော အရပ်ကို ရပြီဟု ထိုဝစ္စမဂ်မှစ၍ စားလျက် ဝမ်းတွင်းသို့ ဝင်၍

အညှိုနှလုံး အစရှိသည်တို့ကိုစား၍ ရေငတ်သော ကာလ၌ သွေးကို သောက်၏၊ အိပ်သောကာလ၌ ဝမ်းရေကိုဖြန့်၍ အိပ်၏။

ထိုအခါ ထိုမြေခွေးအား ဤဆင်သေကောင်သည် ငါ့အား နေခြင်းငှါ ချမ်းသာသည်၏ အဖြစ်ကြောင့် အိမ်နှင့်တူ၏၊ စားလိုသည်ရှိသော် အသားသည် များ၏၊ ယခု ငါ့အား တပါးသောအရပ်သို့ သွားခြင်းအမှုသည် အဘယ်မှာ ရှိအံ့နည်းဟု ထိုမြေခွေးသည် တပါးသောအရပ်သို့ မသွားမူ၍ ဆင်ဝမ်း၌သာလျှင် အသားကိုစား၍ နေ၏၊ ရှည်သော ကာလသည် တိုင်ရောက်သည်ရှိသော် နွေအခါ လေအတွေ့ကြောင့်ရင်း, နေပူခြင်းကြောင့်ရင်း ထိုဆင်သေကောင်သည် ခြောက်၍ အတွန့်တို့ကို ယူ၏၊ မြေခွေး၏ ဝင်ရာတံခါးသည် ပိတ်၏၊ ဝမ်းတွင်း၌ အမိုက်သည် ဖြစ်၏၊ ထိုမြေခွေးအား လောကန္တရက်၌ နေရသကဲ့သို့ ဖြစ်၏၊ ဆင်သေကောင် ခြောက်သည်ရှိသော် အသားသည်လည်း ခြောက်၏၊ သွေးသည်လည်း ပြတ်၏၊ ထိုမြေခွေးသည် ထွက်ရာတံခါးကို မရသည်ရှိသော် ဘေးသို့ရောက်သည်ဖြစ်၍ ပြေးလျက် ထိုမှဤမှ တိုးဝှေ့၍ ထွက်ရာတံခါးကို ရှာလျက် သွား၏၊ ထိုမြေခွေးသည် ထမင်းအိုး၌ မုံ့လုံးကဲ့သို့ သွားသည်ရှိသော် နှစ်ရက် သုံးရက် လွန်သဖြင့် မိုဃ်းကြီး သည်းထန်စွာ ရွာ၏။

ထိုအခါ ထိုဆင်သေကောင်သည် မိုဃ်းစွတ်သည်ရှိသော် ထ၍ ပကတိသဏ္ဌာန်ဖြင့် တည်၏၊ ဝစ္စမဂ်သည် ပွင့်သည်ဖြစ်၍ ကြယ်ကဲ့သို့ ထင်၏၊ မြေခွေးသည် ထို အပေါက်ကိုမြင်၍ ငါ့အား ယခုအခါ၌ အသက်ကို ရအပ်ပြီဟု ဆင်ဦးခေါင်း တိုင်အောင် နောက်သို့ ဆုတ်ပြီးလျှင် လျင်စွာအဟုန်ဖြင့် ပြေး၍ ဝစ္စမဂ်ကို ဦးခေါင်းဖြင့် တိုးဝှေ့၍ ထွက်၏၊ မြေခွေး၏ ထက်ဝန်းကျင် ပြတ်သော ကိုယ် ရှိသည်၏ အဖြစ်ကြောင့် အလုံးစုံသော အမွေးတို့သည် ဝစ္စမဂ်၌သာလျှင် ငြိကုန်၏၊ မြေခွေးသည် ထန်းတုံးနှင့်တူသော အမွေးရှိသော ကိုယ်ဖြင့် ထိတ်လန့်သော စိတ်ရှိသည်ဖြစ်၍ အတန်ငယ် ပြေးပြီးလျှင် ပြန်၍ဆိုင်လျက် ကိုယ်ကို ကြည့်၍ ငါ့အား ဤဆင်းရဲကို တပါးသောသူသည် မပြုအပ်၊ လောဘ၏ အကြောင်းကြောင့်ကား လောဘကိုမှီ၍ ငါသည် ထိုဆင်းရဲကို ပြုအပ်၏၊

ဤနေ့မှစ၍ကား လောဘအလိုသို့ လိုက်သည် မဖြစ်အံ့၊ တဖန် ဆင်ကောင်၏ ကိုယ်သို့ မဝင်အံ့ဟု ထိတ်လန့်သော စိတ်ရှိသည်ဖြစ်၍—

၁၄၈၊ နာဟံ ပုန် နစ ပုနံ၊ န စာပိ အပုနပ္ပုနံ။
ဟတ္ထိဗောန္ဒိံ ပဝေက္ခာမိ၊ တထာ ဟိ ဘာယိတဗ္ဗိတော။

ဟူသော ဤဂါထာကို ဆို၏။

အဟံ ငါသည်။ ဠမသ္မိံ ယေဝ ပဝေသနေ၊ ဤဆင်ကောင်၌ ဝင်ခြင်းကြောင့်။ ဘာယိတဗ္ဗိတော၊ သေဘေးမှ ထိတ်လန့်ရ၏။ တထာ ဟိ-တတောဝေ၊ထို့ကြောင့် သာလျှင်။ အဟံ၊ ငါသည်။ ပုန၊ တဖန်။ ဠတော၊ ဤအခါမှ။ ဟတ္ထိဗောန္ဒိံ၊ ဆင်ကောင်သို့။ န ပဝေက္ခာမိ၊ မဝင်အံ့။ တတော၊ထိုအခါမှ၊ ပုန၊တဖန်လည်း။ ဟတ္ထိဗောန္ဒိံ၊ ဆင်ကောင်သို့။ န ပဝေက္ခာမိ၊ မဝင်အံ့၊ ပုနပ္ပုနံ စာပိ၊ ဤမှထိုမှ အဖန်တလဲလဲလည်း။ ဟတ္ထိဗောန္ဒိ၊ ဆင်ကောင်သို့။ န ပဝေက္ခာမိ၊ မဝင်အံ့။

ဤသို့ ဆို၍လည်း ထိုအရပ်မှ ပြေးလေ၏၊ တဖန် ဆင်ကောင်ကိုပြန်၍လည်း မကြည့်၊ ထိုအခါမှစ၍ လောဘအလိုသို့ လိုက်သည် မဖြစ်။

**ဇာတ်ပေါင်း**....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ရဟန်းတို့ အတွင်း၌ဖြစ်သော ကိလေသာ မည်သည်ကို ပွားစိမ့်သောငှါမပေးမူ၍ ထိုထိုဖြစ်ရာ အရပ်၌သာလျှင် နှိပ်ခြင်းငှါ သင့်၏ဟု မိန့်တော်မူ၍ သစ္စာတို့ကို ပြတော်မူ၍ ဇာတ်ကို ပေါင်းတော်မူ၏၊ သစ္စာကို ပြသည်၏အဆုံး၌ ငါးရာကုန်သော ထိုရဟန်းတို့သည် အရဟတ္တဖိုလ်၌ တည်ကုန်၏၊ ကြွင်းကုန်သော ရဟန်း တို့တွင် အချို့ကုန်သော ရဟန်းတို့သည် သောတာပန် ဖြစ်ကုန်၏၊ အချို့ကုန်သော ရဟန်းတို့သည် သကဒါဂါမ် ဖြစ်ကုန်၏၊ အချို့ကုန်သော ရဟန်းတို့သည် အနာဂါမ် ဖြစ်ကုန်၏၊ အဘယ်သို့ ဇာတ်ကို ပေါင်းတော်မူသနည်း ဟူမူကား ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ မြေခွေး ဖြစ်ဘူးပြီ၊ ဤသို့ ဇာတ်ကို ပေါင်းတော်မူ၏။

[လောဘကိလေ၊ ဖြစ်ခဲ့ပေ၊ ဖြစ်လေရာရပ် သေဇာင်သတ်]

ရှစ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော သိင်္ဂါလဇာတ်သည် ပြီး၏။

# ၁၄၉–ကေပဏ္ဏဇာတ်

## မာန်မာန ခက်ထန်သော မင်းသားကို ဘုရားထောင်း ဆုံးမသော အကြောင်း

ပစ္စုပ္ပန်ဝတ္ထု။...နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညု မြတ်စွာဘုရားသည် "ကေပဏ္ဏော အယံ ရုက္ခော" အစရှိသော ဂါထာ ပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤကေပဏ္ဏဇာတ်ကို ဝေသာလီပြည်ကို မှီ၍ မဟာဝုန်၌ စုလစ်မွန်းချွန်တပ်သော ကျောင်း၌ နေတော်မူစဉ် ဝေသာလီပြည်၌ "ဒုဋ္ဌလိစ္ဆဝိမင်းသား"ကို အကြောင်းပြု၍ဟောတော်မူ၏၊ ထိုစကားကို ချဲ့ဦးအံ့၊ ထိုအခါ ဝေသာလီမြို့သည် တဂါဝုတ် တဂါဝုတ် အတွင်း၌ တံတိုင်းသုံးထပ် တို့သည် ခြံရံကုန်၏၊ သုံးဌာနတို့၌ တံခါးပစ္စင်နှင့် ယှဉ်၏၊ တင့်တယ်ခြင်း အစုသို့ ရောက်၏၊ ထိုဝေသာလီပြည်၌ အခါခပ်သိမ်း မင်းပြု၍ နေကုန်သော သူတို့၏ ခုနစ်ထောင်တို့သည်၎င်း၊ ခုနစ်ရာတို့သည်၎င်း၊ ခုနစ်ယောက်သော မင်းတို့သည်၎င်း ဖြစ်ကုန်၏၊ ထိုမျှ အတိုင်းအရှည် ရှိကုန်သော အိမ်ရှေ့မင်း တို့သည်၎င်း၊ ထိုမျှအတိုင်းအရှည်ရှိကုန်သော ဘဏ္ဍာစိုးတို့သည်၎င်း ဖြစ်ကုန်၏၊ ထိုမင်းသားတို့၏အတွင်း၌ တယောက်သောဒုဋ္ဌလိစ္ဆဝိမင်းသား မည်သည်ဖြစ်၏၊ အမျက်ကြီး၏၊ ရှန့်ရင်း၏၊ ကြမ်းကြုတ်၏၊ လှံကန်ဖြင့် ခတ်သော မြွေဟောက် ကဲ့သို့ အမြဲ အမျက်ထွက်၏၊ အမျက်ကြီးသည်၏ အဖြစ်ကြောင့် ဒုဋ္ဌလိစ္ဆဝိ မင်းသား၏ ရှေ့၌ နှစ်ခွန်း သုံးခွန်းသော စကားတို့ကို ဆိုခြင်းငှါ စွမ်းနိုင်သော သူမည်သည် မရှိ၊ ထိုဒုဋ္ဌလိစ္ဆဝိ မင်းသားကို မိဘတို့သည် ဆုံးမ အံ့သောငှါ မတတ်နိုင်ကုန်၊ အဆွေအမျိုး အဆွေခင်ပွန်း နှလုံးအကျွမ်းဝင်ကုန်သော သူတို့ သည် ဆုံးမခြင်းငှါ မတတ်နိုင်ကုန်။

ထိုအခါ ထိုဒုဋ္ဌလိစ္ဆဝိမင်းသား၏ မိဘတို့သည် ဤမင်းသားသည် အလွန် ကြမ်းကြုတ်၏၊ နိုင်ထက်ကလူ ပြုတတ်၏၊ မြတ်စွာဘုရားကိုထား၍ တပါးသော မင်းသားကို ဆုံးမခြင်းငှါ စွမ်းနိုင်သောသူမည်သည် မရှိ၊ ဤဒုဋ္ဌလိစ္ဆဝိမင်းသား သည် ဘုရား ဆုံးမအပ်သော သူသည် ဖြစ်ရာ၏၊ ဤသို့သော အကြံသည် ဖြစ်၏၊ ကြံပြီး၍ ဒုဋ္ဌလိစ္ဆဝိမင်းသားကို အမိအဘတို့သည် ခေါ်၍ မြတ်စွာ ဘုရားအထံတော်သို့ သွား၍ ရှိခိုး၍ အရှင်ဘုရား ဤ မင်းသားသည်ကား

ရှုန့်ရင်း ကြမ်းကြုတ်၏၊ အမျက်ထွက်တတ်သော အားဖြင့် ထင်ရှား၏၊ ဤ မင်းသားအား အရှင်ဘုရားတို့သည် အဆုံးအမကို ပေးတော်မူပါကုန်လော့ဟု လျှောက်ကုန်၏၊ မြတ်စွာဘုရားသည် ထိုမင်းသားကို ဆုံးမလိုသည် ဖြစ်၍ မင်းသား ဤမည်သော သတ္တဝါတို့၌ သင်သည် ရှုန့်ရင်း ကြမ်းကြုတ်သည် နှိုင်ထက်ကလူ မူတတ်သည် ညှဉ်းဆဲတတ်သော သဘောရှိသည် မဖြစ်ရာ၊ ကြမ်းကြုတ်သော စကားကို ဆိုသောသူမည်သည်ကား မွေးသော အမိသည်ရင်း၊ အဘသည်ရင်း၊ သားမယားသည်ရင်း၊ အစ်ကို ညီ နှမ တို့သည်ရင်း၊ သားသမီး တို့သည်ရင်း၊ အဆွေခင်ပွန်းတို့သည်ရင်း မချစ် မနှစ်သက် အပ်သည် ဖြစ်၏၊ ကိုက်ခြင်းငှါ လာသော မြွေကဲ့သို့ရင်း၊ တောအရပ်၌ ထသော ခိုးသူကဲ့သို့ရင်း၊ စားအံ့သောငှါ လာသော ဘီလူးကဲ့သို့ရင်း၊ ထိတ်လန့်ခြင်းကို ဖြစ်စေတတ်၏၊ နှစ်ကြိမ်မြောက်သော စိတ်၏ ဝါရန္ဓ ငရဲ အစရှိသည်တို့၌ ဖြစ်၏၊ မျက်မှောက် သော ကိုယ်၏ အဖြစ်၌လျှင် အမျက်ကြီးသော ပုဂ္ဂိုလ်သည် အထူးထူးသော တန်ဆာဖြင့် ဆင်အပ်ငြားသော်လည်း အဆင်းမလှသည် သာလျှင် ဖြစ်၏၊ ထိုအမျက်ကြီးသောသူ၏ လပြည့်ဝန်းကဲ့သို့ တင့်တယ်သော မျက်နှာသည်လည်း မီးလျှံသည်ခတ်အပ်သော ပဒုမာကဲ့သို့ရင်း၊ အညစ်အကြေးကပ်သော ရွှေကြေးမုံ ဝန်းကဲ့သို့ရင်း အဆင်းမလှသည် ဖြစ်၏။

ထိုစကားသည် မှန်၏၊ အဆင်းမလှသည်ကို ပြုတတ်သော အမျက်ကိုမှီ၍ သတ္တဝါတို့သည် လက်နက်ကိုယူ၍ မိမိသည်သာလျှင် မိမိကိုယ်ကို သတ်ကုန်၏၊ အဆိပ်ကို စားကုန်၏၊ ကြိုးဖြင့် သေဆွဲမူကုန်၏၊ ကမ်းပါးပြတ်သို့ ဆင်းကုန်၏၊ ဤသို့ အမျက်၏ အစွမ်းအားဖြင့် သေ၍ ငရဲ အစရှိသည်တို့၌ ဖြစ်ကုန်၏၊ ညှဉ်းဆဲတတ်သော သဘောရှိကုန်သော သူတို့သည်လည်း မျက်မှောက်သော ကိုယ်၏ အဖြစ်၌ပင်လျှင် ကဲ့ရဲ့ခြင်းသို့ရောက်၍ ခန္ဓာကိုယ်ပျက်သည်မှ နောက်၌ ငရဲအစရှိသည်တို့၌ ဖြစ်ကုန်၏၊ တဖန် လူ့အဖြစ်ကိုရ၍လည်း ဖွားသောကာလမှ စ၍ ရောဂါများသည် သာလျှင် ဖြစ်ကုန်၏၊ မျက်စိအနာ, နားအနာ ဤသို့ အစရှိကုန်သော အနာတို့တွင် တခုခုသောအနာ၌ တပြိုင်နက်ထ၍ ကျကုန်၏၊ ရောဂါမှ မလွတ်ကုန်သည်ဖြစ်၍လျှင် အမြဲဆင်းရဲသည် ဖြစ်ကုန်၏၊ ထို့ကြောင့် ခပ်သိမ်းကုန်သောသတ္တဝါတို့၌ မေတ္တာနှင့်ယှဉ်သော စိတ်ရှိသည် အစီးအပွားကို

အလိုရှိသော စိတ်ရှိသည် နူးညံ့သော စိတ်ရှိသည်ဖြစ်ရာ၏၊ ဤသို့သဘောရှိသော အမျက်ကြီးသော ပုဂ္ဂိုလ်သည် ငရဲအစရှိသော ဘေးမှ မလွတ်ဟု မြတ်စွာဘုရားသည် မိန့်တော်မူ၏၊ ဒုဋ္ဌလိစ္ဆဝီ မင်းသားသည် မြတ်စွာဘုရား အဆုံးအမကိုနာရ၍ တကြိမ်သော အဆုံးအမဖြင့်လျှင် ကင်းသော မာနရှိသည် ယဉ်ကျေးသည် မာနမရှိသည် မေတ္တာနှင့်ယှဉ်သော စိတ်ရှိသည် နူးညံ့သော စိတ်ရှိသည်ဖြစ်၏၊ တပါးသောသူတို့ ဆဲရေးသော်ငြားလည်း၊ ပုတ်ခတ်သော်ငြား ပြန်၍လည်းမကြည့်၊ နုတ်အပ်ပြီးသော အစွယ်ရှိသော မြွေကဲ့သို့ငြား၊ ဖြတ်အပ်ပြီးသော လက်မရှိသော ဗုဇ္ဇိန်ကဲ့သို့ငြား၊ ဖြတ်အပ်ပြီးသော ဦးချိုရှိသော နွားကဲ့သို့ငြား ဖြစ်၏၊ ထိုဒုဋ္ဌလိစ္ဆဝီ မင်းသား၏ အကြောင်းကို သိ၍ ရဟန်းတို့သည် တရားသဘင်၌ ငါ့သျှင်တို့ ဒုဋ္ဌလိစ္ဆဝီ မင်းသားကို အလွန်ကြာမြင့်စွာ ဆုံးမကုန်၍ မိဘတို့သည်ငြား၊ အဆွေအမျိုး အစရှိကုန်သော သူတို့သည်ငြား ဆုံးမအံ့သော ငှါ မတတ်နိုင်ကုန်၊ မြတ်စွာဘုရားသည်ကား ထိုဒုဋ္ဌလိစ္ဆဝီမင်းသားကို တကြိမ်သောဆုံးမခြင်းဖြင့်လျှင် ဆုံးမ၍ မာန်မရှိသည်ဖြစ်၍ အမုန်ယစ်သော မြတ်သော ဆင်ကဲ့သို့ ကောင်းစွာ ချီးမြှောက်ခြင်းတို့၏ အကြောင်းကို ပြုတော်မူ၏၊ ဤမြတ်စွာဘုရား၏ စကားတော်သည် အလွန်လျှင် ကောင်းသော စကားတော်တည်း။

ရဟန်းတို့ ဆင်ကို ဆုံးမတတ်သော ဆရာသည် ဆုံးမအပ်ပြီးသော ဆင်သည် ပြေးသည်ရှိသော် အရှေ့အရပ်မျက်နှာ တခုသို့သာလျှင်ငြား၊ အနောက် အရပ်မျက်နှာ တခုသို့ သာလျှင်ငြား၊ မြောက်အရပ်မျက်နှာ တခုသို့သာလျှင်ငြား၊ တောင်အရပ်မျက်နှာ တခုသို့သာလျှင်ငြား ပြေး၏၊ ရဟန်းတို့ ပစ္စည်းလေးပါးကို ခံတော်မူထိုက်သော မဘောက်မပြန် ကိုယ်တော်တိုင်သာလျှင် ခပ်သိမ်းသော တရားတို့ကို သိတော်မူသော မြတ်စွာဘုရားသည် ဆုံးမအပ်ပြီးသော ယောကျ်ားသည် ပြေးသည်ရှိသော် ရှစ်ပါးသော အရပ်တို့သို့ ပြေး၏၊ ရူပဈာန်ရှိသော ပုဂ္ဂိုလ်သည် နတ်၌ဖြစ်သော ရူပါရုံကို မြင်၏၊ ဤသည်ကား တခုသော အရပ်တည်း၊ ထိုသို့သဘောရှိသော ဆရာကို ကမ္မဋ္ဌာန်း စီးဖြန်းသော ပုဂ္ဂိုလ်တို့၌ အတုမရှိ ဆုံးမအပ်သော ယောကျ်ားတို့ကို ဆုံးမတတ်သော ဆရာဟူ၍ ဆိုအပ်၏၊ ဤသို့ သဗ္ဗညု မြတ်စွာဘုရားသည် ပြတော်မူ၏၊ ငါ့သျှင်တို့ ဘုရားနှင့်တူ

သော ဆုံးမအပ်သော ယောကျ်ားတို့ကို ဆုံးမတတ်သော ဆရာမည်သည် မရှိ၊ ဤသို့သော စကားကို ဖြစ်စေကုန်၏၊ မြတ်စွာဘုရားသည် လာတော်မူလတ်၍ ရဟန်းတို့ ယခုအခါ အဘယ်မည်သောစကားဖြင့် စည်းဝေးကြကုန် သနည်းဟု မေးတော်မူလတ်၍ ဤမည်သော စကားဖြင့် စည်းဝေးပါကုန်၏ဟု နားတော် လျှောက်သည်ရှိသော် ရဟန်းတို့ ယခုအခါ၌သာလျှင် ဒုဋ္ဌလိစ္ဆဝိမင်းသားကို ငါသည် တကြိမ်သော ဆုံးမခြင်းဖြင့်သာလျှင်ဆုံးမအပ်သည် မဟုတ်သေး၊ ရှေး၌လည်း ငါသည် တကြိမ်သော ဆုံးမခြင်းဖြင့်သာလျှင် ဆုံးမဘူးပြီဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုလတ်သည်ရှိသော် ဘုရားလောင်းသည် ဥဒိစ္စပုဏ္ဏားမျိုး၌ ဖြစ်၍ အရွယ်သို့ ရောက်သည်ရှိသော် တက္ကသိုလ်ပြည်၌ ဗေဒင်သုံးပုံတို့ကိုရင်း,ခပ်သိမ်းသော အတတ်တို့ကိုရင်း သင်၍ အနည်းငယ်သော ကာလ၌သာ အိမ်၌နေ၍ အမိအဘ လွန်သဖြင့် ရသေ့ရဟန်းပြု၍ အဘိညာဉ်တို့ကိုရင်း, သမာပတ်တို့ကိုရင်း ဖြစ်စေ၍ ဟိမဝန္တာ၌ နေ၏၊ ထိုဟိမဝန္တာ၌ ကြာမြင့်စွာနေ၍ ချဉ်ဆား မှီဝဲအံ့သောငှါ ဇနပုဒ်သို့လာ၍ ဗာရာဏသီသို့ ရောက်၍ မင်း၏ဥယျာဉ်၌နေ၍ နက်ဖြန်နေ့၌ ကောင်းစွာ ဝတ်ရုံလျက် ရသေ့အသွင်နှင့် ပြည့်စုံသည်ဖြစ်၍ ဆွမ်းခံအံ့သောငှါ မြို့သို့ဝင်၍ မင်းယင်ပြင်သို့ ရောက်၏၊ မင်းသည် ခြသေ့ခံသော လေသာပြူတင်းဖြင့် ကြည့်သည်ရှိသော် ထိုဘုရားလောင်းကိုမြင်၍ ဣရိယာပုထ်၌ ကြည်ညို၍ ရသေ့သည် ငြိမ်သက်သောဣန္ဒြေရှိ၏၊ငြိမ်သက်သောစိတ်ရှိ၏၊ ထမ်းပိုးတလံမျှ ကြည့်၏၊ ဘဝါးလှမ်းတိုင်း ဘဝါးလှမ်းတိုင်း တထောင်သော ဥစ္စာထုပ်ကို ထားဘိသကဲ့သို့ ခြသေ့မင်း၏ တင့်တယ်ခြင်းကဲ့သို့သော တင့်တယ် ခြင်းဖြင့် လာ၏၊ တခုသော သူတော်ကောင်း တရားမည်သည် အကယ်၍ ရှိသည်ဖြစ်အံ့၊ ဤသူ၏ အတွင်း၌ ရှိသည်ဖြစ်ရာ၏ဟု ကြံ၍ တယောက်သော အမတ်ကို ကြည့်၏။

ထိုအမတ်သည် ရှင်မင်းကြီး အသို့ပြုရအံ့နည်းဟု လျှောက်၏၊ ထိုရသေ့ကို ပင့်ချေလောဟု ဆို၏၊ ရှင်မင်းကြီး ကောင်းပြီဟု ဘုရားလောင်းသို့ ကပ်၍

ရှိခိုး၍ လက်မှ သပိတ်ကို ယူ၍ ဘုန်းရှိသော ဒါယကာ အသို့နည်းဟု မေးသည် ရှိသော် အရှင်ဘုရား မင်းသည် ပင့်ခေါ်၏ဟု လျှောက်၏၊ ဘုရားလောင်းသည် ငါတို့သည် မင်းဆရာမဟုတ်ကုန် ဟိမဝန္တာ၌နေသော ရသေ့ဖြစ်ကုန်၏ဟုဆို၏၊ အမတ်သည် သွား၍ ထိုအကြောင်းကို မင်းအားကြား၏၊ မင်းသည် ငါတို့အား တပါးသော ဆရာသည် မရှိ၊ ထိုရသေ့ကိုပင့်ခဲ့လော့ဟုဆို၏၊ အမတ်သည်သွား၍ ဘုရားလောင်းကို ရှိခိုး၍ တောင်းပန်၍ မင်းအိမ်သို့ သွင်း၏၊ မင်းသည် ကောင်းစွာစိုက်အပ်သော ထီးဖြူရှိသော ရွှေပလ္လင်၌ နေစေ၍ မိမိဘို့စီရင်သော အထူးထူးသော မြတ်သော အရသာရှိသော ဘောဇဉ်ကို ဘုဉ်းပေးစေ၍ အရှင်ဘုရား အဘယ်မှာနေကုန်သနည်းဟုလျှောက်၏၊ မြတ်သောမင်းကြီး ငါတို့သည် ဟိမဝန္တာ၌ နေကုန်၏ဟု ဆို၏၊ ယခု အဘယ်သို့သွားကုန်အံ့နည်းဟုလျှောက်၏၊ မြတ်သောမင်းကြီး မိုဃ်းကာလအား လျှောက်ပတ်သော ကျောင်းကို ရှာ၏ဟု ဆို၏၊ အရှင်ဘုရား ထိုသို့တပြီးကား အကျွန်ုပ်၏ ဉယျာဉ်၌ နေကုန်လောဟု ဝန်ခံခြင်းကို ယူ၍ မိမိသည်လည်း စား၍ ဘုရားလောင်းကို ပင့်၍ ဉယျာဉ်သို့ သွား၍ သစ်ရွက်မိုးသောကျောင်းကို ဆောက်စေ၍ ညဉ့်သန့်စရာ နေ့သန့်စရာ အရပ်တို့ကိုပြု၍ ရဟန်း၏ ပရိက္ခရာတို့ကို လှူ၍ ဉယျာဉ်စောင့်ကို အပ်နှင်း၍ မြို့သို့ဝင်၏၊ ထိုအခါမှစ၍ ဘုရားလောင်းသည် ဉယျာဉ်၌ နေ၏။

မင်းသည်လည်း ဘုရားလောင်းအား နေ့တိုင်းနေ့တိုင်း နှစ်ကြိမ် သုံးကြိမ် ခစားအံ့သောငှါ သွား၏၊ ထိုမင်းအားကား ဒုဋ္ဌကုမာရမည်သော သားသည် ဖြစ်၏၊ ရှန့်ရင်းကြမ်းကြုတ်၏၊ မင်းသည် ဆုံးမအံ့သောငှါ မတတ်နိုင်သလျှင်ကတည်း၊ ကြွင်းကုန်သော ဆွေမျိုးတို့သည်လည်း ဆုံးမအံ့သောငှါ မတတ်နိုင်သလျှင်ကတည်း၊ အမတ်တို့သည်ရင်း, ပုဏ္ဏားတို့သည်ရင်း တပေါင်းတည်းဖြစ်ကုန်၍ အရှင် ဤသို့ မပြုလင့်၊ ဤသို့ ပြုခြင်းငှါ မရအပ်၊ ဤသို့ အမျက်ထွက်ဟန်ပြု၍ ဆိုကုန်သော်လည်း စကားကို ယူစိမ့်သောငှါ မတတ်နိုင်ကုန်၊ မင်းသည် ငါ့အရှင်ဖြစ်သော သီလရှိသော ရသေ့ကို ထား၍ တပါးသော ဤမင်းသားကို ဆုံးမခြင်းငှါ စွမ်းနိုင်သော သူမည်သည် မရှိ၊ ထိုရသေ့သည် သာလျှင် ထိုမင်းသားကို ဆုံးမနိုင်လတ္တံ့ဟု ထိုမင်းသားကို ခေါ်၍ ဘုရားလောင်းထံသို့ သွား၍ အရှင်ဘုရား ဤ ဒုဋ္ဌကုမာရ မင်းသားသည် ရှန့်ရင်း

ကြမ်းကြုတ်၏၊ အကျွန်ုပ်တို့သည် ဆုံးမအံ့သော်ငါ မတတ်နိုင်ကုန်၊ အရှင်ဘုရားတို့သည် ထိုမင်းသားကို တခုသော အကြောင်းဖြင့် ဆုံးမပါကုန်လောဟု မင်းသားကို ဘုရားလောင်းအား အပ်နှင်းခဲ့၍ ဖဲ၏၊ ဘုရားလောင်းသည် မင်းသားကို ခေါ်၍ ဥယျာဉ်၌ လည်သည်ရှိသော် နံပါးတဘက်မှ တရွက်ဖြင့် နံပါးတဘက်မှ တရွက်ဖြင့် ဤသို့ နှစ်ခုကုန်သော အရွက်ဖြင့်သာလျှင်ဖြစ်သော တမာပင်ငယ်ကို မြင်၍ မင်းသားကို မင်းသား ဤတမာပင်ငယ်၏ အရွက်ကို ရှေးဦးစွာ စား၍ အရသာကို သိအောင် ပြုလော့ဟု ဆို၏၊ ထိုမင်းသားသည် တခုသော အရွက်ကို စား၍ အရသာကို သိ၍ ထွီဟု တံတွေးနှင့်တကွ မြေ၌ ထွေး၏၊ မင်းသား ဤအမှုသည် အသို့နည်းဟု မေးသည်ရှိသော် အရှင်ဘုရား ဤသစ်ပင်ငယ်သည် ယခုပင်လျှင် လတ်တလော သေစေတတ်သော အဆိပ်နှင့်တူ၏၊ ကြီးသည်ရှိသော်ကား များစွာကုန်သော လူတို့ကို သတ်လတ္တံ့ဟု ဆို၍ ထိုတမာပင်ငယ်ကို နုတ်၍ လက်တို့ဖြင့် နယ်၍—

၁၄၉၊ ဧကပဏ္ဏော အယံ ရုက္ခော၊ န ဘူမျာ စတုရင်္ဂုလော။
ဖလေန ဝိသကပ္ပေန၊ မဟာယံ ကိံ ဘဝိဿတိ။

ဟူသော ဤဂါထာကို ဆို၏။

ဘော တာပသ၊ အို ရှင်ရသေ့။ အယံ ရုက္ခော၊ ဤသစ်ပင်ငယ်သည်။ ဧကပဏ္ဏော၊ နံပါးတဘက်၌ တရွက် တရွက်စီသာ ရှိသေး၏။ အယံ၊ ဤသစ်ပင်ငယ်သည်။ ဘူမျာ၊ မြေမှ။ န စတုရင်္ဂုလော၊လက်လေးသစ်မျှမရှိသေး။ မဟာ၊ ကြီးသည်ရှိသော်။ ကိံ ဘဝိဿတိ၊ အသို့ဖြစ်လတ္တံ့နည်း။ ဖလေန၊ အသီး၏ အရသာသည်။ ဝိသကပ္ပေန၊ လတ်တလော သေစေတတ်သော အဆိပ်နှင့် တူသည်။ ဘဝိဿတိ၊ ဖြစ်လတ္တံ့။

ထိုအခါ ထိုဒုဋ္ဌကုမာရမင်းသားကို ဘုရားလောင်းသည် မင်းသား သင်သည် ဤ တမာပင်ငယ်သည် ယခုကပင်လျှင် ဤသို့ ခါး၏၊ ကြီးသော ကာလ၌ ဤတမာပင်ကိုမှီ၍ အဘယ်မှာ စီးပွားဖြစ်နိုင်အံ့နည်းဟု နုတ်၍ နယ်၍ စွန့်၏၊ သင်သည် ထိုတမာပင်၌ ကျင့်သကဲ့သို့ ထိုအတူလျှင် သင့်ကို တိုင်း၌နေကုန်သော သူတို့သည် ဤမင်းသားသည် ငယ်သော ကာလ၌လျှင် ဤသို့ ရုန့်ရင်း ကြမ်းကြုတ်၏၊ ကြီးသော ကာလ၌ မင်းအဖြစ်သို့ ရောက်၍ အဘယ်မည်သည်ကို

ပြုလတ္တံ့နည်း၊ ဤမင်းသားကိုမှီ၍ ငါတို့အား အဘယ်မှာ စီးပွား ဖြစ်နိုင်အံ့နည်းဟု သင့်အား အမျိုး၏ ဥစ္စာဖြစ်သော ပြည်ကိုမပေးမူ၍ သင့်ကို တမာပင်ယယ်ကဲ့သို့ဖြစ်၍ ပြည်မှ နှင်ထုတ်လိုက်သော အမှုကို ပြုကုန်လတ္တံ့၊ ထို့ကြောင့် တမာပင်ယယ်နှင့် တူသော သဘောကိုစွန့်၍ ဤနေ့မှစ၍ ခန္တီ, မေတ္တာ, ကရုဏာနှင့် ပြည့်စုံသည် ဖြစ်လော့ဟု ဆို၏၊ ထိုဒုဋ္ဌကုမာရမင်းသားသည် ထိုအခါမှစ၍ ကင်းသော မာနရှိသည်ဖြစ်၍ ခန္တီ, မေတ္တာ, ကရုဏာနှင့် ပြည့်စုံသည်ဖြစ်၍ ဘုရားလောင်း၏ အဆုံးအမ၌ တည်၍ အဘလွန်သဖြင့် မင်းအဖြစ်သို့ ရောက်၍ အလှူအစရှိသော ကောင်းမှုတို့ကိုပြု၍ ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း၊**... မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ရဟန်းတို့ ယခုအခါ၌သာလျှင် ဒုဋ္ဌလိစ္ဆဝီမင်းသားကို ငါဆုံးမသည်မဟုတ်သေး၊ ရှေး၌လည်း ဤဒုဋ္ဌလိစ္ဆဝီမင်းသားကို ငါဆုံးမဘူးသလျှင်ကတည်းဟု မိန့်တော်မူ၍ ယခုအခါ လိစ္ဆဝီမင်းသားသည် ထိုအခါ ဒုဋ္ဌကုမာရမင်းသား ဖြစ်ဘူးပြီ၊ ယခုအခါ အာနန္ဒာသည် ထိုအခါ မင်း ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ဆုံးမသော ရသေ့ ဖြစ်ဘူးပြီဟု ဇာတ်ကို ပေါင်းတော်မူ၏။

[ပြောဆိုဆုံးမ၊ နာလွယ်က၊ ဘဝ ကောင်းကျိုးစည်]

ကိုးခုတို့၏ ပြည့်ကြောင်းဖြစ်သော ကေပဏ္ဏဇာတ်သည် ပြီး၏။

---

## ၁၅၀—သဥ္စိဝဇာတ်

### သူတော်မဟုတ် သူယုတ်ကို ချီးမြှောက်၍ စီးပွားချမ်းသာ ပျက်စီးကြောင်း

**ပစ္စုပ္ပန်ဝတ္ထု၊**....နတ်နှင့်တကွသော လောကကို ဆုံးမတော်မူတတ်သော သဗ္ဗညုမြတ်စွာဘုရားသည် "အသန္တံ ယော ပဂ္ဂဏှာတိ" အစရှိသော ဂါထာပုဒ်ဖြင့် တန်ဆာဆင်အပ်သော ဤ သဥ္စိဝဇာတ်ကို ဝေဠုဝန် ကျောင်းတော်၌ သီတင်းသုံး နေတော်မူစဉ် "အဇာတသတ်မင်း၏ သူတော်မဟုတ် သူယုတ်ကို ချီးမြှောက်ခြင်း"ကို အကြောင်းပြု၍ ဟောတော်မူ၏၊ ထိုစကားကို ချဲ့ဦးအံ့၊ ထိုအဇာတသတ်မင်းသည် ဘုရား၏ ဆန့်ကျင်ဘက်ဖြစ်သော သီလမရှိသော

ယုတ်မာသော အကျင့်ရှိသော ဒေဝဒတ်၌ ကြည်ညို၍ သူတော်မဟုတ်သော ထိုဒေဝဒတ်ကို ချီးမြှောက်၍ ထိုဒေဝဒတ်အား ပူဇော်သက္ကာရကိုပြုအံ့ဟု များစွာသောဥစ္စာကို စွန့်၍ ဂယာသီသ၌ ကျောင်းဆောက်၍ ထိုဒေဝဒတ်စကားကို လျှင် ယူ၍ တရားစောင့်သော သောတာပန်ဖြစ်သော မြတ်စွာဘုရား၏ တပည့်ဖြစ်သော အဘဖြစ်သော ဗိမ္ဗိသာရမင်းကိုသတ်၍ မိမိ၏ သောတာပတ္တိမဂ်၏ ဥပနိဿယကို ဖျက်ဆီး၍ ကြီးစွာသော ပျက်စီးခြင်းသို့ ရောက်၏၊ထိုစကားသည် မှန်၏၊ ဒေဝဒတ်ကို မြေမျိုပြီဟု ကြား၍ အသို့နည်း၊ ငါ့ကိုလည်း မြေမျိုရာ သလောဟု ထိတ်လန့်၍ မင်း၏ချမ်းသာကို မရ၊ အိပ်ရာ၌ ချမ်းသာကိုမရ၊ ထက်စွာသောလှံဖြင့် ထိုးအပ်သော ပြိတ္တာကဲ့သို့ တုန်လှုပ်လျက် သွား၏၊ ထိုအဇာတသတ်မင်းသည် မြေပြိုသကဲ့သို့ရင်း, အဝီစိမီးလျှံသည် ထွက်လာဘိသကဲ့သို့ ရင်း,မြေသည် မိမိကို မျိုသကဲ့သို့ရင်း,ပြောင်ပြောင်တောက်သော သံမြေ၌ ပက်လက် အိပ်စေ၍ သံတံကျင်တို့ဖြင့် ထိုးဘိသကဲ့သို့ရင်း ထင်၏၊ ထို့ကြောင့် အဇာတသတ်မင်းသည် မြတ်စွာဘုရားကို ဖူးမြင်လိုသည် ကန်တော့လိုသည် ပြဿနာ မေးလိုသည် ဖြစ်၏၊ မိမိကား အပြစ်ကြီးသည်၏ အဖြစ်ကြောင့် ဆည်းကပ်အံ့ သောငှါ မတတ်နိုင်။

ထိုအခါ ရာဇဂြိုဟ်ပြည်၌ တန်ဆောင်မုန်း လပြည့်နေ့ည ပွဲသဘင်ခံသော အလှည့်သည် ရောက်သည်ရှိသော် နတ်ပြည်ကိုကဲ့သို့ တန်ဆာ ဆင်ပြီးသည် ရှိသော် မြတ်သောအပြင်၌ အမတ်အပေါင်းခြံရံလျက် ရွှေနေရာ၌နေသော အဇာတသတ်မင်းအား အဘယမင်းသားသည် မွေးအပ်သော အနီး၌နေသော ဇီဝကကို မြင်သည်ရှိသော် ဇီဝကကိုခေါ်၍ မြတ်စွာဘုရား အထံတော်သို့ သွားအံ့၊ အရှယ်တူ ဇီဝက ငါသည် ကိုယ်တိုင် သွားအံ့သောငှါ မတတ်နိုင်၊ လာလော့ ငါ့ကို မြတ်စွာဘုရားအထံသို့ ဆောင်လော့ဟု ငါသည် ဖြောင့်ဖြောင့် ဆိုခြင်းငှါ မတတ်ကောင်း၊ ပရိယာယ်အားဖြင့်ကား ညဉ့်၏ ပြည့်စုံခြင်းကို ချီးမွမ်း၍ ယနေ့ အကြင် ငြိမ်းစေအပ်ပြီးသော မကောင်းမှုရှိသောသူ, အပပြု အပ်ပြီးသော မကောင်းမှုရှိသောသူသို့ ဆည်းကပ်ကုန်သော ငါတို့၏ စိတ်သည် ကြည်ရာ၏၊ ထိုသို့ သဘောရှိသော အဘယ် ငြိမ်းစေအပ်ပြီးသော မကောင်းမှု ရှိသောသူသို့ရင်း, အဘယ် အပပြုအပ်ပြီးသော မကောင်းမှုရှိသော သူသို့ရင်း

ဆည်းကပ်ကုန်ရအံ့နည်းဟု ဆိုအံ့၊ ထိုစကားကို ကြားကုန်၍ အမတ်တို့သည် မိမိ,မိမိတို့၏ ဆရာတို့ ကျေးဇူးကိုဆိုကုန်လတ္တံ့၊ ဇီဝကသည်လည်း မြတ်စွာဘုရား ကျေးဇူးကို ဆိုလတ္တံ့၊ ထိုအခါ ဇီဝကကို ခေါ်၍ မြတ်စွာဘုရားအထံတော်သို့ သွားအံ့၊ ဤသို့သောအကြံသည် ဖြစ်၏၊ ကြံပြီး၍ ထိုအဇာတသတ် မင်းသည် ငါးပုဒ်တို့ဖြင့် ညဉ့်ကို ချီးမွမ်း၏။

အိုအမတ်တို့ အပြစ်ကင်းသောညဉ့်သည် မှတ်ဘွယ်ရှိစွတကား၊ အိုအမတ်တို့ အပြစ်ကင်းသော ညဉ့်သည် နှစ်သက်ဘွယ်ရှိစွတကား၊ အိုအမတ်တို့ အပြစ် ကင်းသောညဉ့်သည် ရှုဘွယ်ရှိစွတကား၊အိုအမတ်တို့ အပြစ်ကင်းသောညဉ့်သည် မွေ့လျော်ဘွယ်ရှိစွတကား၊ အိုအမတ်တို့ အပြစ်ကင်းသော,ညဉ့်သည် ကြည်ညို ဘွယ်ရှိစွ တကား၊ ယနေ့အခါ အကြင် ငြိမ်းစေ အပ်ပြီးသော မကောင်းမှု ရှိသောသူ,အပပြုအပ်ပြီးသောမကောင်းမှုရှိသောသူသို့ ဆည်းကပ်သောငါတို့၏ စိတ်သည် ကြည်ရာ၏၊ ထိုသို့သဘောရှိသော အဘယ် ငြိမ်းစေအပ်ပြီးသော မကောင်းမှုရှိသော သူသို့ရင်း, အဘယ်အပပြုအပ်ပြီးသော မကောင်းမှုရှိသော သူသို့ရင်း ကပ်ရကုန်အံ့နည်းဟု ဆို၏၊ ထိုသို့ ဆိုသောအခါ၌ တယောက်သော အမတ်သည် ပူရဏကဿပ၏ ကျေးဇူးကို ဆို၏၊ တယောက်သော အမတ်သည် မက္ခလိဂေါသာလ၏ ကျေးဇူးကို ဆို၏၊ တယောက်သော အမတ်သည် အဇိတ ကေသကမ္ဗလ၏ ကျေးဇူးကို ဆို၏၊ တယောက်သော အမတ်သည် ပကုဓကစ္စာ ယန၏ ကျေးဇူးကို ဆို၏၊ တယောက်သော အမတ်သည် သဥ္စယဗေလဋ္ဌပုတ္တ၏ ကျေးဇူးကို ဆို၏၊ တယောက်သောအမတ်သည် နာဋပုတ္တနိဂဏ္ဌ၏ ကျေးဇူးကို ဆို၏၊ မင်းသည် ထိုအမတ်တို့၏,စကားကိုကြား၍ ဆိတ်ဆိတ်နေ၏။

ထိုစကားသည် မှန်၏၊ ထိုအဇာတသတ်မင်းသည် အမတ်ကြီး ဖြစ်သော ဇီဝက၏သာလျှင် စကားကို တောင့်တ၏၊ ဇီဝကသည်လည်း မင်းသည် ငါ့ကို အကြောင်းပြု၍ ဆိုသော်သာလျှင် သိအံ့ဟု အနီး၌ ဆိတ်ဆိတ်နေ၏၊ ထိုအခါ ဇီဝကကို မင်းသည် အချယ်တူ ဇီဝက သင်သည်ကား အဘယ့်ကြောင့် ဆိတ်ဆိတ် နေသနည်းဟု ဆို၏၊ ထိုခဏ၌ ဇီဝကသည် နေရာမှထ၍ အကြင်အရပ်၌ မြတ်စွာ ဘုရားသည်ရှိ၏၊ ထိုအရပ်သို့လက်အုပ်ကိုညွတ်၍ ရှင်မင်းကြီး ပစ္စည်းလေးပါးကို ခံတော်မူထိုက်သော မဖောက်မပြန် အလိုလိုသာလျှင် ခပ်သိမ်းသောတရားတို့ကို

သိတော်မူသော ထိုမြတ်စွာဘုရားသည် တထောင့် နှစ်ရာ ငါးကျိပ်ကုန်သော ရဟန်းတို့နှင့်တကွ အကျွန်ုပ်တို့၏ သရက်ဥယျာဉ်၌ နေတော်မူ၏၊ ထိုအရှင်ဂေါတမ၏ ကျော်စောသော အသံသည် ဤသို့ နှံ့၍ တက်၏ဟု ကိုးပါးသော "အရဟံ" အစရှိသော ကျေးဇူးတို့ကိုဆို၍ ပဋိသန္ဓေမှစ၍ ပုဗ္ဗနိမိတ် အစရှိသည် အပြားရှိသော မြတ်စွာဘုရား၏ အာနုဘော်ကို ပြ၍ ရှင်မင်းကြီးသည် ထိုမြတ်စွာဘုရားသို့ ဆည်းကပ်တော်မူပါလော့၊ တရားတော်ကို နာတော်မူပါလော့၊ ပြဿနာကိုမေးတော်မူပါလော့ဟုလျှောက်၏၊မင်းသည် ပြည့်သော နှလုံး အလိုရှိသည်ဖြစ်၍ အရွယ်တူဇီဝက ထိုသို့တပြီးကား ဆင်ယာဉ် အစရှိသည် တို့ကို က,လော့ဟု ဆို၍ အဇာတသတ် မင်းသည် ယာဉ်တို့ကို က,စေ၍ ကြီးစွာသော မင်း၏ အာနုဘော်ဖြင့် ဇီဝက၏ သရက်ဥယျာဉ်သို့ သွား၍ ထိုဥယျာဉ်၌ တခုသော အထွဋ်ဖြင့်ဆောက်အပ်သော ကျောင်း၌ ရဟန်းသံဃာ ခြံရံသော မြတ်စွာဘုရားကိုမြင်၍ အလယ်၌ ငြိမ်သက်သော လှိုင်းတံပိုးရှိသော သမုဒ္ဒရာကဲ့သို့ တုန်လှုပ်ခြင်းမရှိသော ရဟန်းသံဃာကို ထိုမှဤမှကြည့်၍ ဤသို့ သဘောရှိသော ပရိသတ်ကို ငါသည် မမြင်စဘူးဟု ဣရိယာပုထ်၌ ကြည်ညို၍ အဇာတသတ်မင်းသည် သံဃာအား လက်အုပ်ချီ၍ ချီးမွမ်း၍ မြတ်စွာဘုရားကို ရှိခိုး၍ တင့်အပ်လျောက်ပတ်သော အရပ်၌နေလျက် ရဟန်း၏အကျိုးဖြစ်သော ပြဿနာကို လျှောက်၏၊ ထိုအခါ အဇာတသတ်မင်းအား မြတ်စွာဘုရားသည် နှစ်ဘာဏဝါရတို့ဖြင့် တန်ဆာဆင်အပ်သော သာမညဖလသုတ်ကို ဟောတော်မူ၏၊ ထိုအဇာတသတ်မင်းသည် သုတ္တန်အဆုံး၌ နှစ်သက်သည် ဖြစ်၍ မြတ်စွာဘုရားကို ကန်တော့ပြီးလျှင် နေရာမှထ၍ လက်ျာရစ်လှည့်၍ ဖဲ၏။

မြတ်စွာဘုရားသည် မင်းဖဲ၍ မကြာမြင့်မီလျှင် ရဟန်းတို့ကိုခေါ်တော်မူ၍ ရဟန်းတို့ ဤအဇာတသတ်မင်းသည် ပျက်စီး၏၊ ရဟန်းတို့ ဤအဇာတသတ်မင်းသည် စည်းစိမ်၏ အကြောင်းကြောင့် တရားစောင့်သော တရားသဖြင့် မင်းပြုသော အဘကို ဇီဝိတိန္ဒြေမှ အကယ်၍ မချွတ်ငြားအံ့၊ ထိုအဇာတသတ်မင်းအား ဤနေရာ၌လျှင် ကင်းသောကိလေသာဟူသောမြူရှိသော ကင်းသော ကိလေသာဟူသော အညစ်အကြေး ရှိသော သောတာပတ္တိ မဂ်ဉာဏ်သည် ဖြစ်ရာ၏၊ ဒေဝဒတ်ကိုမှီ၍ကား သူတော်မဟုတ်သော သူကို ချီးမြှောက်ခြင်းကို

ပြု၍ သောတာပတ္တိဖိုလ်မှ ယုတ်၏ဟု မိန့်တော်မူ၍ နက်ဖြန်နေ့၌ ရဟန်းတို့သည် တရားသဘင်၌ ငါ့သျှင်တို့ အဇာတသတ်မင်းသည် သူတော်မဟုတ်သော သူကို ချီးမြှောက်ခြင်းကိုပြု၍ သီလမရှိသော ယုတ်မာသောအကျင့်ရှိသော ဒေဝဒတ်ကိုမှီ၍ ပိတုဃာတကကံကို ပြုသည်၏အဖြစ်ကြောင့် သောတာပတ္တိဖိုလ်မှ ယုတ်၏၊ ဒေဝဒတ်သည် အဇာတသတ်မင်းကို ဖျက်ဆီး၏ဟု စကားကို ဖြစ်စေကုန်၏၊ မြတ်စွာဘုရားသည် လာတော်မူလတ်၍ ရဟန်းတို့ ယခုအခါ အဘယ်မည်သော စကားဖြင့် စည်းဝေး ကြကုန်သနည်းဟု မေးတော်မူလတ်၍ ဤမည်သော စကားဖြင့် စည်းဝေးပါကုန်၏ဟု နားတော် လျှောက်သည်ရှိသော် ရဟန်းတို့ အဇာတသတ်သည် ယခုအခါ၌သာလျှင် သူ့တော်မဟုတ်သောသူကို ချီးမြှောက်ခြင်းကိုပြု၍ ကြီးစွာသော ပျက်စီးခြင်းသို့ ရောက်သည်မဟုတ်သေး၊ ရှေး၌လည်း အဇာတသတ်သည် သူတော် မဟုတ်သောသူကို ချီးမြှောက်၍ မိမိကိုယ်ကို ဖျက်ဆီးဘူး၏ဟု မိန့်တော်မူ၍ အတိတ်ကို ဆောင်တော်မူ၏။

**အတိတ်ဝတ္ထု**....လွန်လေပြီးသောအခါ ဗာရာဏသီပြည်၌ ဗြဟ္မဒတ်မည်သောမင်းသည် မင်းပြုလတ်သည်ရှိသော် ဘုရားလောင်းသည် များစွာသော စည်းစိမ်ရှိသော ပုဏ္ဏားမျိုး၌ဖြစ်၍ အရွယ်သို့ ရောက်သည်ရှိသော် တက္ကသိုလ်ပြည်သို့သွား၍ အလုံးစုံသော အတတ်တို့ကို သင်၍ ဒိသာပါမောက္ခဆရာ ဖြစ်၍ ငါးရာကုန်သော လုလင်တို့ကို အတတ်သင်စေ၏၊ ထိုလုလင်တို့တွင် တယောက်သော သဉ္ဇိဝ အမည်ရှိသော လုလင်သည်ရှိ၏၊ ဘုရားလောင်းသည် ထိုသဉ္ဇိဝ လုလင်အား သူသေကို ထစေတတ်သော မန္တရားကို ပေး၏၊ ထိုသဉ္ဇိဝလုလင်သည် ထစေတတ်သော မန္တရားကိုသာလျှင် သင်၍ တားမြစ်တတ်သော မန္တရားကို မသင်မူ၍ တနေ့သ၌ ငါးရာကုန်သော လုလင်တို့နှင့်တကွ ထင်းအကျိုးငှါ တောသို့ သွားသည်ရှိသော် တခုသော ကျားသေကို မြင်၍ လုလင်တို့ကို အို လုလင်တို့ ဤကျားသေကို ထစေအံ့ဟု ဆို၏၊ ထိုလုလင်တို့သည် မတတ်နိုင်လတ္တံ့ဟု ဆိုကုန်၏၊ သင်တို့၏ မြင်စဉ်ပင်လျှင် ထစေအံ့ဟု ဆို၏၊ အကယ်၍ တတ်နိုင်အံ့ ထပါစေလောဟု ဆိုကုန်၏၊ ဤသို့ ဆိုပြီး၍လည်း ထိုလုလင်တို့သည် သစ်ပင်သို့ တက်ကြကုန်၏၊ သဉ္ဇိဝလုလင်သည် မန္တရားကို သရဇ္ဈာယ်၍ ကျားသေကို ကျောက်စရစ်ဖြင့် ပစ်၏၊ ကျားသည် ထ၍ လျင်သော အဟုန်ဖြင့်လာ၍

သဋ္ဌိဝလုလင်၏ ရေမျိုးကိုကိုက်၍ အသက်ကုန်ခြင်းသို့ ရောက်စေ၍ ထိုအရပ်၌ လျှင်လည်း၏၊ သဋ္ဌိဝလုလင်သည်လည်း ထိုအရပ်၌ပင်လျှင် လည်း၏၊ နှစ်ယောက်ကုန်သော သူတို့သည် ထိုအရပ်၌ပင်လျှင် သေ၍ အိပ်ကုန်၏၊ လုလင်တို့သည် ထင်းကို ယူပြီးလျှင် လာကုန်၍ ထိုအကြောင်းကို ဆရာအား ကြားကုန်၏၊ ဆရာသည် လုလင်တို့ကို ခေါ်၍ အမောင်တို့ သူတော် မဟုတ်သောသူကို ချီးမြှောက်ခြင်းကို ပြုကုန်သော သူတို့မည်သည် မသင့်ရာအရပ်၌ ပူဇော်ခြင်း မြတ်နိုးခြင်းကို ပြုကုန်ရကား ဤသို့ သဘောရှိသော ဆင်းရဲကို ခံရကုန်သလျှင် ကတည်းဟု ဆိုလို၍—

၁၅၀၊ အသန္တံ ယော ပဂ္ဂဏှာတိ၊ အသန္တံ စူပသေဝတိ၊
တမေဝ ဃာသံ ကုရုတေ၊ ဗျဂ္ဃော သဋ္ဌိဝကော ယထာ။

ဟူသော ဤဂါထာကို ဆို၏။

သဋ္ဌိဝကော၊ သဋ္ဌိဝလုလင်သည် ထစေအပ်သော။ ဗျဂ္ဃော၊ ကျားသည်။ သဋ္ဌိဝမေဝ၊ သဋ္ဌိဝကိုသာလျှင်။ ဇီဝိတာ၊ ဇီဝိတိန္ဒြေမှ။ ဝေါရောပေတိယထာ၊ ချသကဲ့သို့။ တထာ၊ ထို့အတူ။ ယော၊ အကြင်သူသည်။ အသန္တံ၊ သူတော် မဟုတ်သောသူကို။ ပဂ္ဂဏှာတိ၊ ချီးမြှောက်၏။ အသန္တံ စ၊ သူတော်မဟုတ်သော သူယုတ်ကိုလည်း။ ဥပသေဝတိ၊ ဆည်းကပ်၏။ တမေဝ၊ ထိုချီးမြှောက် ဆည်းကပ်သော သူကိုသာလျှင်။ သော ဒုဿီလော၊ ထို သူတော်မဟုတ်သော သူသည်။ ဃာသံ၊ စားခြင်းကို။ ကုရုတေ၊ ပြု၏။

ဘုရားလောင်းသည် ဤဂါထာဖြင့် လုလင်တို့အား တရားဟော၍ အလှူ အစရှိသော ကောင်းမှုတို့ကိုပြု၍ ကံအားလျော်စွာ လား၏။

**ဇာတ်ပေါင်း**။ ....မြတ်စွာဘုရားသည် ဤဓမ္မဒေသနာကို ဆောင်တော်မူ၍ ယခုအခါ အဇာတသတ်သည် ထိုအခါ ကျားသေကို ထစေသော သဋ္ဌိဝလုလင် ဖြစ်ဘူးပြီ၊ ယခုအခါ ငါဘုရားသည်လျှင် ထိုအခါ ဒိသာပါမောက္ခဆရာ ဖြစ်ဘူးပြီဟု ဇာတ်ကိုပေါင်းတော်မူ၏။

[မချီးမြှောက်ထိုက်၊ ချီးမြှောက်ထိုက်၊ သူမိုက် ကိုယ့်ကိုသတ်]

**ဆယ်ခုတို့၏ ပြည့်ကြောင်းဖြစ်သော သဋ္ဌိဝဇာတ်သည် ပြီး၏။**

# နိဂုံး

ဘုန်းတော် အလွန်ကြီးမြတ်သော ဆင်ဖြူမျှားရှင် တရားမင်းမြတ်၏ သားတော်အကြီး မဟာဥပရာဇ်သည် အလွန်တရာ ခဲယဉ်းစွာသော ရခိုင်ပြည်ကြီးကို မင်းနှင့်တကွ သိမ်းယူတော်မူပြီး၍ ရဟန်းရှင်လူ ပြည်သူအပေါင်းတို့၏ စီးပွားချမ်းသာ အကျိုးငှါ ပင့်ဆောင်တော်မူခဲ့သော မဟာမုနိ ဘုရားရှင်၏ အရှေ့မျက်နှာ အရပ်၌ မဟာဥပရာဇ် မယ်တော် အသျှင်မိဖုယားမြတ်သည် ဆောက်လုပ်အပ်သော မင်္ဂလာဘုံကျော် ကျောင်းတော်နေ ညောင်ကန် ဆရာတော်သည် မြန်မာပြန်ဆိုအပ်သော "ကောကနိပါတ်ဇာတ်"၌ တဆယ့်ငါးခု တို့၏ ပြည့်ကြောင်းဖြစ်သော ကကဏ္ဍကဝဂ်သည် ဤမျှသော သဒ္ဒါ၏အစဉ် အနက်၏ အစဉ်အားဖြင့် အပြီးသို့ ရောက်ပြီ။

တ္တောဝတာ—

မင်္ဂလာဘူမိကိတ္တိချေ၊ ဝသတာ မန္ဒိရေ ရမ္မေ။
ဂုရုနာ မြမ္မဘာသာယ၊ ဝုတ္တာဂန္ထော ဂတော နိဋ္ဌံ။

တ္တောဝတာ၊ ဤမျှသော စကား၏ အစဉ်ဖြင့်။ ရမ္မေ၊ နှလုံးမွေ့လျော်ဘွယ် ရှိသော။ မင်္ဂလာဘူမိကိတ္တိချေ၊ မင်္ဂလာဘုံကျော် အမည်ရှိသော။ မန္ဒိရေ၊ အမရပုရမြို့တည် နန်းတည် ဆင်ဖြူမျှားရှင် တရားမင်းမြတ်၏ မိဖုယားမြတ်သည် ဆောက်လှူအပ်သော ကျောင်းတော်၌။ ဝသတာ၊ သီတင်းသုံး နေသော။ ဂုရုနာ၊ ဆရာတော်သည်။ မြမ္မဘာသာယ၊ မြန်မာတိုင်းသူတို့၏ အဆိုအမိန့်ဖြင့်။ ဝုတ္တာဂန္ထော၊ ဆိုအပ်သော ပဏ္ဏာသသုံးပါး,တဆယ့်ငါးဝဂ်,ဇာတ်တရာ့ငါးဆယ် အတိုင်း အရှည်ရှိသော"ကောကနိပါတ်ကျမ်း"သည်။ နိဋ္ဌံ၊ ပြီးခြင်းသို့ ရောက်လေ၏။

**ကောကနိပါတ် ဇာတ်ဝတ္ထု ဤတွင် ပြီး၏။**



## သဗ္ဗဉ်ဉာဏ်အား ခွမ်း ၃-ပါး

၁။ သိရန်မှန်က၊ မကျန်ရအောင်၊ လုံးဝကုန်စင်၊ အကုန်မြင်-
သဗ္ဗဉ်ဉာဏ်တော် အစွမ်းတည်း။

၂။ သိသည့်တရား၊ များအပြား၌၊ ဟောထားစဖွယ်၊
နည်းသွယ်သွယ်ကို၊ ခြယ်လှယ်စုံလင်၊ အကုန်မြင်-
သဗ္ဗဉ်ဉာဏ်တော် အစွမ်းတည်း။

၃။ ကျွတ်ထိုက်ကြပေ၊ များဝေနေ၏၊ ဣန္ဒြေစရိုက်၊
သူ့အကြိုက်ကို၊ နှိုက်ချွတ်စုံလင်၊ အကုန်မြင်-
သဗ္ဗဉ်ဉာဏ်တော် အစွမ်းတည်း။

(အရှင်ဇနကာဘိဝံသ)

ဤစာအုပ်တွင်-

၁။ အထက်ပါ သဗ္ဗညုတဉာဏ်တော်၏ အစွမ်းသုံးပါးတွင် သိထိုက်သော အရာဟူသမျှကို သိတော်မူသောကြောင့် ဖြစ်ပေါ်လာသမျှ အကြောင်းအရာများ၏အခြေအမြစ်များကို အတိတ်ဖြစ်ရပ်နှင့် ဆက်စပ်၍သိတော်မူသဖြင့်-

၂။ ဟောကြားသင့်ပုံ အတိတ်ဖြစ်ရပ်အစုံတို့ကို ဇာတိဿရ-ဉာဏ်တော်မြတ်ဖြင့် ထင်ဟပ်ပေါ်လွင်စေပြီးလျှင် ထိုက်သင့်ရာရာ ဖြစ်တော်စဉ် ဇာတ်တော်များဖြင့် အတင့်အတယ် ခြယ်လှယ် တန်ဆာဆင်လျက်-

၃။ မူရင်းဇာတ်ဆောင်တို့၏ အဇ္ဈာသယ, ဣန္ဒြေနှင့်, အကျင့်စရိုက်တို့အား ထိုက်တန်သော, လိုက်လျောသော, အံဝင်ခွင်ကျဖြစ်သော, တိုက်ရိုက်ဆက်စပ်သော ဝေးကွာလှသော ကမ္ဘာကမ္ဘာ ဘဝပေါင်းများစွာမှ ဖြစ်ရပ်တစ်ခုဖြင့် စပ်ဟပ်ဖော်ဆောင်ကာ သစ္စာကိုပါပြလျက် ချွတ်ချွေတော်မူပုံအစုံစုံကို အာရုံယူမှတ်သား၍ စိတ်ထားပြုပြင်နိုင်ရုံတွင်မက ဗဟုသုတများနှင့် ပြည့်စုံစေနိုင်ပြီး နည်းယူမှတ်သားဖွယ်တို့ကိုပါ တွေ့ရှိခံစားရမည်ဖြစ်ပါသည်။